ဂဟာစ်ရှတ်ဓေဝရှ

# ကျမ်း

# بہشتی زیور مکمل مدلل



မောင်လါနာမုဟာမ္မဒ်မူစာ (မဇ္ဇာဟေရ်)
— မြန်မာပြန်သည် —

{ဒုတိယပိုင်း}

ဆဋ္ဌမအကြိမ်

# سند المسلسلات من حضرت شيخ الحديث في المجالس المعتبرة بمظاهر علوم سهارنفور

بسم الله الرحمن الرحيم

الحمد لله الذى تواترت الائه الشهيرة - واتصلت نعمائه العزيزة . والصلوة والسلام على من ارسل بجوامع الكلم
بشيرا ونذيرا - وبمسلسل الفضل المبين رحمة للعالمين منيرا - وعلى نوادر اله وصحبه الحملة لمبشرات النبى الامين -
وعلى اتباعهم الاوائل والاواخر الحماة للدين المتين - اما بعد فيقول العبد المفتقر الى رحمة ربه القوى محمد زكريا
ابن العلامة حافظ القران والحديث الشيخ محمد يحيى سامحه الله تعالى ما ظهر وما اخفى ان اخانا فى الدين
المولوى محمد موسى ابن اخي المولوى محمد يونس المتوطن بمحلة ... (برما) سمع منى ومما قرئ على الرسائل الثلاثة
اولها الفضل المبين فى المسلسل من حديث النبى الامين وثانيتها الدر الثمين فى مبشرات النبى الامين وثالثتها النوادر
من احاديث سيد الاوائل والاواخر - كلها من مصنفات حجة الاسلام وقدوة الانام الشاه ولى الله الدهلوى ايضا
الحديث المسلسل بضيافة الاسودين "التمر والماء" والحديث المسلسل باجابة الدعاء عند الملتزم وطلب
منى اجازتها فاجزته ان يرويها عنى كما اجازنى بها حافظ القران والحديث العلامة الاجل سيدى
ابو ابراهيم حبيب الله خليل احمد شرفه الله وكرم يوم الغد - بشرائطها المعتبرة عند اهل
هذه الطريقة المثلى - واوصيه بتقوى الله تعالى فى العلن والنجوى - وان يجتنب الاحداث فى الدين والتفريق
بين المسلمين - وان يحترز عن طلب لذات الدنيا وحطامها - وعن اساءة الادب باكابر الامة وهداتها -
وان لا ينسانى ومشائخى من صالح دعواته فى خلواته وجلواته واسأل الله تعالى ان ينفعنى به
واياه وان يوفقنا لما يحب ويرضاه وصلى الله تبارك وتعالى على خير خلقه سيدنا ومولانا محمد
واله وصحبه وبارك وسلم كما يحب ربنا ويرضى بعدد ما يحب ويرضى +

العبد

بسم الله الرحمن الرحيم

نحمده ونصلي على رسوله الكريم اما بعد فان اخانا في الدين الشيخ الفاضل محمد موسى
ابن المولوي محمد يونس المتوطن بلدة ماندلے (برما) دخل هذه المدرسة العربية الشهيرة
بمظاهر علوم الواقعة ببلدة سهارنفور (يو۔ پی) صانها الله تعالى عن الآفات والشرور في اواخر
شهر جمادى الاولى سنة احدى وسبعين بعد الف وثلثمائة (سنة ١٣٧١ه) من الهجرة النبوية على صاحبها
الف الف صلوة وتحية واقام فيها اربع سنين وثلثة اشهر فقرأ جميع الكتب من العلوم المختلفة فمن علم التفسير تفسير سورة البقرة
من انوار التنزيل واسرار التأويل للعلامة الشيخ القاضي ناصر الدين ابو سعيد عبد الله بن عمر البيضاوي وتفسير الجلالين وتفسير
مدارك التنزيل - ومن علم الحديث الصحاح الستة نعني بها الجامع الصحيح للامام البخاري والجامع الصحيح للامام مسلم
ابن الحجاج القشيري والجامع الصحيح للامام الترمذي مع كتاب الشمائل له والسنن للامام ابي داود السجستاني والسنن للامام النسائي والسنن
للامام ابن ماجة القزويني والاكثر من شرح معاني الآثار للامام الطحاوي والموطا للامام مالك بن انس المدني والموطا للامام
محمد بن الحسن الشيباني ومشكوة المصابيح ومن علم اصول الحديث مقدمة المشكوة وشرح نخبة الفكر ومن علم الفقه المجلدات الثلثة الاول
من الهداية والمجلدين الاولين من شرح الوقاية ونبذا من الدر المختار ورسم المفتي ومن علم اصول الفقه التوضيح مع حاشية التلويح ومن علم الادب
المقامات الحريري والسبع المعلقات ومن علم البلاغة والمعاني مختصر المعاني ومن علم المنطق سلم العلوم ومن علم القراءة والتجويد
المقدمة الجزرية والفوائد المكية وجمال القرآن ، فلما فرغ طلب السند فنعطيه هذا السند للدرجة الثانية ونوصيه
بتقوى الله تعالى في السر والعلانية وبلزوم السنة السنية واجتناب البدع المضلة وان لا ينسانا من صالح دعواته
في خلواته وجلواته واخر دعوانا ان الحمد لله رب العالمين والصلوة والسلام على حبيبه خير خلقه سيدنا
ومولانا محمد وعلى آله واصحابه اجمعين ، كتب في ١٠ رشعبان سنة ١٣٧٥ه

امضاءات الاراكين والمدرسين

# မရေးချင်ဘဲ ရေးရပါသည်။

ဗ္ဗာဟင်ရိုအို့လူမ် အရပီကျောင်းတော် နှစ်(၁၀၀) ပြည့်မြောက် အဖြစ် ယမနှစ်(၅၀)အတွက် ပထမတွဲကို ၁၉၇၂-ခုနှစ်ကလည်းကောင်း၊ ဒုတိယ နှ်(၅၀) အတွက်ကို ၁၉၇၄-ခုနှစ်က လည်းကောင်း ထုတ်ဝေ ခဲ့ပါသည်၊

ထာအုပ်တွင် နှစ်အလိုက် ကျောင်းတော်၏ ဖြစ်ပျက် ပြောင်း လဲမှုများ အစီရင်ခံစာများကို ဖော်ပြထားသည်၊ ၎င်း နှစ်အလိုက် မောင်လဲဘွဲ့ရသူများ၏ အမည်စာရင်းကိုလည်း ဖော်ပြထားလေသည်။

ထုံစ် ၁၀၀-တွင် ပထမ နှစ် ၅၀-က အာလင်မ်သာသနာ်ပညာရှင် (၃၉၈)ပါး၊ ဒုတိယ နှစ် ၅၀-က (၁၈၄၀)၊ ပေါင်း (၂၂၃၈)ပါး မွေးထုတ်ပါသည်၊ ထိုပုဂ္ဂိုလ်များအနက် (မွမ်တာဇ်၊ဖွူ့သွလာအော့၊ မဇ္ဇာဟင်၏ မဇ္ဇာဟင်ရိုအို့လူမ် ကျောင်းတော်၏ ထူးချွန်သော ပုဂ္ဂိုလ် များ ဟူ၍ သီးခြား ခေါင်းစဉ်တပ်ကာ (၅၈)ပါးသော ပုဂ္ဂိုလ်တို့ကို အထူးပြု၍ရွေးထုတ်ဖော်ပြထားပါသည်။

ထိုထဲ မြန်မာပြည်မှ (၉)ဦး ပါဝင်သည်၊ ဒုတိယတွဲ စာမျက်နှာ (၂၆၇)၊နံပါတ်စဉ် (၄၇)ဦး မြောက်၌ ကျွန်တော်၏ အမည်, အဖ, အဘိုးအမည် ဖခင်ထံတွင် ပညာ စတင် သင်ခဲ့ကြောင်းနှင့် ဆရာသမား များ၏ အမည်နာမ,များ၊ ယခု ဘာသာရေး မှည်သို့ ဆောင်ရွက်နေပုံ၊ ထုတ်ဝေထားသော ကျမ်းစာ အမည် စာရင်းစသည်များ ပါရှိသည့် အပြင် နှစ်အချို့လစဉ် အစ္စလာမ် ယဉ်ကျေးမှု စာစောင် ထုတ်ခဲ့ကြောင်း၊ ကျောင်း၎င် မည်သည့်ခုနှစ်၌ ရောက်ရှိပြီး၊ မည်သည့်ခုနှစ်တွင် ပြန်သွား ကြောင်း၎င် တောင်မြင့်ရွာ မဒရ်ဆာ မုဟာမ္မဒီယာကျောင်း၏ ဥက္ကဋ္ဌ ဖြစ်သည်၀ ပါရှိသည်။ (ကျောင်း စ, တည်ထောင်စဉ်ကသာ ဥက္ကဋ္ဌ ဖြစ်သည်၊ စာအုပ်ကလည်း ၁၀-နှစ် ကျော်က ထွက်သော စာအုပ် ဖြစ်သည်)၊

**မုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ)**

၂၈, ၁၂ (၁-၁၁-၈၄)

## ဘဟစ်ရှိတီ ဇေဝရ်ကျမ်း ဆဋ္ဌမတွဲ



## ဘဟစ်ရှိတီ ဇျောင်ဟရ်ကျမ်း ဆဋ္ဌမတွဲ

## ဘာဟစ်ရှိတီ ဇေဝရကျမ်း သတ္တမတွဲ

## ဘဟစ်ရှ်တီ ဂျေဝ်ဟရ်ကျမ်း သတ္တမတွဲ



## ဘဟစ်ရှ်တီ ဇေဝရ်ကျမ်း အဋ္ဌမတွဲ

## ဘဟစ်ရှ်တီဇေဝရ် (ဂေါင်ဟရ်) ကျမ်း ကောဒသမတွဲ



## ဘဟစ်ရှ်တီ ဇေဝရ်ကျမ်း ပထမတွဲ၏ နောက်ဆက်တွဲ

## ဘာဟစ်ရှ်တီ ဇေဝရ်ကျမ်း ဒုတိယတွဲ၏ နောက်ဆက်တွဲ

## ဘဟစ်ရှ်တီဇေဝရ်ကျမ်း တတိယတွဲ၏ နောက်ဆက်တွဲ

# ဤကျမ်းတွင်

၁။ (ဆွလလ္လာဟု) ဟူ၍ ရေးသား ထားသည်တွင် (ဆွလလ္လာဟို၊ အလိုင်ဟေ့၊ ဝစလ်လမ်) ဟု အပြည့်အဝ ဖတ်ဆိုပါရန်။

၂။ (ရသွေ့)ဟူ၍ရေးသားထားသည်တွင် (ရသွေ့ယလ္လာဟို၊တအဲာလာ၊အန်ဟို)ဟု အပြည့်အဝ ဖတ်ဆိုပါရန်၊ ၎င်း အမျိုးသမီး အမည် နောက်တွင် ရေးထားသည် ဖြစ်သော် (ရသွေ့ယလ္လာဟို၊ တအာလာ၊ အန်ဟာ ) ဟု အပြည့်အဝ ဖတ်ဆိုပါရန်။

၃။ (ရဟေ့) ဟူ၍ ရေးထားသည်တွင် ( ရဟ်မတွလ္လာဟ်၊ အလိုင်ဟ် ) ဟု အပြည့် အဝ ဖတ်ဆိုပါရန်။

ဤ''မေတ္တာရပ်ခံချက်''သည် ကျွန်တော် ရေးသမျှ ကျမ်းတိုင်း အတွက် ဖြစ်သည်။ ကျမ်းလေးမည်ကို စိုး၍ အတိုကောက်သာလျှင် ရေးသားခဲ့ပါသည်။

بسم الله الرحمن الرحيم

باسمه تعالى حامدا ومصليا ومسلما

# ဘဟာစ်ရှ်တီ ဇေဝရ်ကျမ်း

# ဆဋ္ဌမတွဲ

## ဆဋ္ဌမတွဲနှင့်ပတ်သက်၍ လိုက်နာရန် အချက်များ

၁။ ဤအတွဲ၌ ထိမ်းမြားလက်ထပ်ခြင်း၊ ပူဆွေးသောကရောက်ခြင်းနှင့် အလေ့အထ ထုံးစံဖြစ်နေသည့် အခြားသောအကြောင်းများပါရှိသည်။ ၂။ အကယ်၍ တတိယတွဲ ဖတ်ပြီးနောက် ကလေးများသည် စတုတ္ထတွဲနှင့်ပဉ္စမတွဲကို နားလည်ရန် ခဲယဉ်းနေပါက ဤဆဋ္ဌမတွဲကို ဖတ်ရွတ်စေရမည်။ ၃။ တစ်ဦးတစ်ယောက်သည် တင်ပြမည့် မကောင်းသောထုံးစံဓလေ့များအနက် အချို့ကိုပြုကျင့်၍ ဆုံးရှုံးမှု၊ ၎င်းနောင်တ တရားရနေလျှင် ကလေးကို ဤသို့မကောင်းသောထုံးစံကို ပြုကျင့်သဖြင့် ဤသို့ဆုံးရှုံးမှုဖြစ်သည်ဟု ဂရုတစ်စိုက်ပြောပြရမည်၊ သို့မှသာ ကလေးသည် အစပထမကတည်းက ဤသို့သောမကောင်းသည့် ထုံးစံများမှ ရှောင်ရှားသွားပေမည်။

၄။ အချို့သော မိန်းကလေးများသည် အရုပ်ကလေးများဖြင့် ကစား၍ ထိုမကောင်းသောထုံးစံများကို အတုယူ၍ ခင်းကျင်းကစားလေ့ရှိကြသည်၊ ထိုကလေးများ စွဲလန်းမသွားစေရန် နှင့် အလေ့အထ ဖြစ်မသွားစေရန် ပိတ်ပင် တားဆီးကြရမည်။ ၅။ မိန်းကလေးများကို စာအရေးအသား မကောင်းဟု မယူဆလျှင် ဤအတွဲကို အစမှ အဆုံးထိ ရေးသားစေရမည်၊ သို့မှသာ လက်ရေးလည်း လှလာမည်၊ အကြောင်းအရာများလည်း ဦးနှောက်၌ စွဲညိသွားပေမည်။ ၆။ ကလေးများကို ဤအတွဲတွင် ပါဝင်သော အကြောင်းအရာများ အလှည့်ကျစီ တစ်ဦးကပြော၍ ဝိုင်းပြီး နားထောင်ကြသော အလေ့ ပြုပေးကုန်၊ သို့မှသာ ကောင်းစွာ မှတ်မိသွားကြပေမည်။ ၇။ ၎င်းအရပ်ထဲရှိ စာမတတ်သော အမျိုးသမီးများကို နားလည်သွားအောင် အချင်းချင်း ဖတ်ပြကြရမည်၊ သို့မှသာ ၎င်းတို့လည်း အသိတရား လမ်းမှန် ရရှိကြပေမည်။

## အခန်း [၁]

# မကောင်းသော ထုံးစံများ အကြောင်း

ထိုထုံးစံများအကြောင်း။ အကြင် ထုံးစံများကို ပြုကျင့်ခြင်းဖြင့် 'ဂိုနာဟ်' ဖြစ်သည်ဟု ယူဆကြသည်၊ သို့သော် ဂိုနာဟ် အပြစ်ပေါ်သည်ဟု ထင်ကြလေသည်။

ဤသည်တွင် အချက်များစွာကိုဖော်ပြထားသည်၊ ထိမ်းမြားလက်ထပ်ပွဲ၌ က,ခုန်ခြင်း၊ တီးမှုတ်ခြင်း၊ မီးပန်းရှို့ခြင်း၊ ကလေးများကို ခေါင်းရှိဆံပင်များ အကုန်မရိတ်ဘဲ ဦးဆုံမှုတ်၊ နဘမ်းဆံ၊ ကွက်တိကွက်ကြား ထားခြင်း၊ သက်ရှိ ရုပ်ပုံများ ထားခြင်း၊ ခွေးမွေးခြင်း၊ ကျွန်ုပ်သည် ဤမကောင်းသောထုံးစံများကို တစ်ခုစီ ရှင်းလင်းအောင် ရေးသား တင်ပြမည်။

# က,ခုန်ခြင်း အကြောင်း

ရှာဒီမင်္ဂလာလက်ထပ်ပွဲများ၌ နှစ်မျိုးနှစ်ရပ် က,ခုန်ကြသည်။ (၁) ကချေသည် (ပြည့်တန်ဆာ)စသည်များ ယောကျ်ားလိုဝတ်၍ က,ကြသည်။ (၂) အရပ်သူများက,ကြသည်၊ ရင်လှုပ်-တင်လှုပ်၍ က,ကြသည်၊ ဤသို့က,ခြင်းများသည် 'ဟရာမ်' မပိုင် ဖြစ်လေသည်၊ ကချေသည်များ၏ က,ပြမှုကိုကြည့်ခြင်း 'ဂိုနာဟ်' အပြစ်ဖြစ်သည်၊ မကောင်းဟူ၍ အားလုံး သိရှိကြသည်။

တရံစာမိန်းမကို ယောကျ်ားများ ဝိုင်း၍ကြည့်ကြသည်၊ ဤသို့ ကြည့်ခြင်းသည် မျက်စိ၏ (ဇနာ) ကာမေသုဖြစ်သည်၊ သီချင်းနှင့် ပြောဆိုသည်ကို နားထောင်ခြင်းသည် နား၏ (ဇနာ) ကာမေသု ဖြစ်သည်၊ ထိုမိန်းမနှင့် စကားပြောခြင်းသည် နှုတ်လျှာ၏ (ဇနာ) ကာမေသု ဖြစ်သည်၊ ထိုကချေသည်ဘက်သို့ စိတ်စွဲလန်းမှုဖြစ်ခြင်းသည် စိတ်၏ (ဇနာ) ကာမေသု ဖြစ်သည်၊ အချို့အရှက်ကင်းမဲ့သူသည် ထိုကချေသည်ကို လက်ဖြင့် ထိပုတ်ပါက လက်၏ (ဇနာ) ကာမေသု ဖြစ်သည်၊ ထိုက,သော ပွဲသို့ သွားခြင်းသည် ခြေ၏ (ဇနာ) ကာမေသုဖြစ်သည်၊ အချို့သည် (ဇနာ) ကာမဂုဏ် ကျူးလွန်ကြသည်၊ ဤသည်မှာ အရင်းမူလ (ဇနာ) ဖြစ်လေသည်။

နဇ်မှာတွန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၉၃။

ဟဒီးသ်တော်မြတ်တွင် ဤအကြောင်းသည် ပွင့်လင်းစွာပါရှိလေသည်၊ ကာမဂုဏ်ကျူးလွန်ခြင်းသည် ဇနာ - ကာမေသု မိစ္ဆာစာရကံ ကျူးလွန် သကဲ့သို့ မျက်စိဖြင့် ကြည့်ခြင်း၊ နားဖြင့် နားထောင်ခြင်း၊ ခြေဖြင့်သွားခြင်း စသည်တို့လည်း (ဇနာ)၏ ဂိုနာဟ် အပြစ်ဖြစ်လေသည်၊ ထို့နောက် ဂိုနာဟ်ကို ကိုယ်ထိ လက်ရောက် ကျူးလွန်ခြင်းသည် ပို၍ပင် ဆိုးလေသည်။

ဟဒီးသ်တော်မြတ်တွင် လာသည်မှာ.... အချို့သော အသင်းသား (မြို့ရွာဒေသ) တို့တွင် မလျော်ကန်သော အပြုအမူများ၊ အရှက် ကင်းမဲ့ခြင်းများ ပျံ့နှံ့လာ၍ လူတို့

သည် လူမြင်ကွင်း၌ပြုမူကြလျှင် အမှန်ပင် ထိုသူတို့သည် ပလိပ်ရောဂါနှင့် အထက်လူများ မကြုံဘူး မတွေ့ဘူးသော ရောဂါဆန်းများကို ရရှိခံစားကြရမည်။

နဗ်ဟာတ္တန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၇၃။

က,ခုန်ခြင်းသည် မကောင်းဖြစ်ရကား အချို့သူကို့သည် ရှာဒီ မင်္ဂလာလက်ထပ်ပွဲများတွင် က,ခုန်မှုများကိုလည်း ထည့်သွင်းကြလေသည်၊ သို့မဟုတ် တစ်ဘက်ဘက်တွင် ထည့်သွင်းရန် တောင်းဆိုကြသည်၊ ဤသို့သောသူများကား 'ဂိုနာဟ်' အပြစ် များစွာ ထိုက်သက်သူများ ဖြစ်ကြလေသည်၊ ထည်မျှမက က,ခုန်ပွဲ ထည့်စေသူသည် လာရောက်ကြည့်ရှုသောသူများ ဂိုနာဟ်ဖြစ်သည်နှင့်အမျှ တစ်ဦးတည်းက ခံရမည်။

နဗ်ဟာတ္တန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၀။

ဥပမာ....က,ပွဲတွင် လူ ၁၀၀-လာပါက၊ ထိုလူ၁၀၀-အသီးသီးဖြစ်သည့်'ဂိုနာဟ်' အပြစ်ဒဏ်နှင့်အမျှ က,ပွဲထည့်သွင်းသူ တစ်ဦးတည်းက ခံရပေဦးမည်၊ သာမက ၎င်းက က,ပွဲထည့်သည်ကိုကြည့်ပြီး အတုယူကာ အခြားသူများက ၎င်းတို့မင်္ဂလာပွဲတွင် က,ပွဲ ထည့်သွင်းပါက ထို့နောက် က,ပွဲအတွက်လည်း ပထမ,စခဲ့သူက ခံရပေဦးမည်။

အစ်ဗ်နို့မာဂျဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈။

ဤမျှပင်မဟုတ်သေးဘဲ ၎င်းကစ,တင်တီထွင်ခဲ့သောက,ပွဲကို ၎င်းသူသေပြီးနောက်လည်း လူတို့ကလိုက်နာကျင့်သုံးနေလျှင် ထိုက,ပွဲများလုံး၀ပျောက်ပျက်မသွားသရွေ့ ကာလပတ်လုံး ထို'ဂိုနာဟ်'အပြစ်များကို ၎င်းတီထွင်ခဲ့သူကလည်း ခံရပေဦးမည်ဖြစ်လေသည်။

ထိုမင်္ဂလာပွဲများ၌ ဘာဂျာ၊ တယော၊ ဗုံ စသည်များလည်း တီးမှုတ်ကြသည်၊ ဤသည်လည်း ဂိုနာဟ်ပြစ်မှုတစ်ရပ်ဖြစ်လေသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ....ငါ့ရစူလ်အားမွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်က ဘာဂျာ၊ ဗုံ စသည့် အတီးအမှုတ်များကို ပယ်ဖျက်ရန် အမိန့်ပေးတော်မူသည်။

ဤသည်မှာ စဉ်းစားကြရန် အချက်ပင်ဖြစ်လေသည်၊ အတီးအမှုတ်ကို ပယ်ဖျက်ရန် ကြွရောက်လာတော်မူခြင်း ဖြစ်လေရာ၊ ဤသည်သော အတီးအမှုတ်ကို အားပေးသူများသည် မည်မျှ'ဂိုနာဟ်'အပြစ်ကြီးလေးမည်ကို ခန့်မှန်း၍ပင်မရပေ။

အမျိုးသမီးများအတွက် လောက၌ နစ်နာမှုတစ်ရပ်မှာ ၎င်းတို့၏ ခင်ပွန်းအချို့သည် ကချေသည်ကို စွဲလန်း ချစ်ကြိုက်၍သွားသည်၊ ၎င်း သတို့သား ကိုယ်တိုင်ကပင် မျက်စိကျသွားပြီး ဇနီးသည်မှ စိတ်ကုန်သွားပါက၊ ဇနီးသည်တို့သည် မျက်ရည်စက်လက်နှင့် နေရစ်ကြရမည်။

အဆိုးဆုံးအချက်မှာ- ဤသို့ က,ပွဲ ၎င်း အတီးအမှုတ် ထည့်ခြင်းကို ဂုဏ်ရှိသည်၊ တင့်တယ်သည်ဟု ယူဆကြသည်၊ ဤသည်များမပါလျှင် ရှက်ရေကောင်းသည်၊ မင်္ဂလာပွဲ မစည်ကားဟုထင်ကြသည်၊ ဂိုနာဟ် အကုသိုလ် အပြစ်ကျူးလွန်ခြင်းအပေါ် ဂုဏ်ယူခြင်း၊ မထည့်သျှင် ဂုဏ်ငယ်မည်ဟု ယူဆခြင်းတို့ဖြင့် (အီမာန်) ယုံကြည်ချက် ပျက်ပြားသွားလေသည်။

နဗ်ဟာတ္တန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၇၁။

ဤသို့က,ပွဲနှင့် အတီးအမှုတ် ထည့်သွင်းခြင်း၏ 'ဂိုနာဟ်'အပြစ်ကြီးမားပုံကို သိကြရပေပြီ၊ အချို့သူတို့က မိန်းကလေးရှင်များက နားမထောင်ကြ၊ က,ပွဲ အတီးအမှုတ် ထည့်ပါဟု ဇွတ်ပြောကြ၍ ထည့်ရခြင်းဖြစ်ပါသည်ဟု ဆင်ခြေကန်ကြသည်၊ ထိုသို့ ဆင်ခြေကန်သူများကို မေးရန်သင့်သည်မှာ- မိန်းကလေးရှင်က ခင်ဗျားကိုယ်တိုင် မင်းသားလို ဝတ်ပြီး က,ပါဟု ဇွတ်ပြောနေလျှင် သင်သည် မင်္ဂလာပွဲ ဖြစ်မြောက်သွားစေရန်အတွက် က,မည်လော၊ မင်္ဂလာပွဲ မဖြစ်ချင်နေပါစေဟုသဘောပိုက်ကာ ဒေါသမီးတောက်လောင်လျက် ရိုက်ပုတ်မည်လော။

သို့ရှိရာ မှတ်စလင်မ်အပေါင်းကို ထိုက်သည်မှာ.... 'ရှရီအတ်' တရားတော်မြတ်က အကြင်ကိစ္စတစ်ခုကို (ဟရာမ်) မလုပ်ပိုင်ဟု တားမြစ်ထားလျှင် မိမိစိတ်ကြိုက်မဟုတ်သော ကိစ္စများကဲ့သို့ ထိုကိစ္စကို ရွံ့ရှာ မုန်းတီးစိတ် ထားရပေမည်၊ ဤသို့ စိတ်ထားခြင်းဖြင့် မင်္ဂလာပွဲ ဖြစ်သည့်,မဖြစ်သည်ကို စိတ်ဝင်စားတော့မည်မဟုတ်ပေ၊ ဤသို့ပင် 'ရှရီအတ်' တရားတော်မြတ်နှင့် ကဲ့လွဲသည့်ကိစ္စရပ်များကို ပွင့်ပွင့်လင်းလင်း ပြောဆိုကြရန်ထိုက်သည်၊ မင်္ဂလာပွဲ ကျင်းပလိုမှကျင်းပပါ၊ ကျွန်ုပ် အလျှဉ်း က,ပွဲ ၎င်းအတီးအမှုတ် မထည့်နိုင်ဟု ပြောရမည်၊ ဤသို့ပင် က,ပွဲ ၎င်း အတီးအမှုတ်ပါသည့် မင်္ဂလာပွဲ၌လည်း သွားခြင်း မထိုက်ပေ။

အရပ်ဆူများသည်လည်း ဗုံ၊ ဘာဂျာ စသည်များ ပါသည် ဖြစ်စေ၊ မပါသည် ဖြစ်စေ မည်သည့် နည်းနှင့်မှ က,ခုန်ခြင်း မပိုင်ပေ၊ ကျမ်းစာများ၌ မျောက်ပွဲများပင် တားမြစ်ထားလေရာ၊ လူသားများ က,ခုန်ခြင်းသည် မည်မျှ မကောင်းဖြစ်ဘိသနည်း၊ ယောကျ်ားများမရှိရာ အိမ်တွင်း၌ က,ခြင်းလည်း မပိုင်ပေ၊ ယောကျ်ားများ တွေ့မြင်သွားပါက အထက်တွင် တင်ပြခဲ့သော မကောင်းမှုများ ပေါ်ပေါက်လာမည်၊ သီဆိုသောအသံမှာ အပြင်ရှိ ယောကျ်ားနားသို့ ရောက်သွားမည်၊ ယောကျ်ားတို့မှာ မိန်းမ အသံ နားထောင်ခြင်း ဂိုနာဟ် ဖြစ်လေရာ၊ ထိုသို့ ဂိုနာဟ်ဖြစ်စေသူ မိန်းမများလည်း ဂိုနာဟ် ပြစ်ဒဏ် ခံကြရမည် ဖြစ်လေသည်၊ အချို့ အမျိုးသမီးများသည် က,သူမ၏ ခေါင်းတွင် ဦးထုပ်ဆောင်းပေးကြသည်၊ ဤသို့ အမျိုးသမီးများသည် အမျိုးသားများ အသွင်ဆောင်ခြင်း (ဟရာမ်) ဖြစ်လေသည်၊ ဤသို့ ဂိုနာဟ်ဖြစ်အောင် ပြုမူဖန်တီးသူလည်း ဂိုနာဟ် ပြစ်ဒဏ် ခံရမည်၊ ၎င်းအကယ်၍ ထိုသို့ က,ခုန်ရာ၌ ဘာဂျာ၊ ဗုံ စသည့် အတီးအမှုတ်ပါလျှင် ဤသည်၏မကောင်းမှုကို ကျွန်ုပ် ယခုပင် ရေးခဲ့ပေပြီ၊

ဤသို့ပင် သီချင်းဆိုသူ မိန်းကလေးကို အသံကောင်းသူ၊ အချစ်ကိစ္စ ပါသော သီချင်း ကဗျာရသူကို ရှာဖွေကြလေသည်၊ ၎င်းအများအားဖြင့် ထိုသီချင်းသံများသည် သူစိမ်းယောကျ်ားများနားသို့ရောက်လေသည်၊ ထိုဂိုနာဟ်၏အရင်းအမြစ်သည် အိမ်တွင်းရှိ အမျိုးသမီးများ ဖြစ်ကြလေသည်၊ ၎င်းဤသို့အချစ်ကိစ္စပါသော သီချင်း သီဆိုခြင်းဖြင့် အချို့ မိန်းမများ၏ စိတ်ဓါတ်ကို ပျက်စီးစေလေသည်၊ ညလုံးပေါက် သီဆိုကြသဖြင့် 'ဖွဂျ်ရ်'နမာဇ်လည်း ပျက်သွားကြသည်၊ ထို့ကြောင့်ဤသည်လည်းမပြုပိုင်ပေ၊ အချုပ်မှာ-

က့ ခုန်ခြင်း ဟူသမျှ ၎င်း တယော၊ ဘာဂျာ၊ ဗုံ စသည့် ခေတ်ပေါ် အတီး အမှုတ် ဂီတများသည် အားလုံး 'ဂိုနာဟ်' အပြစ်ဖြစ်လေသည်။

# ခွေးမွေးခြင်းနှင့် ရုပ်ပုံများ ထားခြင်း အကြောင်း

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်အိမ်၌ ခွေး၊ ၎င်း သက်ရှိရုပ်ပုံရှိလျှင် ထိုအိမ်၌ ရဟ်မတ်တော်၏ ဖွရစ်ရှ်တဟ်များ မလာရောက်ကြပေ။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၅၅။

နဇ်ဟတွန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၁၉။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အလ္လာဟ်အသျှင်မြတ် ထံတော်တွင် အပြင်းထန်ဆုံး (အသာဗ်) ပြစ်ဒဏ် ခံရမည့်သူသည် သက်ရှိရုပ်ပုံ ပြုလုပ်သူပင်ဖြစ်သည်။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၅၄၅။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... လယ်ယာကိုစောင့်ရှောက်ရန်အတွက်၊ တိရစ္ဆာန်များကို စောင့်ရှောက်ရန်အတွက်၊ သားလိုက်ရန် အတွက် ဤ(၃)ချက် အပြင် အခြား အကျိုး အတွက် အကြင်သူသည် ခွေးမွေးခဲ့လျှင် ထိုသူ၏ ကုသိုလ်(သဝါဗ်)များအနက် နေ့စဉ်(ကီရာတ္ဂ)တစ်ခု လျော့သွားမည်ဖြစ်သည်။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၅၅၅၊ ၅၅၆။

အခြား ဟဒီးသ်တော်တစ်ရပ် လာသည်မှာ... အလ္လာဟ်အသျှင်မြတ် ထံတော်တွင် (ကီရာတ္ဂ)သည် အိုဟွဒ် တောင်နှင့် အမျှ ရှိလေသည်။

တင်ပြပါဟဒီးသ်တော်မြတ်များဖြင့် သက်ရှိရုပ်ပုံ ထုလုပ်ရိုက်ကူးခြင်း၊ ထိုသက်ရှိပုံများကိုထားခြင်း၊ ခွေးမွေးခြင်းတို့သည်(ဟရာမ်)မပြုအပ်သော အချက်များဖြစ်ကြောင်း သိရလေသည်၊ ထို့ကြောင့်ဤအချက်များမှ ရှောင်ကြဉ်ရန်ထိုက်သက်လုလေသည်၊ အချို့သော မိန်းမများသည် သက်ရှိပုံ ပါသော အထည်များကို ဈေးမှဝယ်ယူကြသည်၊ ၎င်း ကိုယ်တိုင်ထိုးကြသည်၊ ၎င်း မြေရုပ်၊ ချိုချဉ် စားဖွယ်ရုပ်များကို ကလေးများ အတွက် ဝယ်ပေးကြသည်၊ ဤသည်တို့သည် မပြုပိုင်သောအချက်များ ဖြစ်ကြပေသည်၊ မိမိတို့၏ သားသမီးများကို အရုပ်များဖြင့် မကစားကြရန် တားမြစ်ကြရမည်၊ ၎င်း ဤသို့သော အရုပ်များကို ခွဲချိုးပစ်ကြရမည်၊ အထည်များကို မီးရှို့ပစ်ကြရမည်၊ ဤသို့ပင် အချို့သော ယောကျာ်းလေးများသည် ခွေးငယ်ကလေးများကိုမွေးကြသည်၊ မိဘဖြစ်သူများက တားမြစ်ကြရမည်၊ မနာခံလျှင် ပြင်းထန်စွာ အရေးယူကြရမည်ဖြစ်ပေသည်။

# မီးပန်း ရှို့ခြင်း အကြောင်း

ရှဗေ့ဘရာအတ် ညနှင့် ရှာဒီမင်္ဂလာပွဲများ၌ ဗျောက်ဒိုးပေါက်ခြင်း၊ မီးပန်းရှို့ခြင်း များ၌ 'ဂိုနာဟ်' များစွာ ရှိလေသည်။

(၁) ပစ္စည်းကို အလဟဿ ဖြုန်းတီးခြင်းဖြစ်သည်၊ ကုရ်အာန်ကျမ်းတော်မြတ်၌ ပစ္စည်းကို အလဟဿ ဖြုန်းတီးသူအား 'ရှိုင်တွာန်'မိတ္တ၏ ညီဟု မိန့်မြွက်ထားတော်မူပေသည်၊ အာယတ်တော်တစ်ပိုဒ်တွင် အလ္လာဟ် အသျှင်မြတ်သည် အလဟဿ ဖြုန်းတီးသူများကို မနှစ်မြို့တော်မူပေ။ (၂) လက်ကြေ မီးလောင်မည်ကို စိုးရိမ်ရသည်၊ အိမ်ကိုပင် မီးစွဲမည်ကိုစိုးရသည်၊ မိမိတို့၏ ပစ္စည်းနှင့်အသက်ကို ဆုံးရှုံးပျက်စီးမှုကို ပြုခြင်းပင်လျှင် 'ရှရီအတ်'တရားတော်မြတ်၌ မကောင်းဆိုးဝါးပင် ဖြစ်ပေသည်။ (၃) အများအားဖြင့် ရေးပြီးစာရွက်များကိုပင် မီးရှို့ရာ၌ အသုံးပြုကြသည်၊ စာရွက်၌ပါရှိသော စာလုံးများကိုလည်း ရိုသေသမှုထားရမည်ဖြစ်သည်၊ ဤသို့သောလုပ်ငန်းများ၌အသုံးချခြင်းမပိုင်ပေ၊ သာမက အချို့ စာရွက်များ၌ ကုရ်အာန်ကျမ်းတော်၏စာလုံးများ၊ ဟဒီးသ်တော်များ၊ နဗီရစူလ်တမန်တော်များ၏ နာမံတော်များ ပါရှိကောင်းပါရှိပေမည်၊ ဤသည်တို့ကို မရိုမသေပြုခြင်းဖြင့် ဒုက္ခရောက်ကြပေမည်၊ သင်တို့သည် သားသမီးများကို ဤသို့အလုပ်များအတွက် ငွေကြေး ထုတ်မပေးကြလေနှင့်။

## စစ်တုရင်၊ ဖဲ၊ ကြွေအံ၊ ကျား၊ လေတံခွန် စသည် အကြောင်း

ဟဒီးသ်တော်မြတ်များ၌ စစ်တုရင်ကစားရန် တားမြစ်ချက်များ မြောက်မြားစွာ လာရှိလေသည်၊ ဖဲ၊ ကြွေအံ၊ ကျား စသည်တို့လည်း စစ်တုရင် ကဲ့သို့ ဖြစ်လေသည်၊ ဤသည် အားလုံးကို တရားတော်မြတ်က တားမြစ်ထားလေသည်၊ ထို့နောက် ဤသည် အကျိုးမရှိသော ကစားမှုတွင် စိတ်စွဲလန်းသွားရာ၊ ကစားသူသည် အခြားကိစ္စရပ်များဘက်သို့ စိတ်ဝင်စားလုပ်ကိုင်မှု နည်းပါးသွားလေသည်။

ဤသို့ကစားသူများသည် လောကီလောကုတ္တရာ၏ဆောင်ရွက်ရမည့်တာဝန်များမှ လစ်ဟင်းသွားလေသည်၊ သို့ရှိရာ အကြင် အလုပ်သည် မကောင်းဖြစ်လေရာ ထိုအလုပ်သည် အဘယ်မှာ ကောင်းဦးမည်နည်း။ လေတံခွန် (စွန်) လွှတ်ခြင်းလည်း ဤသို့ပင် မကောင်းမှုဖြစ်လေသည်၊ သာမက အချို့ကလေးများသည် လေတံခွန်နောက် လိုက်ရင်း အိမ်ခေါင်မိုးမှ လိမ့်ကျ သေခြင်းများလည်း ရှိလေသည်၊ အချုပ်မှာ.... သင်တို့ စိတ်ခေါင်ကြံ့ခိုင်မှုထားကြ၍ အလျှင်း မိမိတို့၏ ကလေးများကို ဤသို့သော ကစားနည်းများမှ တားမြစ်ပိတ်ပင်ကြရမည်။

## ကလေးများကို ဆံပင် ကွက်တိ ကွက်ကြား ထားခြင်း အကြောင်း

ဟဒီးသ်တော်မြတ်ဘွင်လာသည်၊ ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က(ကဇ်အ်) မှ တားမြစ်တော်မူခဲ့သည်။ ဂွန်ယတွတ်တွာလေ ဗီးန်ကျမ်း စာမျက်နှာ-၂၇။

(ကဇ်အ်)၏ အဓိပ္ပါယ်သည် ဦးခေါင်း၏ဆံပင် အချို့နေရာကရိတ်၍၊ အချို့နေရာက ချန်ထားခြင်း ဖြစ်သည်။

## အခန်း [၂]

# အချို့သူတို့က လုပ်ပိုင်သည်ဟုထင်သော ထုံးစံများ

### အကြောင်း

လူ့လောကကို ရောက်သည့်အချိန်မှစ၍ သေသည်အထိ ပြုကျင့်သော ထုံးစံများသည် အများအားဖြင့် သာမက အားလုံးပင် အသိဉာဏ်ရှိသော သူများ ထံ၌ လေဗွေကဲ့သို့ ပျံ့နှံ့နေလေသည်၊ ထိုကိစ္စများကို အချို့သူတို့က 'ဂိုနာဟ်' အပြစ် မဖြစ်ပါဟု ယူဆနေကြသည်၊ ယောကျ်ား-မိန်းမများ ရောနှော သွားလာကြ၍ စားကြသောက်ကြသည်၊ လက်ဆောင်ပဏ္ဏာပေးယူကြသည်၊ အက မပါ၊ အတီးအမှုတ် မပါသဖြင့် တရားတော်မြတ်နှင့် မငြိစွန်း၍ တားမြစ်ရန်မရှိဟု ဆိုနေကြသည်၊ အများ ထုံးစံဓလေ့ ဖြစ်နေသဖြင့် အသိဉာဏ် ဖုံးလွှမ်းနေ၍ ဤသို့ မှားသောယူဆချက် ပေါ်ပေါက်လာခြင်း ဖြစ်သည်၊ ထို့ကြောင့် ထိုထုံးစံများ၌ရှိသော မကောင်းမှုများ၊ လူသာမန်မသိနိုင်သော မကောင်းခြင်းများကို ထိုသူတို့ ဉာဏ်မမှီဘဲ ဖြစ်ရခြင်း ဖြစ်ပေသည်။

ပမာဆိုသော်....အသိမပြည့်မဝသေးသည့် ကလေးသည် မုန့်ချို၏အရောင်အရသာကိုမြင်၍ အလွန်ကောင်းသည်ဟု ထင်ပြီး ထိုမုန့်ချိုစားခြင်းဖြင့် ဘေးဒုက္ခ ရောက်မည်ကို မမြင်သကဲ့သို့ဖြစ်သည်၊ ထိုမုန့်ချို၏မကောင်းမှုကို မိဘက သိ၍ တားမြစ်လေရာ၊ ကလေးက အကောင်းအလိုတားသော မိဘကိုပင် ရန်သူဟု ထင်လေသည်။

အမှန်မှာ ထိုမကောင်းသောထုံးစံများသည် နက်နဲသော၊ ဖုံးအုပ်နေသော အချက်များ မဟုတ်ပေ၊ လူတိုင်း သိမြင်၍ မနှစ်မြို့ကြပေ၊ ဤသို့သော ထုံးစံများ မရှိလျှင် ကောင်းမည်ဟု ယူဆနေကြသူများဖြစ်သည်၊ သို့သော် ဓလေ့ထုံးစံတစ်ခု ဖြစ်နေသဖြင့် အချို့သူတို့သည် ရယ်မောပျော်ရွှင်စွာ လက်ခံပြုကျင့်နေကြပေသည်၊ ၎င်းဓလေ့များကို လုံးဝ ဥဿုံ စွန့်လွှတ်ရန် ဝန်လေးနေကြသည် သာမက မပြုလုပ်ကောင်းကြောင်း ပြောပြဆုံးမသူအား စိတ်ပင်ဆိုးတတ်ကြလေသည်။ တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၄၅၇။

အချုပ်မှာ.... ကျွန်ုပ်သည် ထိုမကောင်းသောထုံးစံများကို တစ်ခုစီထောက်၍ နားလည်သွားစေရန် တင်ပြမည်၊ သို့မှသာ ဤမဲလျော်ကန်သည့် အပြုအမူများ၏ 'ဂိုနာဟ်' ပြစ်ဒဏ် ဆိုက်သက်ယည်ကို, ကွက်ကွက် ကွင်းကွင်း သိမြင်လာကြပေမည်၊ မွတ်စလင်မ် ယောကျ်ား-မိန်းမတို့သည် တင်ပြမည့် မကောင်းသောထုံးစံများ တစ်ခုမှ မကျန်အောင် ဝိုင်းဝန်း ကြိုးစား တိုက်ဖျက်ပစ်ကြရန် ထိုက်လေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သခင်၏ လက်ထက်က ရိုးရိုးပင် ကျင်းပသကဲ့သို့ ယခုလည်း ရိုးရိုးပင် ကျင်းပနိုင်အောင် ကြိုးစားပြုပြင်ကြရမည်၊ အကြင် မိန်းမနှင့်ယောကျ်ားသည် မကောင်းသော ထုံးစံကို ပယ်ဖျက်၍ မှန်ကန်သော နည်းအတိုင်း ပြုမူလျှင် 'ထိုသူတို့သည် ကြီးစွာသော ကုသိုလ်(သဝါဗ်)ကို ရရှိကြပေမည်။

ဟဒီးသ်တော်မြတ်တွင်လာသည်၊ 'စွန္နတ်'တော်လမ်းစဉ်တစ်ခုပျက်သွားပြီးနောက် အကြင်သူသည် ထိုစွန္နတ်တော် လမ်းစဉ်ကို ပြန်လည် ရှင်သန်အောင် ပြုလျှင် ထိုသူသည် (ရှဟီဒီ) အလ္လာဟ်အသျှင်မြတ် လမ်းတော်ဘွင် အသက်ပေးသွားသော ပုဂ္ဂိုလ် ၁၀၀-၏ ကုသိုလ် (သဝါဗ်) ရမည်ဖြစ်သည်။ နစ်ဗ်ဟာတွန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၀။

ဆိုလိုသည်မှာ....စွန္နတ်တော်လမ်းစဉ် ပျက်သွားပြီးနောက် ပြန်လည်ရှင်သန်အောင် ပြုလျှင် ပမာဆိုသော်.... ထိုသူသည် ငါရစူလ်အား ပြန်လည် အသက်ဝင်လာအောင် လုပ်သကဲ့သို့ဖြစ်သည်၊ အလိုမှာ ထိုသူသည် သာသနာတော်၏အလွန်အရေးကြီးသောအချက်ကို တာဝန်ကျေခြင်းဖြစ်သည်၊ ထိုအတွက်အကျိုးကျေးဇူးကား ထိုသူသည် ကေယာမတ် ကမ္ဘာ့တရားခွင်နေ့၌ ငါရစူလ်နှင့်အတူ ဂျန္နတ်ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ရမည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်နှင့် အတူ ဂျန္နတ်သို့ ဝင်ရောက်ရခြင်းကိုလည်း အသိပညာရှိသူများက (ရှဟီဒီ)ပေါင်း ၁၀၀-၏ အကျိုး'သဝါဗ်'ထက် ပိုမို မက်ထားကြလေသည်။

တင်ပြမည့် အချက်များသည် စာရှုသူများ နှင့် သက်ဆိုင်နေပေသည်၊ အကယ်၍ မှားယွင်းသောကိစ္စကို ပြုလုပ်ခဲ့သည်ဖြစ်သော် ,အနည်းငယ် ကျိုးစားခြင်းဖြင့် (အင်န်ရှာအလ္လာဟ်) မကောင်းသော ထုံးစံ ဓလေ့များ ပ,ပျောက်သွားမည် ဖြစ်ပေသည်။

# ကလေး မွေးဖွားသောအခါ ပြုလုပ်သည့် ထုံးစံများ အကြောင်း

၁။ အချို့သည်ပထမဦးဆုံးမွေးဖွားမည့်ကလေးကိုဖခင်အိမ်၌မွေးဖွားရန်အရေးကြီးသည်ဟုယူဆကြလေသည်၊ မွေးဖွားခါနီး ဖခင်အိမ်သို့ပို့ရာ လမ်းပန်းခရီးတွင် ဒုက္ခရောက်မည်၊ မရောက်မည်ကို ဂရုမစိုက်ကြပေ၊ ထိုသို့ခရီး၀ေးသွားပါက အခန့်မသင့်လျှင် ရောဂါဖြစ်လာမည်၊ ကလေးမှာလည်း ဒုက္ခရောက်လာတတ်ပေသည်၊ စိတ်နှစ်လုံးမှာ မောပန်းခြင်း၊ ပြောင်းလဲခြင်းဖြစ်လာမည်၊ ဤဒုက္ခကို မိခင်ရောကလေးပါ ရက်အတန်ကြာ ခံစားကြရမည်၊ ကလေးများ၏ရောဂါများသည် ဝမ်းတွင်းရှိစဉ်က မိခင်က မဆင်မခြင်သောကြောင့် ပေါ်ပေါက်လာရသည်ဟု နားလည်သော ပုဂ္ဂိုလ်များက ဆိုကြလေသည်၊ အချုပ်မှာ.... ဤထုံးစံကြောင့် မိခင်ရော ကလေး၏အသက်ပါ ဆုံးရှုံးမည်ကို စိုးရိမ်ရလေသည်၊ အရေးမကြီးသောကိစ္စတစ်ရပ်ကိုဂရုတစ်စိုက်ပြုမူနေခြင်းသည် မိမိစာက်မှ'ရှရီအတ်' တရားသစ်တစ်ခု တီထွင်ခြင်းပင်ဖြစ်ပေသည်။ တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၁၇။

သီးခြား၍ ပထမ ကလေးကို ဖခင်အိမ်သွားမမွေးလျှင် လာဘ်မကောင်း၊ ၎င်းပြင် လူပြောစရာ ဖြစ်၍ ရှက်စရာ ဖြစ်မည်ဟု ယူဆသော်.... လာဘ်မကောင်းဟု ယူဆခြင်း 'ရှစ်ရ်က်'ဖြစ်လေသည်၊ အဘယ့်ကြောင့်ဆိုသော် ကောင်းကျိုး-ဆိုးကျိုး ပေးသူသည် အလ္လာဟ်အသျှင် တစ်ပါးတည်းသာလျှင် ရှိတော်မူသည်၊ သို့ရှိရာ ကိစ္စတစ်ခုကို လာဘ်မကောင်း၊ နိမိတ်မကောင်းလုပ်လျှင် ဒုက္ခတွေ့မည်ဟုယူဆခြင်းသည်'ရှစ်ရ်က်'ဖြစ်သွားလေသည်၊ ထိုကြောင့် ဟဒီးသ်တော်မြတ်တွင်လာသည်မှာ- (ဘဒ်ရှဂူနီ) လာဘ်,နိမိတ် ကောင်း မကောင်းဟု ယူဆခြင်းသည် ဘာမျှမဟုတ်၊ မရှိ။ တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၁၅၅။

ဟဒီးသ်တော်တစ်ရပ် လာရှိသည်မှာ....ပ, သခြင်းကိုးခြင်းတို့သည် ရှစ်ရ်က်ဖြစ်သည်၊ လူပြောစရာ ရှက်စရာ ဖြစ်မည်ဟုယူဆခြင်းသည် မာန်မာနကြောင့်ဖြစ်သည်၊ မာနထော င်လွှားခြင်း ဟရာမ်ဖြစ်ကြောင်း ကုရ်အာန် ကျမ်းတော်မြတ်နှင့် ဟဒီးသ်တော်များတွင် ပါရှိလေသည်။
တရ်ဂီးဗ်ကျမ်း စာမျက်နှာ ၂၃၁။

အများအားဖြင့် ဤသို့ ဂုဏ်မပျက်စေရန် အရှက်မရစေရန်ဟူ၍ လုပ်ဆောင်ပြုကျင့်ကြခြင်းကြောင့် မကောင်းမှုများ စိတ်ရှုပ်ထွေးရခြင်းများ ပေါ်ပေါက် လာရခြင်းဖြစ်ပေသည်။

၂။ အချို့နေရာဒေသတွင် ကလေးမဖွားမီ စကောထဲ၌ သီးနှံနှင့် ပိုက်ဆံ၁-ကျပ် ၂၅- ပြားကို မှုရှိကင်လ်ကို့ရှာ (အခက်အခဲကို လွယ်ကူအောင် ပြုနိုင်သူ)၏ အမည်ဖြင့် ထည့်ကြသည်၊ ဤသည်မှာ ထင်ရှားသော ရှစ်ရ်က် ဖြစ်လေသည်၊ ၎င်းအချို့နေရာဒေသများတွင် ထုံးစံရှိသည်မှာ အမျိုးသမီးသည် ပထမဦးဆုံးကိုယ်ဝန်ရှိလာရာ ၅-လ၊ ၇-လ၊ ၉-လ တွင်မွေးဖွားသည် အဓိပ္ပာယ်မှာ (၇) မျိုးသော သစ်သီး သစ်နှံများကို ထုတ်၍ အမျိုးသမီး၏ရင်ခွင်တွင် ထားကြသည်၊ (ပန်ဂျရှီ) မုန့်ချိုတစ်မျိုးနှင့် ဂွလ်ဂိုလာ မုန့်ချိုကိုကျွေးကြသည်၊ အကြွင်အမျိုးသမီး၏ ပထမကိုယ်ဝန် ပျက်သွားလျှင် ထိုအမျိုးသမီးအတွက် ဤသို့သောထုံးစံကို မပြုလုပ်ကြပေ၊ ဤသည်တို့မှာ မပြုသင့်မပြုအပ်သော လာဘ်ယူခြင်း ထုံးစံဓလေ့များ ဖြစ်လေသည်၊ ၎င်းအယူသည်းမှုများ၏ မကောင်းခြင်းများအကြောင်းကို သင်တို့ဖတ်ပြီးခဲ့ကြပေပြီ။

အချို့နေရာများ၌ မီးနေသည်၏အနီးအပါးတွင်(ဘလာ)များမှကာကွယ်ရန်ဟု ဆို၍ ဓားရှည်ကိုသော်လည်းကောင်း၊ သားလှီးဓားများကိုသော်လည်းကောင်း ထားကြလေသည်၊ ဤသည်တို့သည် သက်သက်ကိုးခြင်းဖြစ်၍ ရှစ်ရ်က် များဖြစ်ပေသည်။

၃။ မွေးဖွားပြီးနောက် အိမ်ရှိအမျိုးသမီးများနှင့် သားချင်းအမျိုးသမီးများက ဝမ်းဆွဲကို ဆုအဖြစ်ပေးကြရာတွင် ပုခက်ထဲသို့ထည့်ကြသည်၊ လက်ထဲသို့မပေးဘဲ ပုခက်ထဲထည့်ခြင်းမှာ စဉ်းစားရကြပ်လှသည်၊ ပုခက်သို့ မထည့်ဘဲ လက်ထဲသို့ ပေးသည်ဆိုသော်လည်း ပေးသူတို့၏(နိယတ်)ဆန္ဒသဘောမှာ မည်သို့ဖြစ်သည်ကို စဉ်းစားရန်လိုပေသည်။

ဤကိစ္စ စတင်ပေါ်ပေါက်လာသောအခါက အဘယ်သို့သောသဘောနှင့်ပေးကြသည်ကိုကားမသိ၊ အားလုံး ပျော်ရွှင်ကြစေရန်အတွက် ပေးကြခြင်း ဖြစ်ပေမည်၊ ယခုမူကား စိတ်ပျော်သည်ဖြစ်စေ၊ မပျော်သည်ဖြစ်စေ၊ ပေးလိုသည်ဖြစ်စေ၊ မပေးလိုသည်ဖြစ်စေ ပေးကြရလေသည်၊ သားချင်း ဆင်းရဲသူများကိုလည်း ဆင့်ခေါ်ကြသည်၊

မသွားလျှင် ရာသက်ပန် ဖြစ်တင်ကြမည်၊ အကယ်၍ သွားပါက တစ်မတ်,ငါးမူးရှာကြံ၍ သွားရပေမည်၊ ငွေပါမသွားပါက အချင်းချင်းတွင် ရှက်ဖွယ်ရာ သေးသိမ်မှု ဖြစ်မည်။ အချုပ်မှာ ... သွား၍မပေးချင်ဘဲ ပေးခဲ့ရသည်။

ဤသည်တို့မှာ ရှက်ဖွယ်လီလီ ဖြစ်ပေသည်၊ အိမ်သို့ခေါ်၍ အနုကြမ်းသဘော လုယက်ကြခြင်း ဖြစ်လေသည်၊ ကိုယ်တိုင် စဉ်းစားကြည့်ကြရန် သင့်ပေသည်၊ ဤသို့ ငွေသုံးရခြင်း၊ ၎င်းယူသူနှင့် အိမ်သားများသည် ပေးယူခြင်းဖြစ်အောင် ပြုလုပ်ခြင်း အဘယ်မှာလျှင် ပိုင်မည်နည်း၊ အဘယ့်ကြောင့် ဆိုသော် ပေးသူ၏ (နိယတ်) စိတ်သဘောမှာ ထင်ပေါ်ရန်နှင့် ကြွားဝါလိုသောကြောင့်ဖြစ်သည်၊ ဤကိစ္စနှင့်ပတ်သက်၍ ဟဒီးသ်တော်မြတ်တွင် လာရှိသည်မှာ.... အကြင်သူထင်ပေါ်စေရန်အတွက်အဝတ်ကောင်းကို ဝတ်လျှင် အလ္လာဟ်အသျှင်မြတ်က (ကေယာမတ်) နေ့တွင် သေးသိမ်သော အဝတ်ကို ဝတ်ဆင်တော်မူမည်။ တရိဂီးဗ်ကျမ်း အတွဲ ၃၊ စာမျက်နှာ ၄၄။

ထင်ပေါ်ကျော်ကြားရန်အတွက် အဝတ်ကိုဝတ်ပါက တင်ပြပါအတိုင်း ဖြစ်ဒဏ် ပေးတော်မူမည်ဖြစ်ပေရာ၊ ထင်ပေါ်ကျော်ကြားရန်အတွက် မည်သည့်အလုပ်မှ မလုပ်ပိုင်ကြောင်း သိရပေသည်။

ကလေး နာမည် ကင်ပွန်းတပ်တွင် ပေးကြသည်မှာ မည်သူမည်ဝါက မည်မျှပေးသည် ဟူသည်ကို သိကြစေရန်ဖြစ်သည်၊ မပေးပါက လူတို့ပြောစရာ ကဲ့ရဲ့စရာဖြစ်မည်၊ မည်သူမည်ဝါသည်နှမြောတွန့်တိုလွန်းသည်၊ တစ်ပြားမှမပေး၊လာထိုင်ပြီးပြန်သွားသည်၊ ဤသို့ဆိုလျှင်လာနေရန်မလိုဟူ၍ အပြောခံရမည်ကို စိုးသောကြောင့် ပေးရခြင်းသာလျှင် ဖြစ်ပေသည်၊ ပေးသူမှာ ဤသို့သောအကြောင်းကြောင့် မပေးချင့်,ပေးချင်ပေးရသဖြင့် (ဂိုနာဟ်) အပြစ်ဖြစ်လေသည်။

လက်ခံယူသူ အကြောင်းကိုလည်း သိမှတ်ထားကြကုန်၊ ဟဒီးသ်တော်မြတ်တွင် လာသည်မှာ.... မွတ်စလင်မ်တစ်ဦး၏ပစ္စည်းမှာ ၎င်းသူ သဘောမတူဘဲ ယူခြင်းဟလာလ် မဖြစ်ပေ၊ သို့ရှိရာ ပေးသူက မပေးချင်, ပေးချင် ပေးရသည်ဖြစ်ရာဤသည်ကိုယူခြင်းမှာ ဂိုနာဟ် အပြစ်ဖြစ်လေသည်၊ အကယ်၍ ပေးသူသည် တတ်ကုန်နိုင်သော ငွေကြေးရှိသူဖြစ်၍ ၎င်းမှာ ပေးရသည့်အတွက် ဝန်မလေးဘဲ သဘောကြီးစွာ ပေးခဲ့ခြင်းဖြစ်မူလည်း ပေးခြင်း၏သဘောမှာ ထင်ပေါ် ဂုဏ်ယူရန်အတွက်ပင် ဖြစ်ပေသည်။

ဟဒီးသ်တော်တွင် လာရှိသည်မှာ— ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဂုဏ်ယူ ကြွားဝါရန် အတွက် (ဒအ်ဝပ်တ်) ထမင်းကျွေးခြင်းကိုလည်း လက်မခံကြရန်

တားမြစ်ထားတော်မူပေသည်၊ အချုပ်မှာ… ဤသို့ကြွားဝါလိုသော သဘောနှင့် ကျွေးသော ထမင်းကိုလည်းကောင်း၊ ပေးသောပစ္စည်းများကိုလည်းကောင်း မယူပိုင်ပေ၊ ယူသောသူများလည်း ဂိုနာဟ် ဖြစ်ဒဏ်မှ မလွတ်ကင်းပေ။

တရ်ဂီးဗ်ကျမ်း အဲတွဲ ၃၊ စာမျက်နှာ ၅၉။

အိမ်သူ အိမ်သားများသည် လူတို့အား ဖိတ်ခေါ်၍ ဂိုနာဟ် အပြစ်ဖြစ်အောင် လုပ်ကြရာ ၎င်းအိမ်သူ အိမ်သားများလည်း ဂိုနာဟ် ခံကြရမည်၊ ကလေး ကင်ပွန်းတပ်ခြင်းကား လူတို့ကို စုရုံးခေါ်ယူ၍ ဂိုနာဟ် အပြစ်၌ နစ်မွန်းအောင် ပြုလုပ်ခြင်းပင် ဖြစ်ပေသည်။

ဤသည်အပြင် အခြား မကောင်းမှုတစ်ရပ်မှာ နာမည်ပေး ကင်ပွန်းတပ်ကျင်းပသူသည် ကြွေးတင်သွားလေသည်၊ အရေးကြီးလိုအပ်သောအကြောင်းမရှိဘဲ ကြွေးမယူရန် 'ရှရီအတ်' တရားတော်မြတ်က တားမြစ်ထားလေသည်။

နဇ်ဟာဘွန်နာဇွေရီးန်ကျမ်း စာမျက်နှာ ၁၆၀။
တရ်ဂီးဗ်ကျမ်း စာမျက်နှာ ၃၅။

ကြွေးဟူသည်မှာ မိမိလက်ဝယ် ငွေရှိသောအခါ ချက်ချင်း ပေးဆပ်ရပေမည်၊ ဤထုံးစံတွင် ချေးသူအိမ်၌ ဤသို့သော ကင်ပွန်းတတ်ပွဲ ကျင်းပမှသာ ပေးဆပ်ရသည်၊ ချက်ချင်းပေးဆပ်လိုသော်လည်း ငွေရှင်က လက်မခံပေ၊ ဤသို့ပြုလုပ်ခြင်းမှာ ဂိုနာဟ် တစ်ခုပိုလာခြင်းပင် ဖြစ်ပေသည်၊ ကြွေးမှာကား ရှိလျှင်ပေး၍ မရှိသေးလျှင် ဆိုင်းငံ့ထားနိုင်သည်၊ ဤနေရာတွင် ငွေရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ ကြွေးယူ၍ အပေါင်ထားယူရသည်၊ အချိန်ကျလျှင် ပေးရလေသည်။

သို့ရှိရာ ဤအချက် (၃) ရပ်စလုံးသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲသည်၊ ယခုခေတ်ထုံးစံဖြစ်နေသော ကလေးနာမည်ပေးကင်ပွန်းတတ်သည် လုံးဝ မပြုလုပ်ထိုက်ပေ၊ ဤကဲ့သို့ မပြုလုပ်ခြင်းသည် အလ္လာဟ် နှင့် ရစူလ်တမန်တော်မြတ်၏ သဘောတူညီမှုကို ရသည့်အပြင် စိတ်ချမ်းသာမှုလည်း ရလေသည်။

ဤသို့ပင် ကလေး၏နား၌ အသာန်ပေးသောအခါတွင် ကြံသကာနှင့် သကြားမုန့်စသည်ဝေငှခြင်းကို ဂရုတစ်စိုက်ပြုခြင်းသည် 'ရှရီအတ်' တရားတော်မြတ်၏ ဘောင်မှ ပြင်ပသို့ ထွက်သွားသောကိစ္စရပ်များ ဖြစ်လေသည်။

၄။ ဆတ္တာသည်မသည် သီးနှံအချို့ကိုရင်ဝယ်ပိုက်၍ သားချင်းများထံကလေးဘက်မှ (စလာမ်)ပေးနှုတ်ခွန်းဆက်ရန်သွားသည်၊ ထိုသူမကို အားလုံးက သီးနှံများပေးလေသည်၊ ဤသို့ပေးခြင်း၌ တင်ပြခဲ့သော အတွေးအခေါ်များ၊ ၎င်းစိတ်ထားများပင် ဖြစ်ပေသည်၊ ထို့ကြောင့် ဤသို့သော ထုံးစံများကို စွန့်လွှတ်ကြရန် ထိုက်လေသည်။

၅။ ဒိမ်ရှိ အခိုင်းအစေ နှင့် ဇာတ်နိမ့်သူများကို ငွေပေးကြသည်၊ ဤသည်ကို (ချတ်ဘ်ားစ်ထာန်ဗဟ်) ခေါ်လေသည်၊ ထိုသူတို့အနက် အချို့မှာ အခိုင်းအစေများ ဖြစ်ကြလေရာ ထိုသူတို့ကို ပေးထိုက်သည် ဟူ၍လည်းကောင်း၊ ဆုအဖြစ်လည်းကောင်း ပေးမှု ကိစ္စမရှိပေ၊ သာ၍ပင်ကောင်းသည်၊ သို့သော် မိမိတတ်နိုင် မတတ်နိုင်ကို ကြည့်ရပေမည်၊ အတိုးပေးရစေကာမူ ကြွေးယူခြင်း၊ ၎င်းပြင်မိမိပိုင် မြေ၊ဥယျာဉ်ကို ပေါင်ခြင်း၊ ရောင်းခြင်းပြု၍မခင်းကျင်းပါက နာမည်ပျက်ဂုဏ်ငယ်မည်၊အကြောင်းခံမလို လောက်တဲ့ကြွေးယူခြင်း၊ အတိုးပေးရခြင်းတို့ကြောင့် အတိုးယူသူနှင့်အမျှ ဂိုနာဟ်ပြစ်ဒဏ် ခံရပေမည်၊ ထင်ပေါ်ကျော်ကြားစေရန် အတွက်ကလည်း အမှန်ပင် ဂိုနာဟ်ဖြစ် လေသည်။

ဤသည်တို့မှာ အစေခံများနှင့် ပတ်သက်၍ဖြစ်သည်၊ အခြား နိမ့်ကျသူများမှာ အလုပ်ခိုင်းရခြင်းလည်းမရှိဘဲ ကြွေးတောင်းသူများပမာ လာရောက် တောင်းယူကြလေ သည်၊ မပေးချင်ပေးချင်ပေးရသည်ပင်ဖြစ်သည်၊ ပေးသောသူများ ယူသောသူများနှင့် ပတ်သက်၍ မကောင်းမှုများကို အထက်တွင် တင်ပြရေးသားပြီးခဲ့လေပြီ၊ ပြန်၍ရေးပြ နေရန်မလိုပေ။

၎င်းတို့သည် အခိုင်းအစေများ မဟုတ်ကြသဖြင့် ပေးခြင်းမှာ သက်သက်ကျေးဇူး ပြုခြင်းသာဖြစ်လေသည်၊ ဤသို့ပေးရာ၌ အတင်းအဓမ္မတောင်းယူကြသည်မှာ ဟရာမ်ဖြစ် လေသည်၊ ပေးသူကလည်း စိတ်ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ၊ နာမည်ပျက်မှာစိုး၍ ပေးရလေသည်၊ဤသို့သော ထုံးစံကိုမပျက်အောင်အစဉ်တစ်စိုက်လုပ်ခြင်းသည်(ဟရာမ်) ဖြစ်မှုကို အားပေးခြင်းဖြစ်သည်၊ဟရာမ်လုပ်ငန်းကို အားပေးခြင်းလည်း ဟရာမ်ပင်ဖြစ်၍ ဤဓလေ့ထုံးစံများကို စွန့်လွှတ်ကြရန် ထိုက်လေသည်။

၆။ တူမများကို နို့ဆေးခဟု အမည်တပ်၍ ပေးကမ်းကြသည်၊ဤသည်၌လည်း အရေးကြီးသည်ဟု ယူဆခြင်း၊ မပေးချင် ပေးချင် ပေးရခြင်းဖြစ်သည်၊အကယ်၍ပေးလို သဖြင့် ပေးခြင်းဖြစ်မှုလည်း နာမည်မပျက်ရန် ဂုဏ်မငယ်ရန်အတွက် ပေးခြင်းများဖြစ်၍ မကောင်းမှုများပင်ဖြစ်သည်။

ဤသို့ပေးခြင်းသည် ဘာသာခြား ဟိန္ဒူတို့၏ ထုံးစံဖြစ်သည်၊ ကာဖွင်ရ်များနှင့် တူညီအောင် ပြုလုပ်သောအပြစ်အပြင် ဤသို့ပြုလုပ်ခြင်းများသည် မပိုင်ဖြစ်လေသည်။

အချုပ်မှာ ဤဥပဒေကိုနားလည်ထားကြရမည်၊ အကြင်ထုံးစံအလုပ်သည်ပြုရန် အရေးကြီးလာလျှင် မလုပ်မဖြစ်ဘဲ ပြုလုပ်ရလျှင် မပေးလျှင်နာမည်ပျက် ဂုဏ်ငယ်မည် ဖြစ်လျှင် ကြွားဝါလို၍ ပြုလုပ်ပေးခြင်းတို့သည် (ဟရာမ်) အပြစ်ဖြစ်လေသည်၊ ဤမျှ နားလည်ထားရှိဖြင့် အခြားကိစ္စများကိုလည်း နားလည်သွားမည်ဖြစ်ပေသည်။

၇။ အချ်ဝါနိ၊ ဂူန်ဒ်၊ ပန်ဂျေရီ အမည်ရှိ မုန့်ချိုများကို သားချင်း အားလုံး အား ဝေငှကြလေသည်၊ ဤသည်ခွဲလည်း ထိုမကောင်းသော စိတ်ဆန္ဒ နာမည်ရလို၍ဖြစ်ပြီး နမာဇ်ရိုဇဟ်ထက်ပင် ဂရုစိုက်ရန် အရေးကြီးသည်ဟု ထင်နေကြသည်၊ ပန်ဂျေရီမုန့်တွင် ဂျုံမုန့်ကို မတရားသုံးစွဲသည်၊ ပွဲခင်းသူမှာ အကုန်အကျ များပြား သော်လည်း မည်သူမျှ မစားနိုင်ပေ၊ ဂျုံမုန့်စားဖွယ်ပစ္စည်းကို ဤသို့ မရိုမသေလုပ်ခြင်း အဘယ်မှာ ပိုင်မည်နည်း၊ မပိုင်။

၈။ ထို့နောက် ဆတ္တာသည်သည် အမျိုးသမီး၏ မိဘများထံ သတင်းပေးရန် စာယူ၍သွားသည်၊ ထိုနေရာတွင် ဆတ္တာသည်ကို ဆုပေးကြသည်၊ စဉ်းစားရန် အချက်မှာ ပိုက်ဆံ ၂-ပြား အကုန်ခံ၍ စာထည့်လျှင် ရနိုင်ပါလျက် ငွေအကုန်ခံ၍ သီးခြား လူတစ်ယောက်စေလွှတ်ခြင်းသည်အသိဉာဏ်ကင်းမဲ့ရာ ရောက်ပေသည်၊အမျိုးသမီး၏မိဘမှာ စားစရာရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ ဆတ္တာသည်ကိုကားပေးရလေသည်၊ ထိုသို့ ပေးရခြင်းကို(အသျှင်ထံကင်းရန်ဆုပန်ပါ၏၊)အသျှင်မြတ် လမ်းတော်တွင်ပေးရန် ရှိသည် ထက်ပို၍ အရေးကြီးသည်ဟု ယူဆကြလေသည်။

ဤနေရာတွင်လည်း ဂုဏ်မယ်၊ ကြွားဝါသောအဖြစ်၊ ရင်းမပေးချင့် ပေးချင် ပေးရသော အချက်များပင် ပါဝင်လေသည်၊ ထို့ကြောင့် ဤသို့ ပြုလုပ်ခြင်းလည်း မပိုင်ပေ။

၉။ ရက်သတ္တ ၅-ပတ် မြောက် သောအခါ ရေချိုးရာတွင် အမျိုးသမီးများ ဝိုင်းလာကြပြန်သည်၊ ထမင်းကို ထိုအိမ်မှာ စားသောက်ကြသည်၊ ရင်းပြင် ညပိုင်းတွင် အိမ်ရှိလူများနှင့် သားချင်းများကို နို့ထမင်းဝေငှသည်။

လာရောက်သူများသည် အိမ်မဝေးသော်လည်း အိမ်ပြန်မစားဘဲ ထိုအိမ်တွင် စားကြ,သောက်ကြသည်၊ အားနာမှု မရှိကြ၊ အဓမ္မဝင်စားကြသည်၊ အိမ်သားများ၏ (နိယတ်) စိတ်သဘောမှာလည်း နာမည်ပျက် မခံချင်၊ ကဲ့ရဲ့ပြစ်တင်မှု မခံချင်၍သာခံနေကြသည်၊ ဤအချက်ပင် ဤကိစ္စကို တားမြစ်ရန် လုံလောက်နေသည်။

ဤသို့ပင် နို့ထမင်း ဝေငှခြင်းမှာလည်း အကျိုးမရှိသော အချက်ပင် ဖြစ်သည်၊ ကလေးနှင့်အတူ အဘွားကြီးများပါ နို့သောက်၍ သူငယ်ပြန်ရန်မဟုတ်ပေ၊ထို့နောက် ဤကိစ္စတွင်နမာဇ်ရိုဇဟ်ထက်ပို၍ဂရုတစ်စိုက် ပြုလုပ်ကြသည်၊ နာမည်ရ ဂုဏ်ရှိရန်နှင့် မပြုလုပ်ပါက ဂုဏ်ငယ်မည် စသည့် မကောင်းမှုများ ရောနှော၍နေသည်၊ထို့ကြောင့် ဤသည်လည်း မပြုလုပ်ပိုင်ပေ။

၁၀။ မွေးဖွားပြီး ၅-ပတ်အထိ နမာဇ် ဝတ်မပြုကြ၊ နမာဇ်ကို ဂရုတစ်စိုက်ရှိသူများလည်း ပေါ့ပျက်ပျက် လုပ်ကြသည်၊ အမှန်မှာ မွေးဖွားပြီးနောက် သွေးရပ်သွားလျှင် ရပ်သောအချိန်ကစ၍ (ဂွတ်စ်လ်) ရေချိုးပြီး၊ ရေကိုင်လျှင် ဒုက္ခဖြစ်မည်ကို စိုးရပါက (တယမ်မွမ်) မြေဖြင့် သန့်ရှင်းအောင်ပြုပြီး နမာဇ် ဖတ်ရမည်၊ (အ္ဗသ်ရီ) တရားတော်က ခွင့်လွှတ်သော အကြောင်းမှတစ်ပါး နမာဇ် တစ်ကြိမ်မှ မလွှတ်ရ၊ လွှတ်ခဲ့သော် ကြီးစွာသော (ဂိုနာဟ်) ပြစ်ဒဏ်ခံရမည်။

ဟဒီးသ်တော်တွင် လာသည့်မှာ.... အကြင်သူသည် အတလိ 'ဖွန်ရိသ္ဒ' နမာဇ်ကို လွှတ်လျှင် ထိုသူသည် (အီမာန်) ယုံကြည်ချက် လျော့နည်းအောင် ပြုသူဖြစ်သည်။

တရ်ဂီးဗ်ကျမ်း စာမျက်နှာ ၁၁၁။

ဟဒီးသ်တော်တွင် လာရှိသည်မှာ.... အတလိနမာဇ် လွှတ်သူသည် ဖွင်ရ်အောင်န်၊ ဟာမာန်၊ ကာရွန် လူယုတ်မာတို့နှင့်အတူခံသင့်သရွေ့ ဂျဟန္နမ် အပါယ်ငရဲဘုံသို့ ဝင်ရောက်ရမည်။

၁၁။ အမျိုးသမီးသည် မိဘအိမ်မှ ခင်ပွန်းသည်အိမ်သို့ ပြန်လာသော အခါ (ချူချပ်က်) တောင်းသဏ္ဍာန် ပြုလုပ်ထားသောအရာတွင် တတ်နိုင်သည်ခန့် ယောက္ခမတို့အတွက် အဝတ်အစား၊ သားချင်းများအတွက်မုန့်ချို၊ ၎င်းသူမ အတွက် ရွှေ၊ ငွေ ဘယက် တန်ဆာ ဆိုးခွက် စသည်များကို မိဘက ပေးလိုက်ရလေသည်။

ယောက္ခမအိမ်သို့ ရောက်လာသောအခါ အမျိုးသမီး အားလုံးတို့သည် ပါလာသော ပစ္စည်းများကို ကြည့်ရန်လာကြသည်၊ ၎င်း ထမင်းတစ်နပ်စား၍ ပြန်ကြသည်၊ ဤသည်သောကိစ္စရပ်များ၌ဂရုတစ်စိုက်ပြုလုပ်ကြရမည်ကို ဖွန်ရိသ္ဒ၊ဝါဂျစ်ဗ်ထက်ပိုသည်ဟု ထင်နေကြလေသည်၊ ဂုဏ်မငယ်စေရန်နှင့် ကြွားဝါလိုသောဆန္ဒသည် ဤနေရာ၌လည်း ပါဝင်နေသည်၊ ကြွားဝါဂုဏ်မောက်သော မကောင်းမှုများသည် အဘယ်မှာလျှင် ပို၍မည်နည်း။

ဤသို့ပင် အချို့နေရာ၌ ထုံးစံတစ်ခုမှာ ကလေးငယ်အတွက်(ခက်ကျရီ)ပဲထမင်း ကြက်, ဆိတ်, အဝတ်အထည် စသည်များ မီးနေဝင်သောသဘောဖြင့် ပေးကြသည်၊ ဤသည်၌လည်း နာမည်ရလိုခြင်း၊ ဂုဏ်ယူခြင်းသက်သက် ထုံးစံတစ်ခု သတ်မှတ်ခြင်း အပြင် လာဘ်ယူခြင်းနှင့် နိမိတ်ယူခြင်းလည်း ပါဝင်သည်၊ ထို့ကြောင့် မပြုလုပ်ပိုင်ပေ။

၁၂။ မီးနေသည် ဝတ်ဆင်သုံးစွဲသော အခင်း၊ စောင်၊ ဖိနပ် စသည်များကိုဝမ်းဆွဲ ပိုင်သည်ဟု ယူဆကြသည်၊ ဤထုံးစံကြောင့် အချို့အချိန်များတွင် ဒုက္ခတွေ့ကြရသည်၊ ဖိနပ်၊အဝတ်ဟောင်း၊အခင်းအဟောင်းပင် ပြန်ဝတ်ရသည်၊ အိမ်ရာခင်းသစ်ပင် ၄-၅ရက် နှင့် ပေးလိုက်ရသည်၊ ဤသည်၌လည်း တင်ပြပါမကောင်းမှုများ ပါဝင်နေသည်။

၁၃။ ကလေးမွေးဖွားပြီးစ အမျိုးသမီးကို လုံးဝမသန့်ဟုယူဆခြင်း၊ ထိုသူမနှင့် တစ်ခြားထိုင်ခြင်း၊ ထိုသူမ၏ အကျန်အကြွင်းစားရန် ဖယ်ထားဘိဦး၊ ၎င်းသူမ ကိုင်ပြီး အိုးခွက်ပန်းကန်ကိုပင် မဆေးကြောဘဲ မသုံးစွဲခြင်း၊ အချုပ်မှာ မိလ္လာသိမ်းသူများ ပမာ ရွံရှာမှုထားခြင်းတို့သည် သက်သက်မလျော်ကန် အလဟဿကိစ္စများ ဖြစ်လေသည်၊

၁၄။ ထုံးစံတစ်ခုလည်း ရှိသေးသည်၊ကလေးမွေးဖွားပြီး မသန့်ရှင်းမီရေမချိုးရသေးမီ လူကြီးများက ခင်ပွန်းသည်ကို လာခွင့်မပေးကြသည်သာမက ဇနီးသည်ထံသို့ သွားလျှင် အပြစ်ဆိုသည်၊ မကောင်းဟု ယူဆကြသည်။

ဤသို့ကန့်သတ်မှုများကြောင့် အချို့အခါ အခက်အခဲများ ပေါ်ပေါက်လာရသည်၊ မည်သို့ပင် အရေးကြီးသောကိစ္စ ရှိစေကာမူ ဇနီးသည်ထံသို့ သွားခွင့်၊ တွေ့ခွင့် မပြုကြ၊ဤကား အသိတရားကင်းမဲ့သောကိစ္စရပ်တစ်ခုဖြစ်လေသည်၊ တစ်ခါတစ်ရံ အရေးကြီးသော စကားပြောလိုပြီး တစ်ဆင့်ပြောခိုင်းရန် မသင့်သောအကြောင်း ဖြစ်နေပါက အခက်ကြုံရသည်၊ဤသို့အရေးကြီးသောအကြောင်းကိစ္စမရှိသော်ငြားလည်း တစ်ရပ်လုံးက ကလေးကိုကြည့်ကြပြီး ဖခင်ဖြစ်သူမှာ မကြည့်နိုင် ဖြစ်ရရှာခြင်းသည် ရယ်ဖွယ်ကောင်းလေတော့၏၊ ကလေးတစ်ယောက်ရသည်နှင့် လင်မယား ခွဲခွာနေကြရခြင်းမှာ အသိဉာဏ် အလွန်ခေါင်းပါးရာကျလေသည်။

၁၅။ အချို့နေရာများတွင် ကလေးကိုမွေးပြီး စကောတွင် လည်းကောင်း၊ တောင်းတစ်ခုထဲတွင်လည်းကောင်းထည့်၍ အသက်ရှည်ရန်ဟုဆိုကာ ရှေ့တိုး နောက်ငင် ဆွဲကြသည်၊ ဤသည်မှာ လုံးဝ လာဘ်နိမိတ်ယူခြင်းဖြစ်၍ မပိုင်ပေ၊ဤအလုပ်သည် 'ဟာရာမ်' ထက်လွန်ကဲ၍ 'ရှစ်ရ်က်' အထိဖြစ်သည်။

၁၆။ အချို့နေရာများတွင် မွေးဖွားပြီး၆-ရက်မြောက်နေ့တွင် ကြယ်တာရာများကိုပြကြသည်၊ ရေချိုးပေးပြီးနောက် အဝတ်ကောင်းများကိုဝတ်ပေးကာ ညတွင်မျက်စိပိတ်ပြီး အိမ်စမြင်သို့ ခေါ်သွားကြသည်၊ခုံတစ်ခုပေါ်တွင်ရပ်စေပြီး မျက်စိဖွင့်ပေးလိုက်ကြသည်၊ ပထမအရှုသည် အခြားအရာများကိုမကြည့်ဘဲ ကြယ်များအပေါ်သို့ ရောက်ရန်ဖြစ်လေသည်၊ ဤသည်မှာလည်းမလျော်ကန်အလဟဿအကျိုးမဲ့ထုံးစံများ ဖြစ်လေသည်၊ သက်သက်မဲ့ လူကောင်းတစ်ယောက်ကို မျက်မမြင်ပမာ ပြုမူကြသည်မှာ အသိတရားခေါင်းပါးခြင်းဖြစ်သည်၊ လာဘ်နိမိတ်ယူသော ဂိုနာဟ်ပြစ်မှုကို တစ်ခြားခံကြရဦးမည်။

အချို့နေရာများတွင် ကြယ်များကိုရေတွက်ခိုင်းပြီးနောက် လင်မသေသေးသော အမျိုးသမီး(၇)ယောက်တို့က(တဟာလ်)ခေါ်စားဖွယ်များကျွေးကြသည်၊ထိုဟင်းလျာ၌ စားဖွယ်မျိုးစုံပါသည်၊ နောက်နောင်တွင် မည်သည့်ဟင်းလျာမှ ကလေးအတွက် ဥပဒ်မဖြစ်စေရန် ရည်ရွယ်၍ ဟင်းမျိုးစုံ မိခင်အား ကျွေးခြင်းဖြစ်သည်၊ ဤသည်လည်း မပြုလုပ်ပိုင်ပေ။

၁၇။ ၆-ရက်မြောက်နေ့၌ သားဖွားသော မိခင်သည်၏ယောကျ်ားကို အဝတ်စုံ တစ်စုံပေးကြသည်၊ ဤသည်ကိုလည်း ဂရုတစိုက် ပြုမူကြသည်၊ ဤကိစ္စ မကောင်းဖြစ် ကြောင်း မပြုလုပ်ပိုင်ကြောင်း အထက်တွင် ရေးသားပြီးခဲ့လေပြီ။

၁၈။ မိခင်သည်ကို (၃) ကြိမ်ရေချိုးရန် အရေးကြီးသည်ဟု ယူဆကြသည်၊ ၆-ရက်မြောက်နေ့ ရက်ပေါင်း (၄၀) အကြီးအသေးဟု ၂-မျိုးခွဲထားသည်။

'ရှရီအတ်' တရားတော်မြတ်၏ အမိန့်ပညတ်မှာ.... သွေးဆင်းမှု ရပ်စဲသွားလျှင် ရေချိုးရမည်၊ ၂- ၄-ရက်တွင်ရပ်သည်ဖြစ်စေ၊ ရက်ပေါင်း ၄၀-ပြည့်မှ ရပ်သည်ဖြစ်စေ အတူတူပင် ဖြစ်လေသည်။

ကန်ဇွဒ်ဒကာအစ်က်နှင့် ဖွာတ်ဟွလ်ကဒီရ်ကျမ်း။

ဤနေရာတွင် ရေ (၃) ကြိမ်ချိုးရန် (ဝါဂျစ်ဗ်) ထိုက်သည်ဟု ယူဆနေကြသဖြင့် 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်ဘက် ဖြစ်နေသည် မဟုတ်ပါလော။

အချို့သူတို့က အကြောင်းပြ ဆင်ခြေကန်ကြသည်မှာ... ရေမချိုးလျှင် စိတ်ရှုပ်ထွေးသည်၊ စိတ်ကြည်လင်လာရန်နှင့် အညစ်အကြေးများ ပပျောက်စေရန် ရေချိုးပေး ခြင်းဖြစ်သည်ဟု ဆိုကြသည်။

အဖြေမှာ ဤသို့အကြောင်းပြခြင်းသည် မှားသည်၊ ဤသို့ဆိုလျှင် မိခင်သည်သည် ၎င်းရေချိုးလိုသောအခါ ချိုးလိုက်မည်၊ ၅-ရက်၊ ၁၀-ရက်၊ ၁၅-ရက် ဟူ၍ သတ်မှတ် ရေချိုးခြင်းမှာ အဘယ်အဓိပ္ပာယ်ပါနည်း၊ ၎င်းသူမချိုးလိုသောအချိန် မချိုးရဘဲ သတ်မှတ်ထားသော ရက်ကျမှသာ ရေချိုးပေးခြင်းသည် ထုံးစံတစ်ခု ပြုလုပ်ထားခြင်း မဟုတ် ပါလော၊ ရေမချိုးချင်ဘဲနှင့် သတ်မှတ် ထားသော ရက်တွင် ချိုးရသဖြင့် မိခင်ရော ကလေးပါ ဖျားနာဒုက္ခရောက်ကြတတ်သည်၊ ရယ်ဖွယ်ကောင်းသည်မှာ သွေးရပ်စဲသော အခါ ရေမချိုးဘဲ သတ်မှတ်ထားသော ရက်ကျမှသာ ရေချိုးပေးကြသည်၊ ထို့ကြောင့် ဤသည်တို့မှာ ဂိုနာဟ် မဖြစ်ပါသလော။

ကလေးမွေးဖွားပြီးနောက် လုပ်ဆောင်ရန် စွန္နတ် လမ်းစဉ်တော်အချက်များမှာ ကလေးကို ရေချိုးပေး၍ ညာဘက်နားတွင် (အသခွန်) ဆိုပေး၍ ဘယ်ဘက်နားဘက် တွင် တပ်က်ဗီရ် (အေကာမတ်) ဆိုပေးရမည်၊ ဘာသာရေး လိုက်စား ဆောက်တည်သော ပုဂ္ဂိုလ်ကို စွန်ပလွဲခြောက် အနည်းငယ် ဝါးခိုင်း၍ ကလေး ခံတွင်း၌ ထည့်ပေးရမည်၊ ဤသည်အပြင် အားလုံးသောထုံးစံများ၊ ၎င်း 'အသာန်' ဆိုပေးသူအား မုန့်ချိုပေး ခြင်း စသည်များကို ဂရုတစိုက် ပြုမူကြခြင်းတို့သည် အလဟဿအကျိုးမရှိ၊ အသိဉာဏ် ခေါင်းပါးသော အချက်များ ဖြစ်သည့်ပြင် 'ရှရီအတ်' တရားတော်မြတ်နှင့်လည်း ကွဲလွဲ ဆန့်ကျင်လေသည်။

# အကီကာ၏ထုံးစံများ အကြောင်း

ထိုနေ့၌ ယောကျ်ားကလေးအတွက် ဆိတ်နှစ်ကောင်၊ မိန်းကလေးအတွက် ဆိတ်တစ်ကောင် (သဗ်ဟ်) ပြုခြင်း၊ ထိုဆိတ်သားကို အစိမ်းလိုက်ဖြစ်စေ၊ ချက်ပြုတ်၍ဖြစ်စေ ဝေငှခြင်း၊ ၎င်းကလေး၏ ဦးခေါင်းမှ ရိတ်ချလိုက်သော ဆံပင်ကို ငွေနှင့်ချိန်၍ လှူဒါန်းခြင်း၊ ခေါင်းရိတ်ပြီးခေါင်းကို ကုံကုမ့ံ သုတ်ပေးခြင်းတို့သည်(သဝါဗ်)ကုသိုလ်ရသော အလုပ်များ ဖြစ်လေသည်။ မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၃၆၂၊ ၃၆၃။

တင်ပြပါ အချက်များအပြင် အချို့သူတို့ကီထွင်ကြသော အကျိုးမဲ့ အလဟဿ အလုပ်များမှာ ကြည့်ဖွယ်ကောင်းလေသည်။

၁။ အိမ်သားနှင့် သားချင်းများက ကလေးကို ခေါင်းရိတ်ပြီးနောက် ရေခွက်၊ ၎င်းအချို့က ဘန်းထဲတွင် ကောက်ပဲသီးနှံ၊ ၎င်းငွေထည့်ကြသည်၊ ထိုအရာအားလုံးကို ဆတ္တာသည်ပိုင်ဟု ယူဆကြသည်၊ ဤသို့ ပေးခြင်းများကို အိမ်သူ အိမ်သားများ အပေါ် ကြွေးသဘော ထားကြသည်၊ ပေးသောသူများအိမ်တွင် ညှော်ခံပွဲတစ်ခုခု ရှိသောအခါ ၎င်းကပြန်၍ ပေးရသည်၊ လက်ဖွဲ့ခြင်းသဘောဖြစ်သည်၊ ဤသည်သော အချက်များ၏ မကောင်းခြင်းများကို သင်တို့ အထက်တွင် နားလည်ခဲ့ကြပေပြီ။

၂။ နှမ,တူမများသည် ဤနေရာ၌လည်း မိမိအတွက်တောင်းကြသည်၊ အမှန်မှာ မတရားယူခြင်းသာဖြစ်သည်၊ ဤသည်မှာ ကာဖွင်ရ်များနှင့် တူညီနေသည့်ပြင် မကောင်းမှုများစွာရှိသည်၊ ဥပမာ.... ပေးသူ၏ (နီယတ်) စိတ်သဘောမှာ မကောင်းဖြစ်ခြင်း၊ အဘယ့်ကြောင့်ဆိုသော် အချို့အချိန်တွင် ပေးရန်မလွယ်ကူခြင်းကြောင့် ပေးရသည်ကို ဝန်လေးခြင်း၊ မပေးလျှင် ရှက်စရာဖြစ်မည်၊ ကဲ့ရဲ့ခံရမည်ကိုစိုး၍ မတတ်သာသည့်အဆုံးတွင် ပေးကြရသည်၊ ဤသည်ကို (ရေယာ) ကြွားဝါခြင်းဟု ခေါ်လေသည်၊ ထင်ပေါ် ကြွားဝါရန်အတွက် ပစ္စည်းသုံးစွဲခြင်းသည် (ဟရာမ်) ကြီးလေးသောအပြစ်ဖြစ်လေသည်၊ မတတ်သာ၍ ပေးလိုက်ရသည်ကို မည်သို့ အခံရခက်ကြောင်း ကိုယ်တိုင်စဉ်းစားကြည့်သင့်လှပေသည်။

ယူသောသူအတွက်လည်း မကောင်းဖြစ်လေသည်၊ ပေးခြင်းသည် ဆုလက်ဆောင်ပင်ဖြစ်ပေသည်၊ ဆုလက်ဆောင်ကို အဓမ္မပြုခြင်းသည် ဟရာမ်ဖြစ်သည်၊ အကယ်၍ မပေးလျှင် သားချင်းများက ကဲ့ရဲ့မည်၊ ဂုဏ်ငယ်နာမည်ပျက်မည်၊ အကယ်၍ မည်သူသည် မိမိသဘောဆန္ဒအလျောက် ပျော်ရွှင်စွာပေးလျှင်လည်း ဂုဏ်ယူထင်ပေါ်စေရန်အတွက်ပင် ဖြစ်သည်၊ ဤသို့မပြုပိုင်ကြောင်း ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးသ်တော်မြတ်များတွင် အတိအလင်း ပါရှိလေသည်။

၃။ 'ပန်ချေရီ' မုန့်ချိုကို ဤနေရာတွင်လည်း ဝေငှကြလေသည်၊ အသိဉာဏ် ခေါင်းပါးသော အလုပ်ဖြစ်ကြောင်း အထက်တွင် လွန်ခဲ့ပေပြီ၊ ထင်ပေါ်ရန်၊ ဂုဏ်ရှိရန် လည်း ပါဝင်နေသည်၊ ထိုအချက်မှာ (ဟရာမ်) ကြီးလေးသော အပြစ်ဖြစ်လေသည်။

၄။ ဤထုံးစံများကို ဂရုတစ်စိုက် ပြုမူရန်မလွယ်သော အကုန်အကျမခံနိုင်သေး သောအခါ (အကီကဟ်) ကို ဆိုင်းထားကြသည်၊ ထိုသို့ ဆိုင်းခြင်းဖြင့် (မွတ်စ်တဟဗ်) မြတ်သော အချိန်ရက်ပိုင်း လွန်သွားသည်၊ သာမက အချို့နေရာများတွင် နှစ်ပေါက်မှ ပြုလုပ်ကြလေသည်။

၅။ ထုံးစံတစ်ခုမှာလည်း ရှိသေးသည်၊ ကလေး၏ဦးခေါင်းတွင် ဆံပင်ရိတ်ရန် ဓားတင်သည်နှင့်တစ်ပြိုင်တည်း ဆိတ်ကို (သဗိဟ်) ပြုကြသည်၊ ဤသည်လည်း အကျိုးမဲ့ ကိစ္စတစ်ရပ်ဖြစ်သည်၊ 'ရှရီအတ်' တရားတော်မြတ်တွင်ခေါင်းရိတ်ပြီးမှသော်လည်းကောင်း၊ ခေါင်းမရိတ်မီသော်လည်းကောင်း (သဗိဟ်) ပြုပိုင်လေသည်၊ အချုပ်မှာ....ခေါင်းရိတ် ခြင်း၊ 'သဗိဟ်' ပြုခြင်း တစ်နေ့တည်းပြီးသွားရန်ပင် ဖြစ်ပေသည်။

၆။ ဆိတ်ခေါင်းကို ဆတ္တာသည်အားလည်းကောင်း၊ ပေါင်ကို ဝမ်းဆွဲအား လည်းကောင်း ပေးရန် အရေးကြီးသည်ဟု ယူဆခြင်းသည် အလဟဿ အကျိုးမဲ့ဖြစ် သည်၊ အသားကိုပင် ပေးလိုသော် ပေးနိုင်၏၊ မပေးလိုသော် နေနိုင်သည်၊ ကိုယ်တိုင် 'ရှရီအတ်' တရားတော်မြတ်ကို စိတ်ထင်ရာ တီထွင်ခြင်းသည် အဘယ်မှာလျှင် အကျိုး သက်ရောက်မည်နည်း၊ ပေါင်မပေးဘဲ အသားပေးလိုက်လျှင်လည်း မည်သည့်မျှ ဆုံးရှုံးမှု မဖြစ်ပေ။

၇။ အချို့နေရာတွင်ထုံးစံတစ်ခုရှိသည်မှာ .. (အကီကဟ်)ပြုသောဆိတ်၏ အရိုး များကို ခုတ်ထစ်ခြင်းကို မသင့်လျော် မကောင်းဟု ယူဆကြသည်၊ မြေမြှုပ်ပစ်ရန် အရေးကြီးသည်ဟု မှတ်ယူကြသည်၊ ဤသည်လည်း အရင်းအမြစ်မရှိသော ကိစ္စတစ်ရပ် ဖြစ်သည်။

သွားပေါက်သောအခါ ဤသို့ပင် မကောင်းသောထုံးစံများကို ပြုကြလေသေး သည်၊ သားချင်းများကို (ဂဟူနဂ်နေယာန်) ပဲပြုတ်များဝေငှကြသည်၊ ဤကိစ္စပျက်ကွက် လျှင် ဖွရ်သွ်၊ ဝါဂျစ်ဗ် ပျက်ကွက်သည်ထက် အရေးကြီးသည်ဟု ယူဆကြလေသည်။

ဤသို့ပင် နို့ထမင်း ထုံးစံတစ်ခု ရှိလေသည်။ ကလေး ၆ - လမြောက်နေ့တွင် အဟာရ စကျွေးသောသဘောဖြင့် နို့ထမင်းကျွေးကြသည်၊ ဤသည်လည်းအကြောင်းမဲ့ ပြုလုပ်ကြသော ထုံးစံတစ်ခုဖြစ်သည်၊ ထိုထုံးစံများ၏ မကောင်းကြောင်းများကိုသိပြီး ကြလေပြီ။

ဤသို့ပင် နို့ဖြတ်သောအခါ ထုံးစံတစ်ခုမှာ... ကောင်းချီးမင်္ဂလာပေးရန် အမျိုးသမီးများ လာရောက်ကြသည်၊ ကျွေးလိုသည်ဖြစ်စေ၊ မကျွေးလိုသည်ဖြစ်စေ၊ ထမင်းတစ်နပ်ကား ကျွေးလိုက်ကြရသည်၊ ၎င်းစွန်ပလွံသီးများကို သားချင်းများအား ဝေငှကြသည်၊ အချုပ်မှာ.... ဤသို့သော ထုံးစံများ၏ အမိန့်ပညတ်မှာ တစ်မျိုးတည်း ဖြစ်လေသည်။

အချို့ဓနရာများတွင် ရည်ဖွယ် တစ်ရပ်မှာ.... ရေအိုးထဲ၌ အရည်အတွက်ဖြင့် စွန်ပလွံသီးများထည့်ထားကြ၍ ကလေးအားအနှိုက်ခိုင်းကြသည်၊ ကလေးသည်စွန်ပလွံသီး မည်မျှနှိုက်ယူသည်ကိုကြည့်ကာ အလုံးအရည်အတွက်ဖြင့် မည်မျှနေ့ရက်ထိဆိုးမည်ဟု ယူဆကြလေသည်၊ ဤသည်တွင်လည်း လာဘ်နိမိတ်ယူခြင်း၊ ၎င်းနောက်ကွယ် သိခြင်းကို ကြွေးကျော်ခြင်းဖြစ်သည်၊ ဤသည်မှာ ဂိုနာဟ် ဖြစ်ကြောင်း ထင်ရှားသည်။

ဤသို့ပင် မွေးနေ့သတ်မှတ်၍ နှစ်စဉ်ကျင်းပခြင်း၊ ချက်ပြုတ်၍ စားသောက်ကြခြင်း၊ ခါးစီးကြိုး၌ ကျောက်ဖမာ ရွှေ သို့မဟုတ် ငွေလက်စွပ် ချီနှောင်ပေးခြင်းများကို ဂရုတစ်စိုက် ပြုမူကြလေသည်။

ဤသို့ပင် ယောကျ်ားလေးသည် အရွယ်ရောက်လာ၍ နှုတ်ခမ်းမွေး စိမ်းစိမ်း ကလေးများ ပေါက်လာရာ နံ့သာရည်တွင် ငွေဒင်္ဂါးစိမ်၍ လိမ်းပေးကြသည်၊ ၎င်း ဆယ်မယ်ကြို၍တိုက်ကြသည်၊ နှုတ်ခမ်းမွေးများသည် ဆယ်မယ်အမျှင်ကဲ့သို့ ရှည်လာရန် အတွက် ကျွေးခြင်းဖြစ်သည်၊ ဤသည်အားလုံးသည် လာဘ်ကောင်းယူခြင်း ဖြစ်သည်၊ အကြင်ကိစ္စများ၏ မကောင်းမှုများအကြောင်းကို သိပြီးကြလေပြီ။

## ခတ္တနာ၏ ထုံးစံများအကြောင်း

ယောကျ်ားလေးကို စုန္နတ်ခတ္တနာပြုရာ၌လည်း လူတို့က မဆီမဆိုင် ထွင်လုံးထုံးစံများကို တီထွင်ကြလေသည်၊ ထိုကိစ္စများသည် 'ရှရီအတ်' တရားတော်မြတ်နှင့် လုံးဝဆန့်ကျင်ကာ အကျိုးမဲ့ကိစ္စများ ဖြစ်လေသည်။

၁။ လူတို့ကို လူလွှတ်၍သော်လည်းကောင်း၊ စာနှင့်သော်လည်းကောင်း ခေါ်ယူစုရုံးခြင်းသည် စုန္နတ်တော်နှင့် လုံးဝဆန့်ကျင်လေသည်။

တစ်ခါက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဆွဟာဗဟ် တပည့်တော်ကြီး အွသ်မာန်ဗင်န်အာစွ် (ရသ္ဆ.) သခင်ကို တစ်ဦးသောသူက ခတ္တနာတွင် ခေါ်ယူဖိတ်ကြားရာ သခင်က မလိုက်နိုင်ဟု ငြင်းပယ်တော်မူလေသည်၊ လူတို့ကအကြောင်းကိုမေးကြရာ

သခင်က မိန့်တော်မူသည်မှာ... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ လက်ထက်တော်က ကျွန်ုပ်တို့ ခတ္တနာပြုရာတွင် မည်သူမျှမဖိတ်၊ ၎င်းခတ္တနာသို့လာရန် မည်သူ့ကိုမျှလည်း ခေါ်ယူခြင်းမပြုကြ။ အဟ်မဒ်ကျမ်း။

ဤဟဒီးသ်တော်မြတ်အရ သိရသည်မှာ... ထင်ပေါ်စေရန် မလိုအပ်သောကိစ္စအတွက် လူတို့ကိုဖိတ်ခေါ်စုရုံးခြင်းသည် စွန္နတ်တော်လမ်းစဉ်နှင့် ကွဲလွဲသည်၊ ဤသည်ကို ပုံစံအမျိုးမျိုးချဲ့ထွင်၍ လူတို့က ထုံးစံတစ်ရပ် ပြုလုပ်ထားကြလေသည်။

၂။ အချို့နေရာများတွင် သတ်မှတ်ထားသောထုံးစံများမပြုကျင့်နိုင်သေးသဖြင့် ကလေးကို ခတ္တနာပြုရာတွင် ကြီးလာကာ ကလေးမှာ အရွယ်ရောက်လုနီးပါး ဖြစ်သွားလေသည်၊နောက်ဆိုင်းသွားခြင်း၏ မကောင်းမှုအပြင် မကောင်းဆုံးသောအချက်မှာ လူတို့က ထိုခတ္တနာပြုသူ၏ကိုယ်ကို ကြည့်ကြသည်၊ အမှန်မှာ ခတ္တနာပြုပေးမည့်သူအပြင် အခြားသူများက ၎င်းနေရာကိုကြည့်ခြင်း (ဟရာမ်) ကြီးလေးသော အပြစ်ဖြစ်လေသည်၊ ဤသို့ ဟရာမ်ဖြစ်ရခြင်းမှာ လူတို့အား ခေါ်ယူစုရုံးလိုသည့်အတွက်ကြောင့် ဖြစ်ရလေသည်။

၃။ ရေခွက်ထဲ၌ လက်ဖွဲ့ထည့်ကြသောထုံးစံမှာ ဤနေရာတွင်လည်း ရှိလေသည်၊ အကြင်ကိစ္စ၏ မကောင်းကြောင်းများကို ရေးသားပြီးခဲ့လေပြီ။

၄။ ခတ္တနာပြုသော ကလေး၏ မိခင်ဘက်မှ သားချင်းများက ငွေ၊ ၎င်းအဝတ်အထည်များ ယူလာကြရသည်၊ဤသည်ကို ဝေါဟာရ အသုံး၌ (ဘဟာတ်) ဟု ခေါ်ကြလေသည်၊ မူလ အရင်းအမြစ်မှာ အိန္ဒိယနိုင်ငံ၌ ဟိန္ဒူဖြစ်ခဲ့ သေပြီးသော် သမီးများသည် အမွေမရကြ၊ မွတ်စလင်မ်တို့ကလည်း ဤသည်ကို အတုခိုးကြခြင်းပင် ဖြစ်ပေသည်။

ဘာသာခြားတို့၏ ဓလေ့ထုံးစံကို အတုခိုးခြင်းမဟုတ်ဟု အငြင်းဝင်ပါကလက်ခံပါသည်၊ သို့သော် ဤသို့ မဖွယ်ရာသော ထုံးစံတစ်ခု တီထွင်ကြခြင်းလည်း မကောင်းပင် ဖြစ်ပေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သတ်မှတ် အတည်ပြုထားတော်မူသည့်အတိုင်း အမျိုးသမီးများ၏ အစုကို မပေးဘဲထားခြင်းသည် အဘယ်မှာ ပိုင်အံ့နည်း။

အချုပ်မှာ... အမျိုးသမီးများသည် အမွေမပေးဘဲထားရာ ဤဤ ထိုထိုသော ထုံးစံပွဲများ၌ တစ်စုံတစ်ရာပေး၍ တာဝန်ကျပြီဟု ယူဆကြလေသည်၊ ဤသို့ပေးလိုက်ခြင်းဖြင့်ကလေး၏မိခင်မှာ ကျွန်ုပ်တို့နှင့်မပတ်သက်တော့၊ သူ့ပေးရန်တာဝန်ကျသွားပြီဟု ယူဆကြသည်။

အချုပ်မှာ.... ဤသို့ထုံးစံပြုလုပ်ထားခြင်းသည် ကာဖ္ဖင်ရ်တို့၏ အတုခိုးခြင်း ဖြစ်သည်၊ ၎င်းမတရားသက်သက် ပြုလုပ်ခြင်းဖြစ်သည်၊ ဤနှစ်ရပ်စလုံး 'ဟရာမ်' ကြီးလေးသော အပြစ်ဖြစ်လေသည်၊ ဤနှစ်ချက်စလုံးမှာ မကောင်းမှုများ ဖြစ်ကြသည်။

တတိယ မကောင်းမှုမှာ.... မိခင်ဘက်မှ သားချင်းများသည် ငွေရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ပေါင်နှံ၍-ရောင်းချ၍-ချေးယူ၍ ဂုရုတစ်စိုက် ပေးကြရသည်။

ယခုခေတ်တွင် ပေါင်နှံပါက ငွေသားအတိုးပေးရသည်၊ ငွေအတိုးမပေးရသော်လည်း လယ်ယာဥယျာဉ် ပေါင်ပါက ထိုမြေမှထွက်သော သီးနှံများကို အပေါင်ခံသူက ယူလေသည်၊ ဤသည်လည်း အတိုးပင် ဖြစ်သည်၊ အတိုးပေးယူခြင်း နှစ်ရပ်စလုံးမှာ 'ဟရာမ်' ကြီးလေးသောအပြစ် ဖြစ်လေသည်။

နဇ်ဟာတွန်နာဇွေရီးန်ကျမ်း စာမျက်နှာ-၁၄၉။

အချုပ်မှာ.... မည်သို့အဖြစ်နှင့် ကြုံတွေ့နေရသည်ဖြစ်စေ၊ ပေးကိုပေးရလေသည်၊ အရေးမကြီး မလိုအပ်သော 'ဂိုနာဟ်' အပြစ်ဖြစ်သောအလုပ်တစ်ခုကို 'ဖွရ်သွ'၊ 'ဝါဂျစ်ဗ်' ထက်ပို၍ အင်တိုက်အားတိုက် ပြုမူနေကြခြင်းသည် 'ရှရီအတ်' တရားတော်မြတ် ဘောင်အပြင်သို့ ရောက်,မရောက် စဉ်းစားကြည့်ကြကုန်လော့။

စတုတ္ထမကောင်းမှုမှာ.... ထင်ပေါ်ကျော်ကြားရန်၊ ဂုဏ်မြင့်မားရန်၊ ကြွားဝါရန် အတွက် ပေးကြခြင်းဖြစ်ပေသည်၊ ဤသို့ပြုခြင်း 'ဟရာမ်' ဖြစ်ကြောင်း အထက်တွင် သိခဲ့ကြပေပြီ။

အချို့က သားချင်းများကို ကောင်းမွန်စွာဆက်ဆံခြင်းသည် 'အေဗါဒတ်' ဖြစ်၍ ကုသိုလ် သဝါဗ် ရသည်၊ ဂိုနာဟ် မဖြစ်နိုင်ဟု ဆိုကြသည်။

အဖြေမှာ.... အကယ်၍ သားချင်းများနှင့် ကောင်းစွာဆက်ဆံလိုလျှင် သတ်မှတ်အတည် ပြုခြင်းမလုပ်ဘဲ ၎င်းတို့မှာ အကူအညီလိုအပ်ပါက သင်က ပေးကမ်းကူညီရမည်၊ ယခုမူကား သားချင်းများ တော်နေလျှင်လည်း ဂရုမစိုက်ကြ၊ ထုံးစံပွဲ ပြုလုပ်ကြသော အခါကျမှ နာမည်ယူ ဂုဏ်မောက်ရန် အတွက် ကူညီခြင်း ဖြစ်သည်ဟု နာမည်တပ်ကြလေသည်။

၅။ အချို့မြို့များ၌ ဤသို့ထုံးစံတစ်ခုရှိသေးသည်၊ စွန္နတ်ခတ္တနာ၊ ၎င်းကျန်းမာ၍ ရေချိုးသောရက်တွင် အတီးအမှုတ်က,ပွဲကျင်းပကြသည်၊ တစ်ဘက်မှ အရပ်သူများက အိမ်တွင်း၌ တီးမှုတ် က,ခုန်ကြသည်၊ ဤသို့က,ခုန်ပွဲများ မပြုလုပ်ပိုင်ကြောင်း အထက်တွင် ရေးခဲ့ပေပြီ၊ ဤသို့ မကောင်းမှုများအကြောင်းကို (အလ္လာဟ်အသျှင်မြတ် အလိုတော်ရှိပါလျှင် ရှေ့တွင် ရေးပါဦးမည်။)

အချုပ်မှာ....ဤသို့သောမကောင်းမှုများ၊ ရှင်းဂိုနာဟ်အပြစ်ဖြစ်သောအချက်များကို စွန့်လွှတ်ကြရန် ထိုက်လေသည်။

ကလေးများ ခံနိုင်ရည်ရှိလာသောအခါ ခတ္တနာ ပြုလုပ်လိုက်ကြရမည်၊ ပျောက်သွားသောအခါ ရေချိုးပေးရမည်၊ အကယ်၍တတ်နိုင်လျှင် နာမည်ရလိုခြင်း၊ ထင်ပေါ်ကျော်ကြားလိုခြင်းမရှိဘဲ နာမည်ပျက် ဂုဏ်ငယ်မည်ကိုလည်း မစိုးရိမ်ပါက မိတ်ဆွေ ၂-ယောက်၊ ၄-ယောက်သော်လည်းကောင်း၊ ဆင်းရဲသား ၂-ယောက်၊ ၄-ယောက်တို့ကိုလည်းကောင်း တတ်နိုင်သော အစားအသောက်ကို ကျွေးနိုင်သည်၊ သို့သော် ခတ္တနာပြုတိုင်း ဤသို့မပြုရ၊ ပြုခဲ့သော် ထုံးစံတစ်ခု ဖြစ်သွားပေဦးမည်။

# ကျောင်းပို့သော ဗစ်မစ်လ္လာဟ် ထုံးစံများ အကြောင်း

ဤထုံးစံများ အပြင် ကလေးအား ကျောင်းထားသော 'ဗစ်မစ်လ္လာဟ်' ထုံးစံတစ်ခုရှိသေးသည်၊ ထိုထုံးစံကို အချို့သူတို့က ဂရုတစ်စိုက် ပြုလုပ်နေကြသည်၊ ထိုထုံးစံတွင် မကောင်းမှုများမှာ....

၁။ ကလေး၏အသက် ၄-နှစ်၊ ၄-လ၊ ၄-ရက် ပြည့်ရန် သတ်မှတ်ထားကြသည်၊ ထိုသတ်မှတ်မှုသည် အရင်းအမြစ်မရှိ၊ အလဟဿ အကျိုးမဲ့ ဖြစ်သည်၊ မည်သို့ပင်ဖြစ်စေ ပျက်ကွက်ကဲ့ပြားမှုမဖြစ်ရန် ဂရုတစ်စိုက် ပြုလုပ်ကြသည်၊ နားမလည် မတတ်ကျွမ်းသူများသည် ဤသည်ကို 'ရှရီအတ်' တရားဟုယူဆကြသည်၊ ထို့ကြောင့်(အီမာန်)ယုံကြည်ချက်တွင် ချို့ယွင်းမှုရှိသည်၊ ရှင်း'ရှရီအတ်'တရားတော်မြတ်နှင့် ဆန့်ကျင်ဘက် ပြုမှုရာရောက်လေသည်။

၂။ ကလေး ကျောင်းအပ်သောအခါ ဝေလိုသည်ဖြစ်စေ၊ မဝေလိုသည်ဖြစ်စေ မုန့်ဝေကြရလေသည်၊ မဝေလိုက နှမြောသူဟူ၍ သမုတ်ကြမည်ကို စိုးရလေသည်၊ ဤအဖြစ်၏ မကောင်းကြောင်းများ အထက်တွင်လွှန်ခဲ့ပေပြီ၊ ရှင်း ထင်ပေါ် ကျော်ကြားနာမည်ရ ဂုဏ်ယူလိုခြင်း၊ မည်သူမည်ဝါက မည်မျှအကုန်အကျခံသည် ဆိုသော စကားကိုကြားလိုခြင်းများ၏ ဂိုနာဟ် ပြစ်ဒဏ်ကို တစ်ခြားခံရမည်။

၃။ အချို့ တတ်ကုန်နိုင်သော သူများသည် ငွေကလောင်တန်၊ ငွေမင်အိုးဖြင့် ငွေပြားပေါ်တွင်ရေး၍ ကလေးကို ဖတ်ခိုင်းကြသည်၊ ငွေပစ္စည်းများကိုသုံးစွဲခြင်းတို့သည် 'ဟာရာမ်'ကြီးလေးသောအပြစ်ဖြစ်လေသည်၊ ထို့ကြောင့် ငွေသားပေါ်တွင်ရေးခြင်းနှင့် ဖတ်စေခြင်းတို့လည်း ဟာရာမ် ဖြစ်ပေသည်။

၄။ အချို့သူတို့သည် ကလေးအား ကျောင်းသို့စ၍ပို့သောနေ့တွင် 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သောအဝတ်များဝတ်ပေးကြသည်၊ ပိုးထည်၊ ငွေ၊ ရွှေနှင့် ရောင်၊ ငင်း ဆူးပန်းရောင်၊ ကုံကုမံရောင် စသည်များ ဤသို့ ဝတ်ပေးခြင်းလည်း ဂိုနာဟ် အပြစ် ဖြစ်လေသည်။

၅။ သားချင်းများ၊ တူမများကလည်း လက်ဆောင်ရရန် 'ဖွရ်သ္တ'ထက်ပင်ပို၍ အရေးကြီးသည်ဟုထင်မှတ်ကြသည်၊ ဤသို့အဖြစ်၌ မကောင်းမှုရှိကြောင်း အထက်တွင် လွန်ခဲ့ပေပြီ၊ ထို့ကြောင့် ဤလုမ်ငန်းများကို ရပ်တန်းက ရပ်ကြရန်ထိုက်ပေသည်။

လုပ်ဆောင်ရမည့်အချက်မှာ-ကလေးသည်စကားပြောတတ်လာလျှင်'ကလေမဟ်' တော် ဖတ်တတ်အောင် သင်ပေးရမည်၊ ငင်းဘာသာရေးလေးစားသော သူတော်စင်ထံ ခေါ်သွား၍ 'ဗစ်မစ်လ္လာဟ်' ဖတ်စေရမည်၊ ဤစည်းစိမ်အတွက် စိတ်အလိုရှိပါက ဂရု တစ်စိုက်မပြုလုပ်ဘဲ ကြားလူမသိအောင် သူဆင်းရဲများကို ပေးလှူကုန်၊ လူတို့မြင်အောင် သိအောင် ပေးလှူခြင်း မပြုကြရပေ၊ ဤသည်အပြင် အခြားလုပ်ဆောင်ချက်များသည် အလဟဿ အကျိုးမဲ့ ကိစ္စရပ်များ ဖြစ်လေသည်။

အချို့နေရာတွင် တွေ့ရသည်မှာ... ကလေးသည် စကားပြောတတ်လာပါက အဖေ အမေ စသည်ခေါ်ခိုင်းကြသည်၊သင်ကြသည်၊ ထိုအစား အလ္လာဟ်၊ အလ္လာဟ်ဟု ဆိုခိုင်း လျှင် အဘယ်မျှ ကောင်းမည်နည်း။

ဤသို့ပင် ကုရ်အာန်ကျမ်းတော် (ခတမ်) ဆုံးသွားသောအခါ ထုံးစံများ ပြုမူကြ သည်၊ မလျော်ကန်သောကိစ္စများကို ဂရုတစ်စိုက်ပြုကျင့်ကြသည်၊ ထင်ပေါ် ဂုဏ်ရှိစေရန် အလုပ်များကိုလည်းပြုလုပ်ကြသည်၊ ဥပမာ....ညှော့သည်များကို ဖိတ်ခေါ်သည်၊ အချို့ အချို့ကို အဝတ်စုံပေးကြသည်၊ ဤသို့ပြုလုပ်ခြင်းများ၏ မကောင်းမှုများအကြောင်းကို အထက်တွင် သိပြီးကြပေပြီ။

# ဧည့်ခံပွဲများ၌ အမျိုးသမီးများ သွားခြင်း၊ စုရုံးကြခြင်း အကြောင်း

သားချင်းအမျိုးသမီးများသည် ဧည့်ခံပွဲများ၌သွားရောက်စုရုံးကြသည်၊ အချို့ အချက်များကို အထက်တွင် ရေးသားခဲ့ပြီး ကျန်အချက်များကိုရေးသားမည်၊ အားလုံး သော အချက်များသည် မပြုပိုင်သောအချက်များ ဖြစ်လေသည်။

ဧည့်ခံပွဲများအပြင် မည်သူ့ကို မတွေ့ရသည်မှာကြာပြီဟု ဆိုကာ (ဒိုလီ) အထမ်း ငှား၍ထွက်သွားသည်၊ တစ်ဦးဦး နေမကောင်းလျှင်လည်း တွေ့ဆုံရန် သွားလိုက်သည်၊ တစ်အိမ်အိမ်တွင် ပျော်ရွှင်မှု တစ်စုံတစ်ရာရှိလျှင် ကောင်းချီးပေးရန် သွားလိုက်သည်။

အချို့သည် လွတ်လပ်စွာ(ဒိုလီ)အထမ်းမပါဘဲ ညတွင် ခြေလျင်ထွက်သွားသည်၊ ညဖြစ်လာလျှင် လုည့်ပတ်ရန် စဉ်းစားကြသည်၊ ဤသည်မှာ ပို၍ပင် မကောင်းဖြစ်လေသည်၊ အကယ်၍ လသာသော ညဖြစ်လျှင် ပို၍ အရှက် ကွဲစေ ကင်းမဲ့ခြင်းဖြစ်သည်၊ အချုပ်မှာ....အမျိုးသမီးများသည် အိမ်မှထွက်၍ ဟိုဟိုဒီဒီသွားလာခြင်းသည် မသင့်တော် မကောင်းမှုများရှိသဖြင့် မည်သည့်နည်းနှင့်မှမပိုင်ပေ။

အကယ်၍ နေကာဟ် မပိုင်သော ဆွေမျိုးက မလာသဖြင့် ဆွေမျိုးဖြတ်မည်ကို စိုးရိမ်ရမှု (ပရ်ဒဟ်) လုံခြုံစွာဖြင့် ခေတ္တခဏ သွားရမည်၊ အမျိုးသမီးသည် မိမိကိုယ်ကာယ နှင့် ဘယက်တန်ဆာ၏ အသံကိုပင် သူစိမ်းများ မကြားရအောင် လုံခြုံစွာဖြင့် သွားလာရမည်။

တစ်ခါတစ်ရံ မိဘနှင့်တွေ့ဆုံရန် သွားပိုင်ခွင့်ရှိသည်၊ မိဘအပြင် နေကာဟ်မပိုင်သောဆွေမျိုးများထံလည်းသွားနိုင်သည်၊ သို့သော် ၁-နှစ်တွင် တစ်ကြိမ်၊ နှစ်ကြိမ်လောက်သာ သွားရမည်၊ ဤသည်အပြင် မဆင်မခြင် သွားလာနေကြသော ထုံးစံအတိုင်း သွားလာခြင်းများ မပိုင်ပေ၊ ဆွေမျိုးသားချင်း သူစိမ်းများထံ၊ ၎င်း ရှာဒီ မင်္ဂလာဆောင်၊ နာရေး-သာရေးများ၊ ရောဂါသည်ကို မေးမြန်းခြင်း၊ ကောင်းချီးပေးခြင်း၊ သတို့သမီးပို့သော အခမ်းအနား စသည်များတွင် သွားလာပိုင်ခွင့် မရှိပေ။

မင်္ဂလာဆောင်၊ ၎င်းသတို့သမီးပို့သောအချိန်တွင် နေကာဟ်မပိုင်သော ဆွေမျိုး၏အိမ်၌လည်းသွားပိုင်ခွင့်မရှိ၊အကယ်၍ ခင်ပွန်းသည်၏ခွင့်ပြုချက်ဖြင့်သွားလျှင်၊ ခင်ပွန်းသည်နှင့် သွားသူမ နှစ်ဦးစလုံး 'ဂိုနာဟ်' အဖြစ် ထိုက်သက်လေသည်။

ဝမ်းနည်းစရာကောင်းသည်မှာ.... ဤအမိန့်ကို အိန္ဒိယနိုင်ငံ ရှိသူအားလုံး လိုက်နာခြင်း မပြုကြသည် သာမက မပြုပိုင်သောကိစ္စ ဟူ၍ပင် မအောက်မေ့ကြ၊ လုပ်ပိုင် သွားပိုင်သည် ထင်နေကြသည်၊ အမှန်မှာ ဤသို့ သွားလာနေကြသောကြောင့် မကောင်းမှုများ၊ မလျော်ကန်မှုများ ပေါ်ပေါက်လာရခြင်း ဖြစ်ပေသည်၊ အချုပ်မှာ.... မကောင်းသောအချက်များကို သိကြရပြီးနောက် ထိုလုပ်ငန်းများကို လုံးဝစွန့်လွှတ်ကြရန်ထိုက်လေသည်၊ 'တောဝ်ဗဟ်'ပြု၍ အမှားဝန်ခံကြရန် ထိုက်သည်၊ ဤသည်တို့မှာ 'ရှရီအတ်' တရားတော်မြတ်၏ အမိန့်ပညတ်ပင်ဖြစ်သည်၊ ယခု ထိုကိစ္စများ၏ မကောင်းမှုများကို နားဆင်ကြကုန်လော့။

သားချင်းများတွင် မည်သူမည်ဝါအိမ်၌ ညှော်ခံပွဲတစ်ခုရှိသည်ဟု ကြားသိရလျှင် အချို့သမီးတိုင်းသည် သစ်လွင်သော အဖိုးတန်သော ဝတ်စုံကို ဝတ်ဆင်ရန် ကြိုးစားကြတော့သည်၊လင်ယောကျ်ားအား ဝယ်လာရန်မှာကြသည်၊တစ်ခါတစ်ရံ အထည်သည်ကို ခေါ်၍ အကြွေးယူကြသည်၊ ငွေတိုးနှင့်ချေး၍ဝယ်ကြသည်၊ လင်ယောကျ်ားက ငွေမရှိဟု ပြောလျှင်လည်း မယုံကြည်ကြ။

အမှန်မှာ....ဤသို့သစ်လွင်သော အဝတ်သည် ကြွားဝါဂုဏ်ဖော်ရန် အတွက် သက်သက်ပင် ဖြစ်ပေသည်၊ ဟဒီးသ်တော်မြတ်တွင် လာသည်မှာ.... ဤသို့သော ကြွားဝါသူကို (ကေယာမတ်) နေ့၌ သေးသိမ်သောအဝတ်ကို ဝတ်ဆင်ပေးမည်၊ ဤသည်မှာ ဂိုနာဟ် ပြစ်မှုတစ်ခုဖြစ်ပြီး ဤအတွက် ဝယ်ခြမ်းခြင်းသည် အပိုသုံးခြင်းဖြစ်ပေရာအပိုသုံးခြင်း၏ ပြစ်ဒဏ်များအကြောင်း အခန်း (၁) တွင် လွန်ခဲ့ပေပြီ၊ ဤသည်မှာ ဒုတိယ ဂိုနာဟ် ဖြစ်ပေသည်။

လင်ယောကျ်ားကို ငွေတတ်နိုင်သည်ထက် ပို၍ဝယ်ခိုင်းခြင်းသည် လင်ယောကျ်ားကို ဒုက္ခပေးရာရောက်သည်၊ ဤသည်မှာ တတိယ ဂိုနာဟ်ဖြစ်သည်။

အထည်သည်ကိုခေါ်၍ အကြောင်းမဲ့ ထိုသူစိမ်းနှင့်စကားပြောခြင်း၊ များသောအားဖြင့် အထည်ယူသောအခါ လက်ကောက်ဝတ်ထားသော လက်များပင် တစ်ဝက်ထိထုတ်၍ယူကြခြင်းသည် အရှက်ဣန္ဒြေကင်းမဲ့ရာကျသည်၊ ဤသည်မှာ စတုတ္ထ ဂိုနာဟ် ဖြစ်သည်။

အကယ်၍ ငွေတိုးယူလျှင် အတိုးပေးရသည်၊ ဤသည်မှာ ပဥ္စမ ဂိုနာဟ်ဖြစ်သည်။

အကယ်၍ လင်ယောကျ်ားသည် အကြောင်းမဲ့ အကျိုးမရှိသော အဝယ်ခိုင်းမှုများကြောင့် စိတ်ရှုပ်ထွေးလာကာ ဝယ်ပေးနိုင်ရန်အတွက် ဟရာမ်ပစ္စည်းကို ရှာဖွေမည်၊ တံစိုးလက်ဆောင် ယူတော့မည်၊ 'ဟလာလ်' ပစ္စည်းဖြင့် မလုံလောက်သောအခါဇနီးအား ဝယ်ပေးလိုဇောဖြင့် ဟရာမ်မတရားနည်းဖြင့်လည်း ပစ္စည်းရှာဖွေကြတော့မူ ဤဂိုနာဟ် သည် ဇနီးအတွက်ကြောင့် ဖြစ်ရလေသည်၊ ဂိုနာဟ် ဖြစ်စေခြင်းသည်လည်း ဂိုနာဟ်ပင် ဖြစ်လေသည်၊ ဤသည်မှာ ဆဋ္ဌမ ဂိုနာဟ်ဖြစ်သည်။

အများအားဖြင့် အထည်အတွက် ရွှေချည်,ငွေချည်များလည်း ဝယ်ကြသည်၊ မသိခြင်း၊ ၎င်းအမှတ်မထင် ဝယ်ခြင်းကြောင့် အများအားဖြင့် အတိုးဖြစ်သွားသည်၊ အဘယ်ကြောင့်ဆိုသော် ရွှေ,ငွေ ၎င်း၏အထည်များကို ဝယ်ခြင်း၏ မတ်စ်အလဟ်ပြဿနာရပ်များသည် ခက်ခဲသိမ်မွေ့လှပေသည်၊ ထိုအကြောင်းကို အရောင်းအဝယ် အခန်း၌ ကျွန်ုပ် ရေးသားခဲ့ပေပြီ၊ ဤသည်မှာ သတ္တမ ဂိုနာဟ်ဖြစ်လေသည်။

အံ့ဩဖွယ်တစ်ရပ်မှာ မင်္ဂလာဆောင်တစ်ခုအတွက်ဝယ်ပြီးသောဝတ်စုံကို အခြားသော မင်္ဂလာဆောင်တစ်ခုအတွက် မလုံလောက်ဟု ယူဆကြသည်၊ နောက်မင်္ဂလာဆောင်အတွက် ဝတ်စုံအသစ်ကို လိုချင်ပြန်သည်၊ အသစ်အဆန်းတစ်မျိုး ဝတ်မသွားပါက သူမထံ ဤတစ်ထည်ပင်ရှိ၍ဤအဝတ်ပင်ဝတ်ဝတ်လာသည်ဟု အမျိုးသမီးများက ကဲ့ရဲ့ကြမည်ကို

စိုးသည်၊ ထို့ကြောင့် ဂိုနာဟ်တစ်ခု အသစ်ပြန်တိုးလာပြန်သည်၊ ဂိုနာဟ်ကို ထပ်တလဲလဲ ကျူးလွန်ခြင်းသည် မကောင်းဆုံးဖြစ်၍ အပြစ်ကြီးလေသည်၊ ဤသည်မှာ အဋ္ဌမ ဂိုနာဟ် ဖြစ်သည်။

တင်ပြပါ အချက်များမှာ.... အဝတ်အထည်များအတွက်ဖြစ်သည်၊ ယခု ဘယက် တန်ဆာများအတွက် ကြိုးစားကြပြန်သည်၊ မိမိထံ မရှိလျှင် ငှားရမ်း၍ ဝတ်ကြသည်၊ ငှားသည်ကို မထင်ပေါ်အောင် ဖုံးကွယ်ကြသည်၊ မေးလျှင်မိမိပိုင်ဟု ကြွားဝါကြသည်၊ ဤသည်မှာ လိမ်လည်မှုတစ်မျိုးဖြစ်လေသည်။

ဟဒီးသ်တော်မြတ်တွင် လာသည်မှာ....အကြင်သူသည် မိမိပိုင်မဟုတ်သည်ကို မိမိပိုင် ဖြစ်ကြောင်း ထင်ပေါ်စေလျှင် ၎င်းသူသည် မုသားအတိဖြစ်သော အဝတ်နှစ်ထည်ကို ဝတ်ခြင်းပင် ဖြစ်သည်။ နစ်ဟတွန်နာဗွေရီးန်ကျမ်း စာမျက်နှာ ၂၀၁။

ဆိုလိုသည်မှာ .. ၎င်းသူသည် ခေါင်းမှ ခြေအထိ မုသားချည့်ပင်ရစ်ပတ်ဝတ်ထား သူ ဖြစ်သည်၊ ဤသည်မှာ နဝမ ဂိုနာဟ်ဖြစ်သည်။

များသောအားဖြင့် အသင့်ရှိသူများ ငွေးမော ကြည့်လောက်အောင် အသံမြည် သည့် ဘယက်တန်ဆာများကို ဝတ်ကြသည်၊ အမှန်မှာ ဤသို့ အသံမြည်သော ဘယက် တန်ဆာများ ဝတ်ပိုင်ခွင့်မရှိပေ။

ဟဒီးသ်တော်တွင် လာသည်မှာ ...ဘာဂျာမြည်သော အသံနှင့်အတူ ရှိုင်တွာန်မိစ္ဆာ ရှိလေသည်။ မဟ်ဇူန်ကျမ်း စာမျက်နှာ ၁၀၈။

ဤသည်မှာ ဒသမ ဂိုနာဟ် ဖြစ်လေသည်။

သွားရောက်ရန် အစီးအနင်းအတွက် အစေခံကို (ဒိုလီ) အထမ်းခေါ်ခိုင်းသည်၊ ၎င်း ကျင်းပအသာအိမ်က အထမ်းရောက်လာသည်၊ ထိုအချိန်၌ ရေချိုးသည်၊ ချိုးရေ အတွက် ၎င်း (ဂွတ်စ်လ်) အတွက် ကြံ့ကြာသည်၊ ဤသို့ ကြံ့ကြာမှုဖြင့် (နမာဇ်) ဝတ် ပြုရန် အချိန်လွန်သွားလျှင်လည်း ဂရုမစိုက်ပေ၊ အရေးကြီးသော အလုပ်တစ်စုခု လစ် ဟင်းသွားလျှင်လည်း ဂရုမထားပေ၊ အများအားဖြင့် ဤသို့သော ရေချိုးချိန်တွင် ဒုက္ခ များ ရောက်တတ်သည်၊ အကယ်၍ နမာဇ်ကဿာဖြစ်သွားလျှင် ၎င်းမတ်ကျူးဟ် အချိန် ရောက်သွားသော် ဤသည်မှာ ဧကာဒသမ ဂိုနာဟ်ဖြစ်သည်။

အထမ်းသမားက အပြင်မှခေါ်နေသည်၊ သူမက ပြင်ဆင်ဖီးလိမ်းရာက မပြီး သေး၊ ထို့ကြောင့် မကြာခဏခေါ်သည်ကို စိတ်ဆိုးကာ ကျိန်ဆဲခြင်း၊၎င်းကြိမ်းမောင်း ခြင်းပြုသည်၊ အကြောင်းမဲ့ သူဆင်းရဲတစ်ဦးကို ကြိမ်းမောင်းခြင်း၊ ကျိန်ဆဲခြင်းတို့သည် မတရားရာ ရောက်သည့်ပြင် ဂိုနာဟ် ဖြစ်လေသည်၊ ဤသည်မှာ.... ဒွါဒသမ ဂိုနာဟ် ဖြစ်သည်။

ထို့နောက် သူမသည် ဆင်ယင် ဖီးလိမ်းပြီး အထမ်းသမားကိုအဖယ်ခိုင်း၍ ထမ်းစင်ပေါ်ထိုင်သည်၊ အချို့သည် ဂရုမစိုက်ဘဲ အပြင်သို့ ခြုံလွှာတစ်ပိုင်းတစ်စ ထွက်နေသည်၊ ၎င်းတစ်ဘက်ဘက်မှ (ပရိဒဟ်) အကာအကွယ် ပွင့်ဟနေသည်၊ ၎င်းရေမွှေးနံ့သည် တစ်လမ်းလုံး သင်းနေသည်၊ ဤသို့ပြုမူခြင်းသည် သူစိမ်းများရှေ့တွင် မိမိ၏ ဖီးလိမ်းမှုကို ပေါ်လွင်အောင် ပြုခြင်းပင်ဖြစ်သည်။

ဟဒီးသ်တော်တွင် လာသည်မှာ.. အကြင်သူမသည် အိမ်မှထွက်သောအခါ အမွှေးနံ့သာ သုတ်လိမ်းလျှင် ၎င်းလမ်း၌ သူစိမ်းများထံ အနံ့ရောက်ပါက ထိုသူမသည်အလွန်မကောင်းဆိုးသောသူမ ဖြစ်သည်။ တရိဂီးဇ်ကျမ်း စာမျက်နှာ ၂ဝ။

ဤသည်မှာ....တေရသ ဂိုနာဟ် ဖြစ်သည်။

ယခုသွားရမည့်အိမ်သို့ရောက်လေရာ အထမ်းသမားက ထမ်းစင်ချ၍ ရှောင်ပေးရာ သူမသည် ဆင်း၍ အိမ်တွင်းသို့ဝင်သွားသည်၊ အိမ်ထဲ၌ သူစိမ်းယောကျ်ား ရှိနေမည်ကို ဂရုမစိုက် သူစိမ်းယောကျ်ားနှင့် ပက်ပင်း တွေ့ရပေါင်းများစွာ ကြုံရသည်၊ သူစိမ်းယောကျ်ားနှင့် မျက်စိခြင်းဆုံသွားကြသည်၊ သို့သော် အမျိုးသမီးများက ဂရုပင်မစိုက်ကြ မဝင်မီ အိမ်တွင်း၌ သူစိမ်းယောကျ်ား ရှိ,မရှိ စုံစမ်းမှု ပြုရမည်၊ သူစိမ်းယောကျ်ား ရှိ,မရှိ ဒွိဟဖြစ်သောအခါ မစုံစမ်းဘဲ အရမ်းကာရော ဝင်ရောက်ခြင်းပြုမှု ဤသည်မှာ စတုဒသ ဂိုနာဟ် ဖြစ်သည်။

အိမ်တွင်းသို့ ရောက်သောအခါ ရှိနေကြသော အမျိုးသမီးများကို 'စလာမ်' ပေးသည်၊ အချို့ကမူ ပါးစပ်မလှုပ်ဘဲ နဖူးပေါ်လက်တင်၍ 'စလာမ်' ပေးကြသည်၊ ဤသို့ 'စလာမ်' မပေးရဟူ၍ ဟဒီးသ်တော်မြတ်တွင် တားမြစ်ချက်များ လာရှိလေသည်။

အချို့က စလာမ် ဟူ၍ပင် ပေးကြလေသည်၊ ဤသည်မှာ စွန္နတ်တော်နှင့်ကွဲလွဲသည်၊ (အတ်စ်စလာမို့၊ အလိုင်ကွန်းမ်) ဟု ဆိုရမည်။

နဇ်ဟတွန်နာဇွေရီးန်ကျမ်း စာမျက်နှာ ၆၂။

ပြန်ကြားသော အသံလည်း နားဆင်ဘွယ်ရာ ဖြစ်လေသည်၊ အေးချမ်းပါစေ၊ အသက်ရှည်ပါစေ၊ မုဆိုးမ မဖြစ်ပါစေနဲ့၊ အသက်ရှည်လျားပါစေ စသည် အိမ်လုံးကျွတ်ပြောရန် လွယ်ကူ၍ (အတ်စ်စလာမို့၊ အလိုင်ကွန်းမ်) ဤစာလုံး၌ 'ဒိုအာ' များစွာ ပါသည်ကို ဆိုရန် ဝန်လေးနေကြသည်၊ ဤသို့ အမြဲ စွန္နတ်တော်နှင့် ကွဲလွဲမှုပြုခြင်းသည် ပဉ္စဒသမြောက် ဂိုနာဟ်ဖြစ်လေသည်။

စုရုံးမိကြပြီဆိုလျှင် အလဟဿ စကားများ ပြောကြသည်၊ တိုင်တန်းခြင်းများ နောက်ကွယ် သတင်းစကားများကုန်းချောခြင်း၊ မတရားသမုပ်စွပ်စွဲခြင်းများပြုကြသည်၊ ဤသည်ဟိုသည် လုံးဝ ဟရာမ်၊ ၎င်းကြီးလေးသော ဂိုနာဟ် ဖြစ်လေသည်။

နဇ်ဟတွန်နာဇွေးရီန်ကျမ်း စာမျက်နှ ၂၀၀။

ဤသည်မှာ သော၁ဌဿ ဂိုန၁ဟ် ဖြစ်သည်။

စကားပြောသောအခါ မိန်းမတိုင်းသည် မိမိ ဝတ်ထားသော အဝတ်, အထည် ဘယက်တန်ဆာတို့ကို လက်,ခြေ,လျှာဖြင့် အားလုံးမြင်အောင် ဂုဏ်ဖော်ကြသည်၊ ဤသည်မှာ (ရေယာ) ဖြစ်ကြောင်းထင်ရှားသည်၊ ရေယာသည် ဟရာမ် ဖြစ်ကြောင်းကုရ်အာန်နှင့် ဟဒီးသ်တော်မြတ်တွင် အတိအလင်း လာရှိ ထားလေသည်၊ ဤသည်မှာ သတ္တာဒသ ဂိုန၁ဟ် ဖြစ်သည်။

ဤသို့ပင် တစ်ဦးဦး၏ အဖြစ်သနစ်ကိုကြည့်ရန် ဖော်ထုတ်ရန် ကြိုးစားကြသည်၊ အကယ်၍ တစ်ဦးဦးကို မိမိထက်နိမ့်ကျသည်ကို တွေ့ရမူ သေးသိမ် ယုတ်ညံ့သူဟု ထင်ပြီး မိမိကိုယ်ကို ဂုဏ်ရှိသူဟု ထင်သည်၊ အချို့သည်နိမ့်ကျသူကို စကားပင် ကောင်းကောင်း မပြောကြပေ၊ ဤသို့ပြုခြင်းသည် အထင်အရှား မာနထောင်ရာ ရောက်၍ဂိုန၁ဟ်ဖြစ်သည်၊ ဤသည်မှာ အဌာရသ ဂိုန၁ဟ် ဖြစ်သည်။

အကယ်၍ အခြားသူမများကို မိမိထက် သာလွန်နေကြောင်းတွေ့ရမူ မလိုမုန်းတီးမှု (ဟစဒ်) ၎င်းကျေးဇူးကမ်းခြင်း၊ တတ်မက်ခြင်း ပြုကြသည်၊ ဤသည်မှာ နဝါဒသ၊ ဝီသ၊ ကောဝီသ ဂိုန၁ဟ် များဖြစ်သည်။

များသောအားဖြင့် အမျိုးသမီးများသည် ဤသို့ အလဟဿ အကျိုးမဲ့လုပ်ငန်းများ၌ မွေ့လျော်နေရသဖြင့် နမာဇ်ဝတ်ပြုမှုအချိန်များ လွန်သွားကြသည်၊ ၎င်းအချိန် ကြုပ်တီးမှုကား ဖြစ်လာသည်၊ ဤသည်မှာ စမ္မာဝီသ ဂိုန၁ဟ်ဖြစ်သည်။

ထို့နောက် တစ်ဦးကို တစ်ဦးကြည့်၍ ၎င်းကြား၍ အလဟဿ အကျိုးမဲ့ထုံးစံ လုပ်ကိုင်နည်းများကို သင်ယူကြသည်၊ ဂိုန၁ဟ် အလုပ်တစ်ခုကို သင်ယူခြင်း၊ ၎င်းသင်ပြခြင်းလည်း ဂိုန၁ဟ်ပင်ဖြစ်သည်၊ ဤသည်မှာ တြိစိသ ဂိုန၁ဟ်ဖြစ်သည်။

ထုံးစံတစ်ခု ရှိပြန်သေးသည်၊ ရေထန်းသမားသည် အိမ်ထဲသို့ရေဝင်လောင်းရာ အမျိုးသမီးများကို လုံခြုံသော အခန်းထဲသို့ ဝင်သွားရန် မခိုင်းဘဲ ရေထမ်းသမားကို မျက်နှာပေါ် အဝတ်အုပ်၍ မည်သူ့ကိုမှမကြည့်ဘဲ လာပါဟု ခေါ်လေသည်၊ ၎င်းသူ မျက်စောင်းငဲ့၍ အားလုံးကို ကြည့်သွားသော်လည်း မည်သူမျှ ရှက်ကြောက်ခြင်း မရှိကြ။

ရေထမ်းသမားမှာ မျက်နှာတွင် အဝတ်အုပ်လျက် အားလုံးကို မြင်ရလေသည်၊ အဘယ့်ကြောင့်ဆိုသော် မျက်နှာတွင် အုပ်သော အဝတ်မှာ ပါးလွှာသောကြောင့် ဖြစ်လေသည်၊ ပါးလွှာခြင်းမရှိပါက ရေအိုးထဲသို့ အဘယ်နည်းနှင့် သွား၍လောင်း နိုင်မည်နည်း၊ သူစိမ်း ယောကျ်ား မြင်နိုင်သောနေရာစွာင် အတလိ (တမင်တကာ) ထိုင်နေခြင်းသည် ဟရာမ် ဖြစ်လေသည်၊ ဤသည်မှာ စတုဝီသ ဂိုန၁ဟ်ဖြစ်သည်။

အချို့အမျိုးသမီးများ၏ အရွယ်ရောက်လု ၁၀-နှစ်၊ ၁၂-နှစ်အရွယ် သားများသည် အိမ်ထဲသို့ဝင်ထွက်ကြသည်၊ အားနာ၍ မည်သူကမျှ မတားဆီးကြ၊ သူစိမ်းအမျိုးသမီးများသည် ၎င်းတို့ရှေ့၌လာနေကြရသည်၊ ဤသည်မှာ ပဥ္စာဝီသ ဂိုနာဟ် ဖြစ်သည်။

အဘယ့်ကြောင့် ဆိုသော် 'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲသော နားလည်မှုလည်း ဂိုနာဟ် ဖြစ်လေသည်၊ ယောကျ်ားလေးသည် အရွယ်ရောက်လုဖြစ်လာလျှင် ထိုကလေးများမှလည်း (ပရ်ဒဟ်)-အကာအကွယ် ပြုကြရမည်။

စားသောက်ရန်အချိန် ရောက်သောအခါ ဆုပ္ပက်လာကြသည်၊ အမျိုးသမီး တစ်ယောက်လျှင် နောက်ဆက်တွဲ ၄-ယောက် ပါလာကြသည်၊ ၎င်းနောက်ဆက်တွဲများကို ကောင်းစွာကျွေးကာ အိမ်ရှင်၏ပစ္စည်း ၎င်းဂုဏ်သိက္ခာကို မကြည့်ကြပေ၊ ဤသည်မှာ ဆဝီသ ဂိုနာဟ်ဖြစ်သည်။

စားသောက်ပြီးကြ၍ အိမ်သို့ပြန်ကြသောအခါတွင် အထမ်းသမားများ၏အသံကို ကြားက သူ့ထက်ငါ ဦးစွာပြန်ရန်အတွက် တံခါးပေါက်သို့ ပြေးလာကြသည်၊ အများအားဖြင့် အထမ်းသမား ရှောင်မပေးရသေးမီ မျက်နှာချင်းဆိုင် ဆုံတွေ့သွားကြရသည်၊ ဤသည်မှာ သတ္တာဝီသ ဂိုနာဟ်ဖြစ်သည်။

တစ်ခါတစ်ရံ ထမ်းစင်တစ်ခုထဲတွင် ၂-ယောက် ထိုင်လိုက်ကြသည်၊ အထမ်းသမားကိုကားမပြော ပြောနေလျှင် ပိုက်ဆံတစ်ပြား တစ်ယောက်တွက် ပိုပေးနေရမည်၊ ဤသည်မှာ အဋ္ဌာဝီသ ဂိုနာဟ်ဖြစ်သည်။

ထို့နောက် ပစ္စည်းတစ်စုံတစ်ရာပျောက်ဆုံးပါက တစ်ဦးဦးကို အထောက်အထားမရှိဘဲ အရမ်းစွပ်စွဲသည်၊ တစ်ခါတစ်ရံ အချို့ ရှာဒီ လက်ထပ်ပွဲ၌ ခိုးသည်, မခိုးသည် မသေချာဘဲ လက်ထိလက်ရောက် ကျူးလွန်ခြင်းလည်း ရှိလေသည်၊ ဤသည်မှာ နဝါဝီသ ဂိုနာဟ်ဖြစ်သည်။

အချို့ညှော်ခံပွဲများ၌ အိမ်ရှိယောကျ်ားများသည် တံခါးဝပေါက်ရှေ့၌ လာရပ်ကြပြီး အများဆုံးသော အမျိုးသမီးများကို စေ့စေ့ကြည့်ကြသည်၊ အမျိုးသမီးများအနက် အချို့က မျက်နှာလွှဲလိုက်ကြသည်၊ အချို့က အချို့ဖြင့်ကွယ်ကြသည်၊အချို့က ခေါင်းငုံ့လိုက်ကြသည်၊ ရှေ့တွင်ရှိနေလျက်နှင့်ပင် ဤမျှလောက်ပင် (ပရ်ဒဟ်)အကာအကွယ်ပြုကြသည်၊ ဤသည်မှာ တိံသ ဂိုနာဟ်ဖြစ်သည်။

ထို့နောက် သတို့သားကိုကြည့်ရန်နှင့် သတို့သားနှင့်အတူ လာကြသော(ဘရာတ်)ကိုကြည့်ရန် ဖွရိသွင် ၎င်း မွန်မြတ်သည်ဟူ၍ပင် ထင်မှတ်ကြသည်၊ အမျိုးသမီးများသည် မိမိတို့၏ ကိုယ်ကာယ အဆစ်အပိုင်းကို သူစိမ်း ယောကျ်ားများအား မပြပိုင်သကဲ့သို့ အကြောင်းမဲ့ သူစိမ်းယောကျ်ားများကို ကြည့်ခြင်းမပိုင်ပေ၊ ဤသည်မှာ ဧကတိံသ ဂိုနာဟ်ဖြစ်သည်။

ထို့နောက် အိမ်သို့ ပြန်ရောက်လာသောအခါ ရက်ပေါင်းအတန်ကြာထိ ကျင်းပ ပွဲသို့ လာရောက်ကြသူများ၊ ၎င်းကျင်းပသူများ၏ ချို့ယွင်း လစ်ဟင်းချက်များကို ရှီးမယ် ဖွဲ့၍ မကောင်းပြောဆိုကြလေသည်၊ ဤသည်မှာ ဒွိတိယ ဂိုနာဟ်ဖြစ်သည်။

ဤသို့ပင် အမျိုးသမီးများ စုရုံးခြင်း၌ မကောင်းမှု များစွာနှင့် ဂိုနာဟ်ဖြစ်သော အချက်များ မြောက်မြားစွာရှိလေသည်၊ အကြင်အလုပ်၌ ဤမျှ များပြားစွာ မကောင်းမှု များရှိနေလျှင် ထိုအလုပ်သည် အဘယ်မှာလျှင် လုပ်ပိုင်မည်ဖြစ်ကြောင်း ကိုယ်တိုင်စဉ်းစား ဝေဖန်ကြည့်သင့်လှပေသည်၊ ထို့ကြောင့် ဤထုံးစံများကို တားမြစ်ပိတ်ပင်ရန် အလွန်ပင် အရေးကြီး လိုအပ်လှပေသတည်း။

## စေ့စပ်ကြောင်းလမ်းသော ထုံးစံများ
### အကြောင်း

စေ့စပ်ကြောင်းလမ်းရာ၌လည်း မဆီမဆိုင်သော ထုံးစံများကို အချို့သူတို့က ပြုကျင့်ကြလေသည်၊ ထိုထုံးစံများအနက် အချို့တို့ကို တင်ပြမည်။

၁။ 'မန်ဂနီ' စေ့စပ်ကြောင်းလမ်းသောအခါ ဆတ္တာသည်သည် မိန်းကလေး ရှင်ထံ စာယူ၍သွားသည်၊ ထိုအခါ မိန်းကလေးရှင်က ကျေးဇူးတင်သော သဘောနှင့် လက်ဆောင်ပစ္စည်းများ ပေးရသည်၊ ဤသို့ပေးခြင်းကို ဖွရ်သွ ၊ ဝါဂျစ်ဗိသာလက်လွှတ် ချင် လွှတ်မည်၊ ပေးရသောထုံးစံကို လုံးဝလက်မလွှတ်ပေ၊ အိမ်၌စားစရာ ဂျုံ၊ ပဲပင် ရှိမှုလည်း လက်ဆောင်ကိုကား ပေးရသည်၊ မပေးလျှင်(မန်ဂနီ)စေ့စပ်ကြောင်းလမ်းမှု မဖြစ်ဟု ယူဆကြလေသည်၊ (လာဟောင်လ၊ ဝလာကုဝတ၊ အစ်လွှာ၊ ဗစ်လွှာဟ်) ဤသည်မှာ မကောင်းမှုတစ်ရပ် ဖြစ်လေသည်။

ဤသို့ အကျိုးမဲ့ ထုံးစံအတွက် ငွေမရှိလျှင် အကြွေးယူရလေသည်၊ အမှန်မှာ လိုအပ်မှုမရှိဘဲ ကြွေးမယူပိုင်ပေ၊ ဟဒီးသ်တော်မြတ်၌ ဤသို့ အကြွေးယူသူအား ပြင်းပြစွာ အပြစ်ပေးမည်ဟူ၍ လာရှိပေသည်၊ ဤသည်မှာ ဒုတိယ ဂိုနာဟ်ဖြစ်လေသည်။

၂။ ဆတ္တာသည်သည်ထမင်းစားသောက်၍ မိန်းကလေးရှင်ပေးသော ငွေ၁၀၀ သို့မဟုတ် ပေးသည်ခန့်ကို လင်ပန်းထဲ၌ထည့်လိုက်သည်၊ ယောကျ်ားလေးရှင်က တစ်ကျပ်၊ နှစ်ကျပ်ကိုယူ၍ ပြန်ပေးလိုက်သည်၊ ထိုပြန်ပေးသည်ကို မိမိ၏ သားချင်းများ၌ ဝေငှ လိုက်သည်။

စဉ်းစားရန်အချက်မှာ....တစ်ကျပ်၊ နှစ်ကျပ်ပင် ယူလိုပါမူ ငွေ ၁၀၀ကို အဘယ့် ကြောင့် ခုတုံးလုပ်ကြသနည်း၊ ဤသို့ အလဟဿ အကျိုးမဲ့ထုံးစံကို အကောင်အထည် ဖော်ရန်အတွက် ငွေတိုးပင် ယူကြရလေသည်၊ ထိုသို့ငွေတိုးယူခြင်းကို ဟဒီးသ်တော်မြတ်၌ (လအ်နတ်) ကျိန်ဆဲထားပေသည်။

အကယ်၍ ကြွေးမယူရလျှင်လည်း ထင်ပေါ်ကြားဝါဂုဏ်ယူရန် အတွက်ပင် ဖြစ်လေသည်၊ ထိုသို့ ကြွားဝါခြင်းအပြင် အဘယ် အကြောင်းများ ရှိပါသေးသနည်း၊ တစ်ကျပ်၊ နှစ်ကျပ်အပြင်၊ ယောကျ်ားလေးရှင်က ပို၍မယူကြောင်း သိနေကြရလေရာ ငွေ ၁၀၀-ပင်မဟုတ် ငွေ ၁၀၀၀-ပင် ဂုဏ်မရှိပေ၊ ပေးသောငွေအားလုံးကို ယူလိုက်မှသာလျှင် မည်မျှပေးလိုက်သည်ဟူ၍ ဂုဏ်ယူနိုင်ပေမည်၊ ယခုမူကား ရယ်စရာ ငုံးကလေးကစားသလို ဖြစ်နေပေသည်၊ သို့သော်လည်း အချို့သူတို့က ကြွားဝါ ဂုဏ်ဖော်ရန်အတွက် မျက်စိမှိတ်၍ ဇွတ်ပြုနေကြသည်၊ ဝမ်းနည်းစရာ ကောင်းသည်မှာ.... ဉာဏ်ရှိအောင် သင်ပြနေကြသော ဉာဏ်ကြီးရှင်များကပင် ဤမကောင်းသော ထုံးစံ၌နစ်မွန်းနေကြသည်။

အချုပ်မှာ ဤကိစ္စ၌ မူရင်းတီထွင်ခြင်း၊ (ရေယာ) ပကာသန၏ ဂိုနာဟ်ဖြစ်သည်၊ ယခုမူကား ရေးသားခဲ့သည့်အတိုင်း အလဟဿ အကျိုးမဲ့ အလုပ်တစ်ခု သက်သက်ပင်ဖြစ်နေသည်၊ ထို့ကြောင့် ဤသည်လည်း မကောင်းမှုပင် ဖြစ်သည်။

ဟဒီးသ်တော်မြတ်တွင် လာသည်မှာ....အစ္စလာမ် ဘာသာဝင်တို၏ အကောင်းဆုံးသောအချက်မှာ....အဓိပ္ပါယ်ကင်းမဲ့သော အလုပ်များကို စွန့်လွှတ်ရမည်။

အချုပ်မှာ....အဓိပ္ပါယ်ကင်းမဲ့သော အလဟဿ အကျိုးမဲ့ အလုပ်များကိုလည်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ သဘောတော်နှင့် မတိုက်ဆိုင် ကွဲလွဲလေသည်၊ အကယ်၍ ငွေတိုးယူ၍ ပြုရခြင်းဖြစ်မူ ငွေတိုးယူခြင်း ပေးခြင်းများဂိုနာဟ်ဖြစ်ကြောင်း လူတိုင်းသိကြလေသည်၊ အချုပ်မှာ ဤထုံးစံ၌ များပြားစွာသော မကောင်းမှုများ ရှိနေပေသည်။

၃။ ထို့နောက် မိန်းကလေးရှင်က ဆတ္တာသည်အား အဝတ်စုံနှင့်အတူ ငွေအချို့ပေးကြသည်၊ ဤနေရာတွင်လည်း ကစားသလိုဖြစ်နေသည်၊ ပေးလိုသည်က တစ်ကျပ်၊ နှစ်ကျပ်၊ ပြသည်ကတစ်ရာ ဤထုံးစံသည် တကယ်ပင် အံ့ဩဖွယ်ကိစ္စရပ်ဖြစ်ပေသည်၊ အသိဉာဏ်နှင့်ကွဲလွဲသော လုပ်ငန်းဖြစ်စေကာမူ ဉာဏ်ရှိသူများက မရှက်မကြောက် လုပ်ကြသည်၊ ထိုကိစ္စ၏ မကောင်းမှုများ ယခုပင် ရေးခဲ့ပေပြီ။

၄။ ဆတ္တာသည်မပြန်မီ အလျှင်အရပ်သူများစုရုံး၍ သီဆိုကြသည်၊ မိန်းမများ စုရုံးခြင်း၏ မကောင်းမှုများ ရေးခဲ့ပေပြီ၊ တေးသီချင်းသီဆိုခြင်း၏ မကောင်းမှုများကို လက်ထပ်ပွဲ၏ ထုံးစံများ အကြောင်း၌ ရေးသားမည်၊ အချုပ်မှာ....ဤကိစ္စလည်း မပြုပိုင်ပေ။

၅။ ဆတ္တာသည်-သည် ပြန်ရောက်လာသောအခါ ဝတ်စုံနှင့် ငွေများကိုအိမ်တွင်းသို့ ပို့လိုက်သည်၊ ထိုဝတ်စုံကို သားချင်းတို့၏ အိမ်တိုင်းသို့ လိုက်၍ပြပြီးသောအခါ ဆတ္တာသည်ကို ပေးလိုက်သည်၊ စဉ်းစားရန် အချက်မှာ.... အလုပ်ကိစ္စရပ်တိုင်းတွင် ပြသရန် မော်ကြွားရန် ဖြစ်နေလျှင် ထိုသူတို့၏ ( နိယတ် ) စိတ်သဘောသည် အဘယ်မှာလျှင် ဖြောင့်မတ် မှန်ကန်ပေမည်နည်း။

ဝတ်စုံချုပ်သောအခါ အမှန်ပင် ရသူမြင်သူက ချီးကျူး သြဘာ ပေးလောက်အောင် ကောင်းသည်ထက်ကောင်းအောင်ချုပ်လုပ်ကြလေသည်၊ အချုပ်မှာ....(ရေယာ) ကြွားဝါ ပကာသနနှင့် အပိုဖြုန်းတီးခြင်းလည်းဖြစ်၍ ကုရ်အာန် နှင့် ဟဒီးသ်တော်အရ ဟရာမ်ဖြစ်ကြောင်း ထင်ရှားလေသည်။

ဒုက္ခတစ်ခုလည်း ရှိသေးသည်၊ ပေးသူကဂရုတစ်စိုက် ကောင်းမွန်အောင်ချုပ်ပေးသော်လည်း ရသူတို့က မနှစ်သက် မကြိုက်ချင်ကြသေးပေ၊ စာကလေးမှာ အသက်ပင်ထွက်သွားရသော်ငြားလည်း စားသူက အရသာမတွေ့ ဟူသော စကားပုံကဲ့သို့ ဖြစ်လေသည်။

ပကာသနကို မက်မောသော မိန်းကလေးများက ထိုပေးသောဝတ်စုံတွင် အပြစ်ရှာထုတ်ကြ၍ နာမည်ဖျက်ကြသေးသည်၊ အချုပ်မှာ....ရေယာ အပိုဖြုန်းခြင်း နောက်ကွယ် အတင်းများသည် ဤထုံးစံအတွက်ကြောင့် ပေါ်ပေါက်လာလေသည်။

'ကို့လုဝရှ်ရိဗူ' မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် စားသောက်ခြင်း၊ ဝတ်ဆင်ခြင်း၊ ၎င်းပစ္စည်း၌လည်း အပိုဖြုန်းတီးသူများကိုအချစ်ထားတော်မမူပေ၊ ဤသည်မှာ အပိုဖြုန်းတီးသူများကို သတိသံဝေဂ နောင်တရစေရန် ပြဋ္ဌာန်းတော်မူသော အမိန့်တော်ပင်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် 'အေဗာဒတ်' ပြုသူကိုသာ နှစ်သက်တော်မူ၍ နှစ်သက်သော လူသားအား (ဗန္ဒတ်) ကို ကုသိုလ်သဝါဗ်ပေးတော်မူသည်။

သို့ရှိရာ အလ္လာဟ်အသျှင်မြတ်သည် ဖြုန်းတီးသူများကို အချစ် မထားလေရာ ၎င်းတို့ကို မုန်းတီးသည်ဟု အဓိပ္ပါယ်ထွက်ပေသည်၊ အစ်ဗ်နို့ အဗ်ဗါးစ်(ရသွေ့)သခင်က မိန့်တော်မူသည်မှာ....မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည်အစားအသောက်၌ ဖြုန်းတီးသူများကို အချစ်ထားတော်မမူပေ။

၆။ ရက်အတန်ကြာပြီးနောက် မိန်းကလေးဘက်မှ မုန့်အချို့၊လက်စွပ်၊လက်ကိုင်ပုဝါ၊ ငွေအချို့ကိုပို့ကြသည်၊ ဤသည်ကို (နေရှာနီ) ဟု ခေါ်ကြသည်၊ ၎င်းငွေကို (နယူတေ) အခွင့်ကြုံသောအခါ အပြန်အလှန်ပေးရသည့် လက်ဆောင်သဘောဖြင့် ပေးကြသည်၊ဤနေရာတွင်လည်း(ရေယာ)ပကာသနအလဟဿနှင့် အကျိုးမဲ့ သုံးစွဲဖြုန်းတီးခြင်းများပါရှိသည်၊ တရားတော်နှင့် မညီသော လက်ဖွဲ့ခြင်း၏ မကောင်းကြောင်းများကို ရေးသားပြီးခဲ့လေပြီ။

၇။ မုန့်ပွဲယူလာသော ဆတ္တာသည်နှင့် အထမ်းသမားကို လက်ဆောင်အဖြစ် ဆတ္တာသည်အား ဝတ်စုံ၊ အထမ်းသမားအား ပေါင်းထုပ်နှင့် ငွေအချို့ ပေးလိုက်ကြရသည်၊ပို့လာသော မုန့်ပွဲများကိုသားချင်း အဘွားအိုများက သားချင်းတို့၏အိမ်တိုင်း စေ့တွင်လိုက်၍ ဝေငှကြသည်၊ ၎င်းထိုအိမ်များ၌ပင် ကြုံရာထမင်း စားလိုက်ကြသည်။

အထမ်းသမားများ၏ အခ သတ်မှတ်ခြင်း မပြုခြင်းနှင့် အထမ်းသမားများက သဘောတူစွာ လိုက်ပို့ခိုင်းသည် သဘောမတူဘဲ အတင်း ပို့ခိုင်းသည်၊ ၎င်းတို့၏ သဘောဆန္ဒကိုမယူဘဲ ဇွတ်လုပ်ကြသည်ကို လူတိုင်းအသိပင်ဖြစ်လေသည်၊ အထမ်းသမားများက မအားလပ်ကြောင်း၊ နေမကောင်းကြောင်း ဇနီး, ကလေး နေမကောင်းပါ၊ မပို့ပါရစေနှင့်ဟု ဆိုကြသောအခါ ကိုယ်တိုင် ပိုင်ပိုင်ကြီး အာဏာပေးနိုင်က ကိုယ်တိုင်ပေး၍ မပေးနိုင်သော် ပေးနိုင်သူဖြင့် အာဏာပေးစေကာ အတင်းခိုင်းကြသည်၊ဤသို့ အတင်းအဓမ္မခိုင်းစေခြင်းသည် မတရားပြု အနိုင်ကျင့်ခြင်းဖြစ်သည်၊ ၎င်းသည် ဂိုနာဟ် ဖြစ်လေသည်၊ မတရားပြုခြင်း၏ဒဏ်သည် များသောအားဖြင့် လောက၌လည်း ခံရတတ်သည်၊ နောင် (အာခေရတ်) ကမ္ဘာ့တရားခွင်၌ကား မလွဲမသွေ အပြစ်ဒဏ်ခံရမည်ပင် ဖြစ်သည်။

နစ်ဟတ္တန်နာဇွေရီးန်ကျမ်း စာမျက်နှာ ၁၅၄။

အထမ်းသမားကို အခကြေးငွေ သတ်မှတ်ခြင်းမပြုဘဲစေခိုင်းခြင်းသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်ဘက် ဖြစ်လေသည်၊ ဤသည်တို့မှာ မုန့်ပွဲ ယူသွားခြင်း၏ မကောင်းကျိုးများ ပေါ်ပေါက်ရခြင်းများ ဖြစ်ပေသည်။

ဝေငှသောအခါ (ရေယာ) ယကာသန ပါဝင်ကြောင်း လူတိုင်းအသိပင်ဖြစ်သည်၊ များသောအားဖြင့် ဝေငှရာ၌ နမာဇ်အချိန်များ လွန်သွားကြသည်၊ အနည်းဆုံးနမာဇ် ချိန်မှာ ကျဉ်းကျပ်သွားပေသည်၊ ဤသို့ဖြစ်ရခြင်းသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲလေသည်။

အစုကျသွားရောက်ပေးသောအခါ အိမ်ရှင်က (နခရာ) မူယာမာယာဖြင့် မယူချင်ပါဟု ပြောသောစကားကို ခံကြရသေးသည်၊ ၎င်းတို့ယူမှသာ ဤပကာသနထုံးစံကို အရောင်တင်ရာ အစဉ်တစ်ဆက် ဖြစ်လာရန် အရေးကြီးသည်ဟု ယူဆကြလေသည်၊ ထို့ကြောင့် 'ရှရီအတ်' တရားတော်မြတ်အရ မူမမှန်အလုပ် ဖြစ်နေသည်။

အချုပ်မှာ ဤသို့သော အကျိုးမဲ့ အလဟဿ အလုပ်များကိုစွန့်လွှတ်ကြရန် ထိုက်လေသည်၊ ဝေးလျှင် စာတစ်စောင်၊ နီးလျှင် နှုတ်လျှာဖြင့် စေ့စပ် ကြောင်းလမ်းနိုင်သည်၊ မိန်းကလေးရှင်ကလည်း မသိသေးလျှင် ယောကျ်ားလေးအကြောင်းကို စုံစမ်းပြီး ဝေးလျှင်စာ၊ နီးလျှင် နှုတ်လျှာဖြင့် အကြောင်းပြန်နိုင်သည်၊ဤသို့ အပြန်အလှန်ပြောဆိုကြခြင်းဖြင့် စေ့စပ်မှုပြီးမြောက်သွားလေသည်။

အကယ်၍ အတိအကျ အကြောင်းစုံကို သိရန်အတွက် တင်ပြခဲ့သော ထုံးစံများ ပြုလုပ်ခြင်းဖြစ်မူ အကြောင်းတစ်ခုအတွက် ဂိုနာဟ် ကျူးလွန်ခြင်းသည် လုံးဝမပိုင်ပေ၊ ဤသို့ အကျိုးမဲ့ ထုံးစံများ ပြုလုပ်ကြသော်လည်း သဘောမတူက ငြင်းလိုက်ကြသည်ကို မည်သူမျှ မတတ်နိုင်ကြောင်း ကျွန်ုပ်တို့ တွေ့နေရပေသည်။

၈။ အချို့နေရာများတွင် ထုံးစံတစ်ခုရှိသည်မှာ....စေ့စပ်ကြောင်းလမ်းသော အခါ ယောက္ခမအိမ်မှ လူအချို့လာကြသည်၊ ၎င်းမိန်းကလေး၏ရင်ခွင်၌ ဖြည့်ကြသည်၊ နည်းလမ်းမှာ ယောကျ်ားကလေး၏ အုပ်ထိန်းသူကိုအိမ်တွင်းသို့ခေါ်လာကြသည်၊ထိုသူက မိန်းကလေး၏ရင်ခွင်၌ သစ်သီး၊ ၎င်း (ပီရေ၊ ဘတာရှေ) မုန့်စသည်ကို ထည့်ပေးသည်၊ ၎င်းမိန်းကလေး၏လက်ထဲ၌ ငွေတစ်ကျပ် ထည့်ပေးသည်။

ထို့နောက်မိန်းကလေးရှင်များက ထိုသူ့ကို ထိုပေးသည့်အစား တတ်နိုင်သည်ခန့် ငွေပေးကြသည်၊ ဤသည်၌လည်း မကောင်းမှုများစွာ ရှိလေသည်၊ ပထမအချက်မှာ.... သူစိမ်းယောကျ်ားတစ်ယောက်ကို အိမ်တွင်း၌ခေါ်ယူခြင်း၊ ထိုသူက မိန်းကလေးရင်ခွင်၌ ထည့်ခြင်း၊ (ပရိဒဟ်) အကာအကွယ်မှ ပြုလုပ်ကြသည်ဖြစ်၍ မကောင်းဖြစ်လေသည်၊ ဒုတိယအချက်မှာ.... မိန်းကလေး၏ရင်ခွင်၌ သစ်သီးများထည့်ခြင်းသည် လာဘ်နိမိတ် ယူခြင်းဖြစ်သည်၊ ဤအလုပ်သည် တရားတော်အရ မပိုင်ပေ။

တတိယအချက်မှာ....အုန်းသီးမှ အုန်းဆံသည် ပုတ်နေလျှင် မိန်းကလေးအတွက် ကောင်းသည့်, ဆိုးသည်ဟု (ဖွာလ်) အတိတ်ကောက်ကြသည်၊ ဤအလုပ်၏ 'ရှစ်ရ်က်' ဖြစ်ခြင်းနှင့် ယုတ်ညံ့ကြောင်း သိခဲ့ကြပေပြီ။

စတုတ္ထအချက်မှာ....ဤကိစ္စကို အရေးတင်ကြီး ဂရုတစ်စိုက် ပြုမူကြသည် ထိုသို့ ပြုမူခြင်း မကောင်းကြောင်း သင်တို့သိပြီးကြပေပြီ၊ ထိုကိစ္စ၌ ထင်ပေါ် ကျော်ကြား လိုခြင်းလည်း ပါဝင်နေသည်၊ အချုပ်မှာ ဤတင်ပြခဲ့သော ထုံးစံများအနက် မည်သည့် ထုံးစံမှ ဂိုနာဟ်နှင့် လွတ်ကင်းသောအရာမရှိပေ။

ကွလ်လို့ဖေ့ဒအတင်၊ သွလာလဟ်၊ အသစ်အဆန်းဟူသမျှသည် လမ်းမှားချည့် ဖြစ်သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ လမ်းစဉ်တော်နှင့်ကွဲလွဲသောအလုပ် ကိစ္စများကို မွတ်စလင်မ်တို့ မပြုလုပ်ကြရန် ထိုက်သည်။

## ထိမ်းမြားလက်ထပ်ခြင်း၏ ထုံးစံများ

### အကြောင်း

အားလုံးထက် အကြီးဆုံး စိတ်လိုက်မာန်ပါ သုံးဖြုန်းသော ဧည့်ခံပွဲသည်ထိမ်းမြား လက်ထပ်ပွဲပင်ဖြစ်ပေသည်၊ များစွာသော ထုံးစံများကို ပြုမူကြလေသည်၊ အမှန်မှာ ဤပွဲကို ဆုံးရှုံးနစ်နာသောပွဲဟု ခေါ်ရန်ထိုက်ပေသည်၊ဆုံးရှုံးနစ်နာမှုမှာလည်းလောကီ

လောကုတ္တရာ နှစ်ဌာနတွင် ဖြစ်လေသည်၊ ထိုပွဲ၌ပြုကျင့်ကြသော ထုံးစံများမှာအောက်ပါ အတိုင်းပင်ဖြစ်သည်။

၁။ ပထမဦးဆုံး သားချင်းဆွေမျိုး ယောကျ်ားများ စုရုံးကြ၍ မိန်းကလေးရှင် အက်မှ မင်္ဂလာရက် သတ်မှတ်မှုကိုရေး၍ ဆတ္တာသည်ကိုပေးကာ စေလွှတ်ကြသည်၊ ဤထုံးစံကို အလွန်အရေးထားကြသည်၊ မိုးရွာနေသည်ဖြစ်စေ၊လမ်း၌ ချောင်းအိုင်ရှိ၍ ၎င်းချောင်းအိုင်တွင် ဆတ္တာသည်, သည် အသက်ဆုံးရှုံးဖို့စိုးရိမ်ရသည်ဖြစ်စေ၊ အချုပ်မှာ မည်သို့ပင်ဖြစ်စေ သွားကိုသွားရပေမည်၊စာတိုက်မှစာတစ်စောင်ထည့်ရန်နှင့် ဆတ္တာသည် ထက် ယုံကြည်ရသောသူကို ကြုံလျှင်ပင် ထည့်မပေးကြ။

'ရှရီအတ်'တရားတော်မြတ်ကအလုပ်တစ်ခုကိုအရေးကြီးကြောင်း မသတ်မှတ်သည် ကို အရေးကြီးသည်ဟုယူဆခြင်း၊ ရှရီအတ်တရားတော်မြတ်က အရေးကြီးသည်ဟုသတ်မှတ် ထားသော အချက်များထက်အရေးတစ်ကြီးဂရုတစ်စိုက်ပြုမူခြင်းတို့သည် တရားတော်မြတ် နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ယှဉ်ပြိုင်ခြင်း ဖြစ်, မဖြစ် ကိုယ်တိုင် စဉ်းစား ကြည့်သင့် လှသည်၊ ယှဉ်ပြိုင်မှုဖြစ်လျှင် စွန့်လွှတ်သင့် မစွန့်လွှတ်သင့်ကို ဆုံးဖြတ်ကြရန် တိုက်သည်၊ ယောကျ်ားများ စုရုံးကြရန် အရေးကြီးသည်ဟု ယူဆကြသည်၊ ဤသည်ပင် မကောင်းမှု ဖြစ်လေသည်။

ဆွေးနွေးတိုင်ပင်ရန် စုရုံးကြသည်ဟုဆိုလျှင် လုံးဝမှားလေသည်၊မင်္ဂလာရက်မည် သည့်နေ့ရက်ဖြစ်ကြောင်း ရေးလိုက်ရမည်ကို ထိုမျာများက မေးနေကြသည်၊ အိမ်ရှိ လူများ တိုင်ပင်ဆုံးဖြတ်ထားသော ရက်ကိုပြောပြ၍သာ ၎င်းတို့ ရေးကြရလေသည်။

အကယ်၍ ဆွေးနွေး တိုင်ပင်ရန်ဖြစ်မူ အသိအမြော်အမြင်ရှိသူ တစ်ယောက် နှစ်ယောက်လောက်ကို ခေါ်ယူဆွေးနွေးလျှင် ပြီးနိုင်ပေသည်၊ ဆွေမျိုးကုန် အိမ်တိုင်း စေ့မှ ခေါ်ယူနေရန် မလိုပေ၊ ထိုသို့ခေါ်ရာ၌ မလာနိုင်သူများသည် မိမိတို့ကိုယ်စား ကလေးငယ်များကိုပင် လွှတ်လိုက်ကြလေသည်၊ ထိုကလေးများသည် ဆွေးနွေးမှုတွင် အဘယ်အကြံဉာဏ်များ ပေးနိုင်ကြမည်နည်း၊ဤသည့်တို့မှာဖုံးကွယ်လှည့်စားသောစကား ရပ်များဖြစ်သည်၊ ထုံးစံဖြစ်နေ၍ လုပ်ကြရပါသည်ဟု အဘယ်ကြောင့် မပြောသနည်း၊ ထိုထုံးစံ၏ မကောင်းမှုများနှင့် စွန့်လွှတ်ရန် ထိုက်သက်ကြောင်းများ တင်ပြမည်။

အချုပ်မှာ .. ဤထုံးစံများသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲဆန့်ကျင် သည်၊ ထို့နောက် အရေးတစ်ကြီး ဂရုတစ်စိုက် ပြုလုပ်ကြသော အချက်တစ်ရပ်မှာ စာကို အနီရောင်ဖြင့်ပင် ရေးကြသည်၊ ထိုစာရွက်တွင် ရွှေချည်များလည်း ကပ်ပေးကြသည်၊ ဤသည်ကို ဂရုတစ်စိုက်ပြုရန်တွင် ထည့်သွင်းထားကြသည်၊ အကြင်ကိစ္စ၏ မကောင်း ကြောင်းနှင့်'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲကြောင်းများကို အထက်တွင်အကြိမ်ကြိမ် ရေးသားခဲ့သည်။

၂။ အိမ်သူများနှင့် သားချင်းမိန်းမများစုရုံး၍ သတို့သမီးကိုထောင့်တစ်ထောင့်တွင် အကျဉ်းချထားလိုက်ကြသည်၊ ဤသို့ ထိုင်စေခြင်းကို(မာအေယွန်၊ ရင်းမာန်ဂျေ) ဟုခေါ်ကြလေသည်၊ ထိုသို့ထိုင်သောနည်းလမ်းများမှာ သတို့သမီးကို (ကျောင်ကီ) ထောင့်တွင်ထိုင်စေပြီး သတို့သမီး၏ လက်ယာလက်တွင်(ဘတ်နာ)သနပ်ခါးသဘော လိမ်းသည်၊ ၎င်းရင်ခွင်၌ (ခေလီန်၊ ဘတာရှေ) မုန့်ချို စားစရာများ ထည့်ထားသည်၊ ၎င်းအချို့ (ခေလီန်၊ ဘတာရှေ) စားစရာများကို လာရောက်သူများအား ကျွေးကြသည်၊ ထိုနေ့မှစ၍ သတို့သမီးကို (ဘတ်နာ) လိမ်းကြလေသည်၊ ၎င်းသစ်သီး ထောပတ် သကြားနှင့် ပြုလုပ်ထားသော လဒ္ဒူ ကဲ့သို့မုန့်ကို သားချင်းများအား ဝေငှလေသည်၊ ဤထုံးစံလည်း အကျိုးမဲ့အချက်များ ရောပြွန်းပြုလုပ်ထားသောထုံးစံဖြစ်လေသည်။

ပထမအချက်။

သတို့သမီးကို တစ်သီးတစ်ခြား ထိုင်ထားခြင်းတွင် ပူသည်ဖြစ်စေ၊ ဝမ်းချုပ်မည်ဖြစ်စေ၊ တစ်လောကလုံးရှိ ဆေးဆရာများက ရောဂါဖြစ်မည်ဟု တားသည်ဖြစ်စေ မိမိတို့ ပြုလုပ်ထားသော ဖွင့်ရှင်း တာဝန်ပမာကြီးမားသည့် အလုပ်ကိစ္စကို လက်မလွှတ်ကြပေ။

ဤသည်၌လည်း အလွန်ဂရုတစ်စိုက်ပြုသော မကောင်းမှုပါရှိသည်၊ ၎င်းအကယ်၍ သူမမှာ ရောဂါဖြစ်မည်ကို စိုးရိမ်ရလျှင် မွတ်စလင်မ်တစ်ယောက်ကို ဒုက္ခရောက်စေသည့် အတွက် ဒုတိယ ဂိုနာဟ်ဖြစ်သည် ထိုဂိုနာဟ်၏အပြစ်ဒဏ်ကို သားချင်းအားလုံးခံကြရမည်။

ဒုတိယအချက်။

အကြောင်းမဲ့ (ကျောင်ကီ) ခုံပေါ်ထိုင်နေစေရန် မလိုပေ၊ အခင်းပေါ်၌ပင် (ဘတ်နာ) သနပ်ခါးသဘောလိမ်းကြလျှင် ကိုယ်ကာယပင်သန့်ရှင်းမှုဖြစ်ပေမည်၊ ဤသည်၌လည်း အလွန်ဂရုတစ်စိုက်ပြုခြင်းပါဝင်သည်၊ အကြင်ကိစ္စသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲဆန့်ကျင်ကြောင်း ကြိမ်ဖန်များစွာ သိခဲ့ကြပေပြီ။

တတိယအချက်။

လက်ယာလက်၌ (ဘတ်နာ) သနပ်ခါးသဘော လိမ်းထားခြင်းနှင့် ရင်ခွင်၌ (ခေလီန်၊ ဘတာရှေ) စားစရာထားခြင်းသည် အတိတ်နိမိတ် လာဘ်ယူခြင်း ဖြစ်ဟန်တူသည်၊ ဤသို့ဖြစ်မူ 'ရှစ်ရ်က်' ဖြစ်လေသည်၊ ရှစ်ရ်က် သည် 'ရှရီအတ်' တရားတော်မြတ်နှင့် လုံးဝဆန့်ကျင်ကြောင်း မွတ်စလင်မ်တိုင်း သိကြပြီးဖြစ်သည်၊ မည်သို့ပင်ဖြစ်စေဤကိစ္စကို လွန်ဆန်ခြင်းမပြု ဂရုတစ်စိုက် အထိုင်ခိုင်းကြသည်၊ ဤသို့ပင် (ခေလီန်၊ ဘတာရှေ) စားစရာများကိုလည်း ဂရုတစ်စိုက်ဝေငှကြလေသည်၊ ဤသည်အားလုံးသည်ဂရုစိုက်လွန်းသောအချက်များ၊ ၎င်းရေယာ ကြွားဝါခြင်းများဖြစ်ကြောင်းထင်ရှားလေသည်။

စတုတ္ထအချက်။

အမျိုးသမီးအများ စုရုံးခြင်းသည် ပျက်စီးမှုအပေါင်း၏ အရင်းအမြစ် ဖြစ်ပေသည်၊ ဤအကြောင်း အထက်တွင် ရေးခဲ့ပေပြီ၊ အချို့နေရာများတွင် သတ်မှတ်ချက် တစ်ခုမှာ သတို့သမီးလက်ပေါ်၌ (ဘတ်နာ) သနပ်ခါးသဘော လိမ်းခြင်းကို ပထမလင် မသေဆုံးသေးသောအမျိုးသမီး(၇)ယောက်တို့က လိမ်းကြလေသည်၊ ဤသည်မှာ လာဘ် နိမိတ်ယူခြင်းတစ်ရပ်ဖြစ်သည်၊ ဤသို့ လာဘ်နိမိတ်ယူခြင်း 'ရှစ်ရ်က်' ဖြစ်ကြောင်း အထက် တွင် သိခဲ့ကြပေပြီ။

အကယ်၍ ကိုယ်ကာယ သန့်ရှင်းရန် နူးညံ့ပျော့ပျောင်းရန်အတွက် (ဘတ်နာ) သနပ်ခါးသဘော လိမ်းခြင်းဖြစ်မှု ကိစ္စမရှိပေ၊ သို့သော် ထုံးစံတစ်ခုအနေနှင့် မဟုတ်ဘဲ တော်ရုံသင့်ရုံ လိမ်းကြရမည်၊ ထိုအတွက် ဤမျှ အဘယ့်ကြောင့် ဂရုတစိုက်ပြုနေကြ သနည်း။

အချို့သောအမျိုးသမီးများသည် ဤကိစ္စနှင့်ပတ်သက်၍ ဆင်ခြေကန်၊ အကြောင်း ရှာကြလေသည်၊ အချို့ကပြောကြသည်မှာ.... မိန်းကလေးသည် ယောက္ခမအိမ်သို့ ရောက် သောအခါ ရက်အတန်ကြာ ခေါင်းငုံ၍ ထိုင်နေရမည်ဖြစ်သည်၊ ထို့ကြောင့် ထိုအိမ် တွင်ထိုင်နေခြင်းဖြင့် ဒုက္ခမရောက်စေရန် ကျင့်သားရသွားအောင် (မန်ဂျေ) ထောင့် ထိုင်စေခြင်းဖြစ်သည်။

၎င်းအချို့က ပြောကြသည်မှာ (အို့ဘတ်နာ) သနပ်ခါးသဘော လိမ်းခြင်းဖြင့် ကိုယ်ကာယသန့်ရှင်းသည်၊ မွှေးကြိုင်သည်၊ ထို့ကြောင့် ဟိုဟိုသည်သည်လျှောက်ခြင်းဖြင့် စုံးပူးမှာကြောက်သည်ဟု ဆိုကြသည်၊ ယင်းသို့ထင်မြင်ယူဆခြင်းသည် ရှိုင်တွာန်မိစ္ဆာ၏ အကြံ၊ ၎င်းစိတ်ထင်ရာပြုခြင်းများ ဖြစ်ပေသည်။

စွန္နတ်၊ ၎င်း ဝါဂျစ်ဗ်များကဲ့သို့ထုံးစံများကိုဂရုတစ်စိုက် မလစ်ဟင်းရလေအောင် ပြုကျင့်ကြခြင်းသည် မပြုပိုင်သာမက 'ဗိဒအတ်' ဖြစ်လေသည်။

ပထမ အဖြေ။

အကယ်၍ ကျင့်သားရရန်ဟုဆိုလျှင် သားချင်းအမျိုးသမီးများ စုရုံးခြင်း၊ လက် တွင် (ဘတ်နာ) သနပ်ခါးသဘော လိမ်းခြင်း၊ ရင်ခွင်၌ထည့်ခြင်း စသည်များ၊ ၎င်း အကျိုးမဲ့အလဟဿအဖျော်သဘော အလုပ်များကို အဘယ့်ကြောင့် ပြုလုပ်ကြသနည်း၊ ကျင့်သားရရန် ဤအလုပ်များမပါဘဲလည်း ပြုလုပ်နိုင်ကြပေသည်။

ဒုတိယ အဖြေ။

ယောက္ခမအိမ်သို့သွားပြီး အသေလိုနေခြင်းသည် မကောင်းပေ၊ (ရှေ့တွင် လာ ပေမည်၊) ထို့ကြောင့် ထိုကိစ္စကို ကူညီခြင်း အတည်ဖြစ်စေရန် လုပ်သော အလုပ်သည် လည်း မပိုင်ဖြစ်သည်၊ ကျွန်ုပ်ပြောချင်သည်၊ လူသားသည်ကျရှုံးလာသောကိစ္စအဝဝကို ခံကြသည်။

ကိုယ်တိုင်စဉ်းစားကြရန်အချက်မှာ အလျင်ကတစ်အိမ်လုံးတွင် သွားလာနေသည်၊ ယခုတစ်ခါတည်း ထောင့်တစ်ထောင့်တွင်၊ ထိုင်ခိုင်းလိုက်ကြသည်၊ ခံရသူမှာမည်သို့ နေမည်နည်း၊ ဤသို့ပင် ယောက္ခမအိမ်၌ တစ်ရက်၊ နှစ်ရက် ထိုင်နေရမည်၊ သာမက ထိုအိမ်၌ တစ်ရက်၊ နှစ်ရက်၏ ဒုက္ခဖြစ်သည်၊ ယခုမူကား ၁၀- ရက် ၁၂- ရက်ထိ အကျဉ်းချဒုက္ခပေးကြသည်။

တတိယ အဖြေ။

အကယ်၍ စုံးပူးမည်ကို ကြောက်ရွံ့၍ မထွက်ဟုဆိုပါက အိမ်ဥပစာလောက်ပင် ထွက်၍ အပြင်သို့ ထွက်ခွင့်မပေးဘဲထား၍ဖြစ်သည်၊ ထောင့်တစ်ထောင့်မှာ အကျဉ်းချထားပြီး ထမင်းစား၊ ရေသောက်ပင် မထရသည်မှာ ရယ်စရာဖြစ်ပေသည်၊ ဤသည်တို့မှာ လုပ်ဇာတ်ခင်းထားသော အကြောင်းပြချက်များ၊ အလဟဿ အဟောသိက စကားများဖြစ်လေသည်။

၃။ ဆတ္တာသည့်သည် စာယူခဲ့၍ သတို့သားအိမ်သို့ လာသောအခါ သားချင်းအမျိုးသမီးများက စုရုံး၍ စားသောက်ဖွယ် လင်ပန်းနှစ်ခု ပြင်ဆင်ကြသည်၊ လင်ပန်းတစ်ချပ်မှာ ဆတ္တာသည်အတွက်ဖြစ်ပြီး တစ်ချပ်က အရပ်သူ ကချေသည်များ အတွက်ဖြစ်ပေသည်၊ ဆတ္တာသည်အတွက် လင်ပန်းကို အပြင်သို့ပို့လိုက်သည်၊ ထိုအခါစုရုံးနေသော ယောကျ်ားများအနက် တစ်ယောက်က ဆတ္တာသည်ကို ကျေးဇူးတင်စကားပြောသည်။

၎င်း အရပ်သူများသည် အိမ်ပေါက်တွင်ထိုင်၍ ဓါးရေးသောသီချင်းများ သီဆိုကြသည်၊ဤအချက်များကိုဂရုတစ်စိုက်ပြုကျင့်ကြလေသည်၊ ဒုတိယမကောင်းသောအချက်မှာ အရပ်သူများကို သီချင်းသီဆိုခြင်းအတွက် အခပေးခြင်းသည် (ဟရာမ်) ကြီးလေးသော အပြစ်ဖြစ်လေသည်၊ သီချင်းသည်လည်း ဆဲရေးခြင်းများဖြစ်သည်၊ ထိုဆဲရေးခြင်းကပင် ဂိုနာဟ်ဖြစ်နေသည်၊ ဤသို့ပြုသူကို ဟဒီးသ်တော်မြတ်က (မို့နာဖွစ်က်) ဖြစ်ခြင်း၏ အထိမ်းအမှတ်ဟု ဆိုထားသည်။

ဤသည်မှာ တတိယ ဂိုနာဟ်ဖြစ်လေသည်၊ ထိုဂိုနာဟ်ကို နားထောင်သောသူအားလုံး ခံကြရမည်၊ အဘယ့်ကြောင့်ဆိုသော် အကြင်သူသည်ဂိုနာဟ်ပြုသောပရိသတ်တွင် ပါဝင်နေလျှင် ထိုသူလည်း ဂိုနာဟ်ဂါရ် ဖြစ်လေသည်။

စတုတ္ထမကောင်းသောအချက်မှာ... ယောကျ်ားများ စုရုံးကြခြင်းဖြစ်သည်၊ ဤသို့စုရုံးခြင်းကို အလွန်အရေးကြီးသည်ဟုဂရုတစ်စိုက်ထည့်သွင်းထားကြသည်၊ ဆတ္တာသည်ကို ကျေးဇူးတင် ထမင်းကျွေးရာ၌ ဤမျှ လူများအဘယ့်ကြောင့်လိုပါသနည်း။

ပဉ္စမ မကောင်းသောအချက်မှာ....အမျိုးသမီးများ စုရုံးခြင်းဖြစ်သည်၊ ထိုသို့စုရုံးခြင်း ဂိုနာဟ်ဖြစ်ကြောင်း သိခဲ့ကြပေပြီ။

၄။ ဆတ္တာသည့်,သည် ကျေးဇူးပြု ထမင်း စားသောက်ပြီးနောက် ၎င်းဆရာ၏ ခိုင်းစေချက်အရ လင်ပန်းတွင်တစ်ကျပ်၊ နှစ်ကျပ်စသည်ထည့်လိုက်ရသည်၊ ၎င်းမြင်ဤငွေကို သတို့သား၏ ဆတ္တာသည့်နှင့် အရပ်သူ ကချေသည်များကတစ်ဝက်စီခွဲယူကြလေသည်။

ဒုတိယ စားဖွယ် လင်ပန်းတစ်ချပ်ကို အရပ်သူကချေသည်များက ထိုအတိုင်းမိမိတို့အိမ်သို့ ယူဆောင်သွားကြလေသည်၊ ထို့နောက် သားချင်းများအတွက် ကျေးဇူးတင်သောသဘောနှင့် စားဖွယ်လင်ပန်းတစ်ချပ်စီဝေငှကြရပြန်သည်၊ဤသည်၌လည်း ရေယာပကာသန ထင်ပေါ်လိုမှုနှင့် အလွန်ဂရုတစ်စိုက်ပြုခြင်းများပါရှိသည်၊ထို့ကြောင့်ရှရီအတ်တရားတော်မြတ်နှင့် လုံးဝဆန့်ကျင်လေသည်။

၅။ နံနက်လင်းသောအခါ သားချင်း ယောကျ်ားများ စုရုံးကြ၍ ပြန်စာရေးကြသည်၊ ၎င်းဆတ္တာသည်အား အဖိုးတန်သော ဝတ်စုံနှင့် ငွေများ ၁၀၀၊ ၂၀၀ စသည်ဖြင့် ပေးကြသည်၊ ဤသို့ပေးခြင်းမှာ ရယ်စရာအလွန်ကောင်းလေသည်၊ ပထမ အဖြစ်ကဲ့သို့ ဤနေရာတွင် ပြရန်သက်သက်ပင်ဖြစ်သည်၊ ပေးသည်မှာ ၁၀၀-၂၀၀ ယူရသည်မှာ ၁-ကျပ်၊ ၂-ကျပ်၊ ထို့နောက် ဤသို့ရေယာ ပကာသန အဓိပ္ပါယ်ကင်းမဲ့သည့် အဟောသိက အလုပ်များအပြင် တစ်ခါတစ်ရံ ဤထုံးစံ ဖြစ်မြောက်ရန်အတွက် ငွေတိုးယူကြရသည်၊ ဤသည်မှာ သီးခြား ဂိုနာဟ်ဖြစ်သည်၊ ဤအကြောင်းအထက်တွင် ကောင်းစွာနားလည်အောင် ရေးခဲ့ပေပြီ။

၆။ ယခု ဆတ္တာသည့်,သည် သတို့သမီးအိမ်သို့ ရောက်သွားလေသည်၊ထိုအိမ်တွင် သားချင်းအမျိုးသမီးများ အစကတည်းကစုရုံးရောက်ရှိနေကြသည်၊ဆတ္တာသည့်,သည်မိမိအတွက်ပေးလိုက်သောဝတ်စုံကို ကြည့်ကြစေရန် အိမ်တွင်းသို့ ပို့လိုက်သည်၊ ထို့နောက် သားချင်းအိမ်တိုင်းစေ့ကို ထိုဝတ်စုံအား လှည့်လှည်ပြသကြသည်၊ ဤသည်၌လည်း အမျိုးသမီးများ စုရုံးခြင်း၊ ၎င်း (ရေယာ) ပကာသန ထင်ပေါ်ကြွားဝါသော မကောင်းမှုများ ပါဝင်နေသည်မှာ ထင်ရှားလေသည်။

၇။ ဤနေ့မှစ၍ သတို့သားအား (ဘတ်နာ) သနပ်ခါးသဘော လိမ်းကြသည်၊ ၎င်းလက်ထပ်မည့်နေ့ထိ အိမ်ရှိ အမျိုးသမီးများသည် သတို့သားအိမ်တွင် (ဘရီ) ခေါ် သတို့သားဘက်မှ သတို့သမီးဘက်သို့ ပေးရသော ပစ္စည်းများကို စီစဉ်ကြလေသည်၊ ၎င်းသတို့သမီးအိမ်တွင် (ဂျဟေးဇ်) သတို့သားဘက်သို့ ပေးရသောပစ္စည်းများ စီစဉ်ကြလေသည်။

ဤအချိန်၌ နှစ်ဘက်မှ ဧည့်သည်များသည် တစ်အိမ်အိမ်သို့မခေါ်ဘဲလာလည်လျှင်လည်း ၎င်းလာလည်သူများအတွက် လမ်းစရိတ် ပေးရလေသည်၊ ဤသည်၌ အမျိုးသမီးများသည်တစ်စုတစ်ရုံးကြီး တစ်ဘက်မှတစ်ဘက်သို့ သွားလာကူးလူးကြရန် အရေးကြီးသောအချက်တစ်ရပ် ပြုလုပ်ထားကြသည်၊ ထိုသို့လာကြသောအခါ ပေးလိုသည်ဖြစ်စေ၊ မပေးလိုသည်ဖြစ်စေ အောင့်သက်သက်နှင့် ပေးကြရလေသည်။

လာသောသူများက လမ်းစရိတ်ကို အိမ်ရှင်က ပေးရမည်ဟူ၍ စွဲစွဲမြဲမြဲ ယုံကြည်ထားကြသည်မှာ ရယ်ဖွယ်ကောင်းလေသည်၊ ဤသည်တို့မှာ အခမ့်ပြုခြင်းဖြစ်ပေသည်၊ (ရေယာ) ပကာသနနှင့် အတင်းအဓမ္မပြုခြင်းသည် 'ရှရီအတ်' တရားတော်မြတ်နှင့်ကွဲလွဲဆန့်ကျင်နေသည်မှာ ထင်ရှားလေ၏။

ဤသည်တို့ထက် လွန်ကဲသည်မှာ (ဘရီ) ယောကျ်ားလေးကပေးရသော ပစ္စည်းနှင့် (ဂျဟေးဇ်) မိန်းကလေးဘက်က ပေးရသောပစ္စည်းတို့ ဖြစ်ပေသည်၊ အမှန်မှာ ဤနှစ်ရပ်စလုံးသည် ပိုင်သည်၊ ရှင်းကောင်းမြတ်သော အပြုအမူပင်ဖြစ်သည်၊ သတို့သားနှင့် သတို့သမီးတို့ကို နှစ်ဘက်အုပ်ထိန်းသူများဘက်မှ လက်ဆောင်ပဏ္ဏာ ဖြစ်ပေသည်၊ (ဂျဟေးဇ်) သည် သား, သမီးများကို ကောင်းစွာဆက်ဆံခြင်း၊ ကျေးဇူးပြုခြင်းပင်ဖြစ်သည်။

သို့သော် အကြောင်းမဲ့ထုံးစံများ ပြုလုပ်ထားကြသဖြင့် မကောင်းမှုများ ပါဝင်နေသည်၊ ယခုမူကား လက်ဆောင်ပဏ္ဏာ ကျေးဇူးပြုခြင်းမဟုတ်တော့ဘဲ သက်သက်ထင်ပေါ်ကျော်ကြားစေရန်နှင့် ဂုဏ်တစ်စိုက်ပြုသည့် ထုံးစံသဘောသက်ရောက်သွားလေသည်၊ ထို့ကြောင့်ပင် (ဘရီနှင့် ဂျဟေးဇ်) ကို လူအများသိအောင်ပြ၍ ထင်ပေါ်စေ၍ပေးကြလေသည်။

(ဘရီ) သတို့သားဘက်က ပေးသော ပစ္စည်းကိုလည်း ရေးကြီးခွင့်ကျယ် လုပ်၍ပေးကြသည်၊ ပစ္စည်းများကိုလည်း သီးခြား၍ သတ်မှတ်ထားပေသည်၊ အိုးခွက်ကိုပင် မည်သည့် အမျိုးအစားဟူ၍ သတ်မှတ်ပြီး ပေးသော အချိန်ကိုပါ သတ်မှတ်ထားကြပေသည်။

အကယ်၍ လက်ဆောင်ပဏ္ဏာသဘော ပေးခြင်းဖြစ်ပါမူ ရှိသောအခါ တတ်နိုင်သည်ခန့် ဂုဏ်တစ်စိုက်မဟုတ်ဘဲ ထုံးစံသတ်မှတ်ခြင်းမပြုဘဲ လူသိအောင် ကြေငြာပြသခြင်းမပြုဘဲ ကရုဏာသက်သက်ဖြင့် ပို့ပေးကြရမည်။

ဤသို့ပင် (ဂျဟေးဇ်) သတို့သမီးဘက်မှ ပေးသော ပစ္စည်းကိုလည်း မည်သည့်ပစ္စည်းပါရမည်ဟူ၍ တစ်သီးတစ်ခြား သတ်မှတ်ထားကြပေသည်၊ အချို့နေရာများတွင် ထိုပစ္စည်းကို သားချင်းများကြည့်ကြရန်နှင့် ပေးရမည့်ရက်ကိုလည်း သီးခြား သတ်မှတ်ထားကြသည်၊ အကယ်၍ ဆွေမျိုးဆက်ခြင်းအတွက် လက်ဆောင်ပဏ္ဏာ ကျေးဇူးပြုခြင်းဖြစ်ပါမူ ရရှိသောအခါ တတ်နိုင်သည်ခန့်ပေးလျှင် ပြီးသွားလေသည်၊ ဤမျှရေးကြီးခွင့်ကျယ် လုပ်နေကြရန်မလိုပေ။

လက်ဆောင် ပေးခြင်းတွင် မည်သူမျှ ငွေတိုး၊ ရှင်းချေးငှား၍ မပေးကြပေ၊ ဤထုံးစံနှစ်ရပ်စလုံးကို သိုက်သိုက်မြိုက်မြိုက်ပြုလုပ်ရန်အတွက် မရှိသူကငွေတိုးချေးကြသည်၊ အိမ်၊ ရှင်းဥယျာဉ် ပေါင်ကြ, ရောင်းကြသည်၊ သို့ရှိရာ ဤသည်၌လည်း ဂုဏ်တစ်စိုက်

ပြုခြင်း၊ ပဏာသနထင်ပေါ်ကျော်ကြားလိုခြင်း၊ အပိုဖြုန်းတီးခြင်း စသည့် မကောင်းမှု များ ပါရှိလေသည်၊ ထို့ကြောင့် ဤသည်တို့လည်း မပြုလုပ်ပိုင်သော အချက်များ၌ပါဝင် သွားပေသည်။

၈။ (ဘရာတ်) နှောင်ချီမလှည့်မီ တစ်ရက်အလျင် သတို့သားဘက်မှ ဆတ္တာ သည်က သတို့သမီးထိုင်လာရမည့် အထမ်းယူသွားပြီး သတို့သမီးဘက်မှ ဆတ္တာသည်က သတို့သားဝတ်ရန် အဝတ်အစားများကို ယူဆောင်၍ သွားကြလေသည်၊ ဤသည်ကို (မန်ဒဟေ) နေ့ဟု ခေါ်ကြပေသည်။

ထိုနေ့တွင် သတို့သားအိမ်၌ သားချင်း အမျိုးသမီးများ စုရုံးကြပြီး သတို့သမီး အတွက် ဝတ်စုံကိုချုပ်ကြသည်၊ ထိုအမျိုးသမီးများကို ချုပ်ခအတွက် (ခေလီန်၊ဘတာ ရှေ့) မုန့်ချိုများကို ပေးကြလေသည်၊ ၎င်းအဆင့်အတန်းနိမ့်သူ အခိုင်းအစေများအား အလုပ်တစ်ခုတစ်ခုအတွက် (ပရ်ဝပ်တ်) တစ်ခုကျစီ ပေးကြလေသည်၊ ဤသည်ကို အလွန် ဂရုတစ်စိုက် ပြုကျင့်ကြလေသည်၊ ၎င်းအမျိုးသမီးများ စုရုံးခြင်းဖြင့် မြောက်မြားစွာ သော မကောင်းမှုများ ပေါ်ပေါက်လာပေသည်။

၉။ ဝတ်စုံယူလာသော ဆတ္တာသည်ကို ဝတ်စုံဝတ်ပေးပြီးနောက် ဆုအချို့ပေး ကြလေသည်၊ ထို့နောက် ဆတ္တာသည်၏ အမျိုးသမီးသည် ဤဝတ်စုံကို သားချင်းတို့၏ အိမ်တိုင်းစေ့သို့ပြသရန်ယူသွားသည်၊ ထိုည၌ သားချင်း အမျိုးသမီးများသည် စုရုံး၍ ထမင်းစားကြသည်၊ ဝတ်စုံကို လိုက်လံပြသခြင်းသည် (ရေယာ) ကြွားဝါခြင်းသာ ဖြစ်ကြောင်း ထင်ရှားပေသည်၊ ၎င်းအမျိုးသမီးများ စုရုံးကြခြင်း၏ အကျိုးအပြစ်ကို ကား သိပြီးကြပေပြီ၊ ဤအချက်တွင်လည်း ဂိုနာဟ် များစွာ စုစည်းလျက်ရှိပေ၏။

၁၀။ နံနက်လင်းသောအခါ သတို့သားကို ရေချိုးပေး၍ ဘုရင်ကဲ့သို့ ဝတ်စုံ ကောင်းကို ဝတ်ပေးကြသည်၊ ၎င်းဝတ်စုံကို ဖိနပ်ပါမကျန် ခေါင်းရိတ်သူကို ပေးကြ သည်၊ ၎င်း (ကျိုတီစဲဟ်ရေ) ကိုအခိုင်းအစေ နိမ့်ကျသူများအား ပေးကြသည်၊ အများ အားဖြင့် ဤဝတ်စုံ၌ 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သော အဝတ်များ ပါရှိ သည်၊ ၎င်း (စဲဟ်ရာ) ပန်းကုံးသည် ကာဖွင်ရ်တို့၏ ထုံးစံဖြစ်သည်၊ထို့ကြောင့်ဤ ဆည်ကို (ကျိုတီစဲဟ်ရေ) ဟုခေါ်ခြင်း အလွန်ရိုင်းပြသည်၊ ၎င်းကာဖွင်ရ်တို့၏ ထုံးစံနှင့် တူညီနေ သည်၊ ထို့ကြောင့် ဤသည်လည်း တရားတော်နှင့် ကွဲလွဲ ဆန့်ကျင်နေသည်။

၁၁။ သတို့သားကို အိမ်တွင်းသို့ခေါ်ယူကာ တူမများက (စဲဟ်ရာ) ပန်းကုံး ဆင်ပေးကြကာ ဆုယူကြသည်၊ ၎င်းအိမ်ရှိ အမျိုးသမီးများက ပိုက်ဆံအချို့ကိုသတို့သား ခေါင်းပေါ်တွင် ရစ်သိုင်း၍ ထိုပိုက်ဆံများကို အခိုင်းအစေ နိမ့်ကျသူများကို ဝေငှ ကြလေသည်။

သတ္တိုသားအိမ်တွင်းသို့ ရောက်လာသောအခါ အမျိုးသမီးများသည် (ပရ်ဒဟ်) အကာအကွယ်ပြုကြရန် ဂရုမစိုက်ကြတော့ပေ၊ ပရ်ဒဟ်ဖြင့် ဂရုတစ်စိုက် မနေကြသော အမျိုးသမီးများပင် သတ္တိုသားရှေ့မှောက်သို့ လာရပ်ကြသည်၊ သတ္တိုသားသည် ရှက်နေမည်ဖြစ်၍ မည်သူ့ကိုမှ ကြည့်မည်မဟုတ်ဟု ယူဆကြလေသည်၊ ဤသည်မှာအံ့သြဖွယ်ရာ အကြောင်းပြချက် မဟုတ်ပါသလော၊ သတ္တိုသားက ၎င်းတို့ကို ရှက်နေ၍ ကြည့်မည် မဟုတ်ဟု အဘယ့်ကြောင့် သိကြသနည်း၊ ယောကျ်ားများသည် စိတ်သဘောထား အမျိုးမျိုးရှိကြသည်၊ ယခုခေတ် အခါသမယတွင်မူကား ယောကျ်ားလေးများသည် များသောအားဖြင့် အတင့်ရဲကြသည်၊ အကယ်၍ သတ္တိုသားက ရှက်၍မကြည့်စေကာမူသင်မတို့က အဘယ့်ကြောင့် ထိုသူ့ကို ကြည့်ကြသနည်း။

အုမ်မေ့စလ်မဟ် (ရသွေ့) သခင်မက မိန့်တော်မူသည်မှာ.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံ ကျွန်မနှင့် မိုင်မူနဟ် (ရသွေ့)သခင်မတို့ရှိနေစဉ်၊ မျက်မမြင် ဖြစ်သော အစ်ဗ်နို့အုမ်မေ့မတ်ကဲတူမ် (ရသွေ့) သခင် ကြွလာရာ ကိုယ်တော်က ကျွန်မတို့ကို 'ပရ်ဒဟ်' အကာအကွယ်ပြုကြရန် အမိန့်ပေးတော်မူသောအခါ ကျွန်မတို့က ဤပုဂ္ဂိုလ်သည် မျက်မမြင် ဖြစ်ပါသည်ဟု လျှောက်ကြရာ ၎င်းက မမြင်သော်လည်း သင်မတို့က မြင်နေကြသည်ဟု မိန့်တော်မူလေ၏။

အဟ်မဒ်၊ တင်ရ်မေသီ၊ အဘူဒါဝူးဒ်ကျမ်း။

သိမှတ်ကြရန် အချက်မှာ....ဤနေရာတွင် နှစ်ဘက်စလုံးမှ စိတ်တွင်း၌ မကောင်းသော ကျူးလွန်မှုများ ဝင်လာစရာမရှိပေ၊ တစ်ဘက်မှရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်များ၊ အကြင် မြောက်သားတော်များသည် မွတ်စလင်မ်တို့၏ မိခင်ဖြစ်ကြသည်၊ တစ်ဘက်မှသူတော်စင် ဆွဟာဗီဖြစ်လျက် မျက်မမြင်ဖြစ်နေသေးသည်၊ ၎င်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ရှေ့မှောက်၌ ရှိနေပါလျက် ရှောင်ကြဉ်ကြရန် သော်လည်းကောင်း၊ အွမ္မတ်သားများကို သာဓကအနေဖြင့် ပြသောသဘောနှင့် သော်လည်းကောင်း၊ မြောက်သားတော်များကို (ပရ်ဒဟ်) ပြုစေတော်မူလေ၏။

ယခုခေတ် အခါသမယတွင် ဤသို့သော နှစ်ဘက်စလုံးမှ သူတော်စင်များ မဟုတ်ကြလေရာ ပို၍ပင် (ပရ်ဒဟ်) ကို ဂရုစိုက်ကြရမည် ဖြစ်ပေသည်။

ဟဒီးဆ်တော်မြတ်တွင် လာသည်မှာ.... ကြည့်သော သူမနှင့် အကြည့်ခံသောသူ အပေါ်မှာ 'လအ်နတ်' ရောက်ပါစေဟု ဟောတော်မူ၏။

အချုပ်မှာ....ဤသို့ ကြည့်ကြခြင်း၌ သတ္တိုသားရော အမျိုးသမီးများပါ ဂိုနာဟ် အပြစ် ဖြစ်ကြလေသည်၊ ထို့နောက် (စဲဟ်ရာ) မှန်းဆွဲခေါင်းပေါင်း ပေါင်းခြင်းသည် 'ရှရီအတ်' တရားတော်နှင့် ကွဲလွဲသောကိစ္စတစ်ရပ် ဖြစ်ပေသည်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့ပေါင်းခြင်းသည် ကာဖွင်ရ်များ၏ထုံးစံဖြစ်သည်။

ဟဒီးသ်တော်တွင်လာသည်မှာ....အကြင်သူသည် မည်သည့် ကာဖွင်ရ် အသင်းသား အုပ်စုတို့နှင့် တူညီအောင်ပြုလျှင် ထိုသူသည် ထိုသူတို့အထဲမှ ဖြစ်သည်။

ထို့နောက် မိမိတို့အတွက် အဓမ္မယူကြသည်၊ အမှန်မှာ တစ်ဦးတစ်ယောက်အပေါ် အဓမ္မပြုခြင်းသည်(ဟရာမ်)ဖြစ်သည်၊ သီးခြား၍ ဂိုနာဟ်တစ်ခုကျူးလွန်ကာ တစ်စုံတစ်ရာ ယူခြင်းသည် ပို၍ပင် ဆိုးရွားလေသည်၊ ၎င်းသတ္တိသား ခေါင်းပေါ်တွင် ပိုက်ဆံအချို့ ရစ်သိုင်းခြင်းသည်လာဘ်နိမိတ်ယူခြင်းတစ်မျိုးဖြစ်သည်၊ လာဘ်နိမိတ်ယူခြင်းသည်ရှစ်ရိက် ဖြစ်ကြောင်း ဟဒီးသ်တော်မြတ်တွင် လာရှိလေသည်၊ အချုပ်မှာ.... ဤကိစ္စများလည်း 'ရှရီအတ်'တရားတော်မြတ်နှင့် ဆန့်ကျင်ဘက်များ စုစည်းထားရာ ဖြစ်ပေ၏။

၁၂။ ထို့နောက် (ဘရာတ်) နောင်ချိုလှည့်ကြသည်၊ ဤသို့လှည့်ရန်ကို ရှာဒီ လက်ထပ်ပွဲအတွက် အရေးကြီးသော အချက်တစ်ရပ်ဟု ယူဆကြလေသည်၊တစ်ခါတစ်ရံ သတ္တိသားဘက်မှ တစ်ခါတစ်ရံ သတ္တိသမီးဘက်မှ လှည့်ရန်တောင်းဆိုကြသည်၊ အချုပ် မှာ.... ထင်ပေါ်ကျော်ကြား ကြွားဝါရန်အတွက်ပင်ဖြစ်သည်။

တစ်ချိန်က လမ်းများတွင် အေးချမ်းသာယာမှုမရှိ ဓားပြများမှစိုးရိမ်ကြောက် ရွံ့နေကြရ၍ သတ္တိသား၊ သတ္တိသမီး ၎င်း ရွှေ့ငွေပစ္စည်း စသည်များကို ထိန်းသိမ်း စောင့်ရှောက်ရန်အတွက် ဤကဲ့သို့ လူများလိုက်ပို့သောထုံးစံကို တီထွင်ခဲ့ဟန်တူပေသည်၊ ထို့ကြောင့် တစ်အိမ်ထောင်၏နောက်တွင် တစ်ယောက်ကျ လိုက်သွားကြသည်၊ သို့သော် ယခုခေတ်တွင်မူကား ဤသို့ပစ္စည်းများကို စောင့်ရှောက်ရန်အတွက် လိုက်ပါကြရန် လိုအပ်မှုမရှိပေ၊ သက်သက်ကြွားဝါ ဂုဏ်ဖော်ရန်အတွက်သာလျှင် ဖြစ်ပေသည်။

များသောအားဖြင့် ဖိတ်ခေါ်သည်က လူ ၅၀ သွားသည်က ၁၀၀ အမှန်မှာ တစ်ဦးတစ်ယောက်အိမ်သို့ မဖိတ်ခေါ်ဘဲသွားခြင်းသည် ဟရာမ် ဖြစ်လေသည်။

ဟဒီးသ်တော်မြတ်တွင် လာသည်မှာ.... အကြင်သူသည် (ဒအ်ဝပ်တ်) ကျွေးမွေးရာ တွင် မဖိတ်ခေါ်ဘဲသွားရောက်လျှင် သူခိုးအဖြစ်နှင့်သွားပြီး လုယက်သူ ဓားပြအဖြစ်နှင့် ပြန်လာခြင်းပင် ဖြစ်သည်။

နဇ်ဟတွန်နာဇ္ဇရီးန်ကျမ်း စာမျက်နှာ ၉၁။

ဆိုလိုသည်မှာ....ဤသို့မခေါ်ဘဲသွားစားခြင်းသည် ခိုးခြင်း၊ဓားပြတိုက်ခြင်းကဲ့သို့ အပြစ် ဂိုနာဟ် ကြီးလေသည်၊ ထို့နောက် တစ်ဘက်သားမှာ မလောက်မငြဖြစ်က ဂုဏ်သရေထိခိုက်လေသည်၊ တစ်ဦးတစ်ယောက်ကို ဂုဏ်သရေ ပျက်ပြားစေခြင်းသည်ဒုတိယမှ ဂိုနာဟ် ဖြစ်သည်၊ ထို့နောက် ဤသို့မခေါ်ဘဲ အပိုပါသွားကြသည့်အတွက် နှစ်ဘက် လူများမှာ များသောအားဖြင့် အငြင်းအခုံဖြစ်ကာ ရာသက်ပန် စိတ်ဝမ်းကွဲကျန်ရစ်တတ်

ပေသည်၊ အဘယ်ကြောင့်ဆိုသော် တရားတော်ကိစ္စမဟုတ်ဘဲ ယခုကဲ့သို့သော ကိစ္စများ အတွက်ကြောင့် မသင့်မတင့် ဖြစ်ကြခြင်းသည် ဟရာမ်ဖြစ်သည်၊ ထို့ကြောင့် မသင့် မတင့်ဖြစ်စေသော ကိစ္စကို ပြုမူခြင်းသည် ဟရာမ်ပင် ဖြစ်ပေ၏။

ထို့ကြောင့် ဤသို့သော အလဟဿ အဟေဝသိက ထုံးစံများကို အလျဉ်း မပြု လုပ်ပိုင်ပေ၊ ဘီရိုလှည်းများဖြင့် သွားလာသောအခါ ရထားဆရာများကို အမြန် မောင်းခိုင်းကြသည်၊ အမှန်မှာ အကြောင်းမဲ့ မိမိကိုယ်ကို ဒုက္ခတွေ့စေရန် ပြုမူခြင်း၊ မည်သို့မျှမပိုင်ပေ။

၁၃။ သတို့သားသည် မြို့ရွာရှိ ကဗရ် (ဒရ်ဂါ) တွင်သွား၍ ငွေအချို့တင်ခဲ့ကာ နောင်ချို (ဘရာတ်) လှည့်ရာတွင် လိုက်ပါသွားသည်၊ ကဗရ် (ဒရ်ဂါ) တွင် ပိုက်ဆံတင် ခြင်းတွင် (ဂျာဟင်လ်) လူမိုက်များတို့၏ 'အကီဒဟ်' ယူဆချက်သည် အမှန်တကယ်ပင်ရှစ်ရ်က် ဖြစ်ပေသည်။

အချို့ မသိနားမလည်သော သူအချို့တို့သည် ကဗရ် (ဒရ်ဂါ) တွင် ငွေတင်ခြင်း အပြင် ကဗရ်၏ ပတ်လည်ကို လှည့်ပတ်ကြသည်၊ ဤသို့ပတ်ခြင်းကို (တဝါဖ်)ဟု ခေါ်ကြ လေသည်၊ ဤသည်လည်း ရှစ်ရ်က် ဖြစ်သည်၊ ကုရ်အာန်အာယတ်တော်မြတ်တွင်ရှစ်ရ်က်ကို လုံးဝစွန့်လွှတ်ကြရန် အလ္လာဟ်အသျှင်မြတ်က ပြင်းပြင်း ထန်ထန် မိန့်မြွက် ထားတော် မူသည်။

ဝလ်ယတ်တောင်ဝဖွူ၊ အာယတ်တော်မြတ်ကို ကြည့်ခြင်းအားဖြင့် (တဝါဖွ်) လှည့်ပတ်ခြင်းသည် (စိုဂျူဒ်) စစ်ဂျ်ဒဟ် ဦးချသကဲ့သို့ ဖြစ်သည်၊ (အလ်အေဗာဒတ်၊ လာယကူနို့ အစ်လ္လာလစ်လ္လာဟ်) အလ္လာဟ်အသျှင်မြတ်မှတစ်ပါး မည်သူ့ကိုမျှ (အေဗာ ဒတ်) ခ ဝတ်ရန်မရှိ၊ ထို့ကြောင့် (အတ်တဝါဖိုလာယကူနို့၊ အစ်လ္လာ၊ လစ်လ္လာဟ်) တဝါဖွ် သည်လည်း အလ္လာဟ်အသျှင်မြတ် တစ်ပါးတည်း တစ်ဆူတည်းအတွက်သာလျှင် ဖြစ်သည်။

ဟဒီးသ်တော်မြတ်အရ အလ္လာဟ်အသျှင်မြတ်မှတစ်ပါးအခြားအရာများကို(တဝါ ဖွ်) လှည့်ပတ်ခြင်းသည် ရှစ်ရ်က် ဖြစ်ကြောင်း လာရှိသည်၊ ၎င်း (အစ်ဂျ်မာအွမ္မတ်) က လည်း ဤသို့ပင် ဆုံးဖြတ်ချက်ချထားသည်၊ အေဗာဒတ် သည် အလ္လာဟ်အသျှင်မြတ်မှ တစ်ပါး အခြားအရာများအတွက် အလျဉ်းမပိုင်၊ မွလ္လာအလီကာရီ (ရဟမတွလ္လာဟ်) သခင်ကလည်း မနာစစ်က် ကျမ်းတွင် ဤအတိုင်း ရေးသားထားတော်မူသည်။

ဆွိုရှိရာ (အို့စ္စူလေ့အရ်ဗအဟ်) အရ အလ္လာဟ်အသျှင်မြတ်မှတစ်ပါး အခြား အရာများကို တဝါဖွ် လှည့်ပတ်ခြင်းသည် ရှစ်ရ်က် ဖြစ်ကြောင်း သိထားကြရန် ထိုက် လေသည်။

အချို့သူများက တ္တဝါဖွ် ဿည့် ရှိသေသမှုကိုပြုခြင်းဖြစ်သည်၊ 'အောင်လေယာ' သူတော်စင်များကို ရှိသေသမှု တ္တဝါဖွ် ပြုနိုင်သည်ဟု မဆီမဆိုင် ဆင်ခြေပေးကြသည်၊ သိမှတ်ကြရန်မှာ.... ဤသို့ပြုခြင်းမပိုင်၊ အလ္လာဟ်အသျှင်မြတ်နှင့် သီးသန့်သက်ဆိုင်နေသောအခါ 'အေဗာဒတ်' မဟုတ်မှသာ သူတော်စင်များကို အရိုအသေ ပေးပိုင်သည်၊ အကြင် အရိုအသေပေးမှုသည် အေဗာဒတ် ဖြစ်နေလျှင် အလ္လာဟ်အသျှင်မြတ်မှ တစ်ပါး အခြားသက်ရှိသက်မဲ့များကို လုံးဝဥဿုံမပြုပိုင်ပေ၊ (လာတအ်ဗို့ဒူ၊ အင်လ္လာအိယာဟ်) သို့ရှိရာ အရိုအသေပေးခြင်းသည် နဗီရစူလ် ဖြစ်စေကာမူ ဟရာမ်၊ ၎င်းရှစ်ရ်က် ဖြစ်သည်။

(လတ္တာအေ့ဖေ့ ရှရီဒီယဟ်ကျမ်း စာမျက်နှာ ၁၈-တွင် ဤအကြောင်းများကို အကျယ်တစ်ဝင့် ဖတ်ရှုနိုင်ပေသည်။)

အသိဉာဏ် ရှိသူများသည် ဤကဲ့သို့ 'အကီဒဟ်' ယုံကြည်ချက်များမှ သန့်ရှင်းလွတ်ကင်းစေကာမူ ဤအလုပ်သည် ဂျာဟင်လ်တို့ အလုပ်ဖြစ်ကာ ပြုလုပ်ပါက ၎င်းတို့ကို အားပေးရာရောက်သဖြင့် ကိုယ်တိုင်ယုံကြည်ရာသို့လည်း ရောက်သွားမည်၊ ထို့ကြောင့် စွန့်လွှတ်ကြရမည်။

၁၄။ 'မဟင်န်ဒီ' ဒန်းဆိုးရန် လာသော ဆတ္တာသည်ကို သတို့သားကအခိုင်းအစေ နိမ့်ကျသူများကို ပေးရမည့် အခန့် ဆုပေးရလေသည်၊ ဆိုလိုသည်မှာ.... အခိုင်းအစေ နိမ့်ကျသူများကို ဤဆုထက် (၈) ဆပို၍ ပေးရလေသည်၊ ဤမျှငွေပေးရမည်ဟူ၍ အစကတည်းက သတ်မှတ်လိုက်ခြင်းသည် အဓမ္မ ဒဏ်တတ်သောသဘောပင် ဖြစ်သည်၊ ဤသို့အဓမ္မပေးစေခြင်းသည် ဟရာမ်ဖြစ်သည်၊ဤသို့ပေးစေခြင်းသည်လည်းဤအမိန့်၌ပင် ပါဝင်သည်၊ အဘယ့်ကြောင့်ဆိုသော် ဂိုနာဟ်ကိုပြုမည်ဟု ကြံရွယ်အားပေးခြင်းသည်ပင် ဂိုနာဟ် ဖြစ်ပေသည်။

၁၅။ ဒန်းဆိုးရန်ပစ္စည်းကို သတို့သမီးက ဆိုးပြီးသောအခါ ပိုသည်ကို ဝေငှလိုက်ကြသည်၊ ဤနှစ်ချက်စလုံးသည် အလွန်အရေးကြီးသော ဂရုတစ်စိုက် ပြုရမည့် အချက်တွင် ထည့်သွင်းထားကြလေသည်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့မပြုလျှင် မသင့်လျော် အပြစ်ဆိုဖွယ်ဖြစ်သည်ဟု ယူကြလေသည်၊ ထို့ကြောင့် ဤသည်လည်း တရားတော်မြတ်ထက် ကျော်လွန်နေသော အချက်ဖြစ်ပေသည်။

၁၆။ 'ဘရာတ်' နောင်ချိုလာမည့်ရက်တွင် သတို့သမီးအိမ်၌ အမျိုးသမီးများ စုရုံးကြလေသည်၊ အမျိုးသမီးများ စုရုံးကြခြင်း၏ မကောင်းမှုအပြစ်ဖြစ်သော အချက်များ အထက်တွင် သိခဲ့ကြပေပြီ။

၁၇။ အလုပ်တိုင်းတွင် (နေဂ်) လုပ်သားများကို ဆုပေးကြသည်၊ ဥပမာ... ဆတ္တာသည်က ကြေးအိုးအတွက် မီးဖိုပြုလုပ်ပြီးသောအခါ (နေဂ်) ဆုတောင်းလေရာ

လင်ပန်းတစ်ချပ်တွင် သီးနှံအချို့ ထည့်ပြီး ထိုအပေါ် ကြံသကာတင်၍ပေးလေသည်၊ ဤသို့ပင် အလုပ်ဟူသမျှတွင် ဒဏ်ပေးကြရလေသည်။

လုပ်သားများကိုပေးခြင်းသည် ကောင်းသောကိစ္စ ဖြစ်ပေသည်၊ ဆိုသော် ဤသို့ ရိုးမယ်ဖွဲ့၍နေရန်မလိုအပ်ပေ၊လုပ်အားအပေါ်တွင်တစ်ခါတည်းပေးလိုက်ရမည်၊ခဏခဏ အလီလီပေးနေခြင်းသည် ထင်ပေါ်ကျော်ကြားရန်အတွက်ပင် ဖြစ်ပေသည်။

ဤသို့ပေးခြင်းသည် သက်သက် ဆုလက်ဆောင် ပေးခြင်းလော၊ လုပ်ခအတွက် ပေးခြင်းလောဟူသည်ကို ကြည့်ရပေမည်၊ အကယ်၍ ဆုလက်ဆောင်ဖြစ်ခဲ့သော် ဤသို့ အဓမ္မယူခြင်းသည် ဟရာမ် ဖြစ်ပေသည်၊ ယူခြင်းဟရာမ်ဖြစ်သော် ပေးခြင်းလည်း ဟရာမ် ဖြစ်ပေသည်၊ ၎င်းအကယ်၍ လုပ်ခဖြစ်လျှင် လုပ်ခကို မလုပ်မီ အလျင်က မည်၍မည်မျှဟူ၍ သတ်မှတ်ခြင်းပြုရန် အရေးကြီးသည်၊မသတ်မှတ်သေးဘဲ ခိုင်းလျှင် (အေဂျာရဟ်ဖွာစစ်ဒ်) ဖြစ်သည်၊ ၎င်း (အေဂျာရဟ်ဖွာစစ်ဒ်) သည်လည်း ဟရာမ်ပင် ဖြစ်သည်။

၁၈။ 'ဘရာတ်'နောင်ချိုရောက်လာသောအခါရထားဆရာများကိုမြက်နှင့်အစာ များပေးရသည်၊၎င်းရထားမောင်းသူများကို ထောပတ်နှင့် ကြံသကာပေးကြရလေသည်၊ ထိုအခါ အချို့ရထားဆရာများသည် အတွက်ကျ မရကြသဖြင့် ဆူပွက်ကြသည်၊ ထိုသို့ ဆူပွက်မှုဖြင့် အိမ်ရှင်မှာ ဂုဏ်သရေ ပျက်ပြားရလေသည်၊ ဤသို့ ဂုဏ်သရေ ပျက်ပြား ရခြင်းသည် 'ဘရာတ်' နောင်ချိုပွဲလုပ်လာသူကြောင့် ဖြစ်ရသည်၊ မကောင်းမှုဖြစ်စေခြင်း သည်လည်း မကောင်းမှုပင်ဖြစ်ကြောင်း ထင်ရှားလေ၏။

၁၉။ 'ဘရာတ်' နောင်ချိုပွဲသည် တစ်နေရာသို့ ရပ်နားသောအခါ နှစ်ဘက် သားချင်းများရှေ့မှောက်တွင် (ဘရီ) သတို့သားဘက်က ပေးရသောပစ္စည်းများကိုဖွင့်ပြ ကြလေသည်၊ ဤသို့ ဂုဏ်ယူ ကြွားဝါရန်အတွက် လုပ်ဆောင်ခင်းကျင်းမှုများ၏ အဓိက အချက် ဖြစ်ပေသည်၊ ထို့ကြောင့် ဤထုံးစံများကို တရားတော်က တားမြစ်ထားခြင်း ဖြစ်ပေ၏။

၂၀။ ထို'ဘရီ'၌အချို့ပစ္စည်းများကိုမပါမနေရဟုသတ်မှတ်ကြသည်၊အကောင်း ဆုံးပတ်စုံ၊ ခြေကျင်း၊ မင်္ဂလာညဝတ်သောဝတ်စုံ၊ ရေမွှေး၊ သွားတိုက်ဆေး၊ စွရ်မာဘူး၊ ဘီး၊ ကွမ်း၊ ခေလီန်မုန့်ချိုများ၊ ၎င်းကျန်သော အရေးမကြီးသည့်ဝတ်စုံများကို ပါဝင် သရွေ့ တစ်ခုဘစ်ခုကျတွင် အိုးတစ်ခုကျစီ ပါဝင်လေသည်။

ဤကိစ္စရပ်များကို မပါမနေရ ဂရုတစ်စိုက်လုပ်ကိုင်နေကြခြင်းများသည်'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်ကြောင်း ထင်ရှားလေသည်၊ဤအကြောင်းကို ထပ်တစ်လဲလဲ ရေးခဲ့ပေပြီ၊ ၎င်း (ရေယာ) ပကာသန ကြွားဝါခြင်းတို့သည် အားလုံးသော ထုံးစံ များ၏ အဓိကအသက်ဖြစ်သည်၊ ဤသည်ကို ရေးနေရန် မလိုပေ။

၂၁။ ဤ(ဘာရီ)သတ္တိုသားဘက်မှ ပစ္စည်းများကိုယူဆောင်ရန်အတွက် သတ္တိုသမီးဘက်မှအခိုင်းအစေများက လင်ပန်းများယူ၍လာကြသည်၊ ၎င်းတစ်ဦးတစ်ဦးသည်ပစ္စည်းတစ်ခုကို ခေါင်းပေါ်တွင်ရွက်၍ ယူသွားကြသည်၊ ဤ(ရေယာ)ကြွားဝါမှုကိုကောင်းစွာထင်ပေါ်အောင် ပြုလုပ်နေကြသည်၊ ထိုပစ္စည်းများကို တစ်ယောက်တည်းယူသွားနိုင်သောပစ္စည်းဖြစ်မှုလည်း လူပေါင်းများစွာတို့သည်စီတန်း၍ယူဆောင်သွားကြသည်မှာကြွားဝါဂုဏ်ယူခြင်းပင်ဖြစ်ကြောင်း ထင်ရှားပေသည်။

၂၂။ သားချင်း ယောကျ်ားများသည် (ဘာရီ) နှင့် အတူ သွားကြသည်၊ ၎င်းသတ္တိုသမီး အိမ်ရောက်သောအခါ ပစ္စည်းများကို အိမ်တွင်းသို့ပို့လိုက်ကြသည်၊ ဤအချိန်များသောအားဖြင့် ယောကျ်ားများလည်း ဂရုမပြုဘဲ အိမ်တွင်းသို့ ဝင်သွားကြသည်၊ ၎င်းအမျိုးသမီးများနှင့် အကာအကွယ်မရှိဘဲ မျက်နှာချင်းဆိုင်မိကြသည်၊ ထိုနေ့၌ဂိုနာဟ်များနှင့် အရှက်ကွဲခြင်းပျက်ခြင်း၊ မည်သို့မည်ပုံ (ဟလာလ်) လုပ်ပိုင်ကြည့်ပိုင်သွားသည်ဟုယူဆကြခြင်းကို မပြောတတ်တော့ပေ။

၂၃။ ဤ(ဘာရီ)သတ္တိုသားဘက်မှ ပို့သောပစ္စည်းများမှ အကောင်းဆုံးဝတ်စုံနှင့်အချို့တစ်ဝက် ပစ္စည်းများကိုယူ၍ ကျန်ပစ္စည်းအားလုံးကို ပြန်ပေးကြသည်၊ ထိုပြန်ပေးသောပစ္စည်းများကို သတ္တိုသားဘက်မှသူများက သေတ္တာထဲထည့်၍ ယူကြသည်။

ပြန်ယူရမည်ဖြစ်မှု အဘယ့်ကြောင့် အကျိုးမဲ့ ဒုက္ခခံ၍ ပို့ကြသနည်း၊ အမှန်မှာထင်ပေါ်ကျော်ကြား ကြွားဝါရန်အတွက် သက်သက်မျှသာလျှင် ဖြစ်ပေသည်၊ ပြန်ယူမည်ကို သိထားလျှင် ထိုသို့ပို့ခြင်းတွင် ဉာဏ်ရှိသူများထံ မည်သည့်တန်ဖိုးဂုဏ်မှ မရှိပေ၊ တစ်ဦးဦးထံက ပစ္စည်းငှားရမ်းလာပြီး ပြန်ပို့ကာ အိမ်ပြန်ယူ၍ ပြန်ပေးလိုက်ခြင်းလည်းဖြစ်မည်၊ အများအားဖြင့် ဤသို့ဂုဏ်ယူကာ ငှားရမ်း၍ ပြုမူကြခြင်းလည်း ရှိသည်၊ အချုပ်မှာ အကျိုးမဲ့ အလဟဿ အဟောသိက အလုပ်များသည် 'ရှရီအတ်' တရားတော်နှင့်ဆန့်ကျင်သည်၊ ၎င်းဉာဏ်ရှိသူများလည်း လက်မခံနိုင်သော အချက်များ ဖြစ်ကြပေသည်၊ သို့သော်လည်း လူတို့က ဤသည်ကို အရှုးအမူးစွဲနေကြသည်။

၂၄။ (ဘာရီ) လင်ပန်း၌ သတ္တိုသမီးဘက်မှ တစ်ကျပ်၊ ၎င်းတစ်ကျပ် ၂၅-ပြားထည့်ကြသည်၊ ဤသည်ကို (ကျန်ဂီးရ်) ဟု ခေါ်ကြသည်၊ ၎င်းပိုက်ဆံသည် သတ္တိုသားဘက်မှ ဆတ္တာသည်ပိုင် ဖြစ်သည်။

ထို့နောက် ကချေသည်မတစ်ယောက်သည် ဖဲကြိုးယူ၍ သတ္တိုသားထံ သွားသည်၊ ပိုက်ဆံအနည်းငယ် ဆယ်ပြား,တစ်မတ် ထိုသူမအား ပေးရလေသည်၊ ဤသည်၌လည်းအလွန်ဂရုတစ်ဖိုက်ပြုခြင်း၊ ဆုငွေကို အဓမ္မမပေးချင်,ပေးချင် ပေးရခြင်းဖြစ်သည်၊ ကချေသည်မသည် အကြောင်းမဲ့ ငွေတောင်းကာ ဖဲကြိုးမှာလည်း အလဟဿ အလုပ် ဖြစ်ပေသည်။

၂၅။ (ဘရာတ်) နှောင်ချိုလှည့်လာသူများကို (နေကာဟ်) လက်ထပ်ရန် ခေါ်လေသည်၊ ယခုမှုပင် အဓိကအချက်သို့ ရောက်လေသည်၊ ဤသို့အလဟဿ အဟောသိက ကိစ္စများအတွက်ကြောင့် များသောအားဖြင့် နေကာဟ် လက်ထပ်ရန် နှောင့်နှေးသွားရလေသည်၊ အများအားဖြင့် မိုးလင်းသွားသည်၊ အိပ်ရေးပျက်ခြင်းကြောင့် အချို့မှာ နေမကောင်း ဖြစ်သွားသည်၊ အချို့မှာ အစာမကြေဖြစ်သွားသည်၊ အချို့သည် အိပ်ရေးပျက်၍ အအိပ်လွန်ကာ 'ဖဇ္ဇရ်နမာဇ်ကဇ္ဇာ' လွတ်သွားသည်၊ တစ်ခုတလေဆိုသော် အကျယ်ရေးပြနိုင်သည်၊ ယခုသော်ကား ခေါင်းမှခြေအထိ အမှားအယွင်းချည့် ဖြစ်နေပေ၏။ (အလ္လာဟ်အသျှင်မြတ် ၎င်းတို့အား သနားညှာတာတော်မူပါ။)

၂၆။ ပထမဦးစွာ ရေထမ်းသမားက ရေယူလာသည်၊ထိုသူ့ကို ၁-ကျပ် ၂၅-ပြား (ဘေရ်ဂရီ) အမည်တတ်၍ ပေးကြရသည်၊ ပေးလိုသည်ဖြစ်စေ၊ မပေးလိုသည်ဖြစ်စေ၊ ဇကာတ်ထက်ပင်ပို၍ ဖွရ်သ္ ိ သဘော သတ်မှတ်ထားကြ၍ မပေး၍ မဖြစ်ပေ။

အံ့ဖွယ်အချက်ပင်ဖြစ်သည်၊ ဆုကို အဓမ္မယူခြင်းသည် ဟရာမ်ဖြစ်သည်၊ တုတ်နှင့်ရိုက်ပြီး ယူသည်ကိုမှ အဓမ္မယူခြင်းမဟုတ်ပေ၊ တစ်ဦးဦးထံမှ ယူခြင်းသည်လည်း သဘောမတူက အဓမ္မယူခြင်းပင်ဖြစ်သည်၊ မပေးလျှင် နာမည်ပျက်ဂုဏ်ငယ်မည်၊ ၎င်းတောင်းသူကလည်း ငြင်းခုံ၍ မရမကတောင်းသည်၊ ခမျှာကလည်း ဂုဏ်သရေ ပျက်ပြားမည်ကို ကြောက်၍ ပေးရလေသည်၊ ဤသို့ပေးယူခြင်း အားလုံးသည် ဟရာမ် ဖြစ်သည်။

(ဘေရ်ဂရီ) သည် ဟင်ဒီစကားလုံးသာဖြစ်သည်၊ ကာဖွင်ရ်များ၏ထုံးစံကို အတုခိုးထားကြောင်း သိရလေသည်၊ ဤသည်မှာ ဒုတိယ မဟာအမှားတော်ပုံဖြစ်သည်။

ဤထုံးစံများအနက် အချို့ထုံးစံများသည် ကာဖွင်ရ်များ၏ ထုံးစံဖြစ်သည်။ လူတို့က ဟိန္ဒူများထံမှ အတုခိုးကြသည်၊ ဥပမာ.... (ဂန်ပနာနှင့် စဲဟ်ရာ) လည်ဆွဲ ခေါင်းအုပ် ပန်းဆွဲတို့ဆွဲခြင်း၊ ၎င်းအချို့ထုံးစံများသည် ကိုယ်တိုင်ပင် ဟရာမ် ဖြစ်နေသည်၊ ၎င်းအကြင်သူတို့သည် ဤထုံးစံများကို ကောင်းသည်ဟု ယူဆ၍ ပျော်ရွှင်စွာ လက်ခံကျင့်သုံးနေကြလျှင်၊ ထိုသူတို့ထက် သာပို၍ မကောင်းမှုဂိုနာဟ်ကို ကျူးလွန်သူကား မရှိတော့ပေ။ (အလ္လာဟ်အသျှင်မြတ် သနားတော်မူပါစေ။)

ဤသို့ပင် သူစိမ်းယောကျ်ားများသည် အိမ်တွင်းသို့ဝင်ကြရာ အမျိုးသမီးများကို ကြည့်၍အမျိုးသမီးများကလည်း၎င်းတို့ကိုကြည့်ကြသည် ၎င်းအမျိုးသမီးများနှင့်ကျီဆယ်ကြသည်၊ ဤသည်မှာ ဟရာမ် ဖြစ်လေ၏၊ ဤသို့ပင် စုန္နတ်တော်နှင့် ကွဲလွဲသောမြောက်မြားစွာ ကိစ္စအာဝကို ပြုကျင့်ကြသည်၊ ဥပမာ ရှာဒီလက်ထပ်ပွဲအလျှင် သားချင်းများကို ကျွေးမွေးခြင်း ပကာသန ဆင်ယင်ကျင်းပခြင်း စသည်များ၊ ၎င်းအပိုအကျိုးမဲ့ ဖြုန်းတီး

ကြသည်၊ ကုရ်အာန်ကျမ်းတော်မြတ်တွင် (အင်န်၊ နလ်မို့ ဗသ်သော့၊ ရီန၊ ကာ်နူ၊ အစ်ခ်ိဝါနတ်ရှယာတွ^န်) အပိုဖြန်းတီးသူများသည် ရှိုင်တွာန်၏ ညီများဖြစ်ကြသည်ဟုလာရှိထားပေသည်၊ အချုပ်မှာ-ဤသို့သော ထုံးစံအပေါ်ငြိးသည် ကုရ်အာန်၊ ၎င်းဟဒီးသ်တော်နှင့် ကွဲလွဲသော အချက်အလက်များ ဖြစ်ကြပေ၏။

၂၇။ ထို့နောက်တီးမှုတ်သူသည်(ရှရ်ဘတ်)ဖျော်ရည်ယမကာတိုက်ရန်လာသည်၊ ထိုသူ့ကို တစ်ကျပ် ၂၅-ပြားပေးရသည်၊ ဇဖျော်ရည်အတွက် သကြားကို သတို့သမီးအိမ်မှ ယူလာရသည်၊ ဤနေရာ၌လည်း ဆုကို အဓမ္မယူခြင်းမှာ ပေါ်လွင်နေသည်။

ဖျော်ရည် ဇဖျော်ရန်အတွက် တီးမှုတ်သူကို အသင့်လျော်ဆုံးဟုယူဆကြဟန်တူသည်၊ ဓာဂျာတီးရင်း လက်စိတ်တက်လာကာ ဖျော်ရည်သောက်သူများလည်း မူးယစ်လာရန်အတွက်ဟု ထင်သည်၊ ရယ်စရာအချက်မှာ မည်မျှပင် အေးသောရာသီ ဖြစ်စေကာမူ အအေးမိ၍ နှာစေးမည်ကို စိုးရိမ်ရသော်လည်း ရှရ်ဘတ် ဖျော်ရည်ကို မလွဲတိုက်ကြသည်၊ ဤသို့ ဉာဏ်မရှိခြင်းကို အသို့ဆိုရအံ့နည်း။

၂၈။ ထို့နောက် (ကာသ္ဒီ) ဆရာကိုခေါ်၍ နေကာဟ် ဖတ်ခိုင်းကြသည်၊ မကောင်းသော အလုပ်အားလုံးတွင် ဤတစ်ချက်သာ အကောင်းဆုံးဖြစ်ပြီး တရားတော်နှင့်ကိုက်ညီသည်၊ သို့သော်လည်း ဤကိစ္စတွင် များသောအားဖြင့် ဆရာလုပ်သူတို့သည် နေကာဟ်၏ မတ်စ်အလဟ်များကို မသိကြ၊ အချို့နေရာများတွင် နေကာဟ်ပင် မပိုင်၍ ရာသက်ပန် ဇနီးမောင်နှံ ဂိုနာဟ် ဖြစ်နေကြရသည်။

အချို့သောဆရာများသည် လောဘကြီးကြသည်၊ တစ်ကျပ်၊ ငါးမတ်ရ၍နေကာဟ် ပိုင်သည်ဖြစ်စေ၊ မပိုင်သည်ဖြစ်စေ၊ ခိုင်းသလို လုပ်ကြသည်၊ သေသူသည် ဂျန္နတ်သို့ ရောက်သည်ဖြစ်စေ၊ ဂျဟန္နမ်သို့ ကျသည်ဖြစ်စေ၊ မိမိအတွက် အချိုမုန့်ရဖို့ အရေးကြီးသည်ဟု ယူဆကြသည်။

ထို့ကြောင့် ဤအချက်ကို အလွန်ဂရုစိုက်ကြရန်ထိုက်သည်၊ နေကာဟ် ဖတ်ပေးသူသည် ကိုယ်တိုင် 'အာလင်မ်' ပညာရှင် ဖြစ်ရမည်၊ သို့မဟုတ် အာလင်မ် တစ်ပါးပါးအား မေးမြန်း၍ ဖတ်ပေးရမည်။

အချို့နေရာများတွင် နေကာဟ် မဖတ်မီ သတို့သားကို အိမ်တွင်းသို့ ခေါ်ယူကာ သတို့သမီးက (ပရ်ဒဟ်) လိုက်ကာ၏နောက်မှ လက်ထုတ်၍ လက်ပေါ် နှမ်း စသည်တင်ကာ သတို့သားကို ကျွေးလေသည်၊ စဉ်းစားရန်အချက်ပင် ဖြစ်သည်၊ ယခုနေကာဟ်ပင် မဖတ်ရသေးမီ သတို့သမီးလက်ကို သတို့သားရှေ့၌ အကြောင်းမဲ့ ထုတ်စေကြခြင်းသည် အလွန်ရှက်ဖွယ် ကောင်းလေသည်၊ (အို.....အလ္လာဟ်အသျှင်မြတ် ဤသို့သောအဖြစ်မှ လွတ်ကင်းစေတော်မူပါ။)။

၂၉။ ထို့နောက် သတို့သားဘက်မှသူများက 'စွန်မှလုံ' ခြောက် ပါလာသည်ကို ကြဲကြသည်၊ ဝေငှကြသည်၊ သို့တည်းမဟုတ်က ပူသောရာသီဖြစ်စေ၊ အေးသောရာသီဖြစ်စေ၊ ရှရိဘတ်ဖျော်ရည် တိုက်ကြသည်၊ ဤဖျော်ရည်ကို ဂရုတစ်စိုက် တိုက်ခြင်းအပြင် ဖြားနာအောင်ပြုခြင်းပင် ဖြစ်သည်၊ အချို့ရာသီ၌ ဖျော်ရည်သောက်ခြင်းဖြင့် ဖျားနာတတ်သည်၊ ဤအလုပ်သည် အဘယ်မှာလျှင် လုပ်ပိုင်အံ့နည်း။

၃၀။ ယခု သတို့သမီးဘက်မှ ဆတ္တာသည်က လက်ဆေးပေးသည်၊ ထိုသူ့ကို လက်ဆေးပေးခ တစ်ကျပ်၊ ၂၅-ပြား ပေးရသည်၊ ဤသို့ပေးခြင်းသည် အမှန်မှာ...ဆု ၎င်းကျေးဇူးပြုခြင်းဖြစ်သည်၊ သို့သော် ယခုပေးသူ ယူသူက မပေးမနေရသော ဆုဟု ယူဆကြသည်၊ ဤသို့ ပေးခြင်း ယူခြင်းသည် ဟရာမ် ဖြစ်ပေသည်။

အဘယ်ကြောင့်ဆိုသော် ကျေးဇူးပြုခြင်းကို အခမ့်ပြုခြင်းသည် ဟရာမ် ဖြစ်သည်၊ အထက်တွင်ရေးသားသကဲ့သို့ဖြစ်သည်၊ ၎င်းအကုယ်၍လုပ်အားပေးသည့်အတွက်ပေးခြင်းဖြစ်မူ ထိုသူသည် သတို့သမီးဘက်မှဖြစ်၍ သတို့သမီးဘက်ကသာ ပေးရမည်၊ သတို့သားဘက်နှင့် မည်သို့မျှ မသက်ဆိုင်ပေ၊ ဤသူသည် သတို့သား၏ ဧည့်သည်ဖြစ်သည်၊ တရားတော်နှင့် ဆန့်ကျင်သည်သာမက အသိဉာဏ်နှင့်လည်း ကွဲလွဲသည်၊ ဧည့်သည်အား ဧည့်ခံသူတို့က လုပ်သားများ၏နေ့တွက်လစာ အပေးခိုင်းခြင်းမှာ စဉ်းစားမရအောင်ဖြစ်သည်။

၃၁။ သတို့သားအတွက် သတို့သမီးအိမ်မှ (ရွှပ်က်ရာနာ) ထမင်းကျွေးသည်၊ ပန်းကန်ပြားတွင်ထည့်၍ (ဘရာတီ) သတို့သားနှင့် လိုက်ပါလာသော နောင်ချိုအဖွဲ့ကို ဝေငှသည်၊ ဤသည်၌ ဂရုတစ်စိုက်ပြုမှုခြင်းအပြင် 'အကီဒဟ်' ယုံကြည်ချက် ပျက်ပြားစေသော အချက်လည်း ပါဝင်သည်၊ အဓိပ္ပါယ်မှာ - (ရွှပ်က်ရာနာ) မကျွေးရလျှင် လာဘ်နိမိတ် မကောင်းဟု ယူဆကြသည်သာမက များသောအားဖြင့် ထုံးစံမှုခုးတွင် ဤသို့ 'အကီဒဟ်' ယုံကြည်မှု ထားကြလေသည်၊ ဤသည်မှာ ကိုယ်တိုင် ရှစ်ရိက် ဖြစ်သည်။

ဟဒီးသ်တော်မြတ်တွင် လာသည်မှာ....လာဘ်ကောင်း, လာဘ်ဆိုး ယူခြင်းတို့သည် မည်သို့မျှ ယုတ္တိရှိသော အလုပ်များ မဟုတ်ကြ၊ 'ရှရီအတ်' တရားတော်က ယုတ္တိမရှိဟု မိန့်ဆိုထားပါလျက် လူတို့က အရေးတယူပြုလုပ်နေကြခြင်းသည် 'ရှရီအတ်' တရားတော်ကို အတိအလင်း ဆန့်ကျင်ခြင်း မဟုတ်ပါသလော။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အစားပြန်လိုသော ကျွေးခြင်း၊ ၎င်းနာမည်ရလို၍ ကျွေးသောထမင်းကို မစားသုံးကြနှင့်။

(တပ်က်ဝေ့ယတွလ်အီမာန်ကျမ်း)

၃၂။ ထို့နောက် (ဘရာတီ) သတို့သားနှင့် လိုက်ပါလာသူများသည် ထမင်းစားပြီး ပြန်ကြသည်၊ သတို့သမီးအိမ်မှ သတို့သားအတွက် ဧည့်ခန်းတွင် ခုတင်ကို ပြင်

ဆင်မွမ်းမံ၍ ပို့ကြသည်၊ တစ်ညလုံး မြေပေါ်တွင်နေရပြီး ခုတင်ပို့သော အချိန်သည် အချိန်ကောင်းပင် ဖြစ်ပါသလော၊ အခင်းတွင် နေရ၍ နာကျင်ပြီးမှ ဖယောင်းချက် ပို့လေသည်၊ ယခုမှ အိပ်ရန်ခုတင်ပို့သည်၊ အစက သူစိမ်းတစ်ယောက်ပမာ ထားသည်။

အကယ်၍ သတို့သားသည် သွားမက် မဖြစ်သေးလျှင် ခေါ်ယူသော ဧည့်သည် မဟုတ်ပါသလော၊ ဧည့်သည်ကို ဂရုစိုက်ရန် 'ရှရီအတ်' တရားတော်အရဖြစ်စေ၊ အသိ ဉာဏ်အရဖြစ်စေ မထိုက်ပါသလော၊ ၎င်းသတို့သားနှင့် လိုက်ပါလာသူများသည် အိပ်စရာ ဘာမျှမရကြ၊ ယခုထိ မည်သူကမှ မေးမြန်းခြင်းပင် မပြုကြပေ၊ ထိုသူတို့လည်း ဧည့်သည်မဟုတ်ပါသလော။

၃၄။ ခုတင်ယူလာသော ဆတ္တာသည်ကို တစ်ကျပ်၊ ၂၅-ပြား ပေးရလေသည်၊ ခုတင်သည် ဤသို့ ဆုယူရန်အတွက် ယူလာကြောင်း သိရပေသည်၊ (အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏၊) ဤသည်၌လည်း ဆုကို အဓမ္မပြုကြောင်း သိရလေသည်။

၃၄။ လွန်ခဲ့သောညက (ရှပ်က်ရာနာ) ကျေးဇူးတင်ထမင်းကို လင်ပန်းတစ်ချပ် တွင်ထည့်၍ပို့ရာဘာရာတီအားလုံးဝိုင်း၍စားကြသည်၊ စားသောက်သူများမှာ အစာမကြေ သောရောဂါ ဖြစ်ချင်လျှင်ဖြစ်ပေ့စေ၊ ရှာဒီလက်ထပ်ပွဲ ကျင်းပသူများမှာမိမိတို့ထုံးစံကို ပြည့်စုံအောင် ပြုလုပ်ကြပေသည်၊ (ရှပ်က်ရာနာ) အကြောင်းပါရှိခဲ့သော နေရာတွင် ဤကိစ္စသည် တရားတော်နှင့် ကွဲလွဲကြောင်း ရေးသားခဲ့ပေပြီ။

၃၅။ စားဖွယ်ယူလာသော ဆတ္တာသည်ကို တစ်ကျပ်၊ ၂၅-ပြားပေးရလေသည်၊ ဆတ္တာသည်၏ ဘိုးဘေးက သတို့သား၏ ဘိုးဘေးကို ကြွေးငွေချေးထား၍ သတို့သားက ယခု ဆပ်နေရသည်၊ မဆပ်ပါက သတို့သား၏ ဘိုးဘေးသည် ဂျန္နတ်သို့ မဝင်ရဘဲ တမ်းလန်း ဖြစ်နေမည်ဟု ယူဆကြသည်၊ (လာဟောင်လ၊ အလိုမှာ.... အသျှင်မြတ် ကယ်တော်မူပါ။)

၃၆။ နံနက်တွင် 'ဘာရာတ်' နှင့်အတူလိုက်ပါလာသော ချေးကျုံးသူ၊ ဇာတ်နိမ့်သူ များက အတူယူဆောင်လာသော (ဒွဖ်) ကို သတို့သမီးအိမ်တွင် တီးကြသည်၊ 'ရှရီအတ်' တရားတော်မြတ်က နေကာဟ် ပြုသည်ကို ထင်ရှား လူသိကြရန် အတွက်သာ အသုံးပြုခွင့် ပေးထားလေသည်။

သို့သော် ယခုမူကား ဂုဏ်သရေမြင့်မားရန် ကြွားဝါရန်သက်သက် တီးကြခြင်း ဖြစ်သည်၊ ထို့ကြောင့် မလုပ်ပိုင်၊ ၎င်းစွန့်လွှတ်ကြရန် ထိုက်ပေသည်၊ နေကာဟ် ပြုကြောင်း လူတို့သိရန် အချက်အလက် မြောက်မြားစွာရှိလေသည်၊ ယခုမူကားအလုပ် ဟူသရွေ့တွင် လူဟိုစုရုံးကြသဖြင့် တစ်ရပ်လုံး, တစ်ရွာလုံး သိသွားကြသည်၊ ဤသို့သိသွား

ကြခြင်းပင်လျှင် လုံလောက်ပေ၏၊ အကယ်၍ ‘ဒွပ်’ နှင့်တကွ ပလွေလည်းပါမူ မည်သည့်နည်းနှင့်မှ မပိုင်ပေ၊ ဟဒီးသ်တော်မြတ်၌ တီးမှုတ်ခြင်း မကောင်းမှုဖြစ်၍ တားမြစ်ချက်များ လာရှိပေသည်။

၃၇။ သတို့သမီးဘက်မှ အညစ်အကြေးသိမ်းသူ၊ ဇာတ်နှိမ့်သူများသည် ‘ဘရာတ်’ တွင်ပါသော မြင်းများ၏ ချေးများကိုကျုံးကြသည်၊ နှစ်ဘက်မှ အညစ်အကြေး သိမ်းသူများကို ချေးကျုံးခြင်း သန့်ရှင်းအောင် ပြုခြင်းအတွက် ဆုအညီအမျှ ရရှိကြပေသည်၊ ဤသို့ ပြုလုပ်ခြင်းဖြင့် မည်သို့မျှ အကျိုးမသက်ရောက်ပေ၊ အညီအမျှပေးရလျှင် မိမိတို့ဘက်ကလူကို မိမိတို့ဘာသာ ပေးကြလျှင် ပြီးလေသည်၊ အကြောင်းမဲ့ သူတစ်ပါးအား ပေးစေခြင်းသည် အဓမ္မပြုသော ဂုနာဟ် ဖြစ်ပေသည်။

၃၈။ သတို့သမီးဘက်မှ သီဆိုကခုန်သော အမျိုးသမီးများက သတို့သားကို ကွမ်းကျွေးရန် လာကြသည်၊ ထုံးစံအရ ဆုငွေယူ၍ သွားကြသည်၊ သတို့သားခမျာကို ငွေပြန်ပါမသွားအောင် ကြေးပင်တင်သွားအောင် ဤနေမှာပင် လုယက် ယူငင်လိုက်ကြလေသည်၊ ဤနေရာတွင်လည်း အဓမ္မယူကြခြင်းပင်ဖြစ်၍ အဓမ္မယူသော ကိစ္စကို သတိပြုကြကုန်။

၃၉။ ထို့နောက် ဆတ္တာသည်မက သတို့သမီး၏ခေါင်းကို ဖီး၍ထုံးပေးသည်၊ ဘီးကို ခွက်တစ်ခုတွင်ထည့်၍ ယူသွားသည်၊ ထိုသူမကို ခေါင်းထုံးပေးခဟူ၍ဆုငွေပေးရလေသည်၊ သတို့သားခမျာသည် အားလုံး၏ ကြွေးရှိသူပမာ ဖြစ်နေ၍ ပေးရလေသည်၊ ဤနေရာတွင်လည်း အဓမ္မယူခြင်းပင် ဖြစ်သည်။

၄၀။ ထို့နောက် အခိုင်းအစေများ ဆုအတွက်သတို့သမီးဘက်မှစီစဉ်၍ သတို့သားဘက်သို့ ပေးရသည်၊ ထိုဆုကို ဝေငှသည်ဖြစ်စေ သတို့သမီးဘက်သို့ အားလုံးပေးသည်ဖြစ်စေ ပြုမူကြသည်၊ ဤသည်၌လည်း အဓမ္မပြုရာပင်ဖြစ်သည်၊ အဓမ္မပြုခြင်းသည် ဟရာမ်ဖြစ်ကြောင်း အကြိမ်ပေါင်းများစွာ ရေးသားပြီးခဲ့လေပြီ။

အချို့က ဆိုကြသည်၊ အခိုင်းအစေများသည် ဤသို့သော ရက်တွင် ဆုရရန် မျှော်ကိုးပြီး အခမဲ့ လုပ်ကိုင်ပေးခဲ့ကြသည်၊ ဖြေဆိုရမည်ဆိုလျှင် မိမိတို့ လုပ်ကိုင်ပေးသူထံမှဆုကို ရယူရမည်၊ လုပ်ကိုင်ပေးရသူမှာ တစ်ဦးဖြစ်ပြီး အခြားသူထံမှ ဆုတောင်းယူခြင်း အကျိုးမဲ့လုပ်ငန်းတစ်ရပ် ဖြစ်ပေသည်။

၄၁။ သတို့သားကို အိမ်တွင်းသို့ ခေါ်ယူကြသည်၊ အမျိုးသမီးများက(ပရ်ဒဟ်) မပြုကြ၊ အမျိုးသမီးများက ရှက်ဖွယ်လိလိ စကားများကို သတို့သားအား မေးကြသည်၊ ဤသို့ပြုခြင်းဖြင့် အရှက်ကင်းမဲ့ခြင်းနှင့် ဂုနာဟ် ဖြစ်ခြင်းမှာ ထင်ရှားပေသည်။

အချို့နေရာများ၌ သတို့သားကို သတို့သမီးအား ဤသို့ ပြောခိုင်းကြသည်၊ ကျွန်တော်သည် သင်မ၏ကျွန် ဖြစ်ပါသည်၊ သင်မသည် ကျွားဖြစ်၍ ကျွန်တော်သည် သိုး ဖြစ်ပါသည်။ (အေလာဟ၊ တောင်ဗဟ်) အလ္လာဟ်အသျှင်မြတ်က ခင်ပွန်းသည်ကို အုပ်ထိန်းသူ ဖြစ်ကြောင်း မိန့်မြွက်ထားသည်၊ ၎င်းသူမတို့က ကျွန်အစေခံ ဖြစ်အောင် ပြုနေကြသည်၊ ဤသည်တို့မှာ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ကွဲလွဲဆန့်ကျင်သော ထုံးစံများ မဟုတ်ပါသလော။

၄၂။ အကယ်၍အရက်ရှိသူများဖြစ်မူ သတို့သား၏ လက်ကိုင်ပုဝါကိုအိမ်တွင်းသို့ တောင်းယူကြသည်၊ ထိုအချိန်၌ စလာမီမှ ရသောငွေများကို (နယိုတေ) ကြေးသဘော လက်ဖွဲ့အဖြစ် သတို့သားကို ပေးကြသည်၊ ဤ(နယိုတေ)၏ ဂိုနာဟ်ဖြစ်ကြောင်း အထက်တွင် သိခဲ့ကြပေပြီ။

၄၃။ ထိုအထဲမှ အရပ်သူ ကချေသည် ၎င်း ဆတ္တာသည်မအတွက် ၅၀- ပြားခန့် ထုတ်ယူကြသည်၊ အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားတော်မူသော ဇကာက် ဒါနကြေး အပုံ ၄၀-ပုံ၊၁-ပုံကို ဤမျှ ဖွရ်သွ် အရေးကြီးသည်ဟု မယူဆ၊ လယ်မှထွက်သောပစ္စည်း၏ ၁၀-ပုံ ၁-ပုံကို ဤသို့ အရေးကြီး (ဝါဂျစ်ဗ်) ဖြစ်သည်ဟု မယူဆ၊ သို့သော် ထိုသူမတို့ အတွက် ဝေစုထုတ်ယူရန်မှာ ဖွရ်သွ်များထက် အရေးကြီးသော ဖွရ်သွ်တစ်ရပ်ဟု ယူဆ နေကြသည်၊ ဤမျှ ဂရုတစ်စိုက်ပြုမူကြခြင်း အကျိုးမဲ့ဖြစ်ပေသည်။

ဆတ္တာသည်မသည် ဝတ်ကြီး၊ဝတ်ငယ် ပြုသူမဖြစ်သည်၊ ကချေသည်မသည် ဘယ်အတွက် နေရာတိုင်းတွင် ဝေစုယူနေသနည်း၊ တီးမှုတ်သီဆိုခြင်းအတွက် ယူသည် ဖြစ်ပေမည်၊ သို့ရှိရာ သီချင်းဆိုခြင်း၊ တီးမှုတ်ခြင်းတို့သည် ဟရာမ် ဖြစ်ကြောင်း အခန်း (၁) တွင် လွန်ခဲ့ပေပြီ၊ ထို့ကြောင့် သီဆို၊တီးမှုတ်မှုအတွက် အခပေးခြင်း အဘယ်မှာလျှင် ပိုင်မည်နည်း။

အခကြေးငွေလည်း အိမ်ရှင်က ခေါ်သဖြင့် ညှော်ခံပွဲရှိသဖြင့်ပေးရသည်၊လာသော သူများထံမှလည်း အခမွှယူကြသည်၊ ၎င်းအကြင်သူသည် မပေးလျှင် သေးသိမ်သူဟု ယူဆကာ ကဲ့ရဲ့ပြစ်တင်ကြလေသည်၊သို့ရှိရာ ဤသို့သီချင်းသည် ၎င်းဤသို့အခပေးရခြင်းကို အဘယ့်ကြောင့် ဟရာမ် မဆိုရမည်နည်း။

အချို့သူများက ရှာဒီ မင်္ဂလာပွဲ၌သီချင်းဆိုခြင်းပိုင်သည်ဟုဆိုကြသည်၊ ၎င်းတို့၏ ယူဆချက်မှားသည်၊ ၎င်းပြင် အရပ်သူ ကချေသည်များသည် ပလွေဖြင့် သီဆိုကြသည်၊ ကျွန်ုပ်တို့၏ တရားတော်မြတ်က တားမြစ်ထားပေသည်၊ ထိုမိန်းမများ၏ အသံသည် ယောကျ်ားများ နားသို့ ရောက်သည်၊ သူစိမ်းယောကျ်ားက ဤသို့အသံကိုနားထောင်ခြင်း ဂိုနာဟ် ဖြစ်သည်။

အချို့ ကချေသည်မများသည် အပျိုများဖြစ်ကြ၍ ထိုသူမတို့၏အသံဖြင့် ပျက်စီးမှု ဖြစ်မည်ကိုပို၍စိုးရိမ်ရလေသည်၊ အဘယ့်ကြောင့်ဆိုသော် နားထောင်သူများ၏စိတ်သည် သန့်ရှင်းမှု မရှိပေ၊ သီချင်းကို နားထောင်ခြင်းဖြင့် မသန့်ရှင်းမှု ပိုများလာသည်၊ အချို့ အချို့ နေရာတွင် ဗုံလည်းပါလေသည်၊ ဤသည်မှာ ထင်ရှားသော ဂိုနာဟ်ဖြစ်သည်။

ထို့နောက်ညပိုင်းအများဆုံးသည်ဤသို့တီးမှုတ်သီဆိုခြင်းဖြင့်ကုန်လွန်စေကြသည်၊ ဖဂျ်ရ် နမာဇ်သည် များသောအားဖြင့် (ကဇွာ) ဖြစ်သွားကြသည်၊ သီဆိုသော သီချင်း များသည် တရားတော်နှင့် ဆန့်ကျင်သောစကားလုံးများ ပါတတ်သည်၊ ဤသို့သော သီဆို တီးမှုတ်ခြင်းများသည် အဘယ်မှာလျှင် ပိုင်မည်နည်း။

၄၄။ စားသောက်ပြီးကြသောအခါ (ဂျဟေးဇ်) သတို့သမီးဘက်က ပေးရသော ပစ္စည်းများကိုလူတို့စုရုံးရာ ရှေ့မှောက်သို့ ယူဆောင်လာကြသည်၊ ပစ္စည်းတစ်ခုကျစီကိုင်၍ လူတို့အား ပြသကြသည်၊ ဘယက်တန်ဆာပေးသော ပစ္စည်းစာရင်းကို ဖတ်ပြကြသည်၊ ဤကား သက်သက် (ရေယာ) ပကာသန ကြွားဝါခြင်းပင် မဟုတ်ပါသလော၊ ထို့ပြင် မိန်းမဝတ် အင်္ကျီ၊ လုံချည်၊ ဘောင်းဘီများကို ယောကျာ်းများအား ပြသခြင်းသည် အဘယ်မျှ ရှက်ဖွယ်ကောင်းဘိသနည်း။

အချို့က ဘာသာရေး လေးစားကြောင်း ပြသကြသည်၊ သော့ခတ်ထားသော သေတ္တာနှင့် ပစ္စည်းများစာရင်းကိုပေးသည်၊ ဤသည်၌လည်း ကြွားဝါမှု ပါဝင်သည်၊ (ဘာရာတီ) သတို့သားနှင့် လိုက်ပါလာကြသူများက သေတ္တာယူလာသည်ကို ကြည့်ကြသည်၊ အချို့က ပစ္စည်းစာရင်းကိုယူ၍ ဖတ်ကြသည်၊ ထို့နောက် သတို့သားအိမ်၌ စုရုံးနေကြသော ဧည့်သည်များကို ဖွင့်၍ ပြကြသည်။

ဤသို့သော အပြစ်များမှ လွတ်ကင်းရန် နည်းလမ်းမှာ (ဂျဟေးဇ်) သတို့သမီး ဘက်က ပေးရသောပစ္စည်းများကို အတူယူမသွားဘဲ နေရမည်၊အားလပ်သောအချိန်တွင် အေးဆေးစွာဖြင့် ပစ္စည်းတစ်ခုစီကို သတို့သမီးအားပြ၍ အပ်လိုက်ရမည်၊ သတို့သမီး သည် အလိုရှိသောအခါ ခွဲ၍ဖြစ်စေ၊ တစ်လုံးတည်းဖြစ်စေ ယူသွားစေရမည်။

၄၅။ တစ်ကျပ်၊ ၂၅-ပြား ကချေသည်များကို ဆုအဖြစ်(ဂျဟေးဇ်)၏ လင်ဗန်း တွင် ထည့်ပေးကြသည်၊ ဆုယူရာတွင် အဝှမ္မပြုခြင်း ဤနေရာ၌လည်း ပါဝင်နေသည်။

၄၆။ သတို့သမီးအား သတို့သားအိမ်သို့ပို့ရန် အချိန်ရောက်သောအခါ (မေယာနဟ်၊ ၎င်း ပါလကီ) အစီးအနင်း အိမ်ပေါက်သို့ ရောက်လာရာ သတို့သမီး၏ ဖခင် အစ်ကိုစသည်များကို သတို့သမီးခေါင်းပေါ်တွင် လက်တင်ရန် အိမ်တွင်းသို့ ခေါ်ယူကြ သည်၊ ထိုအချိန်၌ အမျိုးသားနှင့် အမျိုးသမီးများသည် မျက်နှာချင်းဆိုင် တွေ့သွား ကြသည်၊ ဤသို့တွေ့ခြင်းများ မကောင်းကြောင်း သိပြီးခဲ့ကြလေပြီ။

၄၇။ ထို့နောက် သတို့သမီးကို ခွဲခွာ၍ (ဒိုလေ) ထမ်းစင်၌ ထိုင်စေကြသည်၊ အသိဉာဏ်နှင့်ပင် ကွဲလွဲသော ငိုယိုမှုများ ပြုကြသည်၊ ခွဲခွာရမည်ကို ဝမ်းနည်း၍ ငိုခြင်းလည်း ဖြစ်နိုင်သည်၊ သို့သော် များသောအားဖြင့် ထုံးစံပြည့်စုံအောင် သမီးပျိုအိမ်တွင် ထားရသည်မှာ ဝန်လေး၍ ပျော်နေသည်ဟု အပြောမခံရလေအောင် ငိုခြင်းဖြစ်သည်၊ ဤသို့ ငိုယိုခြင်းသည် အကြောင်းမဲ့ဖြစ်ကာ အသိဉာဏ်နှင့်သော်လည်းကောင်း တရားတော်မြတ်နှင့်သော်လည်းကောင်း ကွဲလွဲသည်၊ ၎င်း ဂိုနာဟ် အပြစ်ဖြစ်လေသည်။

၄၈။ အချို့နေရာများတွင် သတို့သမီးကို ပွေ့ချီ၍ (ဒိုလေ) ထမ်းစင်တွင် သတို့သားအား တင်ခိုင်းကြသည်၊ လူအားလုံးရှေ့တွင် ပွေ့ချီ၍ တင်ရလေလည်း၊ အကယ်၍ သတို့သားခများ အင်အားနည်းနေမူ အစ်မ, နှစ်မ စသည်များက ဖေးမ, ကူညီကြသည်။

ဤသို့ ပြုမူခြင်းသည် ဣန္ဒြေကင်းမဲ့ခြင်း၊ ၎င်း အရှက်မရှိခြင်းအပြင် အများအားဖြင့် အမျိုးသမီးများနှင့် ယောကျ်ားများ မျက်နှာချင်းဆုံသွားကြသည်၊ အဘယ့်ကြောင့်ဆိုသော် သတို့သားက သတို့သမီးကို ပွေ့ချီသည်ကို ကြည့်လိုမြင်လိုကြ၍ ခိုင်းကြခြင်းဖြစ်သည်၊ တစ်ခါတစ်ရံ သတို့သမီးက ဝဖြိုးနေ၍ မနိုင်မနင်းဖြစ်ကာ သတို့သားလက်မှ လွတ်ကျသဖြင့် ဒဏ်ရာဒဏ်ချက်လည်း ရသွားသည်၊ ထို့ကြောင့် ဤထုံးစံများလည်း မပြုပိုင်ပေ။

သတို့သမီးအား သတို့သားက ပွေ့ချီရာတွင် သူစိမ်းအမျိုးသမီးများက (ပရ်ဒဟ်) မပါဘဲ သတို့သားအား လှောင်ပြောင် ရယ်ဘွယ်စကားများ ပြောဆိုကျီဆယ်ကြသည်၊ 'ရှရီအတ်' တရားတော်အရ သူစိမ်းယောကျ်ားနှင့် အမျိုးသမီးတို့သည် တရားတော်အရ အရေးကြီးသောစကားအပြင် မပြောမဆိုကြရပေ၊ အရေးကြီး လိုအပ်သောစကားကို ပြောသောအခါ အလဟဿ အဟောသိက စကားမပြောရ၊ ကျီဆယ်ခြင်းမပြုရ၊ စကားကိုလည်း ခပ်တိုးတိုးပြောရမည်။

အရွယ်မကုန်သေးသော အမျိုးသမီးကို 'စလာမ်' မပေးရ၊ ထိုအမျိုးသမီးပေးသော စလာမ်ကိုလည်း မပြန်ရဟု 'ဖွေကဟ်' ရှင်များက မိန့်မှတ်ထားပေသည်၊ ပွင့်ပွင့်လင်းလင်း မျက်နှာဆုံ စကားစမြည် ပြောဆိုကျီဆယ်ခြင်းသည် အဘယ်မှာ ပိုင်မည်နည်း။

(အစ်လာဟွရ်ရို့စူမ်ကျမ်း)

၄၉။ သတို့သမီး၏ ပဝါတစ်စတွင် ငွေအနုတ် အချို့၊ ၎င်းဒုတိယတစ်စတွင်နနွင်း၊ ၎င်းတတိယတစ်စတွင် (ဂျာအေဖလ်) ဇာတိပ္ဖိုလ်သီး၊ ၎င်းစတုတ္ထတစ်စတွင် ဆန်၊ ၎င်း မြက်ပင်ချီ နှောင်ကြလေသည်၊ ဤသည်မှာ လာဘ်နိမိတ် ယူခြင်းဖြစ်သည်၊ အကြင်အလုပ်သည် အသိဉာဏ်နှင့် ကွဲလွဲသည့်အပြင် ရှစ်ရ်က် ဖြစ်လေ၏။

၅၀။ သတ္တိသမီးစီးသော (ဒိုလေ) ထမ်းစင်တွင် မုန့်ချိုဗန်း ထားကြသည်၊ ဤမုန့်ချိုသုံးစွဲပုံကို ရှေ့တွင်သိရပေမည်၊ ထို့ကြောင့် ဤထုံးစံ၏အကျိုးမရှိ၍ တားမြစ်ထားခြင်းမှာ ထင်ရှားလေသည်။

၅၁။ ပထမ (ဒိုလေ) ထမ်းစင်ကို သတို့သမီးဘက်မှအထမ်းသမားများကထမ်း၍ သတို့သားဘက်က ထိုထမ်းစင်ပေါ်မှ ငွေကြဲကြသည်၊ အကယ်၍ ၎င်းတို့၏ ခေါင်းပေါ်မှ ဒုက္ခများ ကင်းဝေးသွားပြီဟု မှတ်ထင်ကြလျှင် (အကီဒဟ်) ယုံကြည်မှုတွင်ချို့ယွင်းချက်ဖြစ်လာသည်၊ သို့တည်းမဟုတ်က ကြွားဝါ နာမည်ရလို ထင်ပေါ်လိုမှုမှာ ထင်ရှားနေသည်။

အချုပ်မှာ- မည်သို့ပင်ဖြစ်စေ မကောင်းပင်ဖြစ်သည်၊ ထို့ကြောင့် ငွေကြဲသည်ကို ကောက်သူများသည် (ဘဟုန်ဂီ) မိလ္လာကျုံးသူ ဇာတ်နိမ့်များ ဖြစ်ကြသည်၊ ဤသို့ကြဲခြင်းဖြင့်(ဆွဒကဟ်၊ ခိုင်ရာတ်)လှူဒါန်းခြင်းလည်းမဖြစ်နိုင်ပေ၊ လှူလိုပါကတောင့်တသူ မရှိဆင်းရဲသားတို့အား ပေးလှူရမည်။

သို့ရှိရာ ဤသို့ပြုခြင်းသည် အလဟဿ သုံးခြင်း၊ မဆီမဆိုင်သုံးခြင်း ဖြစ်သည်၊ ထိုက်သက်သူများကို မပေးဘဲ မသက်ဆိုင်သူများကို ပေးနေသည်၊ အချို့လုရခြင်းကြောင့် ထိခိုက်ဒဏ်ရာရသွားသည်၊ အချို့မှာ ကျပ်ပြားရ၍ အချို့မှာ ပြားစေ့ ရကြသည်၊ ဤမကောင်းမှုမှာ သီးခြားဖြစ်သည်။

၅၂။ ကြဲသောငွေများမှ လက်တစ်ဆုပ် အထမ်းသမားများကို ပေးကြသည်၊ ထိုငွေသည် ဇာတ်နိမ့်များအတွက် ဖြစ်သည်၊ ဤနေရာတွင်လည်း အခမ့်ယူခြင်း မပိုင်ကြောင်း သိထားကြကုန်။

၅၃။ ငွေကြဲယင်း မြို့ပြင်သို့ရောက်သောအခါ အထမ်းသမားများသည် (ဒိုလေ) ထမ်းစင်ကို ဥယျာဉ်တစ်ခုတွင်ချ၍ ဆုငွေ တစ်ကျပ်၊ ၂၅-ပြား တောင်းခံ၍ သွားကြသည်၊ ဤနေရာတွင်လည်း ဆုကိုအခမ့်ယူခြင်းမှာ ပေါ်လွင်၍နေသည်။

၅၄။ သတို့သမီး၏ သားချင်း မိတ်သင်္ဂဟများသည် ထမ်းစင်နှင့်အတူ လိုက်လာရာမှ ပြန်သွားကြသည်၊ ၎င်း ထိုအချိန်တွင် ထမ်းစင်နှင့်အတူယူလာသော မုန့်ချိုဗန်းဖွင့်၍ လိုက်ပါကြသောသူများ အလုအယက် ယူငင်ကြသည်။

ဤသည်ကို ဂရုတစ်စိုက် ပြုလုပ်ကြခြင်းအပြင် များသောအားဖြင့် မသင့်တော်သော ကိစ္စများလည်း ပေါ်ပေါက်၍ သွားလေသည်၊ သူစိမ်းယောကျ်ားများသည် မဆင်မခြင် ထမ်းစင်တွင် လက်နှိုက်၍ မုန့်ချိုများကို ယူကြသည်၊ သတို့သမီးလက်နှင့် ထိမိမည်၊ (ပရ်ဒဟ်) အကာအကွယ် လစ်လပ်သွားမည်ကို ဂရုမစိုက်ကြပေ။

၎င်းပြင် အချို့အရှက်ရှိသော သတို့သား၊ သတို့သမီး၏ဆွေမျိုးများကမခံမရပ်နိုင်ကာ ခြကြိမ်းမောင်းငေါက်ငမ်းကြသည်၊ တစ်ခါတစ်ရံ ကောဂကျ၍ ခိုက်ရန်ဖြစ်ပွားကြသည်၊ သို့သော်လည်း ဤယုတ်ညံ့သောထုံးစံကို မလွှတ်ကြ၊ ခိုက်ရန်ဖြစ်သည်ကို ဂရုမစိုက်ကြ၊ စွန့်လွှတ်ရန်ကို ဝန်လေးနေကြလေ၏၊ (အင်န်နာ၊လစ်လ္လာဟော့၊ဝအင်န်နာ၊အော့လိုင်ဟော့၊ ရာဂျေအူန်။)

၅၅။ လမ်း၌ ပထမဆုံးတွေ့ရသော ချောင်းအိုင်အနီးတွင် အထမ်းသမားများက ထမ်းစင်ကိုချလိုက်ကြသည်၊ ဆုပေးမှ တစ်ဘက်သို့ကူးမည်ဟု ပြောကြသည်၊ ထိုဆုသည် အနည်းဆုံး တစ်ကျပ် ဖြစ်ပေသည်၊ ဤသည်ကို (ဒရ်ယာအွတ်ရာအီ) မြစ်ကူးခဟု ခေါ်ကြသည်၊ ဤသည်မှာ ဆုကိုအဓမ္မယူခြင်းပင် ဖြစ်သည်။

၅၆။ အိမ်သို့ ရောက်သောအခါဆုငွေ တစ်ကျပ်၊ ၂၅-ပြား မပေးမချင်းအထမ်းသမားများက ထမ်းစင်ကိုမချကြ၊ ဤသည်မှာ ဆုဖြစ်လျှင် အဘယ့်ကြောင့် အဓမ္မယူကြသနည်း၊ အကယ်၍ ထမ်းပိုးခဖြစ်လျှင် အခသဘောဖြစ်ရမည်၊ လက်ထဲတွင်ရှိသည်ကိုပေးလိုက်သည်၊ မည်သည့်အချိန်တွင်တောင်းမည် သတ်မှတ်၍ အတင်းယူခြင်းသည် ထုံးစံကိုပြည့်စုံအောင် ပြုလုပ်ခြင်းသာဖြစ်သည်၊ ဤသည်ကို အလွန့်အလွန် ဂရုတစ်စိုက် ပြုလုပ်ကြသည်ဟု ဆိုရပေမည်။

အကယ်၍ ထမ်းပိုးခဖြစ်လျှင် အစပထမကတည်းက သတ်မှတ်ကြရမည်၊သို့မှသာနောက်တွင် အငြင်းမဖြစ်မည်၊ အကယ်၍ ကျေးဇူးပြုခြင်း၊ ဆုပေးခြင်းသက်သက်ဖြစ်ပါမူ ပေးသူက ပေးလိုလျှင် ပေးမည်၊ မပေးလိုက မပေးဘဲနေမည်၊ အထမ်းသမားက အဓမ္မတောင်းယူပိုင်ခွင့်မရှိပေ။

၅၇။ အချို့နေရာတွင် ထုံးစံရှိသည်မှာ.... သတို့သား၏ သားချင်း ယောကျ်ားကလေးတစ်ယောက်က ထွက်လာပြီး၊ သတို့သမီး လိုက်ပါလာသော (ဒိုလေ) ထမ်းစင်ကိုတားဆီးသည်၊ ဆုမပေးမချင်း အိမ်တွင်းသို့မသွင်းရဟု ဆိုလေသည်၊ (ခဲဖိုးတောင်းသောသဘောဖြစ်သည်၊) ဤသည်ကိုလည်း ဂရုတစ်စိုက် ပြုလုပ်ခြင်းတွင် ပါဝင်ကြောင်း သိထားကြကုန်။

၅၈။ ထမ်းစင်မရောက်လာမီ အိမ်ဥပစာအလယ်၌ရှင်း၍ မုန့်ညက်ဖြင့် အိမ်ငယ်ကလေး ပြုလုပ်ထားကြသည်၊ ထမ်းစင်ကို ပထမထိုနေရာတွင် ချကြသည်၊ သတို့သမီးက လက်ညှိုးဖြင့် မုန့်ညက်ကလေးကိုထိုးပြီးမှ အိမ်တွင်းသို့ ခေါ်ဆောင်သွားကြသည်။

ဤသည်၌ ဂရုတစ်စိုက် ပြုလုပ်ကြခြင်းအပြင် လာဘ်နိမိတ် ယူခြင်းလည်း လုံးဝပါဝင်နေသည်၊ ၎င်း ကာဖွင်ရ်များ၏အလုပ်နှင့် တူညီနေသည်၊ ၎င်းစားဖွယ် မုန့်ညက်ကို မရှိမသေ မလေးစားရာရောက်လေသည်၊ ထို့ကြောင့် ဤလုပ်လည်း မပြုပိုင်ပေ။

၅၉။ အထမ်းသမားသည် (ဒိုလေ) ထမ်းစင်ကို ချ၍သွားကြရာ တုမများက သတို့သမီးကို ထမ်းစင်ပေါ်မှ ဆင်းခွင့်မပေးကြ၊ ဆုငွေပေးမှသာ ဆင်းခွင့်ပေးကြသည် သာမက အများအားဖြင့် တံခါးပင် ပိတ်ထားကြသည်၊ အခ, ၎င်းဒဏ်မဆောင်သရွေ့ သတို့သမီးကိုအိမ်တွင်းသို့ ဝင်ခွင့်မပေးဟူ၍သဘောသက်ရောက်နေပေသည်၊ ဤသည်လည်း ဆုယူရာ၌ အဓမ္မပြုခြင်းပင် ဖြစ်ပေသည်။

၆၀။ ထို့နောက် သတို့သားကိုခေါ်၍ (ဒိုလေ) ထမ်းစင်အနီးတွင် ရပ်စေကြသည်၊ ဤသည်ကို အလွန်ဂရုတစ်စိုက်ပြုမူကြသည်၊ ဤကိစ္စသည် လာဘ်နိမိတ် ယူခြင်း တစ်မျိုးဖြစ်ကာ 'အကီဒဟ်' ပျက်စီးကြောင်းသိရသည်၊ ၎င်းများသောအားဖြင့်ဤအခါ၌ (ပရ်ဒဟ်) ပြုသော အမျိုးသမီးများလည်း ဂရုမစိုက်တော့ဘဲ ရှေ့မှောက်တွင် လာရပ် ကြလေသည်။

၆၁ ။အမျိုးသမီးများသည် နံ့သာ၊ ၎င်းဒန်းကို ကြိတ်၍ယူသွားကြသည်၊ သတို့ သမီး၏ ယာဘက်ခြေနှင့် ဝမ်းဗိုက်ကို တစ်ပျောက်ကျစီ လူးကြသည်၊ ဤကိစ္စသည် လာဘ် နိမိတ်ယူခြင်းဖြစ်၍ ရှစ်ရိက် ဖြစ်သည်။

၆၂။ ဆီ၊ ၎င်းမတ်ပဲကို(ဆွဒကဟ်)ပြု၍ မိလ္လာကျုံးသူမ ဇာတ်နိမ့်သူကို ပေးကြသည်၊ ၎င်းခုတင်တိုင် ၄-တိုင်အရင်းကို ဆီဖြန်းကြသည်၊ ဤအကျိုးမဲ့ ကိစ္စတွင်လည်း 'အကီဒဟ်' ပျက်စီးမည့်အလုပ်ပင် ဖြစ်သည်။

'ဗိဒအတ်' တရားသစ်လုပ်ငန်းများကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် လွန်စွာရွံရှာစက်ဆုပ်တော်မူသည်၊ ဟဒီးသ်တော်တွင်လာသည်မှာ-(ဇွဟ်ကန်၊ ဇွဟ်ကန်၊ လေ့မန်ဂိုင်ယရ၊ ဗအ်ဒီ၊) ငါရစူလ် မရှိသည့်နောက် သာသနာတော်မြတ်တွင် အသစ် အဆန်း 'ဗိဒအတ်' တရားသစ် တီထွင်ကြသောသူများကို ငါရစူလ်မှ ဝေးပါစေ၊ ဝေးပါစေဟု မိန့်မြွက်ထားတော်မူသည်။

ဤသို့ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မောင်းနှင်ထုတ် ခံရခြင်းထက် လက်မဲ့ဖြစ် 'တမ်က်ဒီရ်' ဆိုးသူကားမရှိတော့ပေ၊အလ္လာဟ်အသျှင်မြတ်သည် မွတ်စလင်မ် အပေါင်းအား 'ဗိဒအတ်' တရားသစ်လမ်းမှားများမှ လွတ်ကင်းရှောင်ကြဉ်နိုင်သော စွမ်းအား ပေးသနားတော်မူပြီး ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ချမှတ်တော်မူခဲ့ သော လမ်းစဉ်အတိုင်း တသဝေမတိမ်း လိုက်နာဆောက်တည်နိုင်သောစွမ်းအား ပေး သနားတော်မူပါစေ။

၆၃။ ထိုအချိန်၌ ဆိတ်ထီးတစ်ကောင်ကိုဆိတ်ကျောင်းသားထံမှယူ၍သတို့သား ၎င်းသတို့သမီးဘက်မှ(ဆွဒကဟ်)လှူပြီး ထိုဆိတ်ကျောင်းသားကိုဆုငွေ ၁၀-ပြား၊တစ်မတ် ပေးလိုက်ကြလေသည်။

ဤသည်မှာ ရယ်ဖွယ်လုပ်ငန်းတစ်ရပ်ဖြစ်ပေသည်၊ ဆိတ်ထီးကိုဝယ်သည်ဖြစ်လျှင် တန်ဖိုးငွေကို အဘယ်မှာ ပေးသေးသနည်း၊ အကယ်၍ ၁၀၊ပြား၊တစ်မတ် နှင့်ပင် ဖြစ်လျှင် ဝယ်ယူကုန်၊ အကယ်၍ ဝယ်ခြင်းမဟုတ်မူ ထိုဆိတ်သည် ဆိတ်ကျောင်းသား၏ ဆိတ်ပင်ဖြစ်နေသည်၊ သို့ရှိရာ သူတစ်ပါး၏ ပစ္စည်းကို (ဆွဒကဟ်) လှူဒါန်းခြင်းသည် အဘယ်အဓိပ္ပါယ်နည်း။

ဤသည်မှာ ဟလ်ဝါ မုန့်ချိုဆိုင်တွင် နာနာကြီး၏ဖွာတေဟတ်ပမာ ဖြစ်နေသည်၊ ထို့နောက် (ဆွဒကဟ်) လှူရန် ဆိတ်ကျောင်းသားပင် သင့်လျော်ပါသည်လော၊ အချုပ်မှာ...စ္ဆုံး အကျိုးမရှိသော အလဟဿ လုပ်ငန်းရပ်ဖြစ်၍ ‘ရှရီအတ်’ တရားတော်မြတ်၏ ဥပဒေနှင့် လုံးဝဆန့်ကျင် ကွဲလွဲနေသည်။

၆၄။ ထို့နောက် သတို့သမီးကို ထမ်းစင်ပေါ်မှချ၍ အိမ်တွင်းသို့ ခေါ်ဆောင်သွားကြသည်၊ ၎င်းထိုင်ခုံ ဆိုဖါတစ်ခုပေါ်တွင်(ကစ်ဗ်လဟ်)အနောက်ဘက်သို့ မျက်နှာမူ၍ ထိုင်စေကြသည်၊ ထို့နောက် လင်မသေသေးသော အမျိုးသမီး (၇) ယောက်တို့က နို့ထမင်းအနည်းငယ်စီ သတို့သမီး၏ ညာလက်ပေါ်တွင် တင်ကြသည်၊ ပြီးနောက် ထိုတင်ထားသော နို့ထမင်းကို ထို (၇) ယောက်အနက် တစ်ယောက်က ပါးစပ်ဖြင့် လျက်လေသည်။

ဤထုံးစံသည် လာဘ်၊ ၎င်း‘ဖွာလ်’အတိတ်ယူခြင်း ရောနှော၍ ပေါ်ပေါက်လာခြင်းဖြစ်သည်၊ ဤသည်မှာ ‘အကီဒဟ်’ အယူဝါဒ ယုံကြည်ချက်ကို ပျက်စီးစေသော အရာဖြစ်သည်၊(ကစ်ဗ်လဟ်)အနောက်ဘက်သို့ မျက်နှာမူ၍ထိုင်ခြင်းမှာ ‘ဘရ်ကတ်’ ဖြစ်သောကိစ္စပင်ဖြစ်သည်၊ သို့သော် ဤမတ်စ်အလဟ်ပြဿနာတွင် ထိုမကောင်းသော ထုံးစံများ ပြုကျင့်ရန်အတွက်ပင် သက်သက်ဖြစ်နေသည်။

ရာသက်ပန် တစ်သက်လုံး နမာဇ်ဝတ်မပြုသော သူမဖြစ်နေစေကာမူ(ကစ်ဗ်လဟ်) ဘက်သို့မျက်နှာမူပြီးထိုင်ရန် ‘ဖွရ်သွ’ တာဝန်ထက် ပိုမိုအလေးထားကာ ဂရုစိုက်ကြပေသည်၊ ဤသို့မပြုလျှင် လာဘ်မကောင်းဟု ထင်မြင်ယူနေကြမူ ဤသည်လည်း ‘ရှရီအတ်’ တရားတော်ထက် လွန်းကဲသွားသော ကိစ္စတစ်ရပ်ပင်ဖြစ်သည်၊ ထို့ကြောင့်ဤသည်လည်း မပြုပိုင်ပေ။

အချို့နေရာများတွင် သတို့သားက သတို့သမီးကို ထမ်းစင်ပေါ်မှ ပွေ့ချလေသည်၊ ဤကိစ္စ၏ မကောင်းခြင်းများ အထက်တွင် ရေးခဲ့ပေပြီ။

၆၅။ ဤနို့ထမင်းကို လင်ပန်းနှစ်ချပ်ထဲတွင်ထည့်၍တစ်ချပ်ကို ကချေသည်များအား ပေးကြသည်၊ ကောင်းလေစွ၊ ကချေသည်မသည် နေရာတိုင်းတွင် ဝင်ရောက်ဆုယူ

နေသည်၊ ၎င်းတစ်ချပ်ကို ပိုက်ဆံ ၅၀-ပြား သို့မဟုတ် ၂-ကျပ်၊ ၅၀ပြားနှင့်အတူပေးကြသည်၊ ဤသည်အားလုံးသည် ဂရုစိုက်လွန်ကဲခြင်း၊ ထုံးစံပြုလုပ်ထားခြင်းနှင့် အလဟဿ အဟောသိက ကိစ္စရပ်များ ဖြစ်ကြပေသည်။

၆၆။ ထို့နောက် နို့ထမင်း ၈၀-သား၊ ၎င်းတစ်ပိဿာ၊ ၆၀-သားကို သားချင်းများအား ဝေငှကြသည်၊ ဤသည်မှာ ဂရုတစ်စိုက် ပြုလုပ်ခြင်းအပြင်(ရေယာ)ပကာသနကြွားဝါခြင်းသာလျှင် ဖြစ်ပေသည်။

၆၇။ ထို့နောက် အုပ်ထားသော သတို့သမီး၏မျက်နှာကို ဖွင့်ကြသည်၊ ပထမဦးစွာ ယောက္ခမ, အမ၊ ၎င်းအမျိုးထဲတွင် အသက်အရွယ် အကြီးဆုံးသော သူမက သတို့သမီး၏မျက်နှာကိုကြည့်ကာ မျက်နှာကြည့်ခ ဆုငွေပေးရသည်၊ ထိုဆုငွေကို သတို့သမီးအနီးတွင် ထိုင်နေသော သူမက သိမ်းသည်၊ ဤသည်ကို ပြင်းပြင်းထန်ထန် ဂရုတစ်စိုက်ပြုလုပ်ကြသည်၊ အကြင် သူမ၏ ထံတွင် မျက်နှာကြည့်ခ ပေးရန် ငွေမရှိလျှင် အလျင်းသတို့သမီး၏မျက်နှာကို ကြည့်ပိုင်ခွင့်မရှိပေ၊ အဘယ်ကြောင့်ဆိုသော် ကြည့်ခမပေးပါက ကဲ့ရဲ့ပြစ်တင်ခြင်းများ ခံရမည်ကို ၎င်းသူမသည် မည်သည့်နည်းနှင့်မှ ခံနိုင်ရည်မရှိပေ၊ အချုပ်မှာ....ဤကိစ္စကို (ဝါဂျစ်ဗ်) တာဝန်အမျှ သတ်မှတ်ထားကြသည်၊ ထိုသို့သတ်မှတ်ခြင်းသည် 'ရှရီအတ်' တရားတော်မြတ်၏ ဘောင်ထက် လွန်ကဲသွားခြင်း ဖြစ်ပေသည်။

ထို့နောက် သတို့သမီးအား မျက်နှာကို လက်အုပ်၍ နေရန် (ဖွရိသွ်) ပမာပြုမူထားကြခြင်းမှာ နားမလည်နိုင်အောင် ဖြစ်ဘိသည်၊ ၎င်း(ဖွရိသွ်)ပြုထားသည်မှာလည်း ဤသို့ အကယ်၍ သတို့သမီးတစ်ဦးဦးသည် ဤသို့မျက်နှာကို လက်အုပ်၍ မနေပါက သားချင်းများထံတွင် ဣန္ဒြေမရှိ၊ အရှက်မရှိ၊ အတင့်ရဲသူမဟု တင်စားခေါ်ဝေါ် သမုတ်ကြတော့မည် သာမက မှတ်စလင်မ်တစ်ဦး ကာဖွင်ရ် ဖြစ်သွားဘိအလား အံ့သြကြပေသည်၊ ဤသို့ အတိုင်းထက် အလွန်စည်းကမ်း သတ်မှတ်ကြခြင်းသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သည်, မဆန့်ကျင်သည်ကို ကိုယ်တိုင်စဉ်းစားကြည့်ကြလေကုန်။

ဤသို့ ရက်နေခြင်းကြောင့် များသောအားဖြင့်သာမက အားလုံးသော သတို့သမီးတို့သည် နမာဇ် သူ့အချိန်နှင့်သူ ဝတ်တက်မှုကို(ကဿ)ပြုကြသည်၊ အကယ်၍ အတူထိုင်နေသော အမျိုးသမီးက ဖတ်စေလျှင်သာ ဖတ်ကြရသည်၊ သို့တည်းမဟုတ်ပါက အမျိုးသမီးများလောကတွင် ကိုယ်တိုင်ထသွား၍ သော်လည်းကောင်း၊ အိမ်သည်တစ်ဦးဦးကို ပြောဆို၍သော်လည်းကောင်း နမာဇ်ဖတ်ရန် ပြင်ဆင်မှုပြုရန် အခွင့်မရှိပေ။

သတို့သမီးသည် ဟိုဟိုသည်သည် ရွှေ့လျားခြင်း၊ ပြောဆိုခြင်း၊ စားသောက်ခြင်း၊ အကယ်၍ ယားယံလျှင်ပင် အယားဖြောက်ခြင်း၊ အကယ်၍ သန်းချင်လျှင် အပြင်း

ကောချင်လျှင် သန်းရန် ကောရန်နှင့် ၎င်း အိပ်ချင်လျှင် လျောင်းလဲနေရန်၊ ကျင်ကြီး ကျင်ငယ် စွန့်ချင်လွန်းလျှင်လည်း ပြောပြရန်များကိုလည်း ထိုအမျိုးသမီးတို့ထံတွင် ဟရမ် သာမက ကွဖ်ရ်လောက်ပင် အပြစ်ကြီးသည်ဟု ယူဆကြသည်။

ထို့ကြောင့် သတို့သမီးသည် ကျင်ကြီးကျင်ငယ်စွန့်ချင်၍ ထသွားရမည်ကို ကြောက်ကာ ၎င်းအရှက်ရမည်ကိုစိုး၍ ၂-ရက်၊ ၄-ရက် အလျင်ကပင် အစားအသောက်များကို လျှော့ပေါ့စ်လိုက်လေသည်၊ သတို့သမီးခမျာက အဘယ်ပြစ်မှုကိုကျူးလွန်၍ အကျဉ်းချ ထောင်နှန်းစံစေသည်ကို အလ္လာဟ်အသျှင်မြတ်သာလျှင် သိတော်မူပေမည်။ မွတ်စလင်မ် တစ်ယောက်ကို အကြောင်းမဲ့ဒုက္ခပေးထားရာရောက်,မရောက် ကိုယ်တိုင်စဉ်းစားကြည့်သင့် ကြသည်၊ သို့ရှိရာ ဤကဲ့သို့ အကြောင်းမဲ့ ဒုက္ခပေးရာရောက်ပါက အဘယ်သို့ ပြုပိုင်ခွင့် ရှိမည်နည်း၊ မရှိ။

သိမှတ်ကြရန်မှာ နမာဇ်များ (ကသွာ) ပျက်ကွက်သွားခြင်း၊ ဂိုနာဟ်ပြစ်ဒဏ်ကို သတို့သမီးက ခံရမည်၊ ၎င်းသတို့သမီး နမာဇ်ပျက်သည့် ဂိုနာဟ်ပြစ်မှုနှင့်အညီ ဤထုံးစံကို ပြုလုပ်ကြသော အမျိုးသမီးများကလည်း ခံကြရဦးမည်၊ ထို့ကြောင့် ဤအကျိုးမဲ့ ထုံးစံ များကို ရပ်တန်းက ရပ်ကြရန် သင့်ပေသည်၊ ၎င်း အချို့ရပ်ရွာဒေသတွင် သားချင်း ယောကျ်ားများလည်း သတို့သမီး၏မျက်နှာကို ကြည့်ကြသော မလျော်ကန်သည့် ထုံးစံ ရှိလေသည်။ (အတ်စ်တဂ်ဖွေ့ရွလ္လာဟ်၊ ဝနအူသု ိ့၊ ဗစ်လ္လာဟ်)

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ... ကွလ်လို့၊ အိုင်နင် ဇာနေ့ယတ္တန်။ကြည့်ခြင်းသက်သက်ပင်(ဇနာ)ကာမေသုံဖြစ်သည်၊ယောကျ်ားသည်သတို့ သမီးကို ကြည့်ရန်လာလျှင် ယောကျ်ားက အမျိုးသမီးများကိုကြည့်ကြသည်၊ အမျိုးသမီး များက ယောကျ်ားကို ကြည့်ကြသည်၊ ပမာဆိုသော်.... နှစ်ဦးနှစ်ဘက်သည် ဂိုနာဟ် ပြစ်ဒဏ်၌ နစ်မွန်းသွားကြသည်၊ ဤသည်ကိုစွန့်ပတ်သက်၍ အထက်တွင် အတော်အသင့် ရေးခဲ့ပေပြီ၊ ဤသို့ ဂိုနာဟ်အပေါ် ဂိုနာဟ်ဆင့်သည့် ထုံးစံများမှ အမျိုးသမီးများကို ပြင်းပြင်းထန်ထန် တားမြစ်ကြရန် ထိုက်လေ၏။

၆၀။ အမျိုးသမီးအပေါင်းတို့သည် သတို့သမီး၏မျက်နှာကို ကြည့်ကြသည်၊ ထို့ နောက် တစ်ဦးဦး၏ကလေးကို ယူ၍ သတို့သမီး၏ ရင်ခွင်၌ ထိုင်စေကြသည်၊ ၎င်း မုန့်ချို ပေး၍ ကလေးကို ပြန်ယူကြသည်။

ဤသို့ပြုမူခြင်းကား အကျိုးမဲ့ လာဘ်,နိမိတ် ယူခြင်းဖြစ်သည်၊ သို့သော် ဤသို့ ပြုကြသော်လည်းအချို့အမျိုးသမီးများမှာ ရာသက်ပန် သားသမီးမရကြ၊ (တောင်ဗဟ်၊ တောင်ဗဟ်) အဘယ်မျှ မကောင်းသော ယူဆချက်များ ဖြစ်ဘိသနည်း။

၆၉။ ထို့နောက် သတို့သမီးကိုပွေ့ချီ၍ ခုတင်ပေါ် ထိုင်စေကြသည်၊ ပြီးနောက် ဆတ္တာသည်မက အမျိုးသမီး၏ ညာခြေမကို ဆေးကြောသည်၊ ၎င်းသတို့သမီး ပုဝါတွင်

ချီထားသော တစ်ကျပ်၊ ငါးမူး စသည်ကို ခြေဆေးခအဖြစ် ဆတ္တာသည်မကိုပေးကြသည်၊ ဤသည်လည်း လာဘ်နိမိတ် တစ်ခု ယူကြောင်း သိရလေသည်။

၇၀။ သတို့သမီး ရောက်ပြီးနောက် (ရှပ်က်ရာနဟ်) ကျေးဇူးတင် သဘောဖြင့် မုန့်ပွဲနှစ်ပန်းကန်ပြင်ဆင်ကြသည်၊ တစ်ပွဲမှာသတို့သမီးအတွက်ဖြစ်ပြီး၊ တစ်ပွဲမှာ သတို့သမီးနှင့် လိုက်ပါလာသော ဆတ္တာသည်မအတွက် ဖြစ်လေသည်၊ ထိုအချိန်၌ လင်မသေသေးသောအမျိုးသမီးများက မုန့်အချို့ သတို့သမီး မချိမဆန့်ဖြစ်စေရန် သတို့သမီး၏ပါးစပ်နှင့် ထိစေ၍ အချင်းချင်း ဝိုင်းဖွဲ့ စားသောက်ကြသည်၊ (ရှာဗားရ်... ကောင်းပေစွ၊ ကောင်းပေစွ) ဤသည် အားလုံးသည် လာဘ်နိမိတ်ယူကြောင်း သိရလေသည်။

၇၁။ ထို့နောက် သတို့သားဘက်မှ ဆတ္တာသည်မက သတို့သမီးဘက်မှ ဆတ္တာသည်မ၏လက်ကို ဆေးပေးသည်၊ ၎င်းဆတ္တာသည်မသည် ဆရာ၏ ပညာ အရည်အချင်းအလိုက် လက်ဆေးခအဖြစ် ပိုက်ဆံအချို့ ပေးသည်၊ ပြီးနောက် ထမင်းစားကြသည်၊ ဤသည်၌လည်း လွန်စွာဂရုတစ်စိုက်ပြုခြင်းနှင့် ဆုကို အစမ္မယူခြင်း၏ မကောင်းမှုများပါဝင်သည်။

၇၂။ ထမင်းစားသော အချိန်တွင် အရပ်သူ ကချေသည်များသည် ဆဲရေးမှုသီချင်းများသီဆိုကြသည်၊ (ဤတပ်က်ဒီရ် ဆိုးသောကောင်မများကို အသျှင်ရိုက်တော်မူပါစေ။) ၎င်း ထိုဆတ္တာသည်မထံမှ ဆုငွေ တောင်းယူကြသည်၊ (မာရှာအလ္လာဟ်) ဆဲရေးမှုလည်းခံရသည်၊ ဆုလည်းပေးရသည်၊ ဤသို့မိုက်မဲမှုမှာ ဆုံးခန်းပင် မရှိတော့ပေ။ (အလ္လာဟ်အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏။)

၇၃။ 'ဂျဟေးဇ်' သတို့သမီးဘက်က ပေးလိုက်ရသောပစ္စည်းများကိုဖွင့်ကြသော အခါ ဝတ်စုံတစ်စုံကို သတို့သမီးနှင့်ပါလာသော ဆတ္တာသည်မကိုပေးကြသည်၊ ၎င်းတူမအားလုံးက တစ်ဦးတစ်ဦးလျှင် ဝတ်စုံတစ်စုံကျစီခွဲဝေယူလိုက်ကြသည်၊ ဤသို့အစမ္မယူခြင်းသည် အဘယ်မျှ ဆိုးဝါးဘိသနည်း၊ လက်ခံသည်ဖြစ်စေ၊ လက်မခံသည်ဖြစ်စေ ကျွန်ုပ်သင့်အိမ်၌ ညှော်သည့်အဖြစ် စားသောက်မှာဘဲ ဟူသကဲ့သို့ ဖြစ်နေသည်။

ဤသို့ယူခြင်းမှာ အစမ္မမဟုတ်၊ အားလုံးက လက်ခံကြသည်ဟု တစ်ဦးသောသူက ဆိုမှုအဖြေမှာ ရှင်းနေသည်၊ မယူနှင့်ဟုတားလျှင် အားလုံးက ကပ်စေးနဲသည်ဟု ဆိုကြမည်ကို ကြောက်နေရကား အစမ္မယူသည်ကို လက်ခံနေရခြင်းမှာ အတည်မဖြစ်ပေ၊ သူခိုးခိုးသွားလျှင် လက်ပိုက်၍ တိတ်ဆိတ်စွာနေရသည်၊ မတရားသူက ပစ္စည်းလုယူသွားလျှင် ကြောက်၍မပြောဘဲ နှုတ်ငုံ နေရသည်၊ ဤသို့ အစမ္မ မတရားယူသည်ကို လက်ခံနေရခြင်းဖြင့် မည်သူ၏ပစ္စည်းမှ (ဟလာလ်) ပိုင်ဆိုင်မှု မဖြစ်ပေ။

ဤသို့ပင် အချို့နေရာ၌ထိုးစံတစ်ခုရှိသေးသည်၊ 'ဂျဟေးဇ်'ပစ္စည်း၌ ပိုက်ဆံအိပ်၊ ၎င်းတောင်းဘီခါးစီးကြိုးနှင့် ချုပ်လုပ်ရန် စစ္စည်းများ ထည့်ထားသောအိပ်များ ပါရှိလေသည်၊ ထိုပစ္စည်းများကို သတို့သား၏ တူမများက အချင်းချင်း ခွဲဝေယူကြသည်၊ သတို့သမီးဘက်က ရောက်သည့်အတွက် သတို့သမီးကိုလည်း ပေးကြသည်။

၇၄။ ညအချိန် ရောက်သောအခါ နှစ်ကိုယ်တည်း လွတ်လွတ်လပ်လပ် နေရမည်ဖြစ်သော်လည်း အချို့ အရှက်မရှိသော အမျိုးသမီးများသည် နှစ်ကိုယ် နေသည်ကို ချောင်းမြောင်းကြည့်ရှုကြသည်၊ ဟဒီးသ်တော်၏ဟောတော်မူချက်အရ ဤသို့ပြုခြင်းဖြင့် (လအ်နတ်) ကျိန်ဆဲခံရသူများတွင် ပါဝင်လေသည်။

၇၅။ နံနက်တွင် ရှက်ဖွယ်ကိစ္စတစ်ခုကိုပြုကြပြန်သည်၊ ညားစမောင်နှံ အိပ်သောအိပ်ရာခင်း စသည်များကိုကြည့်ကြသည်၊ အချို့နေရာများတွင် ဤထက်ဆိုးသေးသည်၊ ဆတ္တာသည်မကို တစ်အိမ်လုံးလှည့်လည်စေ၍ အတွင်းအကြောင်းများကို လေ့လာစူးစမ်းစေကြသည်၊ တစ်ဦးတစ်ယောက်၏အတွင်းရေးကိုစူးစမ်းခြင်းသည် လုံးဝ ဟရာမ်ဖြစ်သည်၊ သီးခြား၍ ဤသို့ရှက်စရာကောင်းသည့်ကိစ္စကို ပေါက်ကြားသွားပါက မည်မျှ ရှက်ဖွယ်ကောင်းသည်ကို လူတိုင်းအသိပင်ဖြစ်ကြသည်၊ သို့သော် ဝမ်းနည်းစရာကောင်းသည်ကား ထိုသို့အသစ်စက်စက်မောင်နှံများနှင့်ပတ်သက်၍ မည်သူမျှမလိုလားအပ်ဟုမယူဆကြပေ။ (အလ္လာဟ်အသျှင်မြတ် ကယ်တော်မူပါ။)

၇၆။ 'အတ်စွ်ရိန်နှင့်မဂ်ရစ်ဗ်' နမာဇ်၏ အကြားအလည်တွင် သတို့သမီး၏ခေါင်းအုပ်ထားသည်ကို ဖွင့်ကြသည်၊ ထိုအချိန်၌ အရပ်သူများ သီဆိုကြသည်၊ ၎င်း ထိုသီဆိုသော သူမများကို ၁-ကျပ် ၂၅-ပြား၊ ၎င်း ၅၀-ပြား၊ ၂-ကျပ် ၅၀-ပြားကို (မာန်ဂ်ဘဟာရာအီ၊ ၎င်းစရ်ကဟ်လာအီ) အမည်တပ်၍ပေးကြသည်၊ ဤသည်၌လည်း ဂရုစိုက်လွန်းခြင်း၊ ၎င်း အခပေးလွှဲမှားမှု၏ မကောင်းခြင်းများ ပါရှိသည်။

၇၇။ သတို့သမီးရောက်လာပြီး နောက်ရက်တွင် သတို့သမီး၏ ရင်းချာဆုံးသော အမျိုးသမီးများသည် မြင်းလှည်း ၂-စီး၊ ၄-စီး၊ ၎င်း မုန့်ချို စသည်များယူ၍ လာကြသည်၊ ဤသို့လာခြင်းကို (ကျိုထီ) အမည်တပ် ခေါ်ဝေါ်ကြသည်၊ ဤသည်၌လည်း ဂရုစိုက်လွန်းခြင်းများ ပါဝင်သည့်ပြင် ဤထုံးစံသည် ကာဖွင်ရ်များ၏ ထုံးစံဖြစ်သည်၊ ၎င်းကာဖွင်ရ်များနှင့် တူညီအောင်ပြုမူခြင်းကို 'ရှရီအတ်' တရားတော်မြတ်က မပြုရဟု တားမြစ်ထားတော်မူပေသည်။

၇၈။ သတို့သမီး၏ အစ်ကို၊ မောင် စသည်များကို အိမ်တွင်းသို့ခေါ်ယူကြသည်၊ ထိုယောကျ်ားများသည် သတို့သမီး၏ သီးခြား အခန်းထဲ၌ ထိုင်ကြသည်၊ များသောအားဖြင့် ဤသူသည် နေကာဟ်ပိုင်သူ (နာမဟ်ရမ်) များလည်း ပါရှိသည်၊ သို့သော်

ဤသည်ကို ဂရုမပြုကြပေ၊ ဓနကာဘာဟ်ပိုင်သူနှင့် နှစ်ကိုယ်ကြားအခန်းထဲ၌ထိုင်ခြင်း၊ သီးခြား၍ ဖီးလိမ်းဆင်ယင်ထားချိန်တွင် ဂိုနာဟ်ဖြစ်သည့်ပြင် ရှက်ဖွယ်ကောင်းပေသည်။

ထိုသူသည် သတိသမီးကို ငွေအချို့ပေးသည်၊ ၎င်း မုန့်ချိုကျွေးသည်၊ ထို့ပြင် (ကျူထီ၊ခေါ် ဝတ်စုံနှင့်အတူ ဆီ၊ ရေမွှေး၊ ၎င်းအခိုင်းအစေ ဇာတ်နိမ့်သူများသုံးစွဲရန် အိမ်ဘွင်းသို့ ပို့လိုက်ကြသည်၊ ဤသည် အားလုံးသည် ဂရုစိုက်လွန်းခြင်းတွင် ပါဝင်လေသည်။

၇၉။ ဆတ္တာသည် လက်ဆောင်ပေးရန် လာမူ၊ မိမိအတွက် လက်ဆောင်ပေးခ ဆု ၁-ကျပ် ၂၅-ပြား၊ အနည်းဆုံး ၂၅-ပြားကိုယူလေသည်၊ ဤသို့ ဖွရ်သွင် မပြုမနေရ သတ်မှတ်ထားကြခြင်းကို နားမလည်အောင်ရှိလှသည်၊ အလ္လာဟ်အသျှင်မြတ်အား ခ,ဝပ်ရန် ဝတ္တရားနှင့် လူလူချင်းတို့၏ ဝတ္တရားကျေပွန်ရန်တို့ကို ဆိုင်းငံ့လျှင် ဆိုင်းငံ့ထားမည်၊ သို့သော် ဤလုပ်ကြံထားသော တာဝန်၊ အမှန်မှာ တာဝန်မဲ့ လုပ်ငန်းကို လစ်ဟင်းမှု မရှိစေအောင်ပြုကြသည်၊ သာမကမစား မီယူကြသည်၊ အကြွေးပမာ ပေးပြီးမှ စားကြလေသည်။ (အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏။)

ဩွှသည်များထံမှ အဖိုးအခယူပြီးမှကျွေးမွေးခြင်းသည်အသိတရားခေါင်းပါးသူတို့၏အလုပ်သာလျှင် ဖြစ်ပေသည်၊ ဤသို့ ပြုမူကြခြင်းသည် ဂရုတစ်စိုက် ပြုလွန်းခြင်း၊ ၎င်း 'ရှရီအတ်' တရားတော်မြတ်၏ တောင်စည်းကမ်းထက် ကျော်လွန်သော လုပ်ရပ်များသာ ဖြစ်ပြီး ဆုကို အဓမ္မယူခြင်းလည်း ပါဝင်နေသည်။

၈၀။ ထမင်း သုံးဆောင်ကြသောအခါ အရပ်သူများက တံခါးဝတွင် ထိုင်၍ ဆဲရေးမှုပါသော သီချင်းများကို သီဆိုကြကာ ဆုယူကြသည်။

ဤသို့ ယူသူ-ပေးသူများသည် ရှက်ဖွယ်ပင်ကောင်းလှသည်၊ ဆင်းရဲတောင့်တသူများက ကျိုးယေ်၍တစ်မျိုး၊ဒိုအာဆုမွန်တောင်းပေး၍တစ်ဖုံ တောင်းရမ်းကြသော်လည်း တစ်ပြားမှမပေးဘဲ၊ ဤယုတ်ညံ့သောသူမများ၏ဆဲရေးမှုကိုနားထောင်ကာ ပေးကြသော ထုံးစံသည် မကောင်းသော ကိစ္စကြီးပင်ဖြစ်သည်၊ ကျွန်ုပ်တို့နိုင်ငံမှ ဤထုံးစံ ပျောက်ကွယ်သွားပါစေသော်ဝ်။

၈၁။ နောက်နေ့တွင် (ကျူထီ) ခေါ် ဝတ်စုံကိုဝတ်ပေးပြီး သတို့သမီးအိမ်မှ အတူပါလာသော မုန့်ချိုများနှင့် တကွ ပြန်သွားကြသည်။

'မာရှာအလ္လာဟ်' ဤမုန့်ချိုကိုယူလာပြီး ထိုမုန့်ချိုကိုပင် ပြန်ယူသွားကြခြင်းမှာ အဘယ်အကျိုးရှိသနည်း၊ မင်္ဂလာဆောင်အိမ်ကို ထွတ်မြတ်သည်ဟု ယူဆကာ မုန့်ချိုယူလာပြီး ထိုမုန့်၌ 'ဘရိကတ်'ဖြစ်စေရန် ပြုလုပ်ကြခြင်းနှင့်တူပေသည်၊ စဉ်းစားရန်အချက်မှာ ထုံးစံကို ဂရုတစ်စိုက် ပြုလုပ်ချင်ကြဇောနှင့် အသိဉာဏ်ပင်ခေါင်းပါးကုန်ကြသည်၊ ဂရုတစ်စိုက်ပြုလုပ်ခြင်း၏ ဂိုနာဟ်နှင့် စွပ်စွဲခံရခြင်း၏ ဂိုနာဟ်မှာ တစ်ခြားစီရမည်။ -

၈၂။ ၎င်းသတို့သမီးနှင့်အတူ သတို့သားလည်း လိုက်ပါသွားသည်၊ သွားသော အခါ သတို့သမီးသည် သတို့သားအိမ် လာသောအခါ ပုဝါလေးဒေါင့်တွင် ချီနှောင် ယူလာသောပစ္စည်းများ ပြန်လည် ချီနှောင်ထုံး၍ ယူသွားလေသည်၊ ဤသည်လည်း အကျိုးမဲ့ အလုပ် ၎င်းလာဘ်နိမိတ်ယူသော ဂိုနာဟ် ဖြစ်သည်။

၈၃။ သတို့သမီး အိမ်သို့ရောက်သောအခါ ဆင်းပြီးနောက် ဆတ္တာသည်မက သတို့သမီး၏ ညာလက်မကို ဆေးသည်၊ ဆေးခကို ပုဝါတွင် ချီထုံးထားသော ၅၀-ပြား သို့မဟုတ် တစ်ကျပ်ကို ယူလေသည်၊ ထိုလာဘ် နိမိတ် ယူခြင်းလည်း ဤနေရာတွင် ပါဝင်သည်။

၈၄။ သတို့သားသည် အိမ်တွင်း ဝင်သွားမှု ခယ်မများက ဖိနပ်ကိုဝှက်ကြ၍ ဖိနပ်ဝှက်ခအဖြစ်အနည်းဆုံး တစ်ကျပ်ယူကြသည်၊ (ကောင်းပေစွ၊ ခိုးပြီး ပြောင်းပြန် ဆုချကြသည်၊) ပထမမူကား အကျိုးမဲ့ ရယ်မောကြသည်၊ တစ်ဦး၏ပစ္စည်းကိုယူသည်၊ ဝှက်သည်။

ဟဒီးသ်တော်တွင် ဤသို့ မပြုကြရန် တား မြစ် ချက် များ လာရှိ လေသည်၊ ထို့နောက် ရယ်မောခြင်းသည် ကျီဆယ်မှု အလုပ်တစ်ခု ဖြစ်သည်၊ ဤသို့ကျီဆယ်မှုဖြင့် ၎င်းနှီးမှု ဖြစ်လာသည်၊ သူစိမ်းယောကျ်ားနှင့် ဤသို့ ဆက်ဆံ ပတ်သက်ခြင်းသည် 'ရှရီ အတ်' တရားတော်နှင့် ဆန့်ကျင်သည်၊ ထို့နောက် ဆုကို ရကိုရ, ရမည်ဟု ယူဆခြင်းလည်း အဓမ္မယူခြင်း၊ ၎င်းတရားတော်၏ဘောင်စည်းဝိုင်းထက် ကျော်လွန်ခြင်းဖြစ်သည်၊ အချို့ နေရာများတွင် ဖိနပ်ကိုတော့မဝှက်၊ သို့သော် ဆုပေးရခြင်းများရှိသည်၊ ဤသည်တို့သည် အကျိုးမဲ့လုပ်ငန်းများဖြစ်လေ၏။

၈၅။ အချို့မြို့,ရွာများတွင် ဤသည်ထက် ဆိုးသော (ကျီထိ) ကစားမှုပြုကြ လေသည်၊ ဤကစားခြင်း၌ ဂူရွေ့မရှိခြင်း၊ အရှက်ကင်းမဲ့ခြင်းများသည် အတိုင်းထက် အလွန်ဖြစ်ပေသည်၊ ကျီထိကစားမှု၌ပါဝင်သော အမျိုးသမီးများသည် ၎င်းတို့ခင်ပွန်း များက သိလျက်နှင့် မတားကြသဖြင့် ခေါင်းကြားဖြစ်ကြသည်၊ ၎င်း ကာဖွင်ရ် တို့နှင့် တူညီအောင်ပြုခြင်း ဖြစ်သည်။

ဤသည်အားလုံးအပြင် တစ်ခါတစ်ရံ တုန်လှုပ် ချောက်ချားမှု ဖြစ်စေသော ထိခိုက်ဒဏ်ရာအနာတရ ဖြစ်ကြပေသေးသည်၊ ဤသည်၏ ဂိုနာဟ်ကိုသီးခြားခံကြရဦးမည်။

၈၆။ သတို့သား လာသောအခါ ထိုအိမ်ရှိ ဆတ္တာသည်,သည် သတို့သား၏ ညာခြေမကိုဆေး၍ တစ်ကျပ်နီးပါးခန့် ဆုယူလေသည်၊ ၎င်းကျန်ငွေကို ဇာတ်နိမ့်သူအခိုင်း အစေများကို ပေးကြသည်၊ ဤသည်အားလုံးသည် လာဘ်နိမိတ်ယူခြင်း၊ ၎င်းဂရုစိုက် လွန်းသောအချက်များ၌ ပါဝင်လေသည်။

ဤအဖြစ်အားလုံးတွင် ဆတ္တာသည်အတွက် ဆုကိုအားလုံးထက် ပိုမိုရထိုက်သည်ဟု ယူဆကြလေသည်၊ ဤသည်တို့သည် ဟိန္ဒူတို့၏ ထုံးစံများ ဖြစ်ကြပေသည်၊ ထိုသူတို့၏ ထုံးစံ၌ ဆတ္တာသည်၏ အခွင့်အရေးသည် အားလုံးထက် ပိုများသဖြင့် အလေးပေး ဂရုစိုက်ကြသည်၊ အသိဉာဏ်ကင်းမဲ့သော မွတ်စလင်မ်တို့က အခွင့်အရေးများကို ထိုသူတို့ ထံမှယူသည်၊ သို့သော် အခ ကြေးငွေအဖြစ် များစွာသောဒေသများ၌ မတရားယူခြင်း ပေးခြင်းများ သတ်မှတ်ထားကြလေသည်၊ ဤသို့ပြုကြခြင်းဖြင့်'ရှရီအတ်'တရားတော်အရ ပိုင်ဆိုင်မှုပေါ်ပေါက်မလာပေ။

၈၇။ စားသောက်ရန် အချိန်ကျရောက်လာသောအခါ သတို့သား ခမျာသည် နှုတ်ခမ်းစူ၍ထိုင်နေသည်၊ ချော့မော့၍ စားခိုင်းသော်လည်းမစား၊ ရသင့်ရထိုက်သောဆုကို မရမချင်း မစားဟု ဇွတ်ကိုင်နေသည်၊ (စွဗ်ဟာနလ္လာဟ်) ဉာဏ်မရှိသောအလုပ်ဖြစ်သည်၊ ကျေးလည်း ကျေးရသေးသည်၊ မူရာမာယာလည်း များနေသည်၊ ဤမလျော်ကန်သော ကိစ္စ၌ ဋ္ဌနွေ၊ အရှက်၊ ဉာဏ်၊ ယဉ်ကျေးမှုများကိုစွန့်လွှတ်လိုက်ကြသည်၊ ဤသည်၌ဆုကို အဓမ္မယူခြင်း ၎င်းပေးခြင်း၌ 'ရေယာ' ပကာသန ဂုဏ်ဖော်ကြွားဝါခြင်းများ ပါဝင်နေ သည်၊ ထို့ကြောင့် ဤသည်လည်း မပိုင်ပေ။

၈၈။ ၂-ရက်၊ ၄-ရက် နေပြီးနောက် သတို့သားဘက်က သတို့သမီးကိုခေါ်သွား ကြသည်၊ ဤသည်ကို (ဘဟူရဟ်) ဟု ခေါ်ဝေါ်ကြသည်၊ ဤလုပ်ရပ်၌လည်း ကျူထီတွင် ပြုလုပ်ကြသကဲ့သို့သော ထုံးစံများကို ပြုလုပ်ကြပြန်သည်၊ ထိုအလုပ်၏မကောင်းခြင်း များ၊ ဂိုနာဟ်များလည်း ဤလုပ်ရပ်တွင် ပါဝင်နေသဖြင့် ထိုအတိုင်းဂိုနာဟ်ဖြစ်ကြောင်း သိမှတ်ထားကြကုန်။

ကျူထီကဲ့သို့ဤသည်လည်း ဟိန္ဒူတို့၏ ထုံးစံဖြစ်သည်၊ ဤကိစ္စများ၏မကောင်းမှု များကို ကုရ်အာန် ဟဒီးသ်နှင့် တင်ပြထား၍ သင်တို့ သိထိုက်သလောက် သိပြီးကြပေပြီ၊ ဤသို့သော ထုံးစံများ ပြုသူများထက်'တပ်က်ဒီးရ်'ဆိုးသူကား မရှိတော့ပေ၊ အလ္လာဟ် အသျှင်မြတ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တိကျသောလမ်းမှန် ပြထား တော်မူပါလျက် မလိုက်နာ မကျင့်သုံးဘဲ ရှိုင်တွာန် မိစ္ဆာကို ရှေ့ဆောင်လမ်းပြ အဖြစ် ထားကာ လိုက်နာကျင့်သုံးနေကြခြင်းသာလျှင် ဖြစ်ပေ၏။

၈၉။ ထို့နောက် သတို့သမီး၏အိမ်မှ အမျိုးသမီးများက သတို့သမီးကိုခေါ်ရန် လာကြသည်၊ ၎င်းထိုသူမတို့က မိမိတို့နှင့်အတူ စွန်ပလွံသီးများ ယူဆောင်လာကြသည်၊ ဤသည်၌လည်း လွန်စွာဂရုတစ်စိုက်ပြုခြင်းများ ပါဝင်နေသည်။

၉၀။ ထိုယူဆောင်လာသော စွန်ပလွံသီးများကို သားချင်း အားလုံးအားဝေငှ ကြလေသည်၊ ထိုကိစ္စသည် 'ရေယာ' ပကာသနကြွားဝါမှုပင် ဖြစ်သည်။

၉၁။ ပြန်သွားသောအခါ စွန်ပလွံသီးသစ်များကို ယူသွားကြပြန်သည်၊ ထိုကိစ္စသည် 'ရေယာ' ပကာသန ကြွားဝါမှုပင် ဖြစ်သည်။

၉၂။ သတို့သမီး၏ဖခင်အိမ်သို့ရောက်သောအခါသားချင်းများကိုဝေငှကြသည်၊ ထို 'ရေယာ' ပကာသန ကြွားဝါမှုသည် ဤနေရာတွင်လည်း ပါဝင်နေသည်။

၉၃။ ထို့နောက် အကယ်၍ 'ရှဖေ့ဘာရာအတ်' ငှင်း 'မုဟာရ်ရမ်' ၎က်ဖြစ်သောအခါ သတို့သမီးသည် ဖခင်၏အိမ်သို့ သွားနေသည်၊ ဤသို့ ဂရုတစ်စိုက်ပြုမူခြင်းကို မည်သည့် ကုရ်အာန် အာယတ်တော်နှင့် ဟဒီးသ်တော်တွင် ပါရှိကြောင်း ပြသနိုင်ကြပါမည်လော မပြနိုင်ပေ၊ ဤသို့ယူဆခြင်းသည် အလွန်တရာမိုက်မဲသော အသိတရား ခေါင်းပါးသော ယူဆချက် ဖြစ်သည်၊ မုဟာရ်ရမ်၊ ငှင်းရှဖေ့ဘာရာအတ်ကို (နအူဇုဗိလ္လာဟ် အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏၊ ) လာဘ် နိမိတ် မကောင်းဟု ယူဆကြသည်၊ ထို့ကြောင့် သတို့သမီးကို ထိုရက်၌ သတို့သားအိမ် ရှိနေရန်မသင့်ဟု ယူဆယုံကြည်ကြလေသည်။

၉၄။ 'ရမသွာန်' ဥပုသ်လသည် ဖခင်အိမ်မှာ နေသည်၊ အီးဒ် ဝါကျွတ်ပွဲနီးလာသောအခါကျမှ သတို့သမီးကို အစီးအနင်းလွှတ်၍ ပြန်ခေါ်သည်။

အချုပ်မှာ...ပူဆွေးရသော၊ အငတ်နေရသော၊ လောင်ကျွမ်းသောရက်များဥပမာ မုဟာရ်ရမ်လကို ပူဆွေးရသောရက်ဟု ယူဆကြသည်၊ ရမသွာန်လတွင် နေ့၌ မစားမသောက်ရကြောင်း ထင်ရှားသည်၊ ရှဖေ့ဘာရာအတ်ကို အများစုက လောင်ကျွမ်းသောရက်ဟု ခေါ်ဝေါ်ကြလေသည်၊ အချုပ်မှာ... ဤရက်ပိုင်းများကို ဖခင်အိမ်တွင်ကုန်လွန်စေသည်၊ အီးဒ် ဝါကျွတ်ပွဲနှင့် အခြားပျော်ရွှင်ရသော ရက်များကို ခင်ပွန်းသည်အိမ်၌ နေထိုင်ကြပေသည်၊ (လာဟောဝ်လ၊ ဝလာကုဝတ၊ အစ်လ္လာ၊ ဗစ်လ္လာဟ်။)

၉၅။ ထိုနေရာမှ အမျိုးတူ၊ ဥပမာ.... ဆယ်မယ်၊ ဂျုံမှုန့်၊ သစ်သီးစသည်များ၊ ၁၆-ပိဿာ ငှင်း ၂၄-ပိဿာကို ပို့လိုက်ကြသည်၊ ငှင်း ဇနီးမောင်နှံ နှစ်ဦးကို ဝတ်စုံနှင့်ငွေ (ဂဟီ) အမည်တတ်၍ မုန့်ချိုများပေးလေသည်၊ သို့ရှိရာ ဤကိစ္စကို အတိုးငွေယူရသည်ဖြစ်စေ၊ မပျက်ကွက်ရလေအောင် 'ဖွရ်သွ' တာဝန်ကဲ့သို့ အရေးတစ်ကြီးဂရုတစ်စိုက်ပြုကျင့်ကြပေသည်၊ ထို့ကြောင့် 'ရှရီအတ်' တရားတော်မြတ်ထက် လွန်ကဲသွားကြောင်းမှာ ထင်ရှားနေပေသည်။

၉၆။ ရှာဒီ ထိမ်းမြားမင်္ဂလာ လက်ထပ်ပြီးနောက် ၁-နှစ်၊ ၂-နှစ်ထိ သတို့သမီးသွားသောအခါ မုန့်ချို၊ ငွေ၊ အဝတ်အထည် စသည်များကိုနှစ်ဘက်မှ သတို့သမီးနှင့်အတူ ထည့်ပေးကြရလေသည်၊ သားချင်း မိတ်သင်္ဂဟများကိုလည်း ကောင်းစွာဖိတ်ခေါ်(ဒအ်ဝပ်တ်) ကျွေးမွေးကြရလေသည်။

ကျွေးမွေးခြင်းမှာ ဒဏ်တတ်ခြင်းပမာ ဖြစ်သည်၊ အရှက်မကွဲရန်၊ ၎င်းဂုဏ်ယူကြွားဝါရန်အတွက် ဤမျှ ပုံကြီးခဲ့၍ ပြုလုပ်ကြခြင်းဖြစ်သည်၊ အစားကျွေးရခြင်း၊ ၎င်းအဆင့်အတန်း တူညီမှုကို အဓိကထားကြသည်၊ သာမက တစ်ခါတစ်ရံ ပြောဆိုတိုက်တွန်းကြ၍ (ဒအ်ဝပ်တ်) ကျွေးမွေးရန် ခိုင်းကြသည်။

အချုပ်မှာ....ရက်အနည်းငယ်ခန့် လိုလားသည်ဖြစ်စေ၊ မလိုလားသည်ဖြစ်စေ၊ ပြုစုမြှောက်စားကြသည်၊ ထို့နောက် မည်သူမျှ မေးမြန်းမည့်သူပင် မရှိတော့ပေ၊ ပျော်ရွှင်ပွဲလုပ်ကြသူများ၊ ၎င်းအချောင်သမားများသည် ခွဲခွာသွားကြတော့သည်၊ ဇနီးမောင်နှံမှာ ဒုက္ခနှင့် ရင်ဆိုင်နေကြသော်လည်း လှည့်ကြည့်မည့်သူပင် မရှိတော့ပေ။

ဤသို့ အကျိုးမရှိသည့် လုပ်ငန်းများကို ပြုလုပ် အကုန်အကျ ခံကြရမည့်အစား ညားခါစ ဇနီးမောင်နှံနှစ်ယောက်ကို အဆောက်အအုံ၊ ဥယျာဉ်၊ လယ်ယာတစ်ခုခု ဝယ်ပေးလိုက်လျှင် သော်လည်းကောင်း၊ ရောင်းဝယ်ရန် ဆိုင်ဝယ် မ,တည်ပေးလိုက်လျှင် သော်လည်းကောင်း အကျိုးကျေးဇူးရှိမည်ပင် ဖြစ်သည်၊ မကောင်းမှု အားလုံးသည် ဤထုံးစံများအတွက် ပေါ်ပေါက်လာရခြင်း ဖြစ်ပေသည်။

၉၇။ နှစ်ဘက်မှ မုန့်ချိုများကို နှစ်ဘက်သားချင်းများအား ဝေငှကြလေသည်၊ အဓိက အချက်မှာ (ရေယာ) ပကာသန ဂုဏ်ယူ ကြွားဝါခြင်းပင် ဖြစ်သည်၊ အကယ်၍ မုန့်ချို မလုံမလောက်ဖြစ်လျှင် မိမိအိမ်မှ ငွေဖြင့်ထုတ်ဝယ်၍ ဝေရသည်၊ ဤသည်လည်း ဒဏ်တပ်ခြင်းပင် ဖြစ်ဘိ၏။

၉၈။ အချို့နေရာများတွင် သတို့သား၏ လက်၌ မဲကြိုးချီသော ထုံးစံလည်း ရှိလေသည်၊ ထိုအလုပ်သည် ကာဖွင်ရ်များ၏ ထုံးစံဖြစ်ခြင်းကြောင့် လုံးဝမလုပ်ပိုင်ပေ။

၉၉။ အချို့နေရာများတွင် (အာရစီ မွတ်စ်ဟဖ်)ခေါ် ထုံးစံလည်း ရှိသည်၊ ဤသည်၌ အမျိုးမျိုးသော ဂုဏ်ငယ်မှုများ၊ ၎င်းမကောင်းခြင်းများ ပါရှိပေသည်၊ အကြင် အလုပ်များသည် အသိဉာဏ်နှင့် သော်လည်းကောင်း၊ 'ရှရီအတ်' တရားတော်နှင့် သော်လည်းကောင်း လုံးဝကွဲလွဲ ဆန့်ကျင်သည်။

၁၀၀၊ အချို့ နေရာများ၌ ချယ်လှယ်ခြင်း၊ မီးပန်း ရှို့ကြခြင်း များလည်း ပါဝင်သည်၊ အကြင်အလုပ်သည် လုံးဝ ဂုဏ်ယူကြွားဝါခြင်း၊ ၎င်းပစ္စည်းကို အလဟဿ ဖြုန်းတီးခြင်းဖြစ်သည်၊ ဤကိစ္စ ဟရာမ် ဖြစ်ရာတွင် မည်သို့မျှ ဒွိဟဖြစ်ရန် မရှိပေ။

၁၀၁။ အချို့နေရာများ၌ အိန္ဒိယဘာဂျာ၊ အင်္ဂလိပ်ဘာဂျာများ တီးမှုတ်ကြသည်၊ ဤအလုပ်ဟရာမ်ဖြစ်ကြောင်းဟဒီးသ်တော်မြတ်တွင်ပါရှိသည်၊ အချို့နေရာတွင်ကပွဲများလည်း ထည့်သွင်းကြသည်၊ ထိုအလုပ်ဟရာမ်ဖြစ်ကြောင်းအခန်း (၁) ၌တင်ပြခဲ့ပေပြီ၊

၁၀၂။ အချို့ရက်များ၊ လများ၊ နှစ်များ၊ ဥပမာ... ၁၈-နှစ်ကို-လာဘ်နိမိတ်မကောင်းဟု ယူဆကြသည်၊ ထိုအရွယ်တွင် 'ရှာဒီ' လက်ထပ်မပေးကြ၊ ဤသို့'အကီးဟ်' ယုံကြည်မှုထားခြင်းလည်း လုံး၀ အသိဉာဏ်နှင့် ကွဲလွဲလေသည်။

၁၀၃။ အချို့နေရာများတွင် 'ဂျဟေးဇ်' သတို့သမီးက ပေးရသော ပစ္စည်းတွင် ခုတင်တိုင်တွင်တပ်ရန် ငွေချည်၊ ငွေစွဲရိမာဘူး၊ ချုပ်ရန်ပစ္စည်း၊ ခွက်ယောက်စသည့် ငွေဖြင့်ပြုလုပ်ထားသောပစ္စည်းများကိုပေးကြလေသည်၊ ထိုပစ္စည်းများကိုသုံးစွဲခြင်းသည် ဟရာမ် ဖြစ်သည်၊ ဟဒီးတော်မြတ်၌ ပွင့်လင်းစွာ တားမြစ်ချက်များ လာ ရှိ သည်၊ ထို့ကြောင့် ဤသည်တို့ကိုပေးခြင်းလည်း ဟရာမ်ဖြစ်လေသည်၊ အဘယ့်ကြောင့်ဆိုသော် ဟရာမ်လုပ်ငန်းတစ်ခုကို ကူညီအားပေးခြင်းသည် ဤသည်ကို သဘောတူ လက်ခံခြင်းပင် ဖြစ်ပေသည်၊

တင်ပြပါအချက်များသည် ၁၀၀-ထက်ပိုလေသည်၊ ထိုအချက်များ၌ အမှတ်စဉ်တစ်ခုတွင် ဂိုနာဟ်တစ်ခု,နှစ်ခု၊ အချို့တွင်၄-ခု,၅-ခု၊ အချို့တွင်၁၂-ခုအထိ ပါဝင်သည်၊ အကယ်၍အကြမ်းမျဉ်းအားဖြင့် အမှတ်စဉ်တစ်ခုတွင် အလပ်စားဂိုနာဟ် ၃-မျိုးထားပါက ဤ'ရှာဒီ'မင်္ဂလာပွဲသည် ဂိုနာဟ်ပေါင်း ၃၀၀-ထက်ပိုသော ဂိုနာဟ်များ စုဝေးရာဖြစ်သည်၊ အကြင် ရှာဒီလက်ထပ်ပွဲ၌ ၃၀၀-ထက်ပိုသော 'ရှရီအတ်'တရားတော်နှင့် ဆန့်ကျင်သည့် အလုပ်များ ပါနေလျှင် ထိုလက်ထပ်ပွဲ၌ 'ဘရ်ကတ်' ကောင်းကျိုးမပါရှိကြောင်း ထင်ရှားနေသည်၊ အချုပ်မှာ... ဤဖြစ်ရပ်အားလုံးတွင် ဂိုနာဟ်များနှင့် ပြည့်နက်နေလေသည်။

(၁) ပစ္စည်းများကိုအလဟဿဖြုန်းတီးခြင်း၊ (၂) ကြားဝါဂုဏ်ဖော်လွန်းခြင်း၊ (၃) ထုံးစံကို ဂရုတစ်စိုက် ပြုလွန်းခြင်း၊ (၄) ကာဖွင်ရ်တို့နှင့် တူညီအောင် ပြုခြင်း၊ (၅) ငွေတိုးယူခြင်း၊ အကြောင်းမဲ့ကြွေးယူခြင်း၊ (၆) ဆုနှင့် ကျေးဇူးပြုခြင်းကို အခမဲ့ယူခြင်း၊ (၇) ပရ်ဒဟ် အကာအကွယ် မရှိခြင်း၊ (၈) ရှစ်ရ်ကဲ့ ၎င်းအကီဒဟ် ပျက်စေသောလုပ်ငန်းများ၊ (၉)နမာဇ်များကဿဖြစ်ခြင်း၊ သို့မဟုတ်မတ်ကရူးဟ်ချိန်၌ဖတ်ခြင်း၊ (၁၀) ဂိုနာဟ်ကျူးလွန်ရာတွင် ကူညီခြင်း၊ (၁၁) ဂိုနာဟ်ကို အစဉ်ပြုခြင်း၊ ဆက်တိုက်ပြုခြင်း၊ ဤသည်ကိုကောင်းသည်ဟုသဘောကျခြင်း၊ ဤသည်တို့၏မကောင်းခြင်းများ၊ ကုရ်အာန် ၎င်းဟဒီးသ်တော်မြတ်၌ အတိအလင်းလာရှိပေသည်၊ သို့ရှိရာ ကျွန်ုပ် အနည်းငယ် ရေးသားတင်ပြမည်။

အလ္လာဟ်အသျှင်မြတ်မိန့်တော်မူသည်မှာ....အလဟဿမဖြုန်းတီးကြနှင့်၊ အမှန်ပင် အလ္လာဟ်အသျှင်မြတ်သည် အလဟဿဖြုန်းတီးသူများကို နှစ်သက်တော်မမူပေ၊ အခြားတစ်နေရာတွင် မိန့်တော်မူသည်မှာ ... အလဟဿဖြုန်းတီးသူများသည် ရှိုင်တွာန်မိစ္ဆာ၏ ညီများဖြစ်ကြသည်၊ ရှိုင်တွာန်သည် မိမိအားဖန်ဆင်းတော်မူသောအသျှင်အား ကျေးဇူးကန်းသူဖြစ်သည်။ (ကုရ်အာန်၊စူရဟ်ဘနီအစ်ရာအီလ်၊ရိုကူအ်-၃)

ဟဒီးသ်တော်တွင် လာသည်မှာ.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ..အကြင်သူသည် လူတို့အားကြွားဝါပြသရန်အတွက် အလုပ်တစ်ခုခုကို လုပ်လျှင် အလ္လာဟ်အသျှင်မြတ်က ထိုသူ၏ သေးသိမ်ခြင်းကို ပြသတော်မူပေမည်၊ ၎င်း အကြင်သူသည် ကြားသိကျော်ကြားစေရန်အတွက် အလုပ်တစ်ခုခုကိုပြုလုပ်လျှင် အလ္လာဟ် အသျှင်မြတ်က ထိုသူ၏ အပြစ်များကို 'ကေယာမတ်' နေ့၌ လူတို့အား ကြားသိစေတော် မူမည်။ (ဘိုခါရီနှင့်မွတ်စလင်မ်ကျမ်း)

ရှာရိအာန်ကျမ်းမြတ်တွင် အလ္လာဟ် အသျှင်မြတ် မိန့်မြွက်ထားတော်မူသည်မှာ - (တင်လ်က၊ ဟုဒူဒွလ္လာဟေ့) အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားတော်မူသော စည်းမျဉ်း ဘောင်ထက် မကျော်လွန်ကြနှင့်။

ထို့ကြောင့် သိရသည်မှာ.... အကြင် ကိစ္စတစ်ခုသည် 'ရှရီအတ်' တရားတော်၌ လုပ်ဆောင်ရန် အရေးမကြီးဘဲ အရေးကြီးသည်ဟုယူဆခြင်း၊ ၎င်း၊ ၎င်းဤသည်ကို ဂရုတစ်စိုက် ပြုလုပ်ကြခြင်းတို့သည် မကောင်းဖြစ်ပေသည်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့ပြုလုပ်ခြင်း သည် အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားတော်မူသော ဘောင်မှ ပြင်ပသို့ ထွက်ခြင်း ဖြစ်သည်။

ဟဒီးသ်တော်တွင်လာသည်.... လအနေ၊ ရစူလွလ္လာဟေ့၊ အာကေ့လရ်ရေ့ဗာ၊ ဝမူကေ့လဟူ။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အတိုးယူသောသူနှင့် အတိုး ပေးသောသူအား 'လအ်နတ်' ကျိန်ဆဲထားတော်မူသည်။

(မွတ်စလင်မ် နှင့် တင်ရ်မေသီကျမ်း)

၎င်း ဆက်လက်၍ ယူသူနှင့်ပေးသူသည် ဂိုနာဟ် အပြစ် အတူတူ ခံကြရမည်ဟု ဟောတော်မူလေ၏၊ ၎င်းအကြွေးယူခြင်းနှင့် ပတ်သက်၍ ဟဒီးသ်တော်မြတ်တွင် သတိ ပေးချက်၊ ၎င်းတားမြစ်ချက် မြောက်မြားစွာလာရှိပေသည်၊ ထို့ကြောင့် အရေးကြီး လိုအပ်မှုမရှိဘဲ ကြွေးယူခြင်းသည် ဂိုနာဟ် အပြစ်ဖြစ်လေသည်။

ဟဒီးသ်တော်တွင်လာသည်မှာ.... သဘောတူညီမှု မပါဘဲ မည်သူ၏ ပစ္စည်းမှ 'ဟလာလ်' မဖြစ်ပေ။

ထို့ကြောင့်သိရသည်မှာ- တစ်နည်းနည်းဖြင့် အဓမ္မယူခြင်း၊ မပေးပေးအောင် ပြု ၍ ယူခြင်းတို့သည် 'ဟရာမ်' ဖြစ်လေသည်။

၎င်းဟဒီးသ်တော်တွင်လာသည်မှာ ကြည့်သူနှင့် အကြည့်ခံသူမအပေါ် အလ္လာဟ် အသျှင်မြတ်၏ 'လအ်နတ်' ရောက်ပါစေ။

ဤဟဒီးသ်တော်မြတ်ဖြင့် အမျိုးသမီးတို့သည် (ပရ်ဒဟ်) အကာအကွယ် လုံခြုံမှု မပြုဘဲနေခြင်း၏ မကောင်းခြင်းများ၊ ၎င်း 'ဟရာမ်' ဖြစ်ကြောင်း သိရလေသည်၊ ကြည့်

သောသူအပေါ်မှာလည်း'လအ်နတ်'ရောက်သည်၊ ၎င်းရှေ့မှောက်သို့ရောက်လာပါလျက် ဂရုမစိုက်ဘဲ (ပရ်ဒဟ်)မပြု သူမအပေါ်လည်း'လအ်နတ်'ရောက်လေသည်၊ ယောကျ်ားက သူစိမ်း အမျိုးသမီးများကို ကြည့်ခြင်း၊ ၎င်း အမျိုးသမီးက သူစိမ်း ယောကျ်ားများကို ကြည့်ခြင်းတို့သည် နှစ်ဦးနှစ်ဝ ဂိုနာဟ်အပြစ်ဒဏ်သင့်ကြလေသည်၊ အထက်ပါ'ရှစ်ရ်က်' ၏ မကောင်းခြင်းများကိုကား လူတိုင်းလိုလို အသိပင် ဖြစ်ပေသည်။

ဟဒီးသ်တော်တွင် လာ သည်.... ဖွမန်တရကဟာ၊ ဖွကာဒ်၊ ကဖွရ။ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်၏ ဆွဟာဗဟ်(ရသွေ့)သခင်များသည် နမာဇ်အပြင် အခြားသော 'အမလ်'များ မပြုက 'ကွဖ်ရ်'ဖြစ်သည်ဟု မယူဆကြ။

(နေစာအီ၊တင်မေသီ၊တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၁၁၁။)

၎င်းဟဒီးသ်တော်မြတ်ဖြင့် နမာဇ်ကသွာ ပြုကြခြင်းသည် မကောင်းဆုံးပင် ဖြစ်ကြောင်းသိရသည်၊ ၎င်းသို့ပြုခြင်းဖြင့် လူသား၏အီမာန်ယုံကြည်ချက်ပင် ပြည့်စုံမှုဖြစ်မလာပေ၊ အလ္လာဟ်အသျှင်မြတ်မိန့်တော်မူသည်မှာ...တစ်ဦးနှင့်တစ်ဦး ဂိုနာဟ်၊ ၎င်း မတရားမှုတွင် ကူညီရိုင်းပင်းမှု မပြုကြနှင့်။

ဟဒီးသ်တော်တွင်လာသည်... ကောင်းမှုပြု၍ သင်၏စိတ်, ပျော်ရွှင်မှုဖြစ်ပြီး၊ မကောင်းမှုပြုမိ၍ စိတ်မကောင်းဖြစ်လျှင် သို့ရှိရာ သင်သည်'မုအ်မင်န်'ဖြစ်လေတော့၏။

ထို့ကြောင့် သိရသည်မှာ ဂိုနာဟ်ပြစ်မှုကို ကောင်းသည်ဟုယူဆခြင်း၊ ၎င်း ထို ဂိုနာဟ်အပေါ် တည်မြဲလုပ်ဆောင်နေခြင်းတို့သည် 'အီမာန်'ကို ဖျက်ဆီးစေတတ်သောအရာ ဖြစ်သည်၊ ဟဒီးသ်တော်တွင် ထိုအသိတရား ကင်းသော ထုံးစံ နှင့် ပတ်သက်၍ ပြင်းပြင်းထန်ထန် တားမြစ် သတိပေးချက်များ လာရှိလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ... အလ္လာဟ်အသျှင်မြတ်သည် (၃)ဦးသောသူအား အားလုံးထက် ပို၍ ရွံရှာတော် စက်ဆုပ်တော်မူသည်၊ ထို(၃)ဦးအနက် တစ်ဦးမှာ- အစ္စလာမ်သာသနာတော်ကို လက်ခံယုံကြည်ပြီး (ဂျဟေလိယတ်)အဖြစ်က ထုံးစံများကို လက်ကိုင်ပြုသူလည်း ပါဝင်ပေသည်။

၎င်းသည်အပြင် မြောက်မြားစွာသော ဟဒီးသ်တော်များ ရှိစေသေးသည်၊ ကျွန်ုပ်များများမရေးလို၊ မွတ်စလင်မ်များကို အီမာန်၊ ၎င်းအသိတရားအရ ထိုက်သည်မှာ.... ၎င်းတီထွင်လုပ်ဆောင်နေကြသော ထုံးစံများကို အသိဉာဏ် ၎င်း တရားတော်အရ မလုပ်ပိုင်ကြောင်းများ သိထားကြပြီးလေရာ၊ မိမိ၏ နာမည်ရမှု့,မရမှုကို မကြည့်ဘဲ အားလုံးသော တရားမဝင်သည့် ထုံးစံများကို စွန့်ပစ်ကြရန်ထိုက်ပေသည်၊ သည့်မျှမက အလ္လာဟ် အသျှင်မြတ်၏ အမိန့်တော်မြတ်များကို လိုက်နာ ဆောက်တည်ခြင်းဖြင့် ဂုဏ်သရေလည်း ရှိသည်၊ နာမည်လည်း ထင်ပေါ်လေသည်။

ပြုလုပ်နေကြသော ထုံးစံများ ပပျောက်သွားရန် နည်းလမ်းနှစ်သွယ် ရှိသည်၊ ပထမနည်းလမ်းမှာ သားချင်းအားလုံးတို့သည် ဤထုံးစံအားလုံးတို့ကို တစ်ညီတစ်ညွတ်တည်း စွန့်ပစ်ကြရမည်။ ဒုတိယနည်းလမ်းမှာ အကယ်၍ မည်သူကမျှ ထုံးစံပယ်ရာတွင် မပါဝင်ကြလျှင် ကိုယ်တိုင်တစ်ဦးတည်းပင်စွန့်ပစ်ရမည်။ သင်စွန့်ပစ်သည်ကိုမြင်၍ အခြားသူများသည်လည်း စွန့်ပယ်လာကြပေမည်၊ အဘယ့်ကြောင့်ဆိုသော် ဤအလဟဿ အကျိုးမဲ့ ထုံးစံများမှ လူတို့သည် ငြီးငွေ့လာကြပေပြီ။ (အင်နံရှာအလ္လာဟ်) အလ္လာဟ်အသျှင်မြတ်အလိုတော်ရှိတော်မူပါလျှင် မကြာမီကာလတွင် အများစုက လက်ခံကျင့်သုံး လိုက်နာလာကြပေမည်၊ စတင်၍ တိုက်ဖျက်ခဲ့သည့်အတွက် သေပြီးနောက်လည်း 'ကေယာမတ်' နေ့ထိ ကုသိုလ်သဝါဗ် ရနေမည်ဖြစ်သည်။

(နဇ်ဟတွန်နာဇ္ဇရီးန်ကျမ်း စာမျက်နှာ-၁၀)

မတတ်နိုင်သူများ မလုပ်ဘဲ တတ်ကုန်နိုင်သူများ လုပ်ကြပါလိမ့်မည်ဟု အချို့က ဆင်ခြေဝင်ကြသည်။ ပထမအဖြေမှာ တတ်ကုန်နိုင်သူများလည်း ဂိုနာဟ်ပြု ကျူးလွန်ပိုင်ခွင့် မရှိပေ၊ ဤသည်သော ထုံးစံများသည် ဂိုနာဟ် ဖြစ်၍ မပြုလုပ်ထိုက်ကြောင်း အတည် ဖြစ်ပြီးရာ တတ်ကုန်နိုင်သည့် အတွက်ကြောင့် အဘယ်မှာလျှင် ပြုလုပ်ပိုင်ခွင့် ရမည်နည်း။

ဒုတိယ အဖြေမှာ တတ်ကုန်နိုင်သောသူများက ထုံးစံအတိုင်း ပြုလုပ်ကြပါက ၎င်း၏ သားချင်း ဆင်းရဲသားများကလည်း မိမိတို့၏ဂုဏ်သိက္ခာကို ထိန်းသိမ်းရန်အတွက် အကုန်အကျမခံနိုင်ဘဲ လုပ်ကြပေမည်၊ ထို့ကြောင့် အရေးကြီးဆုံးအချက်မှာ ဤတင်ပြခဲ့သော ထုံးစံအပေါင်းကို စွန့်လွှတ်ပစ်ကြရမည်။

ဤထုံးစံများကို ဖျက်သိမ်းလိုက်ပါက ရင်းနှီးစွာ ဆက်ဆံရန် လမ်းရှိတော့မည် မဟုတ်ဟု အချို့က ဆိုကြပြန်သည်။ အဖြေမှာ...

ခင်မင်ရင်းနှီးရန်အတွက်ဖြင့် ပြုလုပ်ခြင်းဖြစ်မူ ဂိုနာဟ် လုပ်ငန်းများ မည်သည့် နည်းနှင့်မှ ပိုင်မလာပေ၊ ခင်မင်ရင်းနှီးမှု မပျက်ရန် နည်းလမ်းများရှိသည်၊ ထုံးစံ ၎င်း ဂရုဏ်စိုက်မလုပ်ဘဲ တစ်ဦးအိမ်တစ်ဦးသွားခြင်း၊ ခေါ်ယူ၍ ကျွေးမွေးလိုက်ခြင်း၊ ကူညီစောင့်ရှောက်လိုက်ခြင်းဖြင့် ဖြစ်နိုင်သည်၊ သူငယ်ချင်း မိတ်ဆွေများ၌ ဤသို့ လုပ်လေ့ လုပ်ထရှိကြသဖြင့် တင်ပြပါအတိုင်း ဆက်ဆံခြင်းပြုက မဖြစ်နိုင်ပါသလော။

ခင်မင်ရင်းနှီးရန်ဟု နာမည်ပေးထားသော်လည်း ထိုသို့ဖြစ်မလာဘဲ တီထွင်ထားသော ထုံးစံများကြောင့် များသောအားဖြင့် ငြင်းခုံခိုက်ရန်ဖြစ်လာကာ ငယ်ကျိုးငယ်နာ ဖေါ်ကြသည်၊ ကျင်းပသူကို ပေါ့လျော့လစ်ဟင်းမှုအတွက် အပြစ်ရှာကြံကြသည်၊ သေးသိမ် အရှက်တစ်ကွဲအကျိုးနဲဖြစ်အောင်ပြုကြသည်၊ ဤကဲ့သို့ အခြား မကောင်းမှု

မဖွယ်ရာများကို မြင်တွေ့နိုင်ကြပေသည်၊ အဘယ့်ကြောင့် ဆိုသော် ဤသို့ယူခြင်း-ပေးခြင်း၊ ကျွေးမွေးခြင်းတို့သည် ထုံးစံအတွက်ကြောင့် ပြုနေကြရလေရာ၊ ပျော်ရွှင် ဝမ်းမြောက်ခြင်းလည်းမရှိ၊ ပေးသူ-ကျွေးသူသည် ထုံးစံအရသာ ပေး၊ ကျွေးရသည်၊ ယူသူစားသူကလည်း ငါထိုက်၍ စားရ ယူရသည်ဟု ယူဆနေရာ၊ အဘယ်မှာလျှင် ပျော်ရွှင်မှုရှိမည်နည်း၊ ထို့ကြောင့် ဤအကျိုးမဲ့ အလဟဿအဟောသိကအလုပ်များကို လုံးဝဥဿုံ စွန့်ပစ်ကြရန် 'ဝါဂျစ်ဗ်' ထိုက်လေ၏။

'မန်ဂနီ'ခေ့စပ်ကြောင်းလမ်းရာတွင် နှုတ်လျှာဖြင့် ဝန်ခံကတိပြုခြင်း လုံလောက်ပေသည်၊ ဆတ္တာသည်၊ ဝတ်စုံ၊ အထိမ်းအမှတ် မုန့်ချိုများလည်းမလိုပေ၊ မိန်းကလေးနှင့် ယောကျ်ားလေးတို့သည် အရွယ်ရောက်၍ 'ရှာဒီ' လက်ထပ်ရန် အချိန်ကျရောက်လာလျှင် နီးလျှင်ခေါ်ပြော၍၊ ဝေးလျှင် စာရေးသားအကြောင်းကြား၍ ရက်သတ်မှတ်ကာ သတို့သားကို ခေါ်ယူလိုက်ရမည်၊ သတို့သား နှင့် အတူ အုပ်ထိမ်းသူတစ်ယောက်၊ အခိုင်းအစေတစ်ယောက်ပါလာရုံဖြင့်လုံလောက်ပေသည်၊ 'ဘရီ'လည်းမလို၊ 'ဘရာတ်'လည်းမလိုပေ၊ နေကာဟ်ဖတ်ပြီး ချက်ချင်းသော်လည်းကောင်း၊ ၁-ရက်၊ ၂-ရက် ထား၍သော်လည်းကောင်း သတို့သမီးကို ထည့်လိုက်ရမည်။

မိမိတတ်နိုင်သည်ခန့် 'ဂျဟေးဇ်'အဖြစ် အရေးကြီးလိုအပ်သော အသုံးအဆောင်ပေးလိုသည်ခန့် အခြားသူများကို မပြဘဲ၊ ကျော်ကြားအောင် မပြုဘဲ၊ သမီးနှင့်အတူ ထည့်ပေးလိုက်ရမည်၊ သို့မဟုတ် ပို့လိုက်ရမည်၊ ယောက္ခမ၏ဝတ်စုံလည်းမလို၊ 'ကျုံထီ' ထုံးစံလည်း မလိုပေ၊ ခေါ်လိုသောအခါ သမီးကို ခေါ်လိုက်ရမည်၊ သားကို ခေါ်လိုသောအခါ ခေါ်ယူလိုက်ရမည်။

နှစ်ဘက်သူတို့၏ အခိုင်းအစေ နိမ့်ကျသူများကို မိမိတို့ဘာသာ တတ်နိုင်သည်ခန့် ပေးလိုက်ကြရမည်၊ ၎င်းတို့ကလည်း ပေးနေစရာမလို၊ ရရန်အတွက် မျှော်ကိုးနေရန်လည်း မလိုပေ၊ ငွေကြဲခြင်းသည် အလဟဿ အလုပ်တစ်ခုဖြစ်သည်၊ အကယ်၍ တတ်နိုင်လျှင် ကျေးဇူးတင်သဘောနှင့် သူဆင်းရဲ တောင့်တသူများကို ပေးလိုက်ရမည်၊ မည်သည့်ကိစ္စ အတွက်မှ အကြွေးမယူနှင့်။

သို့သော် 'ဝလီမဟ်' ကျွေးခြင်းသည် စွန္နတ်တော် လမ်းစဉ်ဖြစ်သည်၊ ဤသည်ကိုလည်း စိတ်ထား (နိယတ်) ကောင်းစွာဖြင့် အကျဉ်းရုံး၍ ကျွေးရမည်၊ ပကာသနဂုဏ်ဖော်ကြွားဝါရန်အတွက်မကျွေးမွေးရ၊ ဂုဏ်ယူကြွားဝါမှုပါသော 'ဝလီမဟ်'လည်း မပိုင်ပေ၊ ဟဒီးသ်တော်တွင် ဂုဏ်ယူ၍ ကျွေးသော 'ဝလီမဟ်'ကို (ရှရ်ရှတ်တွအာမ်) မကောင်းဆုံးသောထမင်းဟုမိန့်ထားတော်မူသည်၊ ထို့ကြောင့် ကြွားဝါဂုဏ်ယူမှုပါသော 'ဝလီမဟ်' မလုပ်ပိုင်၊ သွားရောက် စားသောက်ခြင်းလည်း မပြုပိုင်ပေ။

ထို့ကြောင့် သိရသည်မှာ... ထုံးစံအဖြစ် များသောအားဖြင့် သားချင်းများကို ကျွေးမွေးခြင်းတွင် စားခြင်းလည်းမပိုင်၊ ကျွေးခြင်းလည်းမပိုင်ပေ၊ ဘာသာရေးလိုက်စားဆောက်တည်သူများသည် ဤသို့သော ထုံးစံများကို မပြုလုပ်ကြရန် ထိုက်သည်၊ ဤသို့ထုံးစံပါသောညစာခံပွဲ၊ ကျင်းပပွဲများ၌လည်း မသွားကြရန်ထိုက်သည်၊ ခေါ်လျှင် အတိအလင်း ငြင်းပယ်လိုက်ကြရမည်၊ သားချင်းဆွေမျိုးတို့၏ စိတ်ဆိုးခြင်းသည် အလ္လာဟ်အသျှင်မြတ် သဘောမတူ စိတ်ဆိုးတော်မူခြင်းနှင့်စာလျှင် ဘာမျှ ပြောဖွယ်ရာ မရှိပေ၊ အလ္လာဟ်အသျှင်မြတ်သည် မွတ်စလင်မ်အပေါင်းအား ဤသို့ မကောင်းသောထုံးစံများမှ ရှောင်ရှားနိုင်သော စွမ်းအား ပေးသနားတော်မူပါစေသတည်း။

# မဟ်ရ် ခန်းဝင်ကြေး မြင့်တင်လွန်းခြင်း အကြောင်း

ထိုပြုလုပ်ကြသော ထုံးစံများအနက် (မဟ်ရ်) ခန်းဝင်ကြေး ပိုမိုထားသော ထုံးစံတစ်ခုရှိသေးသည်၊ အကြင် ထုံးစံသည် စုန္နတ်တော်လမ်းစဉ်နှင့် ကွဲလွဲသည်။

ဟဒီးသ်တော်တွင် လာသည်၊ အုမရ် (ရသွေ့) သခင်က မိန့်တော်မူသည်မှာ... သတိထားကြကုန်၊ 'မဟ်ရ်'ကို ပို၍မသတ်မှတ် မပေးကြနှင့်၊ အဘယ့်ကြောင့်ဆိုသော် အကယ်၍ ပို၍သတ်မှတ်မှုသည် လောကဥ္စ ဂုဏ်ရှိသည်ဖြစ်ပါက၊ ၎င်းအလ္လာဟ်အသျှင်မြတ်ထံ 'တပ်က်ဝါ' အလုပ်ဖြစ်ပါက သင်တို့၏တမန်တော် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်သည် ပို၍ပင် ထိုက်သက်ပေးသင့်တော်မူသည်၊ ကျွန်ုပ်သိသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်သည် မြောက်သားတော်များ နှင့် 'နေကာဟ်' လက်ထပ်ရာ၌၊ ၎င်း သမီးတော်များကို နေကာဟ် ပြုပေးရာ၌ ၁၂-အောင်ကီယဟ်ထက် ပို၍ 'မဟ်ရ်' ပေးတော်မမူပေ၊ အချို့ ရေဝါယတ်များ၌ ၁၂-အောင်ကီယဟ်ခွဲဟု လာရှိလေသည်။

(မွတ်စလင်မ်ကျမ်း)

ကျွန်ုပ်တို့ သုံးစွဲနေသောငွေဖြင့် ၁၃၇-ကျပ် သာလျှင် ရှိသည်၊ အချို့က ဆိုကြသည်၊ မဟ်ရ်များစွာတင်ခြင်းနှင့် ဇနီးသည်ကို မစွန့်ပစ်ရန်ဖြစ်သည်၊ ဤအကြောင်းပြချက်သည် လက်ခံနိုင်စရာမရှိပေ၊ ကွာချင်သောသူက မည်သို့ပင်ဖြစ်စေကာမူ ကွာပစ်လိုက်ကြသည်၊ 'မဟ်ရ်' တင်ထားသည်မှာ များလွန်းနေ၍ ပေးရမည်စိုးသောသူ၊ အချို့က ကွာချင်သော်လည်း မကွာဘဲနေသဖြင့် ကွာလိုက်သည်ထက် ပိုဆိုးနေသည်လည်း ရှိသည်၊ ဥပမာ .. ကွာလည်းမကွာ၊ ပေါင်းလည်းမပေါင်းဘဲ ပစ်ထားကြသည်၊ သည်ဘက်မရောက် ဟိုဘက်မရောက် တန်းလန်း ဖြစ်နေကြသည်၊ ထိုသို့ မကွာသဖြင့် မည်သူကမှ မတတ်နိုင်ကြပေ။

ဤသို့ အကြောင်းပြမှုသည် အလဟဿတရားမဝင်ဖြစ်သည်၊ အမှန်မှာ ဂုဏ်ပေါ်ကြွားလို၍ 'မဟ်ရ်'ကို တတ်နိုင်သည်ထက် ပို၍တင်ကြခြင်းဖြစ်သည်၊ သို့ရှိရာ ကြွားဝါ

ရန်အတွက် အလုပ်တစ်ခုလုပ်ရာ၊ ပိုင်သော်လည်း 'ဟရာမ်' ဖြစ်သွားသည်၊ ထို့ကြောင့် စွန္နတ်တော်နှင့်ကွဲလွဲသော မတ်က်ရှူးဟ် ဖြစ်သော ကိစ္စကို မည်သို့ ဆိုမည်နည်း၊ ပို၍ပင် မကောင်းဖြစ်မည်။

စွန္နတ်တော် နည်းလမ်းမှာ... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မြေးကာ် သားတော်များကို တင်ခဲ့သောမဟ်ရ်ကဲ့သို့လည်းကောင်း၊ သမီးတော်များအတွက် သတ် မှတ်ပေးခဲ့သော မဟ်ရ်ကဲ့သို့လည်းကောင်းတင်ရမည်။ ကောင်းပါ၏၊ အကယ်၍ မဟ်ရ်ကို များများစားစားပေးလိုလျှင် လူတိုင်းသည် မိမိပေးနိုင်သည့်ခန့် သတ်မှတ်၍ ပေးကြရ မည်၊ မတတ်နိုင်သည်ထက် ပို၍ သတ်မှတ်ခြင်းများ မပြုရပေ။

## သမီးတော် ဖွာတွေမဟ် သခင်မ၏ နေကာဟ်
### အကြောင်း

ပထမ အဗူဗာကရ်(ရသွေ့)၊ ၎င်းနောက် အုမရ်(ရသွေ့)သခင်က သမီးတော် ဖွာတွေမဟ်(ရသွေ့)သခင်မ ကို တောင်းရမ်းရာ၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် သခင်က အသက်ငယ်သေးကြောင်း မိန့်မှတ်တော်မူလေသည်။

ထို့နောက် အလီ(ရသွေ့)သခင်သည် သားချင်းတို့၏ တိုက်တွန်းခြင်း၊ အချို့ အဆိုအရ အဗူဗာကရ်နှင့်အုမရ်(ရသွေ့)သခင်နှစ်ပါး၏ တိုက်တွန်းချက်အရ ကိုယ်တိုင် သွားရောက်၍ တောင်းရမ်းလေရာ၊ ကိုယ်တော်ထံ အလ္လာဟ်အသျှင်မြတ်က သဘောတူ လိုက်ရန် အမိန့်ကျရောက်လာသဖြင့် ကိုယ်တော်က လက်ခံသဘောတူတော်မူလိုက်လေ၏။

ဤဖြစ်ရပ်ကြောင့် သိရသည်မှာ... ယခုခေတ်အခါ သမယတွင် စေ့စပ်ကြောင်း လမ်းကြသော ထုံးစံလုပ်နည်းများသည် အကျိုးမဲ့ အလုပ်များဖြစ်၍ စွန္နတ်တော် လမ်း စဉ်နှင့် လုံးဝဆန့်ကျင်လေသည်၊ နှုတ်လျှာဖြင့် ဖွင့်ဟတောင်းရမ်း၍ အဖြေပေးလိုက်ခြင်း ပင် လုံလောက်ပေသည်။

ထိုအချိန်၌ ဖွာတွေမဟ်(ရသွေ့)သခင်မ၏ သက်တော်သည် ၁၅-နှစ်ခွဲ သ[illegible] ရှိ သည်၊ အလီ(ရသွေ့)သခင်၏ သက်တော်သည် ၂၁-နှစ် ရှိလေသည်။

ထို့ကြောင့် သိရသည်မှာ... ဤမျှအသက်အရွယ်ရောက်လာပြီးနောက် နေကာဟ် ပြုရန် ဆိုင်းငံ့ထားခြင်း မသင့်လျော်ပေ၊ သတို့သားနှင့်သတို့သမီး၏အသက် ညီတူဖြစ်ရန် မလိုဟူ၍လည်း သိရလေသည်၊ သတို့သား၏ အသက်သည် သတို့သမီးထက် ကြီးလျှင် ကောင်းပေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ- အို... အနတ်စ်၊ အဗူဗာကရ်၊ အုမရ်၊ အွသ်မာန်၊ တွာလ်ဟာဟ်၊ ဇုဗိုင်ရ် တို့နှင့် မဒီနာမြို့သား အချို့ကို ခေါ်ခဲ့ကုန် ဟု စေခိုင်းတော်မူခဲ့သည်။

နေကာဟ် လက်ထပ်ရာ၌ သီးခြား၍ ရင်းနှီးသောသူများကို ခေါ်ယူလျှင် ကိစ္စ မရှိကြောင်း သိရသည်၊ ဤသို့ခေါ်ယူခြင်းဖြင့် နေကာဟ်ပြုကြောင်း လူတိုင်းသိသွား စေရန် အဓိကအချက်လည်းဖြစ်သွားပေသည်၊ သို့သော် ဤသို့ခေါ်ယူရာ၌ ဂရုတစ်စိုက် လုံးပန်းခြင်းမပြုရ၊ ရင်းနှီးဆုံးသောသူ ၂-ဦး ၃-ဦး စုမိလျှင် လုံလောက်ပေသည်။

ခေါ်ယူသော ပုဂ္ဂိုလ်များ ရောက်လာကြရာ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် က 'ခွတ္ဗ'ဗဟ်'ဖတ်၍ နေကာဟ်ပြုပေးလိုက်လေသည်။

သိရသည်မှာ- ဖခင်ဖြစ်သူသည် ပုံးကွယ်၍ရှောင်တိမ်းနေခြင်းသည် စွန္နတ်တော်နှင့် ကွဲလွဲသည်သာမက အကောင်းဆုံးမှာ ဖခင်ကိုယ်တိုင်သမီးကို နေကာဟ်ဖတ်ပေးရမည်။

'မဟ်ရ်'ခန်းဝင်ကြေးအဖြစ် ငွေသား'မစ်သ်ကာလ်'၄၀၀-သတ်မှတ်တော်မူသည်၊ မဟ်ရ်အခန့်ကို အထက်တွင်ရေးခဲ့ပေပြီ၊ 'မစ်သ်ကာလ်'၄၀၀-ကို အင်္ဂလိပ်သုံး ၁၂-မာရှာ ဒင်္ဂါးဖြင့် ၁၅၀-ကျပ် ရှိလေသည်၊ သိရသည်မှာ... မဟ်ရ်ကို အမြောက်အမြားတင်ခြင်း သည်လည်းစွန္နတ်တော်နှင့်ကွဲလွဲသည်၊ 'မဟ်ရ်ဖွာတေ့မီ'ပင်လုံလောက်သည်၊ ရင်းဘရိကတ် ဖြစ်ပေသည်၊ အကယ်၍ မတတ်နိုင်သူက ဤသည် ၁၅၀-ကျပ်ထက် လျော့တင်လျှင်လည်း လျော်ကန် သင့်မြတ်ပေသည်။

ထို့နောက် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က လင်ပန်းတစ်ချပ်တွင် ထည့် ထားသော စွန်ပလွံခြောက်များကို အသင့်ရှိသော ပုဂ္ဂိုလ်များအား ဝေငှတော်မူသည်၊ ထို့နောက်ကိုယ်တော်က ဖွာတေ့မဟ်(ရသွေ့)သခင်မကို အွမ်မေ့အိုင်မန်သခင်မနှင့်အတူ အလီ(ရသွေ့)သခင်အိမ်သို့ပို့လိုက်တော်မူသည်။

အို... အမျိုးသမီးအပေါင်းတို့၊ ဤသည်မှာ 'ဒွန္နယာ အာခေရတ်' နှစ်ဌာန၏ မင်းသမီးအားအခန်းအပ်ခြင်းဖြစ်သည်၊ ကြီးကျယ်လိုက်မိုက်စွာလည်းမကျင်းပ၊ ထမ်းစင် လည်းမပါ၊ ငွေလည်းမကြဲ၊ ကိုယ်တော်က အလီ (ရသွေ့) သခင်မှ အခိုင်းအစေများ အတွက် ဆုအာပေးမခိုင်း၊ အိမ်သူ အိမ်သား သားချင်းများကို ထမင်းမကျွေးပေ။

ကျွန်ုပ်တို့လည်း ဒွန္နယာ-အာခေရတ်၏ခေါင်းဆောင် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏လမ်းစဉ်တော်အတိုင်း လိုက်နာပြုမူကြရန်ထိုက်ပေသည်၊ မိမိတို့၏ ဂုဏ်သရေ ကိုကိုယ်တော်သခင်၏ ဂုဏ်သရေထက် မြင့်မားသည်ဟု မထင်မှတ်ကြနှင့်၊ (ဤသို့ထင်မြင် မှုမှ အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏။)

ထို့နောက် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အလီ (ရသွေ့) သခင် အိမ်သို့ကြွမြန်းသွားတော်မူသည်၊ ဖွာတေ့မဟ် (ရသွေ့) သခင်မထံမှ ရေတောင်းတော် မူသည်၊ သခင်မက သစ်သားရေခွက်ဖြင့် ရေယူလာတော်မူသည်။

သတို့သမီးသည် အရှက်လွန်ကဲကာ သွားလာခြင်း၊ မိမိကိုယ်တိုင် အလုပ်တစ်ခုခု လုပ်ခြင်းကိုအရှက်ထားရန်မသင့်၊ ထိုကဲ့သို့ပြုမူကြခြင်းကို အပြစ်ဆိုကြရန် မသင့်ကြောင်း သိရသည်၊ အရှက်လွန်ကဲ၍ မည်သို့မျှ မလုပ်ဘဲနေခြင်းလည်း စွန္နတ်တော်နှင့် ကွဲလွဲသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဂုင်းရေခွက်ထဲတွင် နှုတ်ကျင်းသော ရေကိုထည့်၍ ဖွာတွေမဟ်(ရသွေ့)သခင်မကို မျက်နှာချင်းဆိုင်၍ရပ်ရန် မိန့်တော်မူသည်၊ ကိုယ်တော်သည် သခင်မ၏ ရင်၊ ဂုင်းခေါင်းတွင် ရေအနည်းငယ် ဖြန်းတော်မူ၍ အို...အလ္လာဟ်အသျှင်မြတ်၊ သူတို့နှစ်ဦးကို ရှိုင်တွာန် ယုတ်ညံ့သောမိစ္ဆာ၏ ဖျက်ဆီးမှုမှ ကင်းဝေးရန် အသျှင်မြတ်ထံ တောင်းဆိုပါသည်ဟု ဒိုအာပြုတော်မူ၏။

ထို့နောက် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ကျောလှည့်ရပ်ရန်မိန့်တော်မူသည်၊ ကိုယ်တော်က ကျောလည်တွင် ရေအနည်းငယ်ဖြန်း၍ တင်ပြခဲ့သည့်အတိုင်း ဒိုအာ ပြုတော်မူသည်၊ ထို့နောက် အလီ ( ရသွေ့ ) သခင်အားလည်း ရေယူခိုင်း၍ ခေါင်းနှင့် ရင်ကိုဖြန်း၍ အထက်ပါအတိုင်း ဒိုအာပြုတော်မူသည်၊ သို့သော်ကျောဘက်သို့ ရေဖြန်းတော်မမူပေ။

သတို့သားနှင့် သတို့သမီးကိုခေါ်ယူ၍ ဤတင်ပြပါအတိုင်းပြုမူကြပါက 'ဘရ်ကတ်' ရှိပေမည်၊ အိန္ဒိယနိုင်ငံတွင် နေကာဟ်ဖတ်ပြီးနောက်လည်း သတို့သားနှင့်သတို့သမီးမှာ (ပရ်ဒဟ်) အကာအကွယ်နှင့် နေကြလေသည်။

ထို့နောက် 'ဗစ်မစ်လ္လာဟ်' ဖတ်တော်မူ၍ ဘရ်ကတ်အတိဖြင့် အိမ်တွင်းသို့သွားကြကုန်ဟု မိန့်တော်မူလေသည်၊အခြား ရေဝါယတ် တစ်ခုဘွင် လာရှိသည်မှာ....နေကာဟ် ပြုသော နေ့ ည အေရှအ် နမာဇ်ပြီးတွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အလီ(ရသွေ့)သခင်၏အိမ်သို့ သွားတော်မူသည်၊ ရေခွက်ထဲတွင်ထည့်၍လျှာရည် ထည့်တော်မူသည်၊ ဂုင်းပြင် (ကွလ်အအူသွု၊ ဗေ့ရဗ်ဗင်လ်၊ ဖွလပ်က်နှင့် ကွလ်အအူသွု၊ ဗေ့ရဗ်ဗင်န်နားစ်) ဖတ်ပြီး ဒိုအာတောင်းတော်မူသည်။

ထို့နောက် အလီနှင့် ဖွာတွေမဟ် (ရသွေ့)နှစ်ပါးကို တစ်ယောက်ပြီးတစ်ယောက် သောက်၍ (ဝိုသွူ) ရေသန့်စင်ကြရန် မိန့်တော်မူသည်၊ ထို့နောက် ဇနီးမောင်နှံနှစ်ဦး အား သန့်ရှင်းမှု တစ်ဦးနှင့်တစ်ဦး ချစ်ခင်စွာနေရန် သား,သမီးတို့တွင် 'ဘရ်ကတ်'ဖြစ်ရန် ပျော်ရွှင်ကြရေန်အတွက် ဒိုအာပြုတော်မူပြီး ချမ်းမြေ့စွာနေရစ်ကြရန် မိန့်တော်မူလေသည်၊ အကယ်၍ ကျွန်ုပ်တို့သည် သားမက်အိမ်နီးပါးက တင်ပြပါအတိုင်းပြုမူကြပါက 'ဘရ်ကတ်' ဖြစ်ပေမည်။

ဖွာတွေမဟ် (ရသွေ့) သခင်မအတွက် (ဂျဟေးဇ်) မှာယမ်မန်နိုင်ငံဖြစ် စောင်နှစ်ထည်၊ အုန်းဆံပမာ ရှော်ထည့်ထားသော မှို့ယာနှစ်ခု၊ ထိုင်ခုံလေးခု၊ လက်မောင်း

ဝတ်သော ငွေဘယက်တန်ဆာ နှစ်ခု၊ ၎င်းခေါင်းအုံး၊ စောင်ငယ်နှစ်ထည်၊ ရေခွက်တစ်ခွက်၊ လက်ကြိတ်စက်တစ်ခု၊ ရေခပ်ရသော သားရေအိပ်တစ်ခု၊ စဉ့်အိုးတစ်လုံး၊ အချို့အဆိုများ၌ ခုတင်တစ်လုံးလည်းပါသည်ဟု လာရှိပေသည်။

(အေဇာလဘွလ်ခေဖွာကျမ်း)

အို...အမျိုးသမီးအပေါင်းတို့ (ဂျဟေးဇ်) သတို့သမီးဘက်မှ ပေးရသော ပစ္စည်းတွင် အချက် (၃) ချက်ကို ဂရုစိုက်ကြရမည်၊ ပထမအချက် .. အကျဉ်းရုံး၍ တတ်နိုင်သည်ထက် ပိုချ၍မပေးနှင့်၊ ဒုတိယအချက်....လောလောဆယ် လိုအပ်သော ပစ္စည်းကိုသာပေးရမည်၊ တတိယအချက် ကျော်ကြားစေရန် မပြုကြနှင့် ဤသို့ပေးခြင်းသည် သား, သမီးတို့ကို ကျေးဇူးပြုခြင်း ဖြစ်လေရာ အခြားသူများကို ပြသနေရန်မလိုပေ၊ တင်ပြပါ အချက်အလက် (၃) ရပ်စလုံးသည် ရစူလွ်လ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ လုပ်ဆောင်တော်မူခဲ့ကြောင်း အတည်ဖြစ်ပေသည်။

ရစူလွ်လ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က အလုပ်ကို ခွဲဝေသတ်မှတ် ပေးတော်မူသည်၊ အိမ်ပြင် အလုပ်ကို အလီ (ရသွေ့) သခင်၏တာဝန်ထား၍ အိမ်တွင်းလုပ်ငန်းကို ဖွာတွေမဟ်(ရသွေ့)သခင်မတာဝန်ဟု သတ်မှတ်တော်မူသည်၊ (မွတ်စလင်မ်အမျိုးသမီးများသည် အိမ်တွင်းအလုပ် ကိစ္စအဝဝကို အဘယ့်ကြောင့် ပြုလုပ်ရန် ရှက်ကြောက်နေကြသနည်း။)

ထို့နောက် အလီ (ရသွေ့) သခင်က (ဝလီမဟ်) ကျွေးတော်မူသည်၊ ဂျုံမှုန့် (စွာအ်) အချို့ ဖုတ်တော်မူသည်၊ စွန်ပလွံခြောက်အချို့နှင့် (မာလီဒဟ်) ရောနှောထားသော စားဖွယ်အချို့နှင့်ပင် ဖြစ်သည်။

သို့ရှိရာ ဝလီမဟ်၏ စွန္နတ်တော်လမ်းစဉ်သည် ဤသည်ပင်ဖြစ်ပေသည်၊ ကြွားဝါဂုဏ်ဖော်ခြင်းမပါဘဲ အကျဉ်းရုံး၍ တတ်နိုင်သည်ခန့် သီးခြားသော ရင်းနှီးသူများကို ကျွေးမွေးရသည်။

## မြောက်သားတော်များ၏ နေကာဟ် အကြောင်း

ခဒီဂျဟ်(ရသွေ့)သခင်မအားတင်သော မဟ်ရ် ခန်းဝင်ကြေးသည် ဒရမ် ၅၀၀ ဖြစ်သည်၊ ၎င်းမှာ ဒရမ် ၅၀၀-တန် ကုလားအုတ်ကို တင်ခဲ့ခြင်းဖြစ်သည်၊ ထိုမဟ်ရ်ကို ဘကြီးတော် အဘူတွာလစ်ဗ်က တာဝန်ယူပေးဆောင်ခဲ့သည်။

ဒရမ်တစ်ပြားသည် ခန့်မှန်းခြေအားဖြင့် ၂၅-ပြားကျော်ကျော်ရှိသည်၊ ၎င်းဒီနာရ်တစ်ပြားသည် ဒရမ် ၁၀-ပြားရှိသည်။

ရစူလွ်လ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် 'မဟ်ရ်' အနည်းငယ်သာတင်ကြောင်း သိရပေသည်၊ ကိုယ်တော်သည် မဟ်ရ် ငွေများစွာမတင်နိုင်၍ အနည်းငယ်သာ တင်ခြင်းဖြစ်သည်ဟု မည်သူမျှ ဆင်ခြေမကန်နိုင်ပေ၊ အကယ်၍ ကိုယ်တော် အလိုတော် ရှိတော်

မှုပါလျှင် တစ်လောကလုံး၏ ဘဏ္ဍာတိုက်များသည် ကိုယ်တော်၏ ခြေဖဝါးအောက်၌ ရှိနေပေသည်။

ဒီနာရ် ၄၀၀၊ အွမ်မေ့ဟဘီဗဟ် (ရသွေ့) သခင်မတစ်ပါးကိုသာလျှင် များများ စားစား တင်ခဲ့သည်၊ ထိုမဟ်ရ် ကိုလည်း ဘုရင်တစ်ပါးက တာဝန်ယူပေးခဲ့သောကြောင့် ဖြစ်သည်၊ ဤသည်လည်း ကျွန်ုပ်တို့တိုင်းပြည်နှင့်စာလျှင် နည်းနေပေသေးသည်။

မွတ်စလင်မ်တို့သည် ဤသို့ နည်းနည်းပါးပါး မဟ်ရ်တစ်သောနည်းလမ်းကို လိုက် နာကျင့်သုံးကြရမည်၊ သို့တည်းမဟုတ်ပါက (ခစေ့ရဒ်ဒွန္နယာ၊ ဝလ်အာခေရဟ်) လောကီ လောကုတ္တရာ နှစ်ဌာန ဆုံးရှုံးနစ်နာမှု ဖြစ်ကြပေမည်။

အွမ်မေ့စလ်မဟ် (ရသွေ့) သခင်မအား တင်သော မဟ်ရ်သည် ဒရမ် ၁၀-ပြား ဖြစ်သည်၊ ဤသည်မှာ အများလိုက်နာရန်အချက် ဖြစ်ပေသည်။

ဂျိုဝိုင်ရိယဟ် (ရသွေ့) သခင်မအား တင်သော မဟ်ရ်ငွေသည် ဒရမ် ၄၀၀ ဖြစ်သည်၊ အွမ်မေ့ဟဘီဗဟ် (ရသွေ့) သခင်မအား တင်သော မဟ်ရ်ငွေမှာ ဒီနာရ် ၄၀၀-ဖြစ်သည်၊ ထိုငွေကို ဟဗ်ရှဟ်ဘုရင်က တာဝန်ယူ၍ ပေးခဲ့သည်၊ စောင်ဒါ (ရသွေ့) သခင်မအား တင်သော မဟ်ရ်ငွေမှာ ဒရမ် ၄၀၀-ဖြစ်သည်။

အွမ်မေ့စလ်မဟ် (ရသွေ့) သခင်မနှင့် နေကာဟ်ပြုစဉ်က 'ဝလီမဟ်' တွင် ဂျုံ အညှာ ဂျောင်ကျွေးခဲ့သည်၊ ဇိုင်နဗ်ဗင်န်တေ ဂျဟ်ရှ် (ရသွေ့) သခင်မ နှင့် နေကာဟ် ပြုစဉ်က ဝလီမဟ်တွင် ဆိတ်တစ်ကောင် (သဗ်ဟ်) လှီးခဲ့သည်၊ ချက်ပြုတ်၍မုန့်ဖြင့် လူတို့ အားကျွေးခဲ့သည်၊ ဇင်းစဖွီယဟ် (ရသွေ့) သခင်မနှင့် နေကာဟ်ပြုစဉ်က အထင့်ရှိနေ တော်မူကြသော ဆွဟာဗဟ် (ရသွေ့) သခင်များထံ ပါရှိသော အစားအစာများကို စုပုံကာ စားသောက်ကြသည်၊ ဤသည်ပင် 'ဝလီမဟ်' ဖြစ်ပေ၏၊

အာခအရှဟ်(ရသွေ့)သခင်မနှင့်ပတ်သက်၍ နေကာဟ်ပြုစဉ်က သခင်မကိုယ်တိုင် မိန့်သည်မှာ .. ကုလားအုတ်ကိုသော်လည်းကောင်း၊ ဆိတ်ကိုသော်လည်းကောင်း(သဗ်ဟ်) လှီးခြင်းမပြု၊ စအာဒ်ဗင်န်အိုဗာဒဟ် (ရသွေ့) သခင်၏အိမ်မှပို့လိုက်သောနွားနို့တစ်ခွက် ပင်ဖြစ်သည်၊ ဤနွားနို့ပင် 'ဝလီမဟ်' ဖြစ်ပေ၏။

# ရှရီအတ်နှင့် ကိုက်ညီသော ရှာဒီတစ်ခု၏အကြောင်း

ဤအကြောင်းကို ရေးရခြင်းမှာ.... များစွာသောသူတို့က ပြုလုပ်တီထွင်ကြသော ထုံးစံများ၏မကောင်းခြင်းများကိုကြားသိကြကာ ဤထုံးစံများ မပြုလုပ်ရပါကမည်သို့ ရှာဒီပြုရမည်နည်းဟု မေးလျှောက်ကြသည်။

မဟ်ရ်အကြောင်းအလျင် မည်ကဲ့သို့ ရှာဒီ ပြုရမည်ဟူ၍ ရေးသားပြီးခဲ့လေပြီ၊ ၎င်းကျန်နိုပ်သည် ယခုပင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ သမီးတော်၊ ၎င်းမြောက်သားတော်များ၏ နေကာဟ်ပြု လက်ထပ်နည်းမှန်များကို ရေးပြခဲ့သည်၊ အသိညာဏ်ရှိသူများအတွက် ဤမျှနှင့်ပင် လုံလောက်ပေသည်။

သို့သော်လည်း အချို့သူတို့ကဆိုကြသည်၊ ထိုခေတ်နှင့် ယခုခေတ်မှာမတူ၊ ယခုခေတ်တွင် ရိုးရိုးလုပ်ပြနိုင်ရမည်၊ ပြောနေရုံမျှဖြင့် မပြီးဟုဆိုလာသည်၊ ဤတင်ပြမည့်အကြောင်းဖြင့် ယခုခေတ်တွင်လည်း ရိုးရိုးနှင့် နေကာဟ်ပြုနိုင်ကြောင်း သိရပေမည်၊ ဤတင်ပြမည့်အကြောင်းသည် မောင်လဝီနှင့် ဒရိဝေး၍ သူဆင်းရဲတို့၏ နေကာဟ်မဟုတ်၊ ထို့ပြင် သာမန်ဆင်းရဲသော ဇာတ်နိမ့်သောသူတို့၏ နေကာဟ်မဟုတ် နှစ်ဘက်စလုံးမှ တတ်ကုန်နိုင်သော ခေတ်ဆန်သော ဂုဏ်သရေရှိသောသူများ ဖြစ်ကြသည်။

မောင်လဝီနှင့် သူဆင်းရဲတို့မှာ ငွေကုန်မခံနိုင်၍သာ 'ရှရီအတ်' တရားတော်နှင့် အညီ ပြုကြသည်ဟု အချို့သူတို့က ဝေဖန်ကြလေသည်၊ ဤတင်ပြမည့် အကြောင်းဖြင့် ဒွိဟသံသယ ကင်းရှင်းသွားမည် ဖြစ်ပေကြောင်း။

မို့ဇ္ဇာဖ်ဖွရ်နဂရ်မြို့နယ်တွင် ကတ်စွဗဟ် ရွာကြီးနှစ်ရွာရှိသည်၊ (အိန္ဒိယနိုင်ငံတွင် ကတ်စွဗဟ်ကိုရွာဟု ခေါ်သော်လည်း ကတ်စွဗဟ်သည် မြို့နှင့်မခြားဘဲ ရုံး၊ ၎င်းရဲဌာနများ ရှိလေသည်။)

ယခုနှစ်က အဖြစ်အပျက်ပင် ဖြစ်သည်၊ ကတ်စွဗဟ် တစ်ခုတွင် သတို့သားနေပြီး အခြား ကတ်စွဗဟ်တစ်ခုတွင် သတို့သမီးတို့ နေထိုင်ကြလေသည်၊ နှစ်ဘက်မှသူများသည် ရက်အတန်ကြာ ကတည်းက သိုက်မြိုက်စွာ ခင်းကျင်းကြရန်စိတ်ကူး စီစဉ်နေကြသည်၊ သို့သော် အလ္လာဟ်အသျှင်မြတ်က နှစ်ဘက်စလုံးကို တရားလမ်းမှန်ရစေသဖြင့် 'ရှရီအတ်' တရားတော်မြတ်၏ အမိန့်ပညတ်များကို ကြားသိကာ မိမိတို့ လုပ်လို ပြုလိုသော ထုံးစံများကို လုံးဝစွန့်လွှတ်၍ အလ္လာဟ်နှင့် ရစူလ်၏အမိန့်အတိုင်း လိုက်နာပြုမူရန် စိတ်ပိုင်းဖြတ်လိုက်ကြလေသည်။

ရှာဒီ လက်ထပ်မည့်ရက် သတ်မှတ်ရန် ၎င်း 'မဟင်န်ဒီ' ဒန်းယူသွားရန် ၎င်းဝတ်စုံယူသွားရန် ဆတ္တာသည်ကို မလွှတ်ပေ၊ ဤသည်နှင့် ပတ်သက်သော မည်သည့်ထုံးစံမှ မပြုလုပ်၊ သတို့သမီးအား (အိုဘတ်နာ) သနပ်ခါးသဘော လိမ်းရန် အမျိုးသမီးများ မစုရုံးကြ၊ အိမ်ရှိသူမများကပင် လိမ်းပေးလိုက်ကြသည်၊ သတို့သား၊ ၎င်းသတို့သမီးဘက်တို့က ဧည့်သည်များကို မဖိတ်ခေါ်ကြ၊ အဝေးတွင်ရှိသော သားချင်းနှင့်နီးစပ်သူများကိုလည်း အကြောင်းမကြား၊ နေကာဟ်မပြုမီ ၅-ရက်၊ ၆-ရက်အလျင် တစ်ဘက်နှင့် တစ်ဘက် စာဖြင့် သတ်မှတ်လိုက်ကြသည်။

သတို့သား ၎င်းသတို့သား၏ အစ်ကိုတို့ သွားကြသည်၊ သတို့သမီး၏ အုပ်ထိန်းသူက သတို့သား၏အစ်ကိုအား စာဖြင့်နေကာဟ်ပြုရန် ခွင့်ပြုချက်ရေးသား၍ပေးသည်၊ ၎င်းတို့နှင့်အတူ ခိုင်းစေရန် အစေခံတစ်ယောက်၊ အသက်ယယ်ရွယ်သောသူတစ်ယောက်၊ ၎င်းကလေးကိုခေါ်ရခြင်းမှာ အကြောင်းကြီးငယ် ပြောစရာရှိပါက အိမ်တွင်းသို့ သွားရောက်ပြောနိုင်ရန်အတွက်ဖြစ်သည်၊ ဤမျှလူများပင် အငှါးယာဉ်ကိုစီး၍ (ဂျို့မို့အဟ်) သောကြာနေ့၌ သတို့သမီး အိမ်သို့ ရောက်သွားကြသည်၊ သတို့သမီး အတွက် ဝတ်စုံကို ၎င်းတို့ ယူသွားကြသည်၊ သတို့သားသည် မိမိအိမ်မှ အဝတ်ကိုပင် ဝတ်လျက်ရှိသည်။

သတို့သမီးအိမ်သို့ရောက်ကြသောအခါ (ဂျို့မို့အဟ်) သောကြာနမာဇ်ပြီးနောက် 'နေကာဟ်' လက်ထပ်မည်ဟု ၎င်းနှီးသူအား ဖိတ်ခေါ်လိုက်သည်၊ (ဂျို့မို့အဟ်)နမာဇ် ဝဘ်ပြုခါနီးတွင် သတို့သားအတွက်ဝတ်စုံ သတို့သမီးအိမ်မှရောက်လာသည်၊ ထိုဝတ်စုံကို ဝတ်၍ ဗလီဝတ်ကျောင်းတော်သို့သွားသည်၊ နမာဇ်ဝတ်ပြုပြီးနောက် (ဝအဇ်) တရား အနည်းငယ်ဟောသည်၊ ထိုတရား၌ ပြုလုပ်နေကြသောထုံးစံများ၏ မကောင်းခြင်းများ ဟောပြောသည်၊ တရားနာကြသောသူများသည် ကောင်းစွာ နားလည်သွားကြသည်။

တရားဒေသနာ ဟောပြောပြီးနောက် 'နေကာဟ်' ဖတ်ပေးသည်၊ စွန်ပလွံ ခြောက်များကို အပြင်ရှိသူများနှင့် အိမ်တွင်းရှိသူများကို ဝေငှသည်၊ မလာရောက်နိုင်သူများ၏ အိမ်သို့လည်းပို့ပေးလိုက်သည်၊ (အတ်စွ်ရ်)နမာဇ်အလျင် ကိစ္စအဝဝ ပြီးဆုံးသွားသည်၊ (မဂ်ရစ်ဗ်)နမာဇ်ပြီးနောက် သတို့သားဘက်မှသူများကို အကောင်းဆုံး ထမင်းကျွေးကြသည်၊ ၎င်း (အေရှာအ်)နမာဇ် ပြီးနောက် အမျိုးသမီးများကို နေ့ပိုင်းက ဟောသည့်အတိုင်း တရားဟောသည်၊ အမျိုးသမီးများကလည်း ထုံးစံများ၏ မကောင်းမှုများကို နားလည်သွားကြသည်၊ အိပ်ချိန်ရောက်သောအခါ စိတ်အေးလက်အေး အိပ်ကြသည်။

နောက်နေ့နံနက် စောစောပိုင်းတွင် သတို့သမီးကို ရထားဖြင့် သတို့သားအိမ်သို့ ပို့လိုက်သည်၊ သတို့သမီးနှင့်အတူ သားချင်းမိန်းမကြီးတစ်ယောက်၊ ၎င်းခိုင်းစေရန်အတွက် ဆတ္တာသည်မ တစ်ယောက်ပါသည်၊ ဤရထားသည် ဂျဟေဇ်အဖြစ် ပေးလိုက်ခြင်း ဖြစ်သည်၊ (ပါလကီ၊ မေယာနဟ်) စသည် ထမ်းစင်များဖြင့် သတို့သမီးကို မခေါ်ဆောင်ပေ၊ (ဂျဟေဇ်)သတို့သမီးဘက်က ပေးရသောပစ္စည်းများကိုလည်း အတူယူဆောင်မသွားပေ။

သတို့သမီးဘက်က သူများက မိမိတို့ဘက်မှ အခိုင်း အစေ ဇာတ်နိမ့်သူများကို ဆုများ ပေးသည်၊ သတို့သားဘက်မှ (စလာမီ) ငွေလည်း မယူကြ၊ သတို့သမီးဘက်မှ တာဝန်ဖြစ်သော ငွေကြဲမှုကိုမပြုဘဲ ထိုအစား ဗလီဝတ်ကျောင်းတော်များ၊ ဆင်းရဲသူဆင်းရဲသားတို့၏ အိမ်များသို့ ငွေများ ပို့ပေးလိုက်သည်။

(ဇွှဟ်ရ်)နမာဇ်အချိန်၌ သတို့သား၏အိမ်သို့ ရောက်လာကြသည်၊ သတို့သမီးသည် မည်သည့်နမာဇ်မှ (ကဇွာ) လက်လွတ်မသွားပေ၊ သတို့သမီးအားကြည့်ရန် လာကြသော အမျိုးသမီးများထံမှ မျက်နှာကြည့်ခ, ငွေမယူကြ။

နောက်နေ့တွင်'ဝလီမဟ်'ကျွေးမွေးရန်အတွက် ဈေးမှအကောင်းစား မုန့်ချိုများ စယ်ယူ၍ အိမ်တွင် ထမင်းနှစ်မျိုးချက်ပြုတ်ကြ၍ သင့်လျော်သောနေရာများ၊ မိတ်သင်္ဂဟာ များ၊ သူတော်စင်များ၊ ဘာသာရေးပညာ သင်သော ကျောင်းသားများထံ ပို့လိုက် ကြသည်၊ အိမ်သို့ မည်သူ့ကိုမျှ မခေါ်ယူပေ။

သတို့သမီးများဘက်မှ (ကျိုထိ)ခေါ် ထုံးစံ အတွက် မည်သူမျှမလာ၊ တတိယ မြောက်နေ့တွင် ညားခါစ ဇနီးမောင်နှံတို့သည် သတို့သမီးအိမ်သို့ သွားရောက်ကြသည်၊ ရက်တစ်ပတ်နေ၍ ပြန်လာကြသည်၊ ထိုအခါ၌ (ဂျဟေးဇ်) ပစ္စည်းအချို့ ယူလာကြပြီး ကျန်ပစ္စည်းများကို နောက်မှယူရန်ထားပစ်ခဲ့ကြသည်၊ ထိုအချိန်၌ သတို့သမီးသည် (မေ ယာနဖ်)တွင် စီးလျက်ရှိသည်၊ သတို့သားဘက်မှအခိုင်းစေ ဇာတ်နိမ့်သူများကို ရသင့် ရထိုက်သည်ထက် ပို၍ ဆုငွေများ ပေးကြသည်။

အချုပ်မှာ.... အေးဆေးစွာဖြင့်'ရှာဒီ'လက်ထပ်မှုပြီးဆုံးသွားသည်၊ မည်သူမှ ဒုက္ခ မရောက်၊ဆူပွက်ခြင်းလည်းမရှိပေ၊ကျွန်ုပ်လည်းအစမှအဆုံးထိဤရှာဒီတွင်လိုက်ပါခဲ့သည် စိတ်အေးကြည်လင်မှု အလွန်ရှိလေသည်၊ အလ္လာဟ်အသျှင်မြတ် အလိုတော်နှင့် မြင်ရသူ အပေါင်း ပျော်ရွှင်ကြလေသည်၊ ကျွန်ုပ်တို့လည်း ဤသို့ပင်ခပ်ရိုးရိုးပြုလုပ်ကြတော့မည်ဟု ပြောဆိုကြလေသည်။

ထို့နောက် သတို့သမီး၏သားချင်းထဲမှ'ရှာဒီ'လက်ထပ်ပွဲတစ်ခုဖြစ်လေရာ ဤသည် ထက်ပင် အကျဉ်းရုံး၍ ခပ်ရိုးရိုးပြုလုပ်ကြလေသည်၊ အကယ်၍ ဤထက်ပင် ခပ်ရိုးရိုးပင် မပြုလိုကြပါက ဤတင်ပြခဲ့သည့်အတိုင်းပင် ပြုလုပ်ကြရန်ထိုက်ပေသည်၊ အလ္လာဟ်အသျှင် မြတ်သည် အားလုံးကို ရိုးရိုးပင်ပြုလုပ်နိုင်ကြသော စွမ်းအား ပေးသနားတော်မူပါစေ သတည်း။ (အာမီန်၊ ယာရဗ်ဗလ်၊ အာလမီန်။)

# မုဆိုးမ၏ နေကာဟ် အကြောင်း

ကုရ်အာန် ကျမ်းတော်မြတ်တွင် အလ္လာဟ် အသျှင်မြတ် မိန့်တော်မူထားသည်၊ (အေသာ၊ တွာလ်လပ်က်တို့မွန်ဓနစာအ၊ ဖွဗုလင်န၊ အဂျ်လို့ဟွန်န) အကြင် အမျိုးသမီး ကို ခင်ပွန်းသည်က 'တွလာက်' ကွာရှင်းလိုက်သော် အကယ်၍ (အစ်ဒ်ဒတ်)ရက် ကုန် ဆုံး၍ ထိုအမျိုးသမီးက နောက်တစ်ဖန် တရားတော်နှင့်အညီ အိမ်ထောင်ပြုလိုပါက ထို အမျိုးသမီးအား အုပ်ထိမ်းသူများအား မတားမြစ်ရန် အမိန့်ပေးထားတော်မူသည်။

ဤ'အာယတ်'တော်မြတ်ဖြင့် အလ္လာဟ် အသျှင်မြတ်က နောက်အိမ်ထောင်ပြုခြင်း ကိုအတည်ပြုထားတော်မူသည်၊ အုပ်ထိမ်းသူ၊ အမွေဆိုင်သူများအား နောက်အိမ်ထောင် ပြုခြင်းကို မတားမြစ်ရန်မိန့်ဆိုထားတော်မူသည်၊ သို့ရှိရာအုပ်ထိမ်းသူများက ၎င်းမုဆိုးမကို နောက်အိမ်ထောင်ပြုရန် တိုက်တွန်းကြရမည်။

ဆက်လက်၍မိန့်ထားသည်မှာ–ဤသည်မှာအလ္လာဟ်အသျှင်မြတ်ကိုလည်းကောင်း၊ ကေယာမတ် ဖြစ်မည့်နေ့ကိုလည်းကောင်း 'အီမာန်'ယူ၊ သက်ဝင်ယုံကြည်သူများ အတွက် (နစ္စဲဟတ်) ဆုံးမစကားဖြစ်သည်။

အကြင်သူသည် ဤဆုံးမချက်ကို နားမထောင်လျှင်၊ မကောင်းဟုထင်လျှင် ထိုသူသည် အလ္လာဟ်အသျှင်မြတ်နှင့်ကေယာမတ်နေ့ကိုယုံကြည်သူ မဖြစ်ကြောင်း သိရလေသည်၊ ဆိုလိုသည်မှာ.... ၎င်းသူသည် မွတ်စလင်မ် မဖြစ်နိုင်ပေ။

ဆက်လက်၍ မိန့်ပြန်သည်၊ ဤအချက်မှာ သန့်ရှင်းမှု ဖြစ်သည်၊ အကြင်သူသည် မုဆိုးမနောက်အိမ်ထောင်ပြုမှုကိုအပြစ်ဆိုလျှင် ထိုသူသည် သန့်ရှင်းမှုကိုစွန့်ပယ်၍ မသန့်ရှင်းမှုနောက် လိုက်သူ ဖြစ်သည်။

ဆက်လက်၍မိန့်သည်မှာ.... အလ္လာဟ်အသျှင်မြတ်သည် သိတော်မူသည်၊ သင်တို့ မသိကြ။

အကြင်သူသည် နောက်အိမ်ထောင်ပြုခြင်းကို မကောင်းဆိုးဝါးမှုများ ရှိသည်ဟု ယူဆလျှင်၊ ပမာဆိုသော်... ထိုသူသည် အလ္လာဟ်အသျှင်မြတ်ထက်ပို၍သိသည်ဟု ကြွားဝါရာရောက်သည်။ (မအာသလ္လာဟ်) ထိုသူ၏အီမာန် ယုံကြည်ချက်သည် အဘယ်စခန်းသို့ ရောက်မည်နည်း။ (အို...အလ္လာဟ်အသျှင်မြတ်၊ 'ဒွန္နယာ-အာခေရတ်'၏ ဒုက္ခဘလာများမှ ကျွန်တော်မျိုးတို့အား ထိန်းသိမ်းစောင့်ရှောက်တော်မူပါ။)

(တဖ်ကီရှလ်အစ်ခ်ဝါနိဇျမ်း)

ထိုသို့ထုံးစံများအပြင် မုဆိုးမ နောက်အိမ်ထောင်ပြုခြင်းကိုလည်း မကောင်းဟူ၍လည်းကောင်း၊ ရှက်ဖွယ် ဖြစ်သည် ဟူ၍လည်းကောင်း ယူဆကြလေသည်၊ သီးခြား၍ ဂုဏ်သရေရှိသူများက ပို၍ရွံ့ရှာကြသည်၊ 'ရှရီအတ်'တရားတော်အရ၊ ၎င်း အသိဉာဏ်အရ ပထမအိမ်ထောင် နောက်အိမ်ထောင်မှာ အတူတူပင်ဖြစ်သည်၊ ကွဲပြား ခြားနားသည်ဟု ယူဆခြင်းသည် အသိတရား ခေါင်းပါးခြင်းပင်ဖြစ်သည်၊ ဟိန္ဒူများနှင့် ဆက်ဆံသည့် အတွက် နောက်အိမ်ထောင် ပြုခြင်းဖြင့် အမွေ ပေးလိုက်ရမည်ကို စိုးရိမ်သောကြောင့် ဤအတွေး ဝင်လာကြဟန် တူပေသည်။

'ရှရီအတ်'တရားတော်မြတ်အရ ပထမ နေကာဟ်ကို အဆီးအတားမရှိ ပြုကြသကဲ့သို့၊ နောက်အိမ်ထောင်ကိုလည်း ပြုကြရမည်၊ နောက်အိမ်ထောင်ကို စက်ဆုပ်ကြလျှင် ပထမအိမ်ထောင်ပြုခြင်းကိုလည်း အဘယ့်ကြောင့် မစက်ဆုပ်ကြသနည်း။

အချို့အမျိုးသမီးတို့တွင် မကောင်းသောအလေ့အကျင့် ရှိနေသည်၊ ကိုယ်တိုင် နောက်အိမ်ထောင်ပြုခြင်း၊ ၎င်းတိုက်တွန်းပြောဆိုပေးခြင်းများကိုမဆိုထားနှင့် အကယ်၍ တစ်ဦးသောသူမက အလ္လာဟ် ရစူလ်၏ အမိန့်တော်အတိုင်းလိုက်နာ၍ နောက်အိမ်ထောင် ပြုလျှင် စက်ဆုပ်သောအရှုဖြင့် ကြည့်ကြသည်၊ စကားတိုင်းတွင် ကဲ့ရဲ့ပြစ်တင်ကြသည်၊ လှောင်ကြသည်၊ သေးသိမ် ဂုဏ်ငယ်အောင် ပြုကြသည်၊ အချုပ်မှာ.... နေရာတိုင်းတွင် အပြစ်ဖို့ လှောင်ပြောင်နေကြပေသည်။

ဤသို့ပြုကြခြင်းများသည် ကြီးစွာသော 'ဂိုနာဟ်' အပြစ်ဖြစ်သည်၊ သာမက ဤသည်ကို မကောင်းဟု ယူဆခြင်းဖြင့် (ကွဖ်ရ်) အီမာန် ပျက်မည်ကို စိုးရိမ်ရလေသည်၊ အဘယ့်ကြောင့်ဆိုသော် 'ရှရီအတ်' သာသနာတော်မြတ်၏အမိန့်ကိုမကောင်းဟုယူဆခြင်း လိုက်နာ ဆောက်တည်သူကို သေးသိမ် ယုတ်ညံ့သည် ဟုထင်မြင်ခြင်းတို့သည် 'ကွဖ်ရ်' ဖြစ်ပေသည်။

သိမှတ်ကြရန်မှာ.... ကျွန်ုပ်တို့ နဗီ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်များသည် အာအေရှာ်(ရသွေ့)သခင်မမှတစ်ပါး အားလုံးသည် အပျိုများ မဟုတ်ကြ၊ တစ်အိမ်ထောင် နှစ်အိမ်ထောင် စသည့် အိမ်ထောင်ပျက်များပင် ဖြစ်ကြပေသည်၊ (နအူသွ ိ ဗစ်လ္လာဟ်)ထိုသခင်မများကိုလည်း မကောင်းပြောကြဦးမည်လော။ (တောင်ဗဟ်-တောင်ဗဟ်) သင်မတို့ ဂုဏ်သရေသည် အလ္လာဟ် ရစူလ်၏ အမိန့်ကို နာခံသော သူများထက် မြင့်မားနေပါသလော၊ နောက်အိမ်ထောင်ပြုခြင်းဖြင့် သင်မတို့ဂုဏ်ငယ်ကြမည်လော၊ ဂုဏ်သရေ ထိခိုက်မည်လော၊ မွတ်စလင်မ် ဖြစ်ရခြင်းပင် သင်မတို့ထံ ဂုဏ်မရှိ ဟု ဆိုရပေတော့မည်။

သိမှတ်ကြရန်မှာ... ဤကဲ့သို့ မကောင်းထင်မြင်မှုကို ကင်းစင်အောင် မပြုသရွေ့ ပဌမအိမ်ထောင်နှင့်နောက်အိမ်ထောင်ကို တစ်မျိုးတည်းဟုမယူဆသရွေ့ အလျဉ်း သင်မတို့၏ (အီမာန်) ယုံကြည်ချက်သည် မှန်ကန်ဖြောင့်မတ်ခြင်း မရှိသေးပေ၊ ထို့ကြောင့် နောက်အိမ်ထောင်အား မကောင်းထင်မှုကို စိတ်မှ ဖျောက်ဖျက်ပစ်ကြရမည်၊ ဤသို့ စိတ်မှဖျောက်ဖျက်မှုအပြင် အခြားနည်းလမ်းမရှိတော့ပေ၊ နာမည်ပျက်, ဂုဏ်ငယ်မည် ဟူသော အစွဲအလန်းကို ဖျောက်၍ ထုံးစံဓလေ့များကို ပယ်ကာ အလ္လာဟ် ရစူလ် စိတ်တိုင်းကျ ဖြစ်စေရန် မုဆိုးမများကို နောက်ယောကျ်ားနှင့် 'နေကာဟ်' ပြုပေးကြကုန်၊ မုဆိုးမက ငြင်းဆံနေလျှင် ဖျောင်းဖျ ပြောဆို၍၊ ခြောက်လှန့်၍၊ ဖြစ်သည့် နည်းနှင့် 'နေကာဟ်' ပြုပေးကြကုန်။

သိမှတ်ထားကြကုန်၊ မုဆိုးမ၏ ငြင်းဆံခြင်းသည် ထုံးစံဓလေ့ကြောင့်ဖြစ်သည်၊ ပြစ်တင်ကဲ့ရဲ့သော ထုံးစံမရှိပါက မည်သည့်မုဆိုးမမှ နောက်အိမ်ထောင်ပြုရန်ကို ငြင်းဆန်ကြမည်မဟုတ်ပေ၊ မုဆိုးမများကို အများအားဖြင့် 'နေကာဟ်' ပြုပေးနေကြမှသာ စိတ်တွင်း၌ကိန်းအောင်းနေသော မကောင်းဟု ထင်မြင်မှုများ ပ ပျောက်၍သွားပေမည်။

ဟဒီးသ်တော်တွင်လာသည်၊ ငါ့ရစူလ် ချမှတ်တော်မူခဲ့သော လမ်းစဉ်တစ်ခု ပျက်ပြုန်းလေရာ၊ ပြန်လည်ရှင်သန်အောင်ပြုသူများသည် 'ရှဟီဒ်' ဘာသာရေးစစ်ပွဲတွင် အသက်ပေးသွားကြသော ပုဂ္ဂိုလ် ၁၀၀-၏ ကုသိုလ် သဝါဗ် ရလေသည်၊ ထို့ကြောင့် အကြင်သူသည် မုဆိုးမများကို နောက်အိမ်ထောင်မပြုဘဲ မနေကြရအောင် လမ်းခင်းပေးသွား

လျှင်၊ ၎င်းအကြင်မုဆိုးမသည် ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သဘောတူ နှစ်မြို့ စေရန်အတွက် ၎င်းအစဉ်အလာဖြစ်သွားစေရန်အတွက် မိမိကိုယ်တိုင် နေကာဟ် ပြုကြလျှင် ထိုသူ့ထိုသူမတို့သည် (ရှဟီဒီ) ၁၀၀-၏ကုသိုလ်'သဝါဗ်'ရရှိမည်ဖြစ်ပေသည်။

အဘယ်သင်တို့သည် ထိုမုဆိုးမများကို မသနားကြသလော၊ ထိုမုဆိုးမတို့၏ ဒုက္ခများကိုမြင်၍ စိတ်မထိခိုက်ကြသလော၊ ထိုမုဆိုးမများသည် ရာသက်ပန်ဆင်းရဲဒုက္ခရောက်ကြ၍ နောက်ဆုံး မြေကြီးထဲသို့ ရောက်သွားကြရလေသည်။

## အခန်း (၃)

(လူအချို့တို့က ဘာသာရေး၊ ၎င်းကုသိုလ်ရသည်ဟု ယူဆ၍ ပြုလုပ်ကြသော ထုံးစံများအကြောင်းကို ဆိုပေအံ့။)

# ဖွာတေဟာ် အကြောင်း

ဖွာတေဟာ်.... သေသူကို သဝါဗ် ကုသိုလ်ပို့ရန် နည်းလမ်းအကြောင်းကို ပထမဦးစွာ သိထားကြရမည်၊သို့ရှိရာ 'ရှရီအတ်' တရားတော်မြတ်၌တစ်ဦးသောသူကကောင်းမှုကစ်ြ ပြုလုပ်သည်၊ ထိုရသော 'သဝါဗ်' ကို အခြားတစ်ဦးအား ပေးလိုက်ခြင်းမျှသာ ဖြစ်ပေသည်၊ အို....အလ္လာဟ်အသျှင်မြတ်၊ကျွန်တော်မျိုးပြုမှုသောကုသိုလ်သဝါဗ်ကို မည်သူမည်ဝါအား ပေးသနားတော်မူပါ။

ပမာဆိုသော်....တစ်ဦးသောသူက အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်ထမင်းကျွေးသည်၊ မုန့်ချိုဝေသည်၊ ငွေ့ပိုက်ဆံ့အဝတ်အထည် ပေးလှူသည်၊ ထိုအခါပေးလှူသူက အို ...အလ္လာဟ်အသျှင်မြတ်၊ဤလှူဒါန်းသော အကျိုးငှာရရှိသော ကုသိုလ်သဝါဗ်ကို မည်သူမည်ဝါကို ပေးသနားတော်မူပါ။

သို့တည်းမဟုတ် ကုရ်အာန်ကျမ်းတော်မြတ်အချို့တစ်ဝက်ဖတ်၍ထိုရသောကုသိုလ်သဝါဗ်ကို မည်သူမည်ဝါအား ပေးသနားတော်မူပါဟု ဆိုရုံမျှဖြင့်ပြီးလေသည်၊ ထိုပေးသော ကောင်းမှုကုသိုလ်သည် ယခုပင်ပြုလုပ်သည်ဖြစ်စေ၊ အရှယ်ရောက် လူလားမြောက်ကတည်းက ပြုမူထားသော ကုသိုလ်ပင်ဖြစ်စေ အားလုံးသောကုသိုလ်များကို မိမိပေးလိုသောသူအား ပေးလိုက်နိုင်လေသည်၊ 'ရှရီအတ်' တရားတော်မြတ်တွင်ဤမျှပင် ပြုလုပ်ကြရန် မိန့်မှတ်ထားတော်မူသည်။

'ဂျာဟင်လ်'ဘာသာရေး အသိပညာ မရှိသူများက ဤကိစ္စကိုပုံကြီးချဲ့ကာတီထွင်လုပ်ဇာတ်ခင်းထားကြသည်မှာ ကြည့်ဖွယ်ပင် ကောင်းလေသည်။

ပထမ အနည်း‌ငယ်မျှနေရာတွင် မြေကြွန်၍ မွမ်းမ ချယ်လှယ်ကာ စားဖွယ်များကို ထားကြသည်၊ အချို့အချို့တို့က စားဖွယ်နှင့်အတူ ရေ, ငင်း ကွမ်းလည်း ထားကြလေသည်၊ ထို့နောက် တစ်ဦးသောသူက စားဖွယ်ဘောဇဉ်ရှေ့တွင်ထိုင်၍ စူရဟ် အချို့ကို ဖတ်သည်၊ ဖတ်ပြီး သေသူတို့၏ အမည်ကိုတတ်ခေါ်၍ ကုသိုလ်ပို့လေသည်။

ကုရ်အာန် ကျမ်းတော်မြတ်တွင် အလ္လာဟ်အသျှင်မြတ် မိန့်တော်မူထားသည်၊ ကွလ်ယာအဟ်လလ်၊ ကေတာဗေ့၊ လာတဂ်လူ၊ ဖွိဒီနေ့ကွန်မ်၊ ဂိုင်ရလ်ဟပ်က်ကေ့။

ပမာဆိုသော် နဗီရစူလ်အပေါင်းတို့၏ သာသနာတော်တွင် အလ္လာဟ်ရစူလ်၏၊ အမိန့်အပြင် အခြားမှားယွင်းသော အလုပ်များကို မလုပ်ကြနှင့်ဟုတားမြစ်ချက်ပါရှိသည် အမိန့်ရှိသည့်အတိုင်းပင် လုပ်ရမည်၊ မိမိဘက်မှချဲ့ထွင်၍ အပိုမလုပ်ရ၊ မပြောရ၊ မရေးရ၊ သာပိုထည့်သွင်း ပြုလုပ်ကြလျှင် ထိုအလုပ်ကိစ္စသည် ဘာသာရေး မဟုတ်တော့ဘဲ သာသနာတော်နှင့် တစ်ခြားဖြစ်သွားသည်၊ ထို့နောက် အကြင်သူသည် ထိုအပိုအလုပ်ကို လုပ်လျှင် ထိုသူသည် လမ်းမှားသူ ဖြစ်သွားလေသည်။

ထိုသို့ တီထွင်တရားသစ် လုပ်ကြသဖြင့် မကောင်းမှု မြောက်မြားစွာ ပေါ်ထွက်လာပေသည်။

၁။ မကောင်းဆုံးသောအချက်မှာ....ဂျာဟင်လ် ဘာသာရေး အသိပညာမရှိသူများက ဤသို့ကုသိုလ်သဝါဗ် မပို့လျှင် သေသူမှာ ကုသိုလ်သဝါဗ် မရောက်ဟု(အကီဒဟ်) ယုံကြည်မှု ထားကြလေသည်၊ သို့ရှိရာ ဖတ်သူကို မရမကခေါ်၍ ဖတ်ခိုင်းသည်၊ တစ်ဦးတစ်ယောက်က 'ဖွာတေဟဟ်' မဖတ်ပေးသေးလျှင် ထိုစားဖွယ်များကို မည်သူ့ကိုမျှ မကျွေးကြပေ၊ မဖတ်သေး၍ ကုသိုလ်မရောက်သေးဟုယူဆကာ မကျွေးသေးဘဲ နေခြင်းဖြစ်ပေသည်၊ အချို့အချိန်တွင် သူစိမ်းယောကျ်ားကိုအိမ်သို့ခေါ်၍'ဖွာတေဟဟ်'ဖတ်ခိုင်းကြသည်၊ ဤသို့ဖတ်စေခြင်းသည် 'ရှရီအတ်' တရားတော်အရ မပိုင်ဖြစ်ပေသည်။

ကာဖွေရှုန်စူရဟ်ကို ဝိုင်း၍ဖတ်ကြခြင်းသည် မတ်က်ရှူးဟ်တဟ်ရီမဟ်၊ ငင်းဗိဒအတ်ဖြစ်သည်၊ ဆဟာဗဟ်၊ တာဗေ့အီန် သခင်များ လက်ထက်တော်က လုံးဝမရှိခဲ့ပေ။

(အာလမ်ဂီရီကျမ်း)

ကျွန်ုပ် မျက်မြင် တွေ့ရသည်မှာ.... သေသူများကို ကုသိုလ် သဝါဗ်ပေးရန်ဖြစ်မှု အမည်နာမများကို ပြောပြထား၍ မမှတ်မိလေရာ ဖွာတေဟဟ် ပေးသူကို အားလုံးဖတ်ပြီးလျှင် (ဟူန်) ဟုတ်ကဲ့ဟူ၍ပင် ဆိုရန်အမိန့်ပေးကြသည်၊ ဟုတ်ကဲ့ဟု ဆိုသောအခါ အမည်ဘစ်ခုကိုပြော၍ ကျွေးကြလေသည်၊ နာမည်ထုတ်ဖော်ပြောသူက ငင်းပြောသူသာလျှင် ကုသိုလ်သဝါဗ် ရသည်ဟု ယူဆကာ နာမည်မယူသူအား ကုသိုလ်မရဟုယူဆလေသည်၊ အမှန်မှာ ကုသိုလ်ပေးပိုင်သူမှာ ကျွေးမွေးသူသာလျှင်ဖြစ်ပြီးဖတ်ပေးသူမဟုတ်ပေ၊

ဖတ်သူက နာမည်ယူပြောခြင်းမှာ အတည်မဖြစ် ကျွေးသူကသာ ကုသိုလ်ပေးလိုသူအား ပေးနိုင်လေသည်၊ ဤသို့ ယူဆကြခြင်းမှာ(အကီဒဟ်)ယုံကြည်မှုချို့ယွင်းမှုသာ ဖြစ်ပေ၏။

အချို့ဘာသာရေး အသိနည်းသူများက ဆိုကြပြန်သည်၊ ကျွေးခြင်းဖြင့် ကုသိုလ်ကား ရပါ၏၊ သို့ရာတွင် စူရဟ်များ၊ဖတ်ခြင်းဖြင့် ကုသိုလ်နှစ်ဆရပါမည်၊ ကျွေးခြင်းက ကုသိုလ်တစ်ခု၊ ကုရ်အာန်ဖတ်ခြင်းက ကုသိုလ်တစ်ခု။

အဖြေမှာ...အကယ်၍ဤသို့ယူဆကြခြင်းဖြစ်မူသီးခြား၍ထိုအချိန်၌အဘယ်ကြောင့် ဖတ်စေကြသနည်း၊ နံနက်က ဖတ်ထားသော ကုရ်အာန်၏ အကျိုးသဝါဗ်ကို ပေးလိုက်လျှင်လည်း ပြီးသည်၊ အကယ်၍ တစ်ဦးသောသူက ထိုအချိန်တွင်မဖတ်ဘဲ ယခင်က ဖတ်ထားသော 'ပါရဟ်' တစ်ခုတစ်ဝက် ၎င်း၊၈ဆုံး၏ ကုသိုလ်သဝါဗ်ကိုပေးလျှင်၎င်းမုန့်ဝေပါ၊ ပြီးတော့မှ ဖတ်ပေးမည်ဟု ပြောဆိုလျှင် မည်သူမျှ မနာခံကြပေ၊ ၎င်းမုန့်ပွဲအနီးသို့ မလာဘဲ ခပ်လှမ်းလှမ်းက ဖတ်ပေးလျှင်လည်း လက်မခံကြပေ။

ထိုအဖြစ်၌ သူတစ်ပါးအား 'ဖွာတေဟဟ်' ဖတ်စေခြင်းသည်လုံးဝ အဓိပ္ပါယ်မရှိပေ၊ အဘယ့်ကြောင့်ဆိုသော်....ကုရ်အာန် ဖတ်ခြင်း၏ ကုသိုလ်သဝါဗ်သည် ဖတ်သူသာ လျှင်ရသည်၊ သင်တို့ဘက်မှကျွေးသော မုန့်အတွက်သာ ကုသိုလ်ရသည်၊သင်တို့ကကုသိုလ် ပို့သောအခါ ထိုသူကလည်း ပို့ရမည်ဟု အဓမ္မပြုရမရောက်ပါသလော။

၂။ အချို့သူတို့က ဤသို့ ဖတ်ခြင်းဖြင့် ကုသိုလ်ရောက်သွားသည်၊ စားဖွယ်များ လှူပစ်ရန်မလိုဟု ထင်မြင်ကြလေသည်၊ သို့ရှိရာ ရစူလွ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ၎င်းဆွဟာဗ်တော်စင် တစ်ပါးပါးအတွက် 'ဖွာတေဟဟ်' ဖတ်၍ ကိုယ်တိုင် စားကြသည်၊ (ဂဃာရဝိန်) စသည်တို့တွင် မုန့်ချိုဝေငှရာ၌ တတ်ကုန်နိုင်သောသူများ၊ မိတ်သင်္ဂဟများ ကိုသာပို့ကြသည်၊ မရှိဆင်းရဲသားများကို ပေးသည်ဟု ကျွန်ုပ်မကြားခဲ့။

သို့ရှိရာ ဤသို့ 'အကီဒဟ်' ထားခြင်း၊ ဖတ်၍ကုသိုလ်ပို့ပေးခြင်းဖြင့် ထိုကုသိုလ် ရောက်သွားသည်ဟု ယူဆသော အကီဒဟ် သည် မှားသည်၊ ၎င်းပြင်ဂိုနာဟ် အပြစ်ဖြစ် လေသည်၊ ထို့ကြောင့် ထိုကုသိုလ်ကားမရောက် သာမက ပို့လိုသော သူ့ထံကိုလည်း မရောက်ပေ၊ သို့သော် ဖတ်သော့ စူရဟ် တစ်ပုဒ်နှစ်ပုဒ်အတွက်သာ ရောက်လေသည်၊ သို့ရှိရာ ထိုသဝါဗ်ပင် ပို့ရန်ဖြစ်မူ စားဖွယ်မုန့်မျိုးစုံကို အကျိုးမဲ့ တည်ခင်း၍ တစ်ကျပ်၊ ၂-ကျပ် ကျွေးဇူးတင်ခံရအောင် ပြုခြင်းသာလျှင် ဖြစ်ပေသည်။

အကယ်၍ မရှိဆင်းရဲသားများကိုလည်း ပေးပါသည်ဆိုမူ၊ အဖြေမှာ....ဆင်းရဲသား ၅- ယောက်, ၁၀- ယောက်ကို ပေးခြင်းဖြင့် အဘယ်သို့ ဖြစ်မည်နည်း၊ အဓိက အချက်မှာ.... မုန့်အားလုံးအတွက် ကုသိုလ်ပို့ရန်ဖြစ်သည်၊ အကယ်၍ ထိုမျှမုန့်ကိုပင် ကုသိုလ်ပို့ရန်ဖြစ်လျှင် ငွေ၏အမည်ကို အဘယ့်ကြောင့် ထည့်သွင်းကြသနည်း၊ ၎င်းပေး

ခြင်းမှာလည်း (ခိုင်ရာတ်) ဟူ၍ မပေးကြ၊ သာမက လက်ဆောင် ငင်းဘရိကတ် သဘော နှင့် ပေးကြသည်၊ သို့ရှိရာ ထိုပေးသောသူကိုပင် (ခိုင်ရာတ်) အဖြစ်နှင့်ပေးလျှင် အလျင်း ယူမည်မဟုတ် စိတ်ပင်ဆိုးပေဦးမည်။

သို့ရှိရာ ယခုခေတ် အခါသမယတွင် ထုံးစံအဖြစ်နှင့် ပြုလုပ်ကြသောဖွာတေဟာဟ် မုန့်ပွဲတည်၍ဖတ်ခြင်းသည် လုံးဝ အကျိုးမဲ့ဖြစ်သည့်အပြင် အဓိပ္ပါယ် ကင်းမဲ့သောအလုပ် တစ်ခုလည်း ဖြစ်ပေသည်။

၃။ ကောင်းပြီ၊ အကယ်၍ 'ဖွာတေဟာဟ်' ဖတ်ပြီးနောက် ထိုစားဖွယ်များကို သူဆင်းရဲများအား ပေးသည် ဆိုကြပါစို့၊ ကျွန်ုပ် ပြောလိုသည်မှာ သူဆင်းရဲများကို မပေးမီ ကုသိုလ်ပို့ခြင်းမှာ အဘယ်အဓိပ္ပါယ်နည်း၊ သူဆင်းရဲများကိုပေးပြီး ကျွေးပြီးမှ သင့်မှာကုသိုလ်ရမည်၊ ယခုသင့်မှာ ကုသိုလ်မရသေးမီ သေသူများမှာ အဘယ်သို့ကုသိုလ် ရမည်နည်း၊ အချုပ်မှာ.... ဤသို့ ဖွာတေဟာဟ် ဖတ်ကြခြင်းတွင် မည်သည့် ကိစ္စရပ်မှ မှုမှန်မရှိပေ။

၄။ အချို့သူများက ထို'ဖွာတေဟာဟ်'အတွက်တည်သောပစ္စည်းများပင် သေသူ ထံရောက်သွားသည်ဟု ယူဆကြသည်၊ သို့ရှိရာ စားဖွယ်များနှင့်အတူ ရေ၊ကွမ်း ထားကြ သည်၊ (ဆေးဗူး) အချို့က ဆေးလိပ်လည်း ထားကြသည်၊ ယူဆကြသည်မှာ စားဖွယ် များကို စားသောက်ပြီး သောက်ရန် ရေအဘယ်က ရမည်နည်း၊ ပါးစပ်ချဉ်နေမည်။ ထို့ကြောင့် ကွမ်းစားရန်လိုအပ်လာမည်၊ (အသျှင်မြတ်ထံ ကင်းရန်ဆုပန်ပါ၏၊) မိုက်မဲ အသိတရား ကင်းမဲ့ခြင်းကား ဆုံးခန်းသို့ပင် ရောက်နေလေသည်။

သေသူ အသက်ရှင်နေစဉ်က ကြိုက်နှစ်သက်သော ပစ္စည်းဖြင့် 'ဖွာတေဟာဟ်' ဖတ်ရန် ဂရုတစ်စိုက်ပြုလုပ်ကြသည်၊ ကလေးငယ်အတွက် (နို့) နို့ထမင်းဖြင့်ဖတ်ကြသည်၊ ကျွန်ုပ်သတိရသည်မှာ...တစ်ခါက ရှဗေ့ဘရာတ်တွင် ဖွာတေဟာဟ် ဖတ်ရာ၌ အဘွားအို တစ်ယောက်က မီးပန်းတစ်ထုပ်ထည့်ထားသည်၊ အဘွားကြီးက သေသူသည် မီးပန်းရှို့ ရန် ဝါသနာထုံ၍ ထည့်ခြင်းဖြစ်သည်ဟု ပြောပြသည်၊ ဤသည်မှာ(အကဲဒယ်) ညံ့မည့် ကိုယ်တိုင် စဉ်းစားဆုံးဖြတ်ကြကုန်လော။

၅။ ဖွာတေဟာဟ် ဖတ်သောအခါ သေသူ၏ (ရူးဟ်) ဝိညာဉ် လာရောက်သည်ဟု ယူဆကြသည်၊ ထို့ကြောင့် လော်ဘန် အမွှေးတိုင်စသည်များရှို့ခြင်းဖြစ်သည်၊ အားလုံး ကို မဆိုလို အချို့က ဤအတိုင်း ယုံကြည်ချက်ထားကြပေသည်။

၆။ ထို့နောက် ဖွာတေဟာဟ် ဖတ်ရန် ကြာသပတေးနေ့ညကို သတ်မှတ်ထားကြ သည်၊ 'ရှရီအတ်' တရားတော်မြတ်အရ ရက်အားလုံး အတူတူဖြစ်ကြလေရာ သီးခြား၍ ကြာသပတေးနေ့ကို ဖွာတေဟာဟ် နေ့ဟု ယူဆခြင်းသည် 'ရှရီအတ်'တရားတော်၏အမိန့်ကို ပြောင်းပစ်ရာ မရောက်ပါသလော။

၂။ ဤသို့သတ်မှတ်မှုဖြင့် မကောင်းမှုတစ်ရပ်ပေါ်ပေါက်လာသည်မှာ- လူအချို့တို့က ကြာသပတေးနေ့ညတွင် သေသူတို့၏'ရူးဟ်'ဝိညာဉ်များသည် မိမိတို့အိမ်သို့ လာရောက်ကြသည်ဟုယူဆနေကြသည်၊ အကယ်၍ ကုသိုလ်သဝါဗ်ရလျှင် ကောင်းပေစွ၊ သို့တည်းမဟုတ်က လက်မဲ့ပြန်ကြသည်ဟု ယူဆကြလေသည်၊ ဤသို့ ထင်မြင်ယူဆခြင်းသည် မှားလေ၏၊ ၎င်းအကြောင်းခံမရှိဘဲ ဤသို့ 'ဝိညာဉ်များလာကြောင်း 'အကီဒဟ်' ထားခြင်းသည် ဂိုနာဟ် ဖြစ်လေသည်။

မစ်ရှ်ကာတ်၊ နေစာအီ နှင့် အဟ်မဒ်ကျမ်းတို့တွင် လာရှိသည်၊ သေသူ၏ 'ရူးဟ်' ဝိညာဉ်သည် 'ဘရ်ဇခ်' လောကသို့ ရောက်ရှိသွားလေရာ၊ ဝိညာဉ်များက စုရုံးလာကြ၍ မိမိတို့၏သားချင်းများ အကြောင်းကို မေးမြန်းကြသည်၊ ၎င်းသူ အလျင်သေဆုံးပါက ကျွန်တော့်အလျင် သေဆုံးသွားပါပြီဟု ဖြေကြားလေသည်၊ အကယ်၍ ကြာသပတေးနေ့ ဝိညာဉ်များသည် မိမိတို့ အိမ်များသို့ သွားနေပါက လောလောဆယ် သေဆုံးသူအား မေးနေရန်မလိုပေ၊ မိမိမျက်စိဖြင့်ကြည့်လာရမည်သာဖြစ်ပေသည်၊ သို့ရှိရာ ဝိညာဉ်များ အိမ်သို့ လာသည်ဟူသော ယူဆချက်သည် အကျိုးမဲ့ စိတ်ကူးယဉ်တစ်ရပ်မျှသာဖြစ်သည်၊ အလျင်း ယုံကြည်ကြရန် မထိုက်ပေ။

ဤသို့ပင် ရက်သတ်မှတ်၍ ဖွာတေဟာဟ်ဖတ်ခြင်း၊ ထိုရက်မှပင် ကုသိုလ်'သဝါဗ်' ရသည်ဟု ယူဆခြင်းတို့သည် ဂိုနာဟ် ဖြစ်စေသော 'အကီဒဟ်' များ ဖြစ်လေသည်။

၇။ အချို့လူသာမန်တို့၏ ဓလေ့တစ်ခုမှာ များစွာသောစားဖွယ်များမှ အနည်းငယ်ကိုယူ၍ လင်ပန်း (ဗန်း)ထဲတွင်ထည့်၍ ထိုမုန့်ပွဲကို ရှေ့မှာတည်ကာ 'ဖွာတေဟာဟ်' ဖတ်ကြသည်၊ ဤသည်၌ ထိုအထက်ပါမကောင်းမှုများ ရှိသည့်အပြင် စကားတစ်ခွန်း ကျွန်ုပ် မေးချင်သည်၊ ပွဲတည်ထားသော စားဖွယ်အတွက်ပင် ကုသိုလ် ပို့လိုသလော၊ အားလုံးသော စားဖွယ်များအတွက် ပို့လိုပါသလော၊ ပွဲတည်သည်ခန့်ပင် ကုသိုလ်ပို့လိုသည်မဟုတ်ဘဲ အားလုံးအတွက် ပို့လိုသည် ဖြစ်ပေမည်။ သို့ရှိရာ ကျွန်ုပ် မေးလိုသည်၊ အားလုံးစားဖွယ်များအတွက်ကုသိုလ်ပို့လိုပါက အဘယ့်ကြောင့် အနည်းငယ်ပင် ပွဲတည်၍ ဖတ်သနည်း၊ သင်တို့ ယူဆသော ထုံးစံအရ ထိုတည်သောမုန့်၏ ကုသိုလ်ပင်ရမည်၊ ကျန်မုန့်များ အလဟဿ ဆုံးရှုံးခြင်း ဖြစ်မည်။

အကယ်၍ မုန့်အားလုံး ရှေ့တွင်ထားရန် အရေးမကြီး၊ 'နိယတ်' စိတ်ဆန္ဒထားလိုက်လျှင်ပြီးသည်ဟု သင်တို့ကဆိုမူ မုန့်ပွဲတည်၍ဖတ်ရန်မလိုပေ၊ နိယတ်ထားလိုက်လျှင်ပင် လုံလောက်သည်၊ အဘယ့်ကြောင့် မုန့်ပွဲတည်ကြသနည်း။ (တောင်ဗဟ်-တောင်ဗဟ်) အလ္လာဟ်အသျှင်မြတ်အား နမူနာ ပြခြင်းသာ ဖြစ်သည်၊ ဤသည်အပြင် စားဖွယ်များ အိုးထဲတွင် ရှိပါသေးသည်၊ ထိုအတွက်ပါ ကုသိုလ် ပေးပါဟု ပြောရာ ရောက်သည်။ (နအူဇုဗိလ္လာဟ်။)

၈။ အကယ်၍ ကုသိုလ်သဝါဗ်ပို့ရန်၊ ရှေ့တွင်ပွဲတည်၍ဖတ်ရန် အရေးကြီးသည်ဟု ယူဆကြလျှင် ငွေ၊ ပိုက်ဆံ၊ အဝတ်အထည်၊ သီးနှံ စသည်တို့ကို ကုသိုလ်ရရန်အတွက် လှူတမ်းကြမှု၊ ထိုပစ္စည်းများကို ရှေ့သို့ထား၍ အဘယ့်ကြောင့် ဖွာတေဟာ် မဖတ်ကြသနည်း၊ အကယ်၍ ထိုပစ္စည်းများကိုဖတ်ရန် အရေးမကြီးလျှင် အဘယ့်ကြောင့် စားဖွယ် ပစ္စည်းများကို ဖတ်ကြရန် အရေးကြီးသည်ဟု ထင်ကြသနည်း။

၉။ ကျွန်ုပ်မေးချင်သည်၊ မြေကြန်ရန်(သုတ်ရန်)အဘယ့်ကြောင့်လိုအပ်သနည်း ထိုမြေသည် မသန့်မရှင်းဖြစ်နေ၍လော၊ အကယ်၍ မသန့်ဖြစ်နေလျှင် မြေကြန်ခြင်းဖြင့် သန့်ပြန့်မှု မဖြစ်သာမက ပို၍ပင် မသန့်ဖြစ်သွားပေသည်၊ ပထမမူကား ခြောက်နေသဖြင့် ပန်းကန် စသည်တွင် လူးပေရန်မရှိ၊ ယခုသော်ကား ပန်းကန်လည်း မသန့်ပင်ဖြစ်သွားပေမည်။

အကယ်၍ သန့်နေလျှင် မြေကြန်ခြင်းသည် အလဟဿအကျိုးမဲ့လုပ်ငန်းဖြစ်သည်၊ ဤသည်လည်း ဟိန္ဒူများ၏ (ကျောင်ကဟ်) ထမင်းချက်ရန် မြေကြန်ရာနေရာပမာ ဖြစ်နေသည်၊ (နအူဇုဗိ‌ ့ဗစ်လ္လာဟ်) သေသူများကို (ကျောင်ကဟ်) တွင် ထိုင်စေ၍ ထမင်းကျွေးကြသလော၊ (လာဟောင်လ၊ ဝလာကုဝတ) ဤသို့ အကြင် ဖွာတေဟာ်ကိုဂရုတစ်စိုက်ပြုလျှင် ထိုပွဲတွင် မီးဖို စသည်များကိုလည်းမြေကြန်ကြသည်၊ ဤသည်လည်း ထိုအတိုင်းပင် ဖြစ်လေသည်။

၁၀။ သူတော်စင်များအတွက် ဖွာတေဟာ် ဖတ်ရာ၌ အားလုံး ပစ္စည်းများကို မကိုင်မတွယ်ရ, ထားကြသည်၊ အိုးသစ်, ပန်းကန်,ခွက်ယောက်သစ်များကို ထုတ်ကြသည်၊ ထိုပန်းကန်များကို ဆေးကြောရန် ရေတွင်းမှ ရေငင်ကြသည်၊ အိမ်ရှိရေ မလူးထိစေကြပေ၊ ၎င်းထိုခွက်များကို မည်သူမျှ မကိုင်ရ၊မထိရ၊ ထိုခွက်များဖြင့် မည်သူမျှမသောက်မသုံးရပေ၊ (ဆိနီ)မုန့်အတွက် သကြားဆေးလာသကဲ့သို့ ပမာ ဖြစ်သည်။

အချုပ်မှာ...အိမ်စစ္စည်းအားလုံးကို မသန့်ဟု ယူဆကြသည်၊ ဤသည်မှာ အသိဉာဏ်နှင့် ကွဲလွဲသောကိစ္စရပ်ဖြစ်သည်၊ အကယ်၍ အိမ်ရှိပစ္စည်းသည် တစ်ကယ်ပင်မသန့်ဖြစ်နေလျှင် ကိုယ်တိုင် အဘယ့်ကြောင့် သုံးကြသနည်း၊ ၎င်းသန့်နေပါက ဤထွင်လုံးကား အဘယ့်ကြောင့် လိုအပ်နေသနည်း၊ 'ရှရီအတ်'တရားတော်၏ အမိန့်ပညတ်မှာ- အကြင်ပစ္စည်းကိုကိုယ်တိုင်စားပိုင်လျှင်ထိုပစ္စည်းကိုသူဆင်းရဲများကိုပေးလှူနိုင်သည်၊ ၎င်းမည်သည့်အခါ သူဆင်းရဲကိုပေးမှု ကုသိုလ်ကိုလည်း ပေးပိုင်သည်၊ သို့ရှိရာ ဤထွင်လုံးများသည် အကျိုးမဲ့ ၎င်း အသိဉာဏ်နှင့် ကွဲလွဲမနေပါသလော။

ကြီးဒသာ'ဒရ်ဂါ' ၎ဝ်းသူတော်စင်များဖြစ်၍ ထိုပုဂ္ဂိုလ်များထံ ဂရုတစ်စိုက် သန့်သန့် ရှင်းရှင်း ပို့ရန် ထိုက်သည်ဟုဆိုမှု ပထမအဖြေမှာ.... အလ္လာဟ်အသျှင်မြတ် ထံတော်၌ ပြွင်ပ ဂရုစိုက်ခြင်း၊ သန့်ရှင်းခြင်းသည် ဂုဏ်အဆင့်အတန်းမရှိပေ၊ ထိုအသျှင်မြတ်ထံတော်တွင် ပစ္စည်း (ဟလာလ်) သန့်ပြန့်ခြင်းသာ ဂုဏ်ရှိသည်၊ အကယ်၍ (ဟရာမ်)မသန့်သော

ပစ္စည်း ဖြစ်လျှင် ထောင်ပေါင်းများစွာ ဂရုဇိုက်သော်လည်း အချည်းနှီးပင် ဖြစ်သည်၊ အကယ်၍(ဟလာလ်)သန့်သောပစ္စည်းဖြစ်လျှင် ဤသို့ဂရုတစ်ဇိုက်ပြုခြင်းများ အလဟဿ အဟောသိက ဖြစ်သည်၊ ထို'ဟလာလ်'ပစ္စည်းများကို ရိုးရိုးပင် ပေးလှူလိုက်ပါက လက်ခံ တော်မူသည်။

ဒုတိယအဖြေမှာ... ကိုယ်တိုင် ထိုသူတော်စင်၏ (ဒရ်ဂါ)၌ ပို့ရန် 'အကီဒဟ်' ထားမှု၊ ဤသည်'ဟရာမ်'ရင်း(ရှစ်ရိက်)ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ထိုစားဖွယ် ဘောဇဉ်ကို အလ္လာဟ်အသျှင်မြတ်၏ လမ်းတော်၌ ပေးလှူရန် ဖြစ်သည်၊ ထိုသူတော်စင်၏ထံ ရင်းထိုသူတော်စင်၏လမ်း၌ပေးရန်မဟုတ်၊ အကယ်၍ သူတော်စင်၏ထံရင်းသူတော်စင်၏ လမ်း၌ ပေးရန် 'နိယတ်'ထားလျှင် ထိုစားဖွယ်လည်း 'ဟရာမ်'ဖြစ်သွားမည်။

သို့ရှိရာ အကယ်၍ အခြားပစ္စည်းများ လှူရာတွင် အကျိုးမဲ့ကိစ္စများ မပြုဘဲ လှူ သကဲ့သို့ စားဖွယ်များကိုလည်းလှူတမ်း၍ကုသိုလ်ပို့လိုမှု၊ဥပမာ သူဆင်းရဲကိုပိုက်ဆံပေး ရာ၌ ဆေးကြော၍မပေး၊ ကောက်ပဲသီးနှံ ပေးသည်၊ အိမ်တွင်စားသောက်သော ထမင်း မုန့်များ စသည်ကိုပေးသည်၊ ဤသို့ပင် ထိုမုန့်ပွဲ စားဖွယ်များကိုလည်း ရိုးရိုးပင်ပေးလှူ လိုက်ကြကုန်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့ပေးလှူခြင်းသည် အလ္လာဟ်အသျှင်မြတ်ထံ ရောက်သည်၊ ထိုသို့ ပေးလှူခြင်းလည်း အလ္လာဟ်အသျှင်မြတ်ထံပင် ရောက်သည် ဖြစ်၍ ဤနှစ်ချက်ကို အဘယ့်ကြောင့် ခွဲခြားထားကြသနည်း။

ထို့နောက် စဉ်းစားရန်အချက်မှာ ... သူတော်စင်များအတွက် တစ်သီးတစ်ခြား ဂရုတစ်ဇိုက်ပြုလုပ်ပေးကျွေးခြင်းဖြင့် အလ္လာဟ်အသျှင်မြတ်ထက် သူတော်စင်များကို ဂုဏ် ဒြပ် ပိုမိုပေးရာရောက်သည်၊ ထိုပစ္စည်းစားဖွယ်များသည် သူတော်စင်များ၏ 'ဒရ်ဂါ'သို့ ရောက်ပြီးဤစားဖွယ်ပစ္စည်းများကား အလ္လာဟ်အသျှင်မြတ်ထံရောက်သည်ဟုထင်မြင်ယူဆ ချက်ထားခြင်းတို့သည် ထင်ရှားသော'ရှစ်ရိက်' ဖြစ်လေသည်။

၁၁။ ဤသည်ထက်ဆိုးဝါးသော ထုံးစံတစ်ခုရှိသေးသည်၊ တစ်ဦးတစ်ဦးအတွက် ဖွာတေဟဟ်ကို တစ်သီးတစ်ခြားစီပြုကြသည်၊ အလ္လာဟ်အသျှင်မြတ်အတွက် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်အတွက် ဟသ္စရတ်ဘီဘီ အတွက် ဟူ၍ ခွဲခြားသတ်မှတ်ကြသည်၊ အလ္လာဟ်အသျှင်မြတ်အတွက် ဤမျှ ပေးလှူ၍ ထိုထိုသော ပုဂ္ဂိုလ်များအတွက် ဤရွေ့ ဤမျှဖြစ်ကြောင်းထင်ရှားနေသည်၊ သို့ရှိရာ ဤသို့ပြုကြခြင်းဖြင့် 'ရှစ်ရိက်'ဖြစ်နေကြောင်း ဒွိဟ ဖြစ်နိုင်ပါသေးသလော။ (အတ်စ်တဂ်ဖွေ့ရုလ္လာဟ်)

ဤသို့ ပြုမှုခြင်းများ 'ရှစ်ရိက်'ဖြစ်ကြောင်း၊ မကောင်းကြောင်းများ ကုရ်အာန် ကျမ်းတော်မြတ်တွင် အတိအလင်း လာရှိထားပေသည်၊ ထို့ကြောင့် ဤသို့သောအလုပ် များမှ 'တောင်ဗဟ်'ပြု၊ အမှားဝန်ခံကြရန်ထိုက်သည်၊ လှူဖွယ်ရှိသမျှ ပစ္စည်းများကို အလ္လာဟ်အသျှင်မြတ်လမ်းတော်၌ လှူတမ်း၍ ရရှိသောကုသိုလ်သဝါဗ်ကို ပေးလိုသူများ အား ပေးကြရမည်။

ရယ်ဖွယ်တစ်ရပ်မှာ သာမန်သေသူများအတွက် ဖွာတေဟတ်ကိုရော၍ပြုကြသည်၊ သူတော်စင်များ၊ လူကြီးများအတွက် တစ်ဦးတွက်စီ သီးခြားပြုကြသည်၊ လူသာမန်များသည် သူဆင်းရဲများ၊အားနည်းသူများဖြစ်ကြ၍ ရောနှောလုံးပေးလျှင်ကိစ္စမရှိ၊ကြီးသောသူများကို ရောနှောလုံးပေးလျှင် ခိုက်ရန်ဖြစ်ကြမည်၊ လုယက်ယူငင်ကြလိမ့်မည်ဟု ယူဆဟန်တူပေသည်။ (လာဟောင်လ၊ ဝလာကုဝတ၊ အုစ်လွှာဗစ်လွှာဟ်။)

၁၂။ ဟာသွရတ်ဘီဘီအတွက် ဖွာတေဟတ် ဖတ်ရာ၌ သတ်မှတ်ချက် ထားကြပြန်သည်၊ စားဖွယ်များကို လူမမြင်ရအောင် ဖုံးထားကြသည်၊ အဘယ့်ကြောင့်ဆိုသော် ထိုသခင်မသည် (ပရ်ဒတ်) အကာအကွယ်နှင့် နေသောကြောင့်၊ လူစိမ်းယောကျ်ားများ မမြင်ကြရန်ဟု အကြောင်းပြကြသည်၊ ဤသည်မှာ အကျိုးမဲ့ အလဟဿ အလုပ် ဖြစ်ကြောင်း ထင်ရှားလေသည်။

၁၃။ ဟာသွရတ်ဘီဘီအတွက်ပြုသော'ဖွာတေဟတ်'တွင် ယောကျ်ားများ မစားရဟုသတ်မှတ်ထားကြသည်၊ ယောကျ်ားများစားလျှင် သခင်မနှင့် မျက်နှာချင်းဆိုင် ဖြစ်သွားကြမည်ဟု ယူဆကြသည်၊ ၎င်း အမျိုးသမီးတိုင်းလည်း မစားရ၊ သန့်ပြန့်သောမိန်းမမြတ် များသာ စားကြရလေသည်၊ ၎င်း နောက်အိမ်ထောင်ရှိသော အမျိုးသမီးများလည်း မစားရပေ၊ ဤသို့ပြုမူကြခြင်းလည်း ကြီးမားသော ဂိုနာဟ် ဖြစ်လေသည်၊ ကုရ်အာန်ကျမ်းတော်မြတ်တွင် ဤသည်၏ မကောင်းကြောင်းများ လာရှိထားလေသည်။

၁၄။ သူတော်စင်များ၊အောင်လေယာများအတွက်ဟူ၍'ဖွာတေဟတ်'ဖတ်ရာ၌ ထို့အပြင် မကောင်းမှုတစ်ရပ်မှာ.... ပြုလုပ်သူများသည် ထိုပုဂ္ဂိုလ်တို့ကို လိုအင်ဆန္ဒဖြည့်တင်းပေးနိုင်သူ၊ အခက်အခဲများကို လွယ်ကူအောင် ပြုပေးနိုင်သူဟု ယူဆ၍ ထို'နိယတ်'သဘောဖြင့် ကျွန်ုပ်တို့၏ လိုအင်ဆန္ဒများ အောင်မြင်ထမြောက်စေရန်အတွက်၊ ပစ္စည်းဥစ္စာ၊ ၎င်း'ရိဇ်'တိုးပွားရန်၊ သားသမီးတို့၏အသက်ရှည်စေရန်နှင့် သားသမီးရရန်အတွက် ဟူ၍ ဖွာတေဟတ်ဖတ်ခြင်း၊ ကိုးခြင်းများ ပြုလုပ်ကြခြင်းဖြစ်ပေသည်၊ ဤသို့ အကီဒဟ် ယုံကြည်ချက်ထားခြင်းများသည် 'ရှစ်ရိက်' ဖြစ်ကြောင်း မှတ်စလင်မ်တိုင်း သိကြသည်၊ (အို.... အလ္လာဟ်အသျှင်မြတ်၊ ဤသို့သောယူဆမှုများမှ ကင်းဝေးပါရစေ။)

အချုပ်မှာ... ဤသို့သော မလျော်ကန်သည့် ထုံးစံများကို စွန့်လွှတ်ကြရန် ထိုက်သည်၊ အကုယ်၍ အကြင်သူသည် သေသူအား သဝါဗ်ကုသိုလ် ပို့လိုမူ ကျွန်ုပ် ဤအခန်းအစပိုင်းတွင် ရေးခဲ့သည့်အတိုင်း 'ရှရီအတ်' တရားတော်မြတ်နှင့်အညီ ရိုးရိုးပင် ပေးလှူကြရမည်၊ ထုံးစံ သဘော ပြုကျင့်နေကြသော တရားတော်မြတ်က မပြဋ္ဌာန်းသည့် ထုံးစံ ဓလေ့ စရိုက်များကို ရှောင်ကြဉ်ကြရမည်၊ ဂရုတစ်စိုက်မဟုတ်ဘဲ ထုံးစံမလုပ်ဘဲ တတ်နိုင်သည့်ခန့် သူဆင်းရဲများကိုပေးလှူလိုက်ပြီး ထိုရသောကုသိုလ်သဝါဗ်များကို ပေးလိုသူများအား ပေးကြရမည်။

ကျွန်ုပ်ရေးသားတင်ပြခဲ့ခြင်းများဖြင့် ဂယာရဝီန်၊ စေဟ်မနီ၊ တိုရှဟ် စသည့်အမိန့်ပညတ်များလည်း ပါဝင်လာ၍ နားလည်သွားကြပေမည်။

အချို့သူတို့သည် (ကဗရ်) ဒရ်ဂါမြေပုံတို့တွင် ပန်းစားဖွယ် စသည်တို့ကိုတင်၍ ပသကြသည်၊ ဤသည်မှာ လုံးဝ 'ဟရာမ်' ဖြစ်ပေသည်၊ ၎င်း ထိုတင်သော စားဖွယ်များကို စားခြင်းမပိုင်၊ ကိုယ်တိုင်လည်းမစားရ၊ မည်သူ့ကိုမှလည်း မကျွေးရ၊ အဘယ့်ကြောင့်ဆိုသော် မစားပိုင်သောပစ္စည်းကို ပေးခြင်းလည်း မပိုင်ပေ။

၁၅။ အချို့သူတို့သည် (ကဗရ်) ဒရ်ဂါမြေပုံအတွက် အုပ်ရန် (ကျာဒရ်) ခြုံထည်များ၊ ဂေလာဖ်များ ပို့ကြသည်၊ ၎င်းထိုအတွက် ကိုးကြသည်၊ (ကျာဒရ်) ခြုံထည်များအုပ်ခြင်း၊ တင်ခြင်းတို့သည် မပြုပိုင်ပေ၊ ထိုသို့ 'အကီဒဟ်' ယုံကြည်မှုထား၍ ပြုလုပ်ကြခြင်းသည် ရှစ်ရ်က် ဖြစ်ပေသည်။

အချို့သော (ဂျာဟင်လ်) ဘာသာရေး အသိတရား မရှိသူများက (ခိုင်ရာတ်၊ ဆဒကဟ်) ပေးလှူရာတွင် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲဆန့်ကျင်သော ထုံးစံထွင်လုံးများ ပြုမူကြသေးသည်၊ သို့ရှိရာ အချို့က ထွင်ကြသည်မှာ ရောဂါကင်းဝေးရန် ဟုဆိုကာ စွန့်စသည်တို့ကို အသားကိုကျွေးကြသည်၊ ရောဂါသည် ထိုအသားတုံးနှင့် ရောနှောပါသည်ဟု 'အကီဒဟ်' ယုံကြည်မှု ထားကြလေသည်၊ ဤကဲ့သို့ ပြုလုပ်သော အသားကို လူတို့မစားသင့်ဟုယူဆကြသည်၊ ထို့ကြောင့် ဤသို့'အကီဒဟ်' ယုံကြည်မှုထားခြင်းသည် 'ရှရီအတ်' တရားတော်မြတ်နှင့် လုံးဝဆန့်ကျင် ကွဲလွဲလေသည်။

ထုံးစံတစ်ခု ရှိပြန်သေးသည်၊ ၎င်းကိုတိရစ္ဆာန်ကို ဈေးမှဝယ်၍လွှတ်ကြသည်၊ အသက်တစ်ချောင်းကိုလွှတ်၍ ထိုအစား အလ္လာဟ်အသျှင်မြတ်က ကျွန်ုပ်တို့၏ ရောဂါသည်၏ အသက်အား ချမ်းသာပေးပါဟူ၍ ယူဆပြုလုပ်ကြခြင်း ဖြစ်သည်၊ သို့ရှိရာအသက်အစား အသက်ဖြစ်သည်ဟု 'အကီဒဟ်' ယုံကြည်မှုထားခြင်းသည် 'ရှရီအတ်' တရားတော်၌အရင်းအမြစ်မရှိသော အလုပ်ဖြစ်သည်၊ ဤသို့ အရင်းအမြစ်မရှိ ယုံကြည်မှု ထားခြင်းပင် ဂိုနာဟ် အပြစ်ဖြစ်ပေသည်။

ဤသည့်ထက် ဆိုးသော လုပ်ရပ်လည်း ရှိသေးသည်၊ အချို့သူတို့သည် စားဖွယ်ပစ္စည်းများကို လမ်းဆုံ၊ လမ်းခွ၊ လမ်းဘေးများတွင် ချထား ပုံထားကြသည်၊ ဤသည်မှာ ကာဖွင်ရ်တို့၏ လုပ်ရိုးလုပ်စဉ် ထုံးစံဖြစ်၍လုပ်ပိုင်ခွင့် မရှိပေ၊ ဤသို့ပုံထားခြင်း၌ယုံကြည်မှု အကီဒဟ် လွဲမှားစွာထားလျှင် ရှစ်ရ်က်၊ ၎င်း ကွဖ်ရ်ထိဖြစ်မည်ကို စိုးရိမ်ရသည်။

ဤသို့ စားဖွယ် ပုံသူက ယူဆသည်မှာ ထိုသူ့အပေါ်၌ ဂျင်န်၊ စုံး၊ ပီရ်၊ ရှဟီးဒ်က ပြုစားသည် နှိပ်စက်သည်ဖြစ်၍ ထိုသူ့ နာမည်ဖြင့် ချွတ်လွဲအဖြစ် နတ်တင်လိုက်လျှင် ပျော်ရွှင်သွားကာ နေမကောင်းခြင်း၊ ၎င်းဒုက္ခများ ကင်းဝေးသွားမည်ဟု ယူဆခြင်းဖြစ်သည်၊ သို့ရှိရာ ဤသို့ပြုလုပ်ကြခြင်းမှာ (မခ်လူးက်) အလ္လာဟ်အသျှင်မြတ် ဖန်ဆင်းထားသောသူများကို ကိုးကွယ်ခြင်းဖြစ်၍ 'ရှစ်ရ်က်'ဖြစ်ကြောင်း ထင်ရှားသည်၊ ၎င်းစားဖွယ်ပစ္စည်းကို မရှိမသေပြုခြင်းနှင့် လမ်းသွား လမ်းလာ ဒုက္ခရောက်ရသည့်အတွက် ဂိုနာဟ်ထပ်၍ ခံရပေဦးမည်။

ထုံးစံတစ်ခု တီထွင်ထားကြသေးသည်၊ အချို့နေရာများတွင် (ဆွဒကဟ်) လှူဒါန်းရန် အတွက် ပစ္စည်းများကို သတ်မှတ်ထားကြသည်၊ ဥပမာ မတ်ပဲ၊ ဆီ ဤသည်ကို တစ်သီး တစ်ခြားပြု၍ မိလ္လာကျုံးသူများအား ပေးကြသည်၊ ပထမအချက်မှာ 'ရှရီအတ်' တရား တော်၌ ဤသို့ သတ်မှတ်ထားခြင်းမရှိ၊ သတ်မှတ်မှုမရှိဘဲ တစ်သီးတစ်ခြား ပြုလုပ်ခြင်း သည် ဂိုနာဟ် ဖြစ်သည်။

ထို့နောက် တောင့်တသူ မွတ်စလင်မ် သူဆင်းရဲအားမပေးဘဲ မိလ္လာကျုံးသူ ကာဖွင်ရ်အား ပေးခြင်းသည် 'ရှရီအတ်' တရားတော်မြတ်ကို ဆန့်ကျင်ရာရောက်သည်၊ အဘယ့်ကြောင့် ဆိုသော် 'ရှရီအတ်' တရားတော်မြတ်က မွတ်စလင်မ် သူဆင်းရဲအား ပေးရမည့်တာဝန်မှာ ကြီးမားပြီး အဦးထားရမည်ဟု လာရှိထားလေသည်။

ထို့နောက် ဤသို့ပြုခြင်းဖြင့် ထိုစားဖွယ်ပစ္စည်းတွင် ရောဂါများ စွဲကပ်သွား၍ မသန့်သူများကိုပင် ပေးရန်ထိုက်သည်ဟု ယူဆကြသည်၊ ထိုသူတို့သည် ရောထွေးနေသည် ကို စားကြမည်၊ သို့ရှိရာ ဤသို့ အကီဒဟ် ထားခြင်းမှာ အရင်းအမြစ်မရှိ၊ ဤသို့ အရင်း အမြစ်မရှိသော အကီဒဟ် ထားခြင်းများသည် ဂိုနာဟ် ဖြစ်လေသည်။

ထို့နောက် (ခိုင်ရာတ်) လှူဒါန်းရာတွင် ထိုမကောင်းသော အလေ့အထ ထုံးစံ များကို စွတ်လွှတ်၍ တရားတော်အတိုင်း ရိုးရိုးပင်ပြုလုပ်ကြရမည်၊ အလ္လာဟ်အသျှင်မြတ် ပေးသနားထားတော်မူသောမည်သည့်ပစ္စည်းကိုမဆို တောင့်တသောသူဆင်းရဲတစ်ဦးဦး ကို အလ္လာဟ်အသျှင်မြတ် သဘောတူ နှစ်မြို့စေရန်အတွက် တိတ်တစ်ဆိတ် ပေးလှူလိုက် ရမည်၊ ထိုပေးလှူရသောအကျိုးငှာ ဘလာဒုက္ခများကင်းဝေးအောင် ပြုပေးတော်မူမည်ဟု အကီဒဟ် ထားရမည်၊ ဤသည်ထက်ပို၍ ပြုလုပ်ခြင်းများသည် အားလုံး အကျိုးမဲ့ သာမက ဂိုနာဟ် အဖြစ်ဖြစ်လေသည်။

ထုံးစံတစ်ခု တီထွင်ထားကြသေးသည်၊ ဂွလ်ဂိုလာ မုန့်ချို စသည်များကိုကျော်၍ အမျိုးသမီးများသည် ဗလီဝတ်ကျောင်းတော်သို့ယူသွားပြီး မဲဟ်ရာဗ်၊ ၎င်း မင်နှဗရ်တွင် ထားကြသည်၊ အချို့နေရာများတွင် ဘာဂျာလည်းထားကြသည်၊ ဘာဂျာမှာ မကောင်း ဖြစ်ကြောင်း ထင်ရှားသည်၊ ၎င်းအခြားသော အချက်များလည်းအကျိုးမဲ့ ကိစ္စရပ်များ ဖြစ်ကြသည် သာမက အမျိုးသမီးများ ဗလီဝတ်ကျောင်းတော်သို့ မသွားရန် တားမြစ် ထားသည်။

နမာဇ်ဝတ်ပြုရန်ပင် အမျိုးသမီးများ ဗလီဝတ်ကျောင်းတော်သို့ သွားခြင်းမပြုရန် တားမြစ်ပိတ်ပင်ထားပေရာ ဤသို့ မဖွယ်မရာအလုပ်ဖြင့် ဗလီသို့သွားရောက်ကြခြင်းသည် ပို၍ပင် မကောင်းဖြစ်လေသည်၊ အချို့အမျိုးသမီးများသည် အပျိုများ ဖြစ်ကြသည်၊ အချို့သည် ဘယက်တန်ဆာများ ဝတ်ဆင်ထားကြသည်၊ ၎င်းအချို့သည် လက်တွင် မီးခွက်ကိုင်ထားသဖြင့် ကျွန်မမျက်နှာကြည့်ပါဟု ပြောသယောင် ဖြစ်နေသည်။

ဤသို့ပင် အချို့အမျိုးသမီးများသည် 'နသရ်'အဓိဋ္ဌာန်ပြုရန်၊ ဒိုအာတောင်းရန်၊ စလာမ်ပေးရန် ဟူ၍ ဗလီဝတ်ကျောင်းတော်သို့ သွားရောက်ကြသည်၊ ဤသည်သော ကိစ္စအားလုံးသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲဆန့်ကျင်သည်၊ တင်ပြပါအချက်များ ပြုကျင့်ကျူးလွန်မိက (တောင်ဗဟ်)အမှားဝန်ခံကြရမည်၊ ပေးကျွေးရန် ၎င်းဒိုအာဆုမွန်ပြုလိုလျှင် မိမိတို့အိမ်မှပင် ပြုလုပ်ကြရမည်၊ ဗလီသို့သွားရန် မလိုအပ်ပေ။

# သေသူအတွက် ပြုလုပ်သော ထုံးစံများအကြောင်း

ပထမအချက်....

အချို့သူတို့သည် (ဂွတ်စ်လ်) သူသေကို ရေချိုးပေးရန်နှင့် (ကဖွာန်) အဝတ်ဖြင့် ထုပ်ရန်တို့ကို အချိန်ဆွဲထားကြသည်၊ သေသူကို မြန်မြန်ထက်ထက် ကဗရ် သုသာန်သို့ မပို့လိုကြပေ၊ 'ဂျနာဇဟ်' ကို ဆိုင်းငံ့ မထားကြနှင့်ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ကျပ်တည်းစွာ မိန့်ဟောတော်မူထား၏။

ဒုတိယအချက်....

အချို့သူတို့သည် 'ဂျနာဇဟ်'နှင့် အတူ 'ကဗရ်'သုသာန်သို့ ရောက်လျှင် လှူရန် ကောက်ပဲသီးနှံ၊ ၎င်းပိုက်ဆံများ ယူဆောင်သွားကြသည်၊ ဤသည်၌ နာမည်ရဂုဏ်ဖော်ရန် သက်သက်သာဖြစ်သည်၊ ဤသို့လှူခြင်းဖြင့် မည်သို့မျှ သဝါဗ် ကုသိုလ်မရ၊ ထို့နောက် ပေးရာတွင် တောင့်တ, သူဆင်းရဲသားများ ကျန်ရစ်ကြကာ ဤသို့အခွင့်အရေးကို စောင့်၍ စားနေသူများသာ ယူသွားကြသည်။

သဝါဗ်ကုသိုလ်ရရန်အတွက် ပေးလှူလိုလျှင် လူမသိအောင် အလွန်ဆင်းရဲသူများ၊ မသန်စွမ်းသူများ၊ ဂုဏ်သရေရှိ ဘာသာရေး လိုက်စားသော သူဆင်းရဲများကိုသာ ပေးလှူကြရမည်။

သီးနှံ၊ ၎င်းပိုက်ဆံများကိုဂျနာဇဟ်နှင့်အတူ သင်္ချိုင်းသို့ယူသွားပြီး ပေးလှူခြင်းသည် ဆိုးရွားဆုံးသော 'ဗိဒအတ်'တရားသစ် ထွင်တရားများ ဖြစ်သည်။

(တွာဟ်တွာဝီကျမ်း စာမျက်နှာ ၃၃၃)

တတိယအချက်....

အများအားဖြင့် ထုံးစံရှိသည်မှာ သေပြီးနောက် သေသူ၏အဝတ်အထည်များ၊ ၎င်း ကုရ်အာန်ကျမ်းတော် စသည်တို့ကိုယူ၍ ပေးလှူကြသည်။

ကောင်းစွာ မှတ်သားထားကုန်၊ တစ်ဦးတစ်ယောက် သေဆုံးသွားလျှင် 'ရှရီအတ်' တရားတော်အရ အမွေဆိုင်အားလုံးသည် သေသူ၏ အကြီး,အသေး ပစ္စည်းအားလုံးကို ပိုင်ဆိုင်သွားလေသည်၊ ထိုသောအခါ တစ်ဦးနှစ်ဦးသည် အများပိုင်ပစ္စည်းကို ပေးလှူပစ်ခြင်း အဘယ်မှာပိုင်အံ့နည်း၊ အကယ်၍ အားလုံးသော အမွေဆိုင်များက ပေးလှူရန် ခွင့်ပေးကြသော်လည်း ထိုအထဲတွင် အရွယ်မရောက်သေးသော ကလေးများ ပါဝင်နေပါက ပေးလှူခြင်းမပိုင်ပေ၊ ကလေးများက ခွင့်ပေးကြသော်လည်း မပိုင်ပင်ဖြစ်၏။

အကယ်၍ အမွေဆိုင်အားလုံးသည် အရွယ် ရောက်ပြီးသူများ ဖြစ်ကြလျှင်လည်း အချို့က အားနာ၍ ရှက်၍ ခွင့်ပေးခြင်း ပါဝင်နေမှု မပိုင်ပေ၊ ထို့ကြောင့် သေသူ အတွက် ပေးလှူလိုကြသောအခါ ပထမ အာလင်မ် တစ်ပါးပါးအား မေးမြန်း၍ ရသင့် ရထိုက်သည်ကို ခွဲဝေယူကြရမည်၊ ထို့နောက် အသီးသီးသည် မိမိတို့အစုကို သုံးလိုသလို သုံးနိုင်သည်၊ အကယ်၍ အမွေစားအားလုံးသည် အရွယ်ရောက်သူများ ဖြစ်ကြ၍ အားလုံး က သဘောတူညီစွာ ပေးလှူပစ်ရန် ခွင့်ပေးကြလျှင် မခွဲဝေသေးမီ သေသူအတွက်အားလုံး လှူပစ်နိုင်လေ၏။

စတုတ္ထအချက်....

အချို့သည် သတ်မှတ်ထားသော ရက်များ၌ ၎င်း သတ်မှတ်ထားကြသည်ထက် အလျင်ရက်၊ ၎င်း နောက်ရက်များတွင် ထမင်းစသည် ချက်ပြုတ်၍ သားချင်းစသည်ကို ဝေကြသည်၊ ၎င်း သူဆင်းရဲများကို ကျွေးကြသည်၊ ဤသည်ကို တီဂျဟ်၃-ရက်၊ ၁၀-ရက်၊ ၄၀-ရက်ဟု ခေါ်ကြသည်။

فِي الْبَزَّازِيَّةِ وَيُكْرَهُ اتِّخَاذُ الطَّعَامِ فِي الْيَوْمِ الْأَوَّلِ وَالثَّانِي

وَالثَّالِثِ وَبَعْدَ الْأُسْبُوعِ الخ

မိုင်ယစ်တ်အိမ်မှာ ပထမရက်၊ ဒုတိယရက်၊ တတိယရက်၊ ၎င်း နောက်ရက်များမှာ စားသောက်ခြင်းတို့သည် မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်၊ ကုရ်အာန် ဖတ်ရန်အတွက် (ဒအ်ဝပ်တ်) ပြုခြင်း၊ ၎င်း သူတော်စင်များကို ဖိတ်ခေါ်စုရုံးခြင်း၊၎င်း (ကာရီ) များကို ဖိတ်ခေါ်ခြင်း၊ ခတမ်ဖတ်ရန်အတွက် သို့မဟုတ် စူရဟ်အင်န်အာန်၊ စူရဟ် အစ်ခ်လာစ် ဖတ်ရန်အတွက် 'မိုင်ယစ်တ်' သေသူအိမ်မှာ ခေါ်ယူစုရုံးခြင်းတို့သည် 'မတ်က်ရူးဟ်တဟ်ရီ မဟ်'ဖြစ်သည်၊ (ဘဇ်ဇာဇီကျမ်း၊ရဒ်ဒွလ်မွခ်တာရ်၊ရှာမီ၊တွာဟ်တွာဝီ ကျမ်းတော်များ။)

ဤသို့ ကျွေးမွေးခြင်းသည် 'နိယတ်' စိတ်ဆန္ဒ မှန်ကန်မှုမရှိဘဲ နာမည်ရလို၍ ကျွေး ခြင်းသာလျှင် ဖြစ်ပေသည်၊ ဤသို့'နိယတ်'ထားလျှင်ကားအကျိုးသဝါဗ်အဘယ်မှာလျှင် ရမည်နည်း၊ ဂိုနာဟ် ပြစ်မှုဒုက္ခသာလျှင် အဖတ်တင်နေသည်။

အချို့သည် ကျွေးယူ၍ ဤထုံးစံများကို ပြုလုပ်ကြသည်၊ဤသို့အရေးမကြီးသော ကိစ္စအတွက် အကျွေးမယူပိုင်ကြောင်း လူတိုင်းသိကြသည်၊ ရှရီအတ်တရားတော်၏ အမိန့် များကို လစ်ဟင်းအောင်ပြု၍ ဤသည်သောထုံးစံကို ဂရုတစ်စိုက်ပြုကြခြင်းသည်လည်း ဂိုနာဟ် ဖြစ်ပေသည်။

များသောအားဖြင့် ဤသို့ကျွေးမွေးသောထုံးစံများကို သေသူ၏ပစ္စည်းများဖြင့် ကျွေးကြသည်၊ ထိုပစ္စည်းသည် (ယတီမ်) ဖသည်းဆိုးများ ပိုင်လည်း ဖြစ်နေမည်၊ ယတီမ် များ၏ ပစ္စည်းများကို ကောင်းမှုကုသိုလ်လုပ်ငန်း၌ပင် သုံးစွဲပိုင်ခွင့်မရှိ ဖြစ်လေရာ၊ ဤသို့ ကျွေးခြင်း ဂိုနာဟ် ဖြစ်သောကိစ္စ၌ ပို၍ပင် မကောင်းဖြစ်လေသည်။

သို့သော် မိမိပိုင်ပစ္စည်းဖြင့် စွမ်းနိုင်သည်ခန့် သူဆင်းရဲများကို ဖုံးအုပ်စွာပေးလှူကြရမည်၊ ဤသို့ ပေးလှူခြင်းကို အလ္လာဟ်အသျှင်မြတ်က နှစ်သက် သဘောတူတော်မူလေသည်။

အချို့သူတို့သည် သီးခြား၍ ဗလီ ဝတ်ကျောင်းတော်များတွင် ထမင်းချိုများ ပို့ကြသည်၊ အချို့က ဆီပို့ကြသည်၊ အချို့က ကလေးသေသောအခါ ကလေးသည် နို့စို့အရွယ်ဖြစ်၍ နို့ပို့ကြသည်၊ ဤသို့ သတ်မှတ်ကြခြင်းမှာ 'ရှရီအတ်' တရားတော်၌ လုံးဝမရှိပေ၊ မိမိဘက်မှ လမ်းစဉ်တစ်ခု အသစ်ထွင်ခြင်းသည် လွန်စွာ ဂိုနာဟ်အပြစ်ကြီး လေသည်၊ ဤသို့ အပြစ် ဂိုနာဟ်ကို 'ဗိဒအတ်' ဟု ခေါ်သည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ....

كُلُّ بِدْعَةٍ ضَلَالَةٌ وَكُلُّ ضَلَالَةٍ فِي النَّارِ

'ဗိဒအတ်' ဟူသမျှသည် လမ်းမှားချည့်ဖြစ်သည်၊ ၎င်းလမ်းမှား ဟူသမျှသည် ဂျဟန္နမ် အပါယ်ငရဲသို့ လားမည်။

(မှတ်ချက်။ ။ အချို့မသိနားမလည်သူတို့က လူ့အသုံးအဆောင် ပစ္စည်းပစ္စယများကို 'ဗိဒအတ်' ပင်ဖြစ်ရမည်ဟု မဆီမဆိုင်ဆိုကြသည်၊ ဤသို့ဆိုခြင်းသည် အရဗီဝေါဟာရ အဘိဓာန်ကိုမသိနားမလည်၍ဆိုခြင်းသာဖြစ်သည်၊ 'ဗိဒအတ်' သည်လူ့အသုံးအဆောင် အသိုင်းအဝိုင်းနှင့် မပတ်သက်၊ အလ္လာဟ်အသျှင်မြတ် ချမှတ်ထားတော်မူသော သာသနာတော်ကို တရားတော်၌ မပါမရှိဘဲလုပ်သော လုပ်ငန်းတရားသစ်ကိုသာဆိုခြင်းဖြစ်သည်၊ 'ဗိဒအတ်' သည် တစ်မျိုးသာရှိသည်၊ နှစ်မျိုးမရှိ၊ 'ဗိဒအတ်' ဟူသမျှသည် လမ်းမှားချည့်သာဖြစ်သည်။ ။မူစာ)

အချို့က ထိုသတ်မှတ်ကျေးသော ရက်များ၊ ၎င်းကြာသပတေးနေ့နှင့် ရှဗေ့ ဘရာအတ်စသည့်နေ့များ၌ သေသူတို့၏ (ရူးဟ်) ဝိညာဉ်သည် မိမိတို့အိမ်၌ လာရောက်ကြသည်ဟု ယူဆ ယုံကြည်ကြပေသည်၊ ဤစကားသည် 'ရှရီအတ်' တရားတော်၌ လုံးဝ အခြေအမြစ် မရှိပေ။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ....

အကြင်သူသည် ငါရစူလ်ထံမှလာသော တရားဒေသနာ လမ်းစဉ်တော် မဟုတ်ဘဲ တရားတော်ကို အဆိုတီထွင် လုပ်ကိုင်ခဲ့လျှင် ထိုလုပ်ငန်းကို ပယ်ဖျက်ပစ်ရမည်။

အဘယ့်ကြောင့်ဆိုသော် သေသူအိမ်၌ ၃-ရက်၊ ၁၀-ရက်၊ ၄၀-ရက် စသည်တို့တွင် စားသောက်ကြခြင်းနှင့် စုရုံးကြခြင်းတို့သည် 'ရှရီအတ်' တရားတော်၌ အခြေအမြစ်မရှိလေရာ ဤလုပ်ငန်းရပ်များကို တရားမဟုတ်၊ ၎င်း 'ဗိဒအတ်' တရားသစ်ဟု ခေါ်လေသည်။

ဟဒီးသ်တော်တွင် လာသည်မှာ....

ဝအိယာကွန်မ်၊ ဝမုဟ်ဒသာတင်လ်၊ အို့မူရေ့၊ ဖွအင်န၊ ကွလ်လ၊ မုဟ်ဒသင်၊ ဗိဒအတွန်၊ ဝကွလ်လ၊ ဗိဒအတင်၊ သွလာလဟ်။ ၎င်းအသစ်တီထွင်သော အလုပ်များကို သင်တို့ ရှောင်ကြကုန်။

ကေန်အမှန်၊ တရားသစ်ဟူသမျှသည် ဗိဒအတ်ချည့် ဖြစ်သည်၊ ၎င်းဗိဒအတ်သည် လမ်းမှားချည့် ဖြစ်ပေသည်။

သေသူတို့၏ (ရှူးဟ်) ဝိညာဉ်များသည် မိမိတို့အိမ်တွင် လာရောက်နေကြရန် မလိုပေ၊ အဘယ့်ကြောင့်ဆိုသော် ရှင်သူများက ပို့သောကုသိုလ်များသည် ၎င်းဝိညာဉ်များရှိရာဌာနသို့ ရောက်ပေသည်၊ ထိုသို့ထိုင်လျက်နှင့် ကုသိုလ် သဝါဗ် ရနေကြသော (ရှူးဟ်) ဝိညာဉ်များသည် လှည့်ပတ်၍ ကုသိုလ်ရှာဖွေနေကြရန် အဘယ်မှာ လိုမည်နည်း။

၎င်းအကယ်၍ သေသူသည် လူကောင်းဖြစ်၍ ဂျန္နတ်ဥယျာဉ်ဘုံ နန်းနှင့် ထိုက်သက်နေသူဖြစ်ပါက ဤသို့ စည်ပင်သာယာသော နေရာကိုလွှတ်၍ သင်တို့အိမ်တွင် မည်သည့်နည်းနှင့်မှ လာမည်မဟုတ်၊ အကယ်၍ သေသူသည် မကောင်းသူ၊ ၎င်းဂျဟန္နမ်အပါယ်ငရဲသင့်နေသူဖြစ်ပါက အသာဗ် ပြစ်ဒဏ်မှ လွတ်ကင်း၍ လျှောက်လည်နေရန် သက်ဆိုင်ရာ ဖွရစ်ရှိတဟ်များက လွှတ်ကြမည် မဟုတ်ပေ။

အချုပ်မှာ....(ရှူးဟ်) ဝိညာဉ်များအိမ်သို့ လာရောက်ကြသည်ဆိုသောစကားမှာ အရင်းအမြစ်မရှိသော အတွေးအခေါ်တစ်ရပ်သာ ဖြစ်သည်၊ အကယ်၍ ပေါက်ကရ စာအုပ်များတွင် ဝိညာဉ်များလာသည်ဟု ရေးသားထားသည်ကို တွေ့မူလည်းမယုံကြည်ကြနှင့် အကြင်စာအုပ်ကို ရေးသူသည် 'စံနဒ်' ဘွဲ့ရ မှန်ကန်သော အာလင်မ် ပညာရှိ မဟုတ်ပါက ထိုစာအုပ်ကို ယုံကြည်မှုမထားရ၊ မဖတ်ရ။

ပဉ္စမအချက်....

١ فِي الْمَدْخَلِ وَقَالَ كَثِيرٌ مِنْ مُتَأَخِّرِي أَئِمَّتِنَا يُكْرَهُ الْاِجْتِمَاعُ عِنْدَ صَاحِبِ الْمَيِّتِ •

အင်မ်ဒါဒ်ကျမ်းတွင်ထွက်ရှိသည်၊ ကျွန်ုပ်တို့ 'မို့တအာခ်ခေ့ရီန်အေမာမ်' များက မိုင်ယစ်ဘ်အိမ်တွင် ဒဖ္ဖာန်မြှုပ်နှံပြီးနောက် အစားအသောက်မပါဘဲလျက်ပင် စုရုံးကြခြင်းကို 'မတ်က်ရှူးဟ်တာဟ်ရီမဟ်' ဟု ယူကြသည်။

သေသူအိမ်၌အမျိုးသမီးများလည်းထပ်ခါတင်လဲလဲ စုရုံးကြသည်၊ ၎င်းသူမများက အိမ်ရှင်၏ အပူသောက ပျောက်ကင်းရန်ဟု ယူဆကြသည်၊ သို့သော်လည်း အမျိုးသမီးတို့သည် သေသူအိမ်ရောက်သောအခါ ကွမ်း၊ ကွမ်းသီး၊ (ဆေးလိပ်)သောက်စားခြင်းဖြင့် အချိန်ကုန်စေကြသည်၊ ကွမ်း၊ ကွမ်းသီး အမြန်ရောက်မလာလျှင် ၎င်းနည်းပါးလျှင် မည်သူမည်ဝါအိမ်တွင် ကွမ်းတစ်ဖဲ့ပင် မစားရဟု ရာသက်ပန် အပြစ်ဆိုကြသည်၊ အချို့သည် မိမိအိမ် အနီးအပါးတွင် ရှိနေသော်လည်း သူသေအိမ်တွင် ထမင်းစားသုံးကြသည်၊ အလဟဿ သေသူအိမ်ပင် သွားထိုင်ကြခြင်းပင်ဖြစ်သည်၊ အချို့သည် လ,ပိုင်းအထိပင် နေလိုက်ကြသေးသည်၊ ဤအမျိုးသမီးများသည် အခြားသူ၏ အပူသောကပျောက်ကင်းစေရန် လာကြသလော၊ အပူသောကပေးရန် လာကြသလော ဟူသည်ကို စဉ်းစားကြည့်သင့်လှသည်၊ ဤသို့အသိတရားခေါင်းပါးသော အမျိုးသမီးများအတွက်ကြောင့် အိမ်ရှင်များမှာ ဆုံးခန်းမရှိ ဒုက္ခတွေ့ကြရသည်၊ ပူဆွေးရသည့် ဒုက္ခအပေါ် ညှော်သည်ကြောင့် အိမ်ရှင်မှာ ဒုတိယဒုက္ခတွေ့ရသည်၊ ပူဆွေး၍ ဦးခေါင်းထုနေရသည့်အထဲ အိမ်ပါအလုခံရသည်ဟူသော စကားပုံကဲ့သို့ ဖြစ်နေသည်။

အချို့သည် သေသူအကြောင်း မပြော၊ ၂-ယောက်ကျ၊ ၄-ယောက်ကျ စုထိုင်ကြပြီး တစ်လောကလုံး၏ စကားများကို ပြောဆိုကြသည် သာမက ရယ်ကြသည်၊ ပျော်ကြသည်၊ ရှာဒီ လက်ထပ်ပွဲသို့ သွားသည့်ပမာ သစ်လွင်သော အဝတ်ကို ဝတ်ကြသည်၊ ဤသို့ အကျိုးမဲ့ လာရောက်ကြခြင်းဖြင့် လောကီ,လောကုတ္တရာ နှစ်ဌာနတွင် အဘယ်အကျိုးကျေးဇူးများ ရှိပါသနည်း။

وَيُكْرَهُ الْجُلُوْسُ عَلَى بَابِ الدَّارِ لِلْمُصِيْبَةِ فَاِنَّ ذَالِكَ عَمَلُ

اَهْلِ الْجَاهِلِيَّةِ وَنَهَى النَّبِيُّ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ عَنْ

ذَالِكَ وَتُكْرَهُ فِي الْمَسْجِدِ وَتُكْرَهُ الضِّيَافَةُ مِنْ اَهْلِ

الْمَيِّتِ لِاَنَّهَا شُرِعَتْ فِي السُّرُوْرِ لَا فِي الشُّرُوْرِ وَهِيَ بِدْعَةٌ

مُسْتَقْبَحَةٌ (مراقى الفلاح حاشيه طحطاوى صـ ٣٣٩)

သေသူအတွက် အပူသည်က ညှော်ခေါ်သဘော တံခါးတွင် ထိုင်နေခြင်းသည် 'မတ်က်ရူးဟ်တဟ်ရီမဟ်' ဖြစ်သည်၊ ဤအလုပ်သည် ကေန် ဂျာဟေလိယတ်ဇမာနဟ်၏ ထုံးစံဖြစ်သည်။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဤသို့ ညှော်ခံနေခြင်းများမှ တားမြစ်တော်မူခဲ့သည်၊ ၎င်းဗလီမှာ ဤကိစ္စအတွက် ညှော်ခံစုရုံးခြင်း၊ မစ်က်ရူးဟ်

တဟ်ချိမဟ်ဖြစ်သည်၊ ၎င်းမိုင်ယစ်တ်အိမ်ရှင်ဘက်မှ (သွေယာဖွာတ်) ဧည့်ခံကျွေးမွေးခြင်း၊ မတ်က်ရှုးဟ်တဟ်ရီမဟ် ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် (သွေယာဖွာတ်) ကျွေးမွေးခြင်းသည် တရားတော်၌ ပျော်ရွှင်သောအခါမှသာရှိသည်၊ ပူပင်သောက ရက်အတွင်း၌ ကျွေးရန်မထိုက်၊ ၎င်းထိုသို့ ကျွေးခြင်းသည် ဓက်ဆုတ်ဖွယ်ကောင်းသော 'ဗိဒအတ်' ဖြစ်သည်။ (တွာဟ်တွာဝီ၏ဟာရှိယဟ်မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ ၃၃၉)

အချို့သည် အမှန်ပင် အပူသောက ပြေလည်စေရန် လာရောက်ကြသည်၊ အမှန်မှာ အပူသောက ပြေလည်အောင်ပြုရန်မှာသေသူ၏ အိမ်သူ၊ အိမ်သားများကို စိတ်အေးအောင် ပြောဆိုရမည်၊ သည်းခံစိတ်ထားရန် တိုက်တွန်းရမည်၊ ထိုအပူသည်တို့၏စိတ်သက်သာမှုကို ပြုရမည်၊ ဤသို့ နည်းလမ်းဖြင့် အရင်းအချာများသည် မလာရောက်ကြဘဲ ၎င်းတို့က လည်း ငိုယိုကြသည်၊ အချို့သည် မငိုချင့် ငိုချင်နှင့် ရှုံ့မဲ့နေသည်၊ မျက်လုံး၌ကား မျက်ရည်မထွက်၊ ၎င်းအချို့သည် သေသူများ၏ အမည်တတ်၍ငိုကာ အိမ်ရှင်များက ကျေးဇူးတင်အောင် ပြုကြသည်။

စိတ်လိုက်မာန်ပါ ငိုသူများက စိတ်ထားမကောင်းကြ၊ သာမက ပထမမှုကား များသောအားဖြင့် ဖွဲ့နွဲ့၍ငိုကြသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဖွဲ့နွဲ့၍ မငိုရန် ပြင်းပြင်းထန်ထန် တားမြစ်ထားတော်မူသည် သာမက ထိုသို့ ဖွဲ့နွဲ့ငိုသူများကို 'လအ်နတ်' ကျိန်ဆဲထားတော်မူပေသည်၊ ဒုတိယမှာ ၎င်းတို့ငိုခြင်းဖြင့် အိမ်ရှင်မှာ ပို၍စိတ်မကောင်းဖြစ်လာသည်၊ အနာပေါ် ဆားဖြူးသည့်ပမာ ပို၍အငိုသန်လာသည်၊ အနည်းငယ်သည်းခံစိတ်ရှိသည်မှာလည်း လွင့်စင်သွားလေသည်။

သို့ရှိရာ ထိုအမျိုးသမီးများက သည်းခံစိတ်ရှိအောင် ပြုကြမည့်အစား ပူဆွေးမှုပြင်းထန်အောင်ပြုကြသည်၊ သို့ရှိရာ ထိုသားချင်း အမျိုးသမီးများ လာခြင်းဖြင့် အဘယ်အကျိုးရှိပါသနည်း၊ အမှန်မှာ ပူဆွေးသောက ရောက်နေသူများကို စိတ်သက်သာစေရန် မလာကြဘဲ ဒုက္ခပေးရန် လာရောက်စုရုံးကြခြင်း ဖြစ်သည်။

အမျိုးသမီးများစုရုံးခြင်း၏ ဤမျှ မကောင်းမှုများ ရှိနေလေရာ ဤသို့စုရုံးခြင်း အဘယ်မှာလျှင် ပိုင်မည်နည်း၊ ထိုအထဲတွင် အချို့သည် ဘီရိုလှည်းများဖြင့် အဝေးမှ လာကြသည်၊ ရက်အတန်ကြာ နေကြသည်၊ နွားများအတွက် မြက်နှင့်အစာများ၊ ၎င်းမိမိတို့အား ပြုစုရန် ဝတ္တရားများကို အိမ်ရှင်ပေါ်သို့ ထားကြသည်၊ အိမ်ရှင်မှာ မည်သို့ဒုက္ခနှင့်ရင်ဆိုင်နေရသည်ဖြစ်မူလည်း ၎င်းစားစရာပင် မရှိသော်ငြားလည်း ထိုလာရောက်ကြသော ဧည့်သည်များနှင့် နွားများအတွက် ဧည့်ဝတ် ကျေကြရသည်။

ဧည့်သည့်သည် အိမ်ရှင်အပေါ် ဝန်မဖြစ်စေရဟု ဟဒီးသ်တော်မြတ်က မိန့်ဆိုထားတော်မူပေသည်၊ ဤသို့ လာရောက် ဒုက္ခပေးကြသည်ထက် ဒုက္ခအရောက်ဆုံးမှာ မရှိတော့ပေ။

ထို့နောက်အချို့တို့နှင့်အတူ ကလေးငယ်များပါလာသည်၊ တစ်နေ့လျှင် ၄-ကြိမ် ၈-ကြိမ် စားချင်ကြသည်၊ ထောပတ်၊ သကြားကို တောင်းကြသည်၊ အချို့ကလေးက နို့သောက်ချင်ကြသည်၊ ဤသည် အားလုံး၏ တာဝန်ကို အိမ်ရှင်က ခံနေရပေသည်၊

သီးခြား၍ အမျိုးသမီးသည် မုဆိုးမဖြစ်သွားပါက ခင်ပွန်းသည် သေခါစတွင် လာရောက်စုရုံးကြသည်၊ ဒုတိယတဖန် (အစ်ဒ်ဒတ်) ရက်တွင် လာရောက်စုကြပြန်သည်၊ ဤသည်ကို (ချေဟ်မာဟီ) ခြောက်လပတ်ဟု အမည်တပ်ကြသည်၊ 'အစ်ဒ်ဒတ်'မှ လွတ်မြောက်စေရန် လာကြသည်ဟု ပြောကြသည်၊ ထိုသူတို့အား မေးစေချင်သည်မှာ.... 'အစ်ဒ်ဒတ်'ရက်သည် အကျဥ်းထောင်လော၊ မုဆိုးမ၏လက်,ခြေကိုဆွဲကိုင်၍ ထိုအကျဥ်းထောင်မှ ဆွဲထုတ်ရန် လာကြသလော။

၄-လ ၁၀-ရက်ပြည့်လျှင် 'အစ်ဒ်ဒတ်'ရက် ကုန်ဆုံးသည်၊ သို့တည်းမဟုတ် ဝမ်းတွင်း၌ သန္ဓေရှိနေလျှင် သားဖွားပြီးကုန်ဆုံးသည်၊ ဤအတွက် တစ်လောကလုံးလာရောက် စုရုံးကြရန်မလိုပေ၊ ထို့နောက်ညှော့်သည်များအတွက် သုံးစွဲရသည်ကို များသောအားဖြင့် သေသူ၏ပစ္စည်းမှ သုံးကြသည်။

رَوَى الْاِمَامُ اَحْمَدُ وَابْنُ مَاجَةَ بِاِسْنَادٍ صَحِيْحٍ عَنْ جَرِيْرِ بْنِ
عَبْدِ اللّٰهِ كُنَّا نَعُدُّ الْاِجْتِمَاعَ اِلٰى اَهْلِ الْمَيِّتِ وَصُنْعِهِمُ الطَّعَامَ
مِنَ النِّيَاحَةِ (در المختار نقلا عن فتح القدير طحطاوی ص٣٣٩)

အေမာမ်အဟ်မဒ်နှင့် အစ်ဗ်နို့မာဂျဟ် (ရဟမတုလ္လာဟ်) သခင်နှစ်ပါးက ဂျရီးရ် ဗင်န်အဗ်ဒုလ္လာဟ်(ရသွေ့)သခင်ထံမှ ခိုင်မာသောစနဒ်ဖြင့် ရေဝါယတ်ပြုခဲ့သည်၊ ဂျရီးရ် ဗင်န်အဗ်ဒုလ္လာဟ်(ရသွေ့)သခင်က မိန့်တော်မူခဲ့သည်၊ ကျွန်ုပ်တို့ ဆွဟာဗဟ်များသည် သေသူ အိမ်၌ စုရုံးခြင်းနှင့် ၎င်းတို့၏ ကျွေးမွေးခြင်းကို 'နယာဟဟ်'ဟု ယူကြသည်၊ 'နယာဟဟ်'သည် ဟရာမ် ဖြစ်သည်။ (ဒွရ်ရေ့မွခ်တာရ်ကျမ်း စာမျက်နှာ-၃၃၉)
(ဖွာတ်ဟွလ်ကဒီရ် နှင့် တွာဟ်တွာဝီကျမ်း ကို ညွှန်းသည်)

သေသူထားခဲ့သော ပစ္စည်းများသည် အမွေစားများ အားလုံး စပ်တူပိုင်ပစ္စည်း ဖြစ်ပေသည်၊ အချို့ အမွေစားသည် ခရီးလွန်နေ၍ ၎င်းတို့ထံမှ ခွင့်တောင်းရန်မလွယ်၊ ၎င်းအချို့အမွေစားသည် အရွယ်မရောက်သေးသောကလေးများဖြစ်၍ ၎င်းကလေးများ ထံမှ 'ရှရီအတ်'တရားတော်အရ မည်သည့်နည်းနှင့်မှ ခွင့်ယူ၍မရ၊ ၎င်းကလေးများက ခွင့်ပေးသော်လည်း မပိုင်၊ သိမှတ်ထားကြကုန်၊ အကြင်သူက သေသူ၏ပစ္စည်းဖြင့် သုံးစွဲလိုက်လျှင် ထိုသုံးစွဲမှုသည် ထိုသူ့တာဝန်သာဖြစ်သည်၊ အမွေစားများ၏အစုကို တင်းပြည့်,ကျပ်ပြည့် ပေးရမည်။

သုံးစွဲလိုက်သူက ကျွန်တော်၏အစုသည် ဤသို့သုံးစွဲရန် မဖူလုံဟု ဆိုခဲ့သော်.... အဖြေမှာ အကယ်၍ အားလုံး၏အစုလည်း မလုံလောက်ခဲ့သော် အဘယ်သို့ပြုမည်နည်း၊ အိမ်နီးချင်းတို့၏ပစ္စည်းကို ခိုးယူခြင်းဖြင့် ပိုင်မည်လော၊ အချုပ်မှာ.. ဤအဖြစ်၌ သုံးစွဲပစ်သူသည် (ဂိုနာဟ်ဂါရ်) အပြစ်ဒဏ်ထိုက်သက်သူ ဖြစ်ပေသည်၊ သုံးစွဲရခြင်းသည်လည်း လာရောက်ကြသူများအတွက်ကြောင့်ဖြစ်လေရာ၊ ထိုသူများလည်း 'ဂိုနာဟ်ဂါရ်' အပြစ်ဒဏ်ထိုက်သူများဖြစ်ကြ၏။

အကြင်ယောကျ်ား-မိန်းမတို့သည် အနီးအပါး မြို့ရွာထဲမှဖြစ်လျှင် လာရောက်ကြ၍ ရပ်လျက်နှင့်ပင် သည်းခံစိတ်ထားရန် ဖျောင့်ဖျပြောဆို၍ ပြန်သွားကြရမည်၊ တစ်ဖန်ပြန်၍ သေသူအိမ်သို့လာရောက်ကြရန် လုံး၀ မလိုပေ၊ ဤသို့ပင် ရက်သတ်မှတ်ခြင်းသည်လည်း အကျိုးမဲ့သုံးစံဖြစ်သည်၊ လာလိုသောရက်တွင် တစ်ခါတည်းလာ၍မေးမြန်းသွားနိုင်သည်။

ရပ်ဝေးမှ နေသူများသည် အကယ်၍ ၎င်းတို့ မလာရောက်ဘဲ မိုင်ယစ်တ်ရှင်မှာ စိတ်ချမ်းသာမှု မဖြစ်ဟု ယုံကြည်ကြလျှင် လာရောက်နိုင်သည်၊ ထိုသို့ ရထား စသည် အသုံးစရိတ်များကို မိမိတို့ကသာပေးကြရမည်၊ ၎င်းအကယ်၍ ပစ်တင်လွှတ်ရန်အတွက် ပင်လာကြမည်ဆိုလျှင် အလျင်း မလာကြနှင့်၊ သေဆုံးကြောင်း သိရ၍ ဝမ်းနည်းပါကြောင်းဖြင့် စာတစ်စောင်လောက်ပင် ရေးကြရမည်။

ဆဋ္ဌမအချက်....

မိုင်ယစ်တ်ရှင်တို့အတွက် ပထမမှုကား နီးစပ်သော သားချင်းများက ထမင်းပို့သော အလေ့ရှိလေသည်၊ ဤသည်မှာ ကောင်းသောအလုပ် ဖြစ်လေသည်။

သို့သော်လည်း ဤကိစ္စရပ်၌ အချို့သူတို့က မကောင်းမှုများ ရောနှောထားကြသေးသည်၊ ထိုမကောင်းမှုများမှ ရှောင်ကြဉ်ကြရန်ထိုက်သည်၊ ပထမသော်ကား.... အစားဖြန့်ထမင်းပို့ကြသည်၊ မည်သူမည်ဝါ ကျွန်ုပ်တို့အိမ်တွင်ထမင်းပို့၍ ကျွန်ုပ်တို့ကလည်း ၎င်းတို့အိမ်ဘွင်ပို့ရမည်ဟု စွဲစွဲမြဲမြဲလုပ်ကြသည်၊ မိမိကမတတ်နိုင်၍ အခြားသူက မိမိတို့သဘောနှင့် ပို့လိုသော်လည်း တားမြစ်ကာ ဆန့်ကျင်၍ ကိုယ်တိုင် ပို့ကြသည်၊ အကြောင်းသော်ကား ၎င်းတို့ကို မိုင်ယစ်တ်ရှင်ကပို့ခဲ့ပြီး ထိုသူများအလှည့်တွင် မပို့ဟု ကဲ့ရဲ့ကြမည်ကို စိုးသောကြောင့် ဖြစ်ပေသည်။

ဤသို့ ဂရုတစ်စိုက်ပြုခြင်းသည် မပိုင်ပေ၊ ထို့နောက် ဤသည်အတွက် အကြွေးယူကြရသည်၊ ထို့ကြောင့် ဤသို့သော ဂရုစိုက်လွန်းခြင်းများကို စွန့်လွှတ်ကြရမည်၊ တတ်နိုင်သောသားချင်းများက ပို့လိုက်ကြရမည် ၊ဤသို့ပင် နီးစပ်သောဆွေမျိုး သားချင်းများရှိပါလျက် ဝေးသော သားချင်းတို့က ပို့ရန် ဂရုစိုက်ကြသည်၊ မပို့ရလျှင် ငြင်းခုံကြသည်၊ ဤသို့ ဇွတ်ပြုကြခြင်းမှာလည်း နာမည်ပျက် ဂုဏ်ငယ်မည်စိုး၍ ပြုလုပ်ကြခြင်းဖြစ်သည်၊ ထို့ကြောင့် ဤသို့ ဂရုတစ်စိုက်ပြုခြင်းများကို စွန့်လွှတ်ကြရမည်။

မကောင်းမှုတစ်ရပ်ကို ပြုလုပ်ကြပြန်သေးသည်၊ လိုအပ်သည်ထက်ပို၍ ထမင်းများ ပို့ကြသည်၊ ၎င်းထိုထမင်းစားဖွယ်များကို ဆွေမျိုးတော်ရုံပင် တော်သူများက ဝိုင်း၍ စားသောက်ကြသည်၊ ပို့သော ထမင်း စားဖွယ်များကို အပူ သောကရောက်၍ မီးပင် မမွှေးနိုင်သူများအတွက်သာဖြစ်သည်၊ မိမိတို့အိမ်တွင် ထမင်းချက်သည်ကို သွား၍စားကြ ရမည်၊ ၎င်းမှာယူစားကြရမည်၊ မကောင်းမှုတစ်ရပ်မှာ- ထမင်းပို့ရာ၌ ဖွယ်ဖွယ်ရာရာပြု၍ ဂရုတစ်စိုက် ချက်ပြုတ်ကြသည်၊ ဤသို့မပြုလုပ်ကြရပေ၊ လွယ်လင့်တကူ အကျဉ်းရုံး ချက် ပြုတ်၍ ရိုးရိုးပင် မိုင်ယစ်တ် အိမ်သို့ ပို့ပေးကြရမည်။

သတ္တမအချက်....

အချို့သူများသည် ဟာဖွိဇ် ၁-ယောက် ၂-ယောက်ကို တစ်စုံတစ်ရာ ပေးကျွေး၍ သေသူ ကုသိုလ်သဝါဗ် ရရန် ကုရ်အာန် ဖတ်ခိုင်းကြသည်၊ အချို့နေရာတွင် ၃-ရက်၌ ပဲများဖြင့် 'ကလေမဟ်' ဖတ်စေကြသည်၊ ၎င်းပါရဟ်တစ်ခုစီကိုင်၍ ကုရ်အာန် ဖတ်ခိုင်း ကြလေသည်၊ အဘယ့်ကြောင့် ဆိုသော် ... ဤသို့သော သူများသည် ငွေ၊ ပိုက်ဆံ၊ ပဲ စားစရာများ အတွက် ကုရ်အာန် ဖတ်ကြလေရာ၊ ထိုသူတို့မှာ ကိုယ်တိုင်ပင် 'သဝါဗ်' ကုသိုလ်မရသဖြင့် သေသူအတွက် အဘယ်ကုသိုလ် ရမည်နည်း၊ ထိုသူတို့၏ဖတ်ခြင်းများ ပေးခြင်း-ယူခြင်းများသည် အကျိုးမဲ့ အချည်းနှီး ဖြစ်ပေသည်။

အချို့သည် စားလို့ရလို၍ ဖတ်ခြင်းတော့မဟုတ်၊ သို့သော် အစားပြန်သည့်အဖြစ် ဥပမာ မိုင်ယစ်တ်အိမ်က ၎င်းအိမ်တွင်ဖတ်ပေးခဲ့၍ ဖတ်ပေးခြင်းမျိုးဖြစ်မှုလည်း လောကီ အနေနှင့်ဖတ်သည်ဖြစ်၍ ထိုသို့ဖတ်ခြင်းလည်း ကုသိုလ်သဝါဗ်မရပေ၊ သို့ရာတွင် တစ်ဦး တစ်ယောက်သည် အလ္လာဟ်အသျှင်မြတ်အတွက် သက်သက် ရလို့စားလို၍မဟုတ်ဘဲ ၎င်း နေရာ သတ်မှတ်ခြင်းမပြုဘဲ ရက်လည်း သတ်မှတ်ခြင်းမပြုပါက ထိုဖတ်သော ကုသိုလ် သဝါဗ်သည် မလွဲမသွေ သေသူ့ထံ ရောက်လေသည်။

# ရမသွာန်လမြတ်၏ အချို့သော ထုံးစံများ အကြောင်း

အချို့အမျိုးသမီးများသည် 'ရမသွာန်'လမြတ်၌ ဟာဖွိဇ်ကို အိမ်တွင်းသို့ခေါ်ယူ ပြီး တရာဝီးဟ်နမာဇ်တွင် ကုရ်အာန်ကျမ်းတော်မြတ်ကို နားထောင်ကြသည်၊ အကယ်၍ ဖတ်သောဟာဖွိဇ်သည် မိမိတို့နှင့် နေကာဟ် လက်မထပ်ပိုင်သူ၊ ၎င်း ဗလီတွင် နမာဇ် ဖတ်ခဲ့ကာ တရာဝီးဟ်အတွက်သာ လာဖတ်လျှင် ကိစ္စမရှိပေ၊ ဤသို့ တရာဝီးဟ်နမာဇ် ဖတ် ကြရာတွင် အမျိုးသမီးတို့သည် မလျော်ကန်သောအပြုအမူများကို ပြုကြပေသည်။

ပဌမအချက်....

အချို့ နေရာများတွင် နေကာဟ် ပိုင်သော သူစိမ်းယောကျ်ားကို အိမ်တွင်းသို့ ခေါ်ယူသည်၊ 'ပရ်ဒဟ်' အဝတ်ဖြင့် ကာသည်ဆိုရုံလောက်သာ ကာကြသည်၊ သို့သော်

အမျိုးသမီးများသည် ဂရုမစိုက်မှုများလေရာ၊ အများအားဖြင့် ဟာဖ္ဇ်ဖတ်သူ ဆရာနှင့်ပင် စကားပြောလိုက်ကြသည်၊ ၎င်း အချင်းချင်း အော်၍ ပြောသည်ကို ဆရာက ကြားရလေသည်၊ မလွဲမရှောင်သာသောအဖြစ်မှတစ်ပါး သူစိမ်းယောကျ်ားထံ မိမိအသံရောက်ခြင်းသည် အဘယ်မှာလျှင် ပိုင်မည်နည်း။

ဒုတိယအချက်....

ကုရ်အာန်ဖတ်သူသည် အသံကိုရှိုးရှိုးမဖတ်ဘဲ လုပ်၍ဖတ်သည်၊ အချို့သည် ပင်ကိုယ်သံကောင်းသည်၊ ကြားရသူများသည် စိတ်စွဲ၍သွားသည်၊ ထိုအဖြစ်၌ နေကာဟ်ပိုင်သော သူစိမ်းယောကျ်ား၏ အသံသည် အမျိုးသမီး၏နားသို့ရောက်ခြင်းမှာ အဘယ်မျှမကောင်းဖြစ်ဘိသနည်း။

တတိယအချက်....

ရပ်ရွာရှိ အမျိုးသမီးများသည် နေ့စဉ် စုရုံးကြသည်၊ ပထမမှုကား- အမျိုးသမီးသည် မလွဲမရှောင်သာကိစ္စမှတစ်ပါး အိမ်ဖြင့်သို့ မထွက်ရ၊ တရာဝီးဟ် နမာဇ် ဖတ်ရန်ထွက်ခြင်းမှာ မလွဲသာသောထွက်ခြင်းမဟုတ်၊ အဘယ့်ကြောင့်ဆိုသော် 'ရှရီအတ်'တရားတော်မြတ်က အမျိုးသမီးများအား တရာဝီးဟ်နမာဇ်ကို ဂျမာအတ်ဖြင့်ဖတ်ရန် မိန့်မှတ်ပြဋ္ဌာန်းထားတော်မမူပေ။

နေ့စဉ်ထွက်ကြခြင်းသည် ပို၍ပင် မကောင်းဖြစ်ပေသည်၊ ထို့နောက် ပြန်သောအချိန်မှာ အချိန်မဲ့ဖြစ်သည်၊ ညဉ့်နက်သည်၊ လမ်းကြိုလမ်းကြားမှာ လူပြတ်၍ ဆိတ်ငြိမ်နေသည်၊ ထိုသို့အဖြစ်၌ ပစ္စည်းနှင့် ကာယ်လန္တြေ ပျက်စီးနိုင်လေသည်၊ အကျိုးမဲ့ မိမိတို့ကိုယ်ကို ဒုက္ခဖြစ်နိုင်သော အချက်တွင် နှစ်မွန်းစေခြင်းသည် အသိဉာဏ်နှင့် ကွဲလွဲသည်၊ 'ရှရီအတ်' တရားတော်မြတ်နှင့်လည်း ဆန့်ကျင်လေသည်။

သီးခြား၍ အချို့ အမျိုးသမီးများသည် လက်ကောက်၊ လည်ဆွဲ စသည်များဝင်၍ လမ်းကြိုလမ်းကြားများ၌ သွားလာကြခြင်းသည် ပို၍ပင်မလျော်ကန်ဖြစ်မည်ကို စိုးရိမ်ရလေသည်။

ရမသွာန်လမြတ်၌ ပြုလုပ်ကြသောထုံးစံတစ်ခုမှာ.... ၁၄-ရက်၊ ရှိဇဟ် ဥပုသ်တွင် သီးခြား၍စားဖွယ်များကိုစီစဉ်ကြသည်၊ ဤသို့ပြုလုပ်ကြခြင်းကို သဝါဗ်ကုသိုလ်ရသည်ဟု ယူဆကြသည်၊ 'ရှရီအတ်'တရားတော်မြတ်က သဝါဗ်ဟုမသတ်မှတ်သည်ကို သဝါဗ်ကုသိုလ်ရသည်ဟုယူဆခြင်းသည်ပင် ဂိုနာဟ်ဖြစ်သည်၊ ထို့ကြောင့် ဤလုပ်ငန်းကိုလည်း စွန့်လွှတ်ကြရန် ထိုက်သည်။

ထုံးစံတစ်ခုမှာ ကလေးသည် ပထမဦးဆုံး ရှိဇဟ်ဥပုသ်စောင့်မူ၊ မည်မျှပင် ဆင်းရဲသည်ဖြစ်စေကာမူ ကြွေးယူ၍ တောင်းရမ်း၍ အရေးတစ်ကြီး ရှိဇဟ်လွှတ်သော အခမ်းအနားပြုကြသည်၊ 'ရှရီအတ်' တရားတော်မြတ်က အရေးတစ်ကြီးပြုရန် မသတ်မှတ်သောကိစ္စကို အရေးတစ်ကြီးပြုမူခြင်းသည်လည်း ဂိုနာဟ်ပင်ဖြစ်သည်၊ ထို့ကြောင့် ဤသို့သော ဂရုစိုက်မှုကို လွှတ်ကြရမည်။

# အီးဒ် ဝါကျတ်ပွဲ၏ ထုံးစံများအကြောင်း

ပထမအချက်မှာ.... အီးဒ်နေ့တွင် ဆယ်မယ်ကြိုရန် အရေးကြီးသည်ဟု ယူဆကြသည်၊ 'ရှရီအတ်' တရားတော်က ဤသည်ကို ပြဋ္ဌာန်းမထား၊ အကယ်၍ စိတ်အလိုရှိပါက ကြိုနိုင်သည်၊ သို့သော် ဤသည်ကို ကုသိုလ်သဝါဗ် ရသည်ဟု မထင်မှတ်ကြနှင့် ကုသိုလ်ရသည်ဟု ထင်မှတ်သူများပမာဖြစ်မည် စိုးရသောကြောင့် အီးဒ် နေ့တိုင်းတွင် မကြိုဘဲ ရံဖန်ရံခါသာ ကြိုရမည်။

ဒုတိယအချက်မှာ....သားချင်း ကလေးများကို ပေးခြင်း, ယူခြင်း၊ သားချင်းအိမ်များသို့ စားဖွယ်များကို အပြန်အလှန်သဘော ချက်ပြုတ်ပို့ခြင်း မရှိသဖြင့် ကြွေးယူပြုမူခြင်းများ မပြုရ၊ ဤသို့ဂရုတစ်စိုက် ပြုမူခြင်း အလဟဿအဟောသိကလည်းဖြစ်သည်၊ ၎င်းဒုက္ခလည်းရောက်လေသည်၊ ထို့ကြောင့် ဤထုံးစံအပေါင်းကို စွန့်လွှတ်ကြရမည်။

# ကုရ်ဘာနီအီးဒ်၏ ထုံးစံများအကြောင်း

ပေးယူခြင်းများလည်း ဤနေရာတွင် ဝါကျတ်အီးဒ်ကဲ့သို့ဖြစ်သည်၊ ဤအမိန့်မှာ သင်တို့ ယခုဖတ်ပြီးခဲ့သည့်အတိုင်းပင် ဖြစ်သည်။

ဒုတိယမှာ....မြောက်မြားစွာသောသူများသည် ကုရ်ဘာနီပြုရန် ထိုက်သော်လည်း ကုရ်ဘာနီမပြုကြ၊ ဤသည်လည်း ဂိုနာဟ် ဖြစ်ပေသည်။

တတိယမှာ....ကုရ်ဘာနီပြုရာ၌ မိမိတို့ဘာသာ မဆီမဆိုင် သတ်မှတ်ထားကြသည်၊ ခေါင်းကို ရေသည်ပိုင်၍ ခြေ ၄-ချောင်းကို ဆတ္တာသည်က ပိုင်သည်ဟု ယူဆကြသည်၊ ဤသည်လည်း အကျိုးမဲ့ လုပ်ရပ်ဖြစ်ပြီး 'ရှရီအတ်' တရားတော်နှင့် ကွဲလွဲသော ဂရုတစ်စိုက် ပြုမူဖြစ်သည်၊ ဟုတ်ပါ၏၊ မိမိသဘောနှင့် အလိုရှိသောသူကို ပေးလိုက ပေးနိုင်လေသည်။

# သင်လ်ကအ်ဒဟ်နှင့် စဖွရ်လ၏ ထုံးစံများ အကြောင်း

'ဂျာဟင်လ်' ဘာသာရေး အသိမရှိသောသူ (သူမ) များသည် သင်လ်ကအ်ဒဟ်လကို (ခါလီကာကျာန်ဒ်) ဟု ခေါ်ဝေါ်ကြသည်၊ ထိုလ၌ ရှာဒီ လက်ထပ်မှုပြုခြင်းမှာ လာဘ်နိမိတ် မကောင်းဟု ယူဆယုံကြည်ကြသည်၊ ဤသို့ အကီဒဟ် ထားခြင်းလည်းဂိုနာဟ်ဖြစ်သည်၊ တောင်ဗဟ် ပြုကြရမည်။

၎င်း စဖွရ်လကို (တေရဟ်တေဇီ) ဟု ခေါ်ကြသည်၊ ထိုလကို အမင်္ဂလာလဟုယူကြသည်၊ ၎င်း အချို့နေရာများတွင် စဖွရ်လ (၁၃) ရက်တွင် (ဂဟူန်ဂ်နေယခန်) အမည်ရှိ မုန့်စသည်များ ဝေငှကြသည်၊ ထိုလ၏ လာဘ် နိမိတ်မကောင်းမှုမှလွတ်ကင်းရန် အတွက်ဟူ၍ ဝေငှကြခြင်းဖြစ်သည်၊ ဤသို့ အကီဒဟ် ထားခြင်းများသည် 'ရှရီအတ်' တရားတော်နှင့် ကွဲလွဲသည်၊ ၎င်းဂိုနာဟ် ဖြစ်သည်၊ တောင်ဗဟ် ပြုကြရမည်။

# ရဗီအွလ်အောက်ဝလ်နှင့် အခြားအချိန်တွင် မောင်လူးဒ် ဖတ်ခြင်းအကြောင်း

ယခု ပြုလုပ်နေကြသကဲ့သို့ အချို့နေရာ များတွင် အမျိုး သမီး များ ကလည်း မောင်လူးဒ် ဖတ်ကြသည်၊ ဤသည်၌ မကောင်းမှုများရှိသည်ကို တင်ပြမည်။

၁။ အကယ်၍ အမျိုးသမီးက မောင်လူးဒ် ဖတ်လျှင် ထိုသူမ၏ အသံသည် များစွာ သောအားဖြင့် အိမ်ပြင်သို့ရောက်သည်၊ သူစိမ်းယောကျ်ားထံသို့ အသံရောက်ခြင်းသည် မကောင်းပေ၊ သီးခြား၍ ကဗျာဖတ်သံသည် ပို၍ဆိုးရွားမည်ကို စိုးရိမ်ရလေသည်။

၂။ အကယ်၍ ဖတ်သူသည် ယောကျ်ားဖြစ်ပါက ထိုယောကျ်ားသည် အားလုံး သော အမျိုးသမီးနှင့် နေကာဟ်မပိုင်သူ ဖြစ်မည်မဟုတ်၊ သူစိမ်း အမျိုးသမီးများလည်း ပါမည်၊ အကယ်၍ ၎င်းသူက ယခုခေတ်ကဲ့သို့ ကဗျာလင်္ကာများကိုအသံကောင်းကောင်း နှင့်ဖတ်လျှင် အမျိုးသမီးများက ယောကျ်ား၏ သီချင်းသံကိုနားထောင်ရသည်၊ ဤသည် လည်း မပြုပိုင်ပေ။

၃။ ရေဝါယတ်များ၊ မောင်လူးဒ်စာအုပ်များသည် များသောအားဖြင့်မှာယွင်း သော အကြောင်းအရာ ဆင့်ပြန်မှုများနှင့် ပြည့်နှက်နေသည်၊ ထိုမောင်လူးဒ် စာအုပ် များကိုဖတ်ခြင်း၊ နားထောင်ခြင်းတို့သည် အားလုံး ဂိုနာဟ် ဖြစ်လေသည်။

၄။ အချို့သူတို့က ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် မောင်လူးဒ် ဖတ်သော ပရိသတ်သို့ လာရောက်တော်မူသည်ဟု ယူဆယုံကြည်ကြသည်၊ ထို့ကြောင့် ဖတ်ရင်း၊ မွေးဖွားတော်မူခန်းသို့ ရောက်သောအခါ ထရပ်ကြသည်၊ ဤသို့ထရပ်ကြရန် (ကေယာမ်ပြုရန်) မှာ 'ရှရီအတ်' တရားတော်မြတ်က ညွှန်ကြားပြဋ္ဌာန်းထားခြင်းမရှိ၊ 'ရှရီအတ်' တရားတော်တွင် မပါရှိသော ကိစ္စတစ်ခုကို ယုံကြည်လုပ်ကိုင်ခြင်းသည် ဂိုနာဟ် ဖြစ်သည်။

၎င်းအချို့သူတို့သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ကြွမြန်းလာသည် ဟူ၍ကား အကီဒဟ်မထားကြ၊ သို့သော် ထရပ်ကြရန် အရေးကြီးသည်ဟုယူဆကြသည်၊ မရပ်သူကို ပြစ်တင် မကောင်းပြောကြသည်၊ ထိုသူ့အား 'ရှရီအတ်' တရားတော်က (ကေယာမ်) ရပ်ရန် မပါရှိသည့်အတွက် ယနေ့ မောင်လူးဒ်ပွဲတွင်မရပ်ပါနှင့်ဟု ပြောလျှင် လက်ခံမည်မဟုတ်၊ (ကေယာမ်ပြု) မရပ်လျှင် မောင်လူးဒ်ပင် မဖြစ်ဟု ပြောဆိုပေမည်၊ 'ရှရီအတ်' တရားတော်မြတ်အရ အရေးမကြီးသော ကိစ္စတစ်ခုကို အရေးကြီးသည်ဟုယူဆ ယုံကြည်ခြင်းသည်လည်း ဂိုနာဟ်ပင် ဖြစ်သည်။

၅။ မုန့်ချိုနှင့် ထမင်းဝေငှခြင်းကို ဂရုတစ်စိုက် ပြုမူကြသည်၊ သယ်သောအခါမှ ပျက်ကွက် ပေါ့လျော့ခြင်း မပြုကြ၊ ပျက်ကွက်ပါက နာမည်ပျက် ဂုဏ်ငယ်မည်၊ ၎င်းရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကစိတ်ဆိုးတော်မူမည်ဟု ယူဆယုံကြည်ကြသည်၊

အကြင်ကိစ္စသည် 'ရှရီအတ်' တရားအရပြုလုပ်ရန် အရေးမကြီးဘဲ ထိုကိစ္စကို ဂရုတစ်စိုက် ပြုလုပ်ခြင်းသည်လည်း မကောင်းပင် ဖြစ်ပေသည်။

၆။ **စားဖွယ်ပြင်ဆင်ယင်း၊** ဖတ်ရွတ်ယင်း၊ ၎င်းမုန့်ဝေရာ၌ ကြွသွားသော ကြောင့် များသောအားဖြင့် နမာဇ် အချိန် ကြပ်တည်းသွားလေသည်၊ ဤသည်လည်း ဂိုနာဟ် ဖြစ်ပေသည်။

၇။ အကယ်၍ တစ်ဦးတစ်ယောက်၏ အကီဒဟ်သည်မပျက်၊၎င်းဂိုနာဟ်ဖြစ်သော ကိစ္စများမှ ရှောင်ကြဉ်သော်လည်း ပြင်ပပြုမူနေသော ဂရုစိုက်မှုဖြင့် ဂျာဟင်လ်များက သူလဲလုပ်သွားဘဲဟု ထင်မှတ်သွားကြပေမည်၊ အကြင်အလုပ်ဖြင့် ဂျာဟင်လ်များ မှားမည်ကိုစိုးရလျှင် ၎င်းထိုကိစ္စသည်လည်း 'ရှရီအတ်' တရားတော်အရ အမှန်လုပ်ဆောင် ရမည်မဟုတ်လျှင် ဤကဲ့သို့ကိစ္စများကို စွန့်လွှတ်ပစ်ကြရမည်၊ ထို့ကြောင့် ထုံးစံအတိုင်း ဤကိစ္စကို မပြုလုပ်ကြရ။

သို့သော် ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အကြောင်းအရာ များကို သိလိုဇောရှိမှု ခိုင်မာသောကျမ်းစာကို ကိုယ်တိုင်ဖတ်ရမည်၊ တမင်မစုရုံးဘဲ ၂-ယောက်၊ ၄-ယောက် အလည်လာသဖြင့် ကြုံကြိုက်လျှင် ထိုသူတို့ကိုလည်း ဖတ်ပြရမည်၊ အကယ်၍ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ္ထုပစ္စည်း ပေးလှူ၍ ကုသိုလ်သဝါဗ် ပို့လိုမှု အခြားအချိန်များတွင် မရှိဆင်းရဲသားများကို ပေး၍, ကျွေး၍ ကုသိုလ်သဝါဗ် ပို့ရမည်၊ ကောင်းမြတ်သော အလုပ်ကိစ္စကိုမလုပ်နှင့်ဟု မည်သူမျှမတား၊ သို့သော် မဆီမဆိုင် ပြုကြခြင်းမှာ မကောင်းမှုတစ်ရပ်ဖြစ်သည်။

## ရဂျဗ်လ၏ ထုံးစံများ အကြောင်း

ဤသည်ကိုလူသာမန်များက(မရ်ယမ်ရိုဇဟ်ကာကျာန်ဒ်)ဟုခေါ်ကြသည်၊လူသာမန် များကရဂျဗ်လ(၁)ရက်ခနေ့ထိုမရ်ယမ်သခင်မရိုဇဟ်ထားသောရက်ဟု ခေါ်ဝေါ်ကြသည်၊ ရဂျဗ်လ(၂၇)ရက် ရိုဇဟ်ထားခြင်းကောင်းသည်ဟု ယူဆကာ ရိုဇဟ်ပေါင်း(၁၀၀၀)၏ ကုသိုလ်သဝါဗ်ရသည်ဟု ယူဆယုံကြည်ကြလေသည်၊ 'ရှရီအတ်' တရားတော်မြတ်တွင် ဤယူဆချက်မှာ ခိုင်မာသော အခြေအမြစ် မရှိပေ။

အကယ်၍ နဖ်လ်ရိုဇဟ် ထားလိုပါက ထားနိုင်သည်၊ အလ္လာဟ်အသျှင်မြတ် သည် ပေးလိုတော်မူသည်ခန့် ကုသိုလ်သဝါဗ်ပေးတော်မူပေမည်၊ မိမိတို့ဘက်မှ ကုသိုလ်၁၀၀၀ ၎င်း ၁၀၀၀၀၀-ရမည်ဟု မသတ်မှတ် မယူဆကြလေနှင့်။

အချို့နေရာများတွင် ဤလ၌ (ဘရ်ကတ်) အတွက်ဟူ၍ မုန့်များ ဖုတ်ကြသည်၊ ဤသည်မှာလုပ်ကြံထားသောကိစ္စရပ်သာဖြစ်သည်၊ ရှရီအတ် တရားတော်မြတ်၌လုပ်ရမည် ဟူ၍ မိန့်မှတ်မထားပေ၊ ပြုလုပ်ခဲ့သော် ကုသိုလ်သဝါဗ်ပေးမည်ဟု ကတိပေးထားတော် မမူပေ၊ ထို့ကြောင့် ဤသို့သော လုပ်ရပ်များကို ဘာသာရေးဟူ၍ လုပ်ကိုင်ယူဆကြ ခြင်းသည် ဂိုနာဟ် ဖြစ်လေသည်။

# ရှမေ့ဘရာအတ်၏ ဟလ်ဝါမုန့်ဖြူနှင့် မုဟာရ်ရမ်လ ပဲထမင်းနှင့် ရှရ်ဘတ်ရည်အကြောင်း

ဂုဏ်သရေရှိသူများ၊ ဥပမာ....ကျောင်းဒရီ၊ ၎င်းအသင်းအုပ်စု၏ ခေါင်းဆောင် ရှေ့ဆောင် လမ်းပြ သူများသည် ဤထုံးစံများကို အမှန်တစ်ကယ် စွန့်လွှတ်ကြရမည်၊ အဘယ့်ကြောင့်ဆိုသော် ဟဒီးသ်တော်တွင် လာသည်။

ကွလ်လို့ကွန်မ်၊ ရာအင်၊ ဝကွလ်လို့ကွန်မ်၊ မတ်စ်အူလွန်၊ အရ်ရအိယတေ့ဟီ။

သင်တို့အနက် တစ်ဦးသည် စောင့်ရှောက်သူ ခေါင်းဆောင်ဖြစ်သည်၊ ထိုစောင့်ရှောက်သူ ခေါင်းဆောင်သည် ကေယာမတ် ကမ္ဘာ့တရားရှင်နေ့၌ မိမိတို့၏ နောက်လိုက်သူများနှင့်ပတ်သက်၍ မေးမြန်းမှု ခံကြရမည်။

ဆိုလိုသည်မှာ.... အုပ်ထိန်းမှု ခံရသူများ၊ ဥပမာ.... အိမ်သားများအတွက် အုပ်ထိန်းသူလူကြီး၊ ၎င်းအုပ်စုတစ်စုအတွက် ထိုအုပ်စုကို ခေါင်းဆောင်မှုပေးသူ အကယ်၍ ခေါင်းဆောင်မှုပေးသူသည် 'ရှရီအတ်' တရားတော်မြတ်က တားမြစ်ထားသော အချက်တစ်ချပ်ကို ကျူးလွန်၍ နောက်လိုက် အသင်းသားများကလည်း ထိုတားမြစ်ချက်ကို လိုက်၍ကျူးလွန်ကြလျှင် ထိုခေါင်းဆောင်သူသည် အသင်းသား အုပ်စုများအတွက်ပါ အလ္လာဟ်အသျှင်မြတ်ထံ ထုချေလျှာမေးရမည်။

ရှဗေ့ဘရာအတ် အရင်းမူလသည် ရှအ်ဗာန်လ ၁၅-ရက်ည (မြန်မာအခေါ် ၁၄-ရက်ည) ၎င်းညသည် ထူးကဲမွန်မြတ်ဘရ်ကတ်ရှိလေသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က ထိုညတွင် မအိပ်စက်ဘဲ အေဗာဒတ် ဝတ်ပြုနေရန်နှင့် နေ့ဘွင် ရိုဇာဟ်ထားရန်ကိုသာ ပြုကျင့်ကြရန် မိန့်မှတ်ထားတော်မူသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ထိုည၌ မဒီနာမြို့တော်၏ 'ကဗရ်' သင်္ချိုင်းသို့ သွားရောက်တော်မူပြီး သေသူများအတွက် ချမ်းသာရရန်ဒိုအာဆုမွန်တောင်းဆိုပေးတော်မူသည်၊ အကယ်၍ ထိုရက်၌ သေသူများအတွက် ကုရ်အာန်ဖတ်ပေး၍ဖြစ်စေ သူဆင်းရဲများအား ကျွေးမွေး၍ဖြစ်စေ၊ ငွေလှူဒါန်း၍ဖြစ်စေ၊ ဒိုအာဆုမွန်သက်သက်ပင် တောင်းပေးသည်ဖြစ်စေ ပြုမူကြရမည်၊ ဤနည်းလမ်းသာလျှင် စွန္နတ်တော်နှင့် ကိုက်ညီသော လမ်းစဉ်ဖြစ်သည်။

ဤသည်အပြင် လူတို့က လိုပ်ကြံတီထွင်ထားကြသော ထုံးစံများမှာ ထိုလုပ်ငန်း၌ ဟလ်ဝါ မုန့်ဖြူကို ထည့်သွင်းထားကြသည်၊ ၎င်း ထိုထွင်ထားသော နည်းလမ်းဖြင့် ဖွာတေဟ်ဟ် ထည့်ကြသည်၊ ဂရုတစ်စိုက်လွန်ကဲကာ ဤလုပ်ရပ်ကို ပြုမူကြလေသည်၊ ဤထွင်လုံးများသည် အကျိုးမဲ့လုပ်ငန်းများ ဖြစ်ကြလေသည်။

မကောင်းသော လုပ်ငန်းကိစ္စရပ်များအကြောင်းကို အထက်တွင် ဖတ်ခဲ့ကြပေပြီ၊ 'ရှရီအတ်' တရားတော်အရ အရေးမကြီးသည်ကိုအရေးတစ်ကြီးပြုမူကာဂရုစိုက်လွန်ကဲစွာ

ပြုရမည်ဟုယုံကြည်ခြင်းသည် မကောင်းဖြစ်လေသည်၊ ဤသို့ပင် မုဟာရ်ရမ်လ၏အကြောင်းကို မှတ်ယူကြကုန်။

ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် ထိုနေ့၌ မိမိအိမ်သူအိမ်သားများအပေါ် အစားအသောက် ပေါများစွာ ပေးကျွေးလျှင် ၁-နှစ်ပတ်လုံး ထိုသူ၏ရိဇိတွင် 'ဘရ်ကတ်'ရှိပေသည်၊ ဤကောင်းသောထမင်း ချက်ပြုတ်ရာတွင် ထိုအထဲမှ ဘောင့်တာသူ့ သူဆင်းရဲသားများအား အလ္လာဟ်အသျှင်မြတ်အတွက် ပေးကျွေးလိုက်လျှင် ကောင်းပေသည်၊ ဤသည်ထက် ပို၍ ခဲ့ထွင် လုပ်ခြင်းများ၏ မကောင်းမှုများကို အထက်တွင် ဖတ်ပြီးခဲ့ကြလေပြီ။

ဤကိစ္စထက်ပိုကဲ၍ ရှရ်ဘတ်ဖျော်ရည် တိုက်ကျွေးသော ထုံးစံ ရှိလေသည်၊ (ကရ်ဘလာ) ကွင်းပြင်မှ ရေငတ်မွတ်သော 'ရှဟီဒ်'များကို ကုသိုလ်သဝါဗ်ပို့ရန်ဖြစ်သည်ဟု ယူဆကြသည်၊ သိမှတ်ကြရမည်မှာ .. (ရှဟီဒ်)ကွယ်လွန်သွားသောပုဂ္ဂိုလ်များထံ ရှရ်ဘတ်ဖျော်ရည်မရောက်၊ ကုသိုလ်သဝါဗ်သာရောက်လေသည်၊ ကုသိုလ်သဝါဗ်မှာ ရှရ်ဘတ်ဖျော်ရည်ဖြစ်စေ၊ ပူပူနွေးနွေး စားဖွယ်ထမင်းဖြစ်စေ အတူတူပင်ဖြစ်ပေသည်၊ ရှရ်ဘတ်ဖျော်ရည် တိုက်ရာ၌ ထိုပုဂ္ဂိုလ်များ ရေငတ်မွတ်သည့်အတွက် ရေငတ်ပြေရန် ဟူ၍ စွဲလန်း အကီဒဟ် မှားယွင်းမှု ထားခြင်းသာ ဖြစ်သည်၊ ဤသို့ မှားယွင်းသော အကီဒဟ် ယုံကြည်မှုသည်ပင် ဂိုနာဟ် ဖြစ်သည်။

အချို့သောဂျာဟင်လ်အသိမရှိသူများသည် ရှဗေ့ဘရာအတ်၌ မီးပန်းရှို့ကြသည်၊ ၎င်းမုဟာရ်ရမ်လ၌' တာအ်ဇီယဟ်'ခေါ် အလောင်းစင် အတုဖြင့် ဝမ်းနည်းပူဆွေးသော အထိမ်းအမှတ် ပြုကြသည်၊ မီးပန်းရှို့ခြင်း၏ မကောင်းကြောင်းများသည် အခန်း(၁)တွင် လွန်ခဲ့ပေပြီ။

'တာအ်ဇီယဟ်'ဝမ်းနည်းပူဆွေးသောအထိမ်းအမှတ်အဖြစ်ပြုလုပ်ကြသောကိစ္စများမှာ ရှစ်ရိုက်၊၎င်းဂိုနာဟ်ဖြစ်သည်၊ ထိုအပေါ်ခြုံထည်တင်ကြသည်၊ထိုရှေ့တွင်ဦးခေါင်းညွတ်ကြသည်၊ ထိုအပေါ် တိုင်ကြားစာများ တင်ဆွဲကြသည်၊ ထိုနေရာ၌ ငိုချင်း,ကဗျာ, လင်္ကာများ ဖတ်ကြသည်၊ ငိုယိုအော်ဟစ်ကြသည်၊ ၎င်းဘာဂျာတီးမှုတ်ခြင်းလည်း ပြုကြသည်၊ ထို 'တာအ်ဇီယဟ်' အလောင်းစင်အတု မြှုပ်နှံသော နေရာကို (ဇေယာရတ်) ပြုရန်နေရာဟု ယူဆကြသည်၊ မိန်းမ-ယောကျ်ား (ပရ်ဒဟ်) အကာအကွယ်မရှိ သွားလာကြသည်၊ နမာဇ်များကို လွတ်ကြသည်၊ ဤသည်သော မကောင်းခြင်းများကို မသိသူနည်းပါးပေသည်။

အချို့သည် ဤသို့ရှုပ်ထွေးသောကိစ္စများကိုမပြုကြ၊ သို့သော်(ရှဟာဒတ်နာမဟ်) စာအုပ်ကိုဖတ်ကြသည်၊ သိမှတ်ထားကြကုန်၊အကယ်၍ထိုရှဟာဒတ်နာမဟ်တွင် မှားယွင်း

သော အကြောင်းအချက်(ရေဝါယတ်)များပါရှိက ဖတ်ခြင်းမပိုင်ပေ၊ ၎င်းအကယ်၍ မှန်သော အကြောင်းချည့် ဖြစ်မူလည်း ကြားရသူများသည် ငိုကြရန် ရည်ရွယ်ချက် 'နိယတ်'ဖြင့်ဖတ်ကြလေသည်၊ ရှရီအတ်တရားတော်မြတ်အရ ဒုက္ခကိုတွေးဆ၍ငိုခြင်းသည် မပိုင်ပေ၊ ထို့ကြောင့် ဤသို့'ရှဟာဒတ်နာမဟ်'များ ဖတ်ခြင်း မပိုင်ပေ။

ဤသို့ပင် မုဟာရ်ရမ်လ၌ ဆန္ဒပြု၍ အရောင်အဆင်းရှိသော အဝတ်ကို မဝတ်ခြင်း၊ ပူဆွေးသောကရောက်သောအဖြစ်နှင့် ဝတ်ဆင်နေခြင်း၊ မိမိတို့၏သားသမီးများကိုသီးခြားသော အဝတ်,ဝတ်ပေးခြင်း စသည်တို့သည် 'ဗိဒအတ်' တရားသစ်ဖြစ်သည်၊ ၎င်း ဂုနာဟ် ဖြစ်လေသည်။

# တဘာရ်ရိကာတ်ကိုကြည့်ရန် စုရုံးကြခြင်း အကြောင်း

အချို့အချို့ နေရာ၌ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အင်္ကျီတော်၊ ၎င်းဆံပင်တော်၊ထို့ပြင်သူတော်စင်တစ်ပါးပါး၏ပစ္စည်းပြသထားခြင်းများရှိလေသည်၊ ကြည့်ရှုကြသည်၊ ၎င်းထိုနေရာ၌ စုရုံးကြသည်၊ သို့တည်းမဟုတ် ထိုပြသူများကို အိမ်သို့ ခေါ်ယူ၍ ကြည့်ကြသည်၊ အကယ်၍ ထိုပစ္စည်းများသည် တစ်ကယ်ပင် မှန်ကန်သည် ဖြစ်စေကာမူ စုရုံးခြင်း၌ မြောက်မြားစွာ မကောင်းမှုများ ရှိလေသည်။

အချို့နေရာများတွင် ထိုပစ္စည်းများကို ကြည့်ရန်အတွက် အခကြေးငွေ ပေးရလေသည်၊ ဤကဲ့သို့ဓာစ္စဖြင့် အခယူခြင်းသည် 'ဟရာမ်'ဖြစ်သည်၊ ၎င်း တံစိုးလက်ဆောင် ဖြစ်သည်ဟူ၍ 'ဖွေကဟ်'ရှင်များက မိန့်မြွက်ထားကြလေသည်။

အမျိုးသမီးများ စုရုံးခြင်းနှင့်ပတ်သက်၍ မကောင်းကြောင်းများကို 'ရှာဒီ' လက်ထပ်ပွဲတွင် စုရုံးကြခြင်းအကြောင်း၌ ရေးခဲ့ပေပြီ၊ ဆူညံခြင်းနှင့် 'ပရ်ဒဟ်' အကာအကွယ် ကင်းမဲ့စွာ နေကြသည်၊ ရံဖန်ရံခါ 'ဇေယာရတ်'ပြုသူများ၏ သီချင်းသံကို အမျိုးသမီးအားလုံးကြားကြရလေသည်၊ ဤသည်၏ မကောင်းခြင်းကို လူတိုင်းသိကြသည်။

ဂျာဗင်ရ်(ရဇေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ... သီချင်းသည် လယ်ယာကို ရေက ပျိုးထောင်သကဲ့သို့၊ စိတ်၌ 'နေဖွာက်' ဖြစ်စေသည်။ (ဗိုင်ဟကီကျမ်း)

ဤဟဒီးသ်တော်မြတ် အရ သီချင်းဆိုခြင်းကို ရှတ်ချထားကြောင်း သိရသည်၊ လုပသောမိန်းကလေး၏ သီချင်းသံသည် ပို၍ပင် ပျက်စီးမည်ကို စိုးရိမ်ရလေသည်။

ဟတ်ပါ၏၊ အကယ်၍ တစ်ယောက်တည်းသွားကြည့်၍ 'ရှရီအတ်'တရားတော်နှင့် ဆန့်ကျင်သောအလုပ်ကို မလုပ်လျှင် ပိုင်သည်၊ ထုံးစံများ၏ အကြောင်း ပြည့်ပြည့်စုံစုံကို (အစ်လာဟ္ရ်ရိုစူးမ်)ကျမ်းတွင် ရေးသားထားသည်။

ဤနေရာတွင် သင်တို့နားလည်ရန် အကြောင်းတစ်ခု ရေးသားပြမည်၊ ဤသည်ကို ဂရုစိုက်လျှင် ထုံးစံအပေါင်း၏ အကြောင်းကို သိကြမည်၊ ဘယ်သောအခါမှ အလိမ်ခံရမည် မဟုတ်ပေ။

အကြင် အလုပ်တစ်ခုကို 'ရှရီအတ်' တရားတော်မြတ်က မလုပ်ပိုင်ဟု တားမြစ်မိန့်ဆိုထားလျှင် ထိုအလုပ်ကို ကျူးလွန်လုပ်ပိုင်သည်ဟု ယူဆခြင်းသည် ဂိုနာဟ်ဖြစ်သည်၊ ၎င်းအကြင်အလုပ်ကိုပိုင်သည်ဟုဆိုထားပြီး အရေးတစ်ကြီးဂရုတစ်စိုက်ပြုမူရန် ဆိုမထားသော် ထိုအလုပ်ကို အရေးကြီးသည်ဟု ယူဆ ယုံကြည်၍ ဂရုတစ်စိုက်လုပ်ခြင်း၊ ၎င်း နာမည်ရကြားဝါရန် အတွက် လုပ်ခြင်းလည်း ဂိုနာဟ် ဖြစ်သည်။

ဤသို့ပင် အကြင်အလုပ်ကို ရှရီအတ်တရားတော်မြတ်က သဝါဗ်ကုသိုလ်ရသည်ဟု မပြဋ္ဌာန်းဘဲ ထိုအလုပ်ဖြင့် ကုသိုလ်သဝါဗ်ရသည်ဟု ယုံကြည်ခြင်းသည် ဂိုနာဟ်ဖြစ်သည်၊ ၎င်းအကြင်အလုပ်ကို ကုသိုလ်သဝါဗ်ရသည်ဟု ဆိုထားပြီး အရေးတစ်ကြီး ဂရုတစ်စိုက်လုပ်ရန် မပြဋ္ဌာန်းဘဲ အရေးကြီးသည်ဟု ယုံကြည်ယူဆခြင်းသည် ဂိုနာဟ်ဖြစ်သည်၊ ၎င်းအကြင်သူသည် အရေးကြီးသည်ဟူ၍ကား မယူဆ၊ သို့သော် လူတို့ကဲ့ရဲ့ပြစ်တင်မည်ကို စိုး၍ ထိုအလုပ်လွှတ်ရန် မကောင်းဟု ယူဆခဲ့သော်လည်း ဂိုနာဟ် ဖြစ်သည်၊ ဤသို့ပင် အရာတစ်ခုခုကို လာဘ်,နိမိတ် မကောင်းဟု ယူဆယုံကြည်ခြင်းသည် ဂိုနာဟ်ဖြစ်သည်။

ဤကဲ့သို့ပင် 'ရှရီအတ်' တရားတော်မြတ်အရ အခိုင်အမာ မဟုတ်ဘဲ တီထွင်ခြင်း၊ ၎င်း ယုံကြည်ခြင်းသည် ဂိုနာဟ် ဖြစ်သည်၊ ဤသို့ပင် အလ္လာဟ် အသျှင်မြတ် အပြင် တစ်ဦးဦးထံ 'ဒိုအာ' ဆုမွန်တောင်းခြင်း၊ ၎င်းထိုသူ့ကို အကောင်း,အဆိုးပေးနိုင်သည်ဟု ယူဆခြင်းတို့သည် 'ရှစ်ရ်က်'၊ ၎င်းဂိုနာဟ်များဖြစ်ပေသည်၊ အို.... အလ္လာဟ်အသျှင်မြတ်၊ ဤသို့ အစွဲအလန်းများမှ အားလုံးကို လွတ်ကင်းစေတော်မူပါ။

ဤတွင်၍ကား ဘာဟစ်ရှိတီ ဇေဝရ်ကျမ်း

ဆဋ္ဌမတွဲ ပြီး၏။

မုဟမ္မဒ် မူစာ [မဋ္ဌာဟောရီ]

ပထမ နောက်ဆက်တွဲ

# ဘဟာစ်ရှ်တီ ဇေဝါင်ဟာရ်ကျမ်း

## ဆဋ္ဌမတွဲ

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

باسمه تعالى حامدا ومصليا ومسلما

## သာသနာတော်၌ အသစ်အဆန်း တီထွင်ခြင်း၏ မကောင်းခြင်း နှင့် အမှောင်ခေတ် ထုံးစံများ၏ 'ဂိုနာဟ်' ဖြစ်ခြင်း အကြောင်း

مَنْ اَحْدَثَ فِيْ اَمْرِنَا مَا لَيْسَ مِنْهُ فَهُوَ رَدٌّ

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် ဂေါရစူလ် ထံမှ လာသော တရားဒေသနာ လမ်းစဉ်တော် မဟုတ်ဘဲ တရားတော်ကို အပိုတီထွင်လုပ်ကိုင်ခဲ့လျှင် ထိုလုပ်ငန်းကို ပယ်ဖျက်ပစ်ရမည်။

(တရ်ဂီးဗ်ကျမ်း စာမျက်နှာ- ၂၇၀)

ဆိုလိုသည်မှာ ... ထိုသို့ အသစ်တီထွင်ချက်များကို လိုက်နာ ပြုကျင့်ခြင်းများ မပြုကြရ၊ အသစ်ဟူရာ၌ 'ရှရီအတ်' တရားတော်မြတ်တွင် မပါမရှိ၊ ခိုင်မာမှုမရှိသော ဘာသာရေး ကိစ္စကို ဆိုလိုသည်၊ ဤသို့တရားတော်က မပြဋ္ဌာန်းဘဲပြုလုပ်သောကိစ္စရပ်များကို တရားတော်မြတ်၏ အသုံးမှာ (ဗိဒအတ်) တရားသစ်ဟူ၍ ခေါ်လေသည်၊ 'ဗိဒအတ်' သည် ပြင်းထန် ကြီးမားသော 'ဂိုနာဟ်' ဖြစ်သည်။

အဘယ့်ကြောင့် ဆိုသော် အကြင်သူသည် ဗိဒအတ် တရားသစ်လုပ်ငန်းကို ပြုလုပ်လျှင်ထိုသူသည် အလ္လာဟ်အသျှင်မြတ်နှင့် ဘက်ပြိုင်သူ ဖြစ်သည်၊ ရှရီအတ် တရားတော်မြတ်သည် အလ္လာဟ်အသျှင်မြတ် ချမှတ်ထားတော်မူသော သာသနာ ဖြစ်သည်၊ ထိုသာသနာတော်မြတ်ကို မည်သူမျှ အပို-အလျော့ ပြုလုပ်ပိုင်ခွင့်မရှိ၊ သို့ရှိရာ အကြင်သူသည် ရှရီအတ်တရားတော်တွင် သာသနာတော်၌ မပါမရှိသည်ကို ထည့်သွင်းပြုမူလျှင် ထိုသူသည် သာသနာတော်ကို မပြည့်စုံဟု ထင်မြင်ယူဆသူ ဖြစ်သည်။

ဤသို့ပြုခြင်းသည် ပထမအချက်မှာ.... ကြီးမား ပြင်းထန်သော ဖြစ်မှု ဂိုနာဟ်ကို ကျူးလွန်သူ ဖြစ်သည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် ချမှတ်ထားတော်မူသော ရှရီအတ်သာသနာတော်ကို မပြည့်စုံဟုယူဆခဲ့သည်၊ ထို့နောက် အသစ်အဆန်း ထည့်သွင်းခြင်းဖြင့် ကိုယ်တိုင် သာသနာတစ်ခု တီထွင်ရာရောက်သည်၊ ဤသည်မှာ ဒုတိယ ဖြစ်မှု ဂိုနာဟ်ကြီးဖြစ်သည်၊ သို့ရှိရာ ဗိဒအတ် တရားသစ်လုပ်သူတို့သည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်နှင့် ဘက်ပြိုင်သူ၊ တန်းတူဖြစ်ကြောင်း ကြွေးကြော်သူဟူ၍ သိရပေသည်၊ ထို့ကြောင့် အလွန်အလွန် လမ်းမှားသူဖြစ်သည်၊ ဗိဒအတီသည် အမြင်အားဖြင့် တရားတော်ကို တိကျစွာ လိုက်နာ ဆောက်ရွက်သူ ပမာ ပြသသည်။

အဘယ့်ကြောင့်ဆိုသော် ဗိဒအတ်တရားသစ်ကို အလ္လာဟ် ၎င်းရစူလ်က သတ်မှတ်ထားသယောင်ယောင် ပြုနေကြသည်၊ ဗိဒအတ်တရားသစ် ကျူးလွန်သူက 'ဗိဒအတ်'ကို အဗာဒတ်ဟု ယုံကြည်နေသည်၊ ၎င်းပြင် အလ္လာဟ်အသျှင်မြတ်နှင့် နီးကပ်စေမည့်အချက်ဟု ယူဆထားကြလေသည်၊ ထို့ကြောင့် ဤသို့ ကျူးလွန်သူသည် 'တောင်ဗဟ်' မပြု၊ တောင်ဗဟ်ကိုကား ဂိုနာဟ်အကုသိုလ်ကျူးလွန်သူများက ပြုကြသည်၊ ဗိဒအတီ တရားသစ်တီထွင်ပြုလုပ်သူက မိမိကိုယ်ကို ဂိုနာဟ်ဂါရ်ဟု မယူဆ၊ သာမက ရှရီအတ်တရားတော်ကိုလိုက်နာဆောက်တည်သူဟု ယုံကြည်ယူဆနေကြသည်၊ ထို့ကြောင့် 'တောင်ဗဟ်'ပြု၍ အမှားဝန်မခံကြပေ။

သို့ရှိရာ ဤဂိုနာဟ်သည် လှည့်ဖြားသော လူတို့အား မျက်စိလည်စေသော ဂိုနာဟ် ဖြစ်သည်၊ ဗိဒအတ် လုပ်ငန်းများမှ အလ္လာဟ်အသျှင်မြတ်သည် လွတ်ကင်း ရှောင်ရှား နိုင်သောစွမ်းအားပေးသနားတော်မူ၍၊ ဖြောင့်မတ်မှန်ကန်သော ရှရီအတ်တရားဒေသနာ တော်၏ လမ်းစဉ်ကို ပြတော်မူပါ။

၎င်းဂိုနာဟ်အကုသိုလ် ကျူးလွန်သူသည် မိမိကိုယ်ကို သေးသိမ်သူ၊ အမိန့်ဖီဆန်သူဟု ယုံကြည်သည်၊ ၎င်းအမြင်မှန်ရလာသောအခါ တောင်ဗဟ်ပြု၍ အမှားဝန်ခံလေသည်၊ သို့ရှိရာ မွတ်စလင်မ်တို့သည် ဤသို့ပြင်းထန်သော ဂိုနာဟ်များမှ အထူးရှောင်ကြဉ်ကြရန် ထိုက်လေသည်၊ ထိုဘာသာရေးအသွင်ဆောင်သော အပေါ်ယံ အဆင်းလှသော ဗိဒအတ် တရားသစ်လုပ်ငန်းများဘက်သို့ အလျင်း စိတ်အာရုံမစိုက်ကြရန် ထိုက်သက်လှပေသည်။

သူတော်စင်တစ်ပါးအကြောင်းကိုရေးကြသည်၊ ထိုပုဂ္ဂိုလ်သည် (ကရှိဖ်) အသိပွင့်သောပုဂ္ဂိုလ်ဖြစ်လေသည်၊ ထိုပုဂ္ဂိုလ်သည် လျှောက်သွားယင်း ကဗရ် သင်္ချိုင်းတစ်ခုသို့ ရောက်သွားရာ၊ လူနှစ်ယောက်သည် အသာဗ် ပြစ်ဒဏ် ခံနေကြရသည်ကို သိတော်မူလေသည်၊ ထိုရှိရာပုဂ္ဂိုလ်ကြီးက မဂ်ဖွေရတ် လွတ်ငြိမ်းချမ်းသာမှုရရန် ဒိုအာ တောင်းဆိုပြီး ကြွသွားတော်မူလေသည်။

တစ်ဖန် ထိုသင်္ချိုင်းသို့ရောက်ပြန်လေရာ၊ တောင်းဆိုပေးခဲ့သောဒိုအာသည် သေသူတစ်ယောက်အတွက် အကျိုးသက်ရောက်ပြီး အသာဗ်ပြစ်ဒဏ်များမှ လွတ်ကင်းနေပြီးလျှင် တစ်ဦးမှာ အသာဗ်ပြစ်ဒဏ် ခံမြဲခံနေရသည်ကို တွေ့ရလေသည်။

ထိုအခါ သူတော်စင်က ဒို အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုး၏ ဒိုအာသည် မွတ်စလင်မ် တစ်ယောက်အတွက် စူးရှပြီး အခြားတစ်ယောက်အတွက် အဘယ့်ကြောင့် မစူးရှပါသနည်းဟု မေးလျှောက်ရာ၊ ဤသူသည် ဗီဒအတီ တရားသစ်တီထွင်သူ ဟူ၍ (အင်လ်ဟာမ်) အသိရောက်လာလေသည်။

ထို့ကြောင့် ကျွန်ုပ်တို့သည် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်များကို ဦးထိပ်ပန်ဆင်လျက် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က စွန္နတ်တော် လမ်းစဉ် အတိုင်း လိုက်နာဆောင်ရွက်နိုင်သောစွမ်းအား ပေးသနားတော်မူပါရန် အလ္လာဟ်အသျှင်မြတ်ထံ ကျိုးငယ်စွာဖြင့် တောင်းဆို အသနားခံကြရန် ထိုက်ပေသည်။

ဟဒီးသ်တော်တွင် လာသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ၃-ဦးသောသူ အပေါ်တွင် ပြင်းထန်သော အမျက်တော် ရှတော်မူသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က အားလုံးကိုပြောပြ၍ တစ်ဦးမှာ (ဂျာဟေလိယတ်) အမှောင်ခေတ်က ထုံးစံကို အစ္စလာမ်သာသနာတော်၌ ယူဆောင်သွတ်သွင်းသူဖြစ်သည်ဟုမိန့်တော်မူလေ၏။

ဆိုလိုသည်မှာ... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် နဗီမဖြစ်မီအလျှင်က 'အရဗ်မွရ်ရှစ်က်'များက ပြုလုပ်ကြသောကိစ္စများ၊ အတုခိုး၍ ပြုကျင့်ကြသူများ၊ ထိုသို့ အကျိုးမဲ့ မလျော်ကန်သည့် အပြုအမူများနှင့် ဘာသာခြားတို့၏ ထုံးဓလေ့စရိုက်များကို လက်ခံ ကျင့်သုံးသူများအပေါ် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်၏ ပြင်းထန်သော အမျက်တော်ကျရောက်လေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အသေးငယ်ဆုံးသော အမျက်တော်ကိုပင် ခံနိုင်စွမ်းမရှိကြလေရာ၊ အပြင်းထန်ဆုံးသော အမျက်တော်နှင့် 'အသာဗ်'ပြစ်ဒဏ်ပေးခြင်းကို မည်သူခံနိုင်မည်နည်း၊ မခံနိုင်ပေ။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် အလုပ် တစ်ခုကိုပြုလုပ်တော်မူ၍ အခြားသူများကိုလည်းပြုလုပ်ကြရန်ခွင့်ပေးတော်မူသည်၊ သို့ရှိရာ အသင်းတစ်သင်း၊ အုပ်စုတစ်စုက ထိုအလုပ်ကို မလုပ်၊ ရှောင်ရှားနေသည်။

(ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ပြုလုပ်ကြရန် ခွင့်ပေးတော်မူသည်၊ သို့သော် ထိုအလုပ်ကို မလုပ်သည်ကကောင်းသည်ဟု ယူဆကြသည်၊ ဤအလုပ် လုပ်ပိုင်သည်ဟူ၍ ကောင်းစွာသိထားကြစေရန် လုပ်ပိုင်ခွင့်ပေးခဲ့သည်၊ နှုတ်နှင့်လည်း ခွင့်ပေး၍ ကိုယ်တိုင်လည်း လုပ်ဆောင်ပြသတော်မူခဲ့သည်၊ သို့သော် မပြုလုပ်ခြင်းသည် မိမိတို့အသိ ဉာဏ်နှင့် မပြုဘဲနေခဲ့ခြင်းဖြစ်သည်၊ 'ရှရီအတ်'၏ ဥပဒေဘောင်စည်းမျဉ်းမှ မဟုတ်သဖြင့် ရှုတ်ချခြင်း ခံရလေသည်။)

သို့ရှိရာ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က 'ခုတ္ဗဟ်' ဖတ်တော်မူသည်၊ အလ္လာဟ်အသျှင်မြတ်အား ချီးမွမ်းထောပနာ ပြုတော်မူ၍ မိန့်တော်မူသည်၊ ဤအလုပ်ကို မလုပ်သောသူများသည် အဖြစ်မကောင်းကြ၊ ငါရစူလ်ကိုယ်တိုင်ပြုလုပ်ပါလျက်၊ အဘယ့်ကြောင့် မလုပ်ကြသနည်း၊ သို့ရှိရာ ထိုသူတို့သည် (အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့၍ မပြုဘဲနေကြသည်ဖြစ်မူ) ငါရစူလ်သည် ထိုသူတို့ထက် ပို၍ အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့သူဖြစ်သည်၊ သို့ရှိရာ ထိုသူတို့သည် ငါရစူလ်နှင့် ကွဲလွဲမှုကို အဘယ့်ကြောင့် ပြုကြသနည်း၊ အလ္လာဟ်အသျှင်မြတ်၏ အသာဗ်တော်ကို ထိုသူတို့ထက် ပို၍ ကြောက်တော်မူသည်၊ အသာဗ်မှလွတ်ကင်းရန်လည်း ထိုသူတို့ထက်ပို၍ ရှောင်ကြဉ်တော်မူသည်၊ သို့ရှိရာ ထိုသူတို့သည် မည်သည့်လုပ်ရပ်၌မဆို ငါရစူလ်ထက် ကျော်လွန်၍ မပြုကြရန် ထိုက်သည်။ (မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၂၇)

သိမှတ်ကြရန်အချက်မှာ.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သာသနာ တော်၏ လုပ်ငန်းမဟုတ်သည်ကို သာသနာအလုပ်ဟု ယူဆယုံကြည်သူများနှင့် ရစူလ် ကိုယ်တော်နှင့်ကွဲလွဲစွာပြုသူများကို ဝေါက်ငမ်း၍ ဆန့်ကျင်မှုမပြုကြရန်မိန့်တော်မူခဲ့သည်။

အမှန်မှာ ဆွဟာဗဟ်(ရဲဇွ)သခင်များသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ် တော်အား အချစ်လွန်ကဲသော ပုဂ္ဂိုလ်များဖြစ်ကြသည်၊ ကိုယ်တော်သခင်၏စုန္နတ်တော် လမ်းစဉ်ကို တသဝေမတိမ်းလိုက်နာပြုကျင့်သော ပုဂ္ဂိုလ်များဖြစ်ကြသည်၊ သို့သော်လည်း ရစူလ်ကိုယ်တော်၏အမိန့်ကို စဉ်းစားဆင်ခြင်မှု နည်းသွားကာ လစ်ဟင်းသွားကြသည်၊ ထို့ကြောင့် ဝေါက်ငမ်းသတိပေးတော်မူခြင်း ခံကြရပေသည်၊ ဆွဟာဗဟ်(ရဲဇွ)သခင် များပင် ကိုယ်တော်၏အမိန့်တော်ကို အမှတ်မဲ့ နေတော်မူကြသဖြင့် ဝေါက်ငမ်းမှု ခံကြ ရလေသည်။

ကျွန်ုပ်တို့သည်ကား ထိုပုဂ္ဂိုလ်များ နှင့် စာလျှင် ပြောပလောက်သော သူများ မဟုတ်ကြ၊ ထိုပုဂ္ဂိုလ်များကဲ့သို့ ရစူလ်ကိုယ်တော်ကို အချစ်မထားကြ၊ ထိုပုဂ္ဂိုလ်များ

ကဲ့သို့လည်း အမိန့်တော်ကို လိုက်နာကြခြင်းမရှိကြ၊ သို့ရှိရာ ကျွန်ုပ်တို့သည် ရစူလ်ကိုယ်တော်၏ စွန္နတ်တော် လမ်းစဉ်နှင့် ကွဲလွဲမှုပြုကြလျှင် ပို၍ပင် စိတ်ဆိုးတော်မူခြင်းနှင့် ဒေါက်ငမ်းတော်မူခြင်းကို ခံကြရပေမည်။

အဘယ့်ကြောင့်ဆိုသော် ကျွန်ုပ်တို့၏ နိယတ်စိတ်သဘောထားသည် ဆဟာဗဟ် (ရသွေ့)သခင်များ ကဲ့သို့ မကောင်းကြပေ၊ အလ္လာဟ်အသျှင်မြတ် ထိန်းသိမ်း စောင့်ရှောက်တော်မူပါစေသတည်း။

သီးခြား၍ ကွဲလွဲစွာ ပြုရာ၌ လောကီလိုလားချက်လည်း ပါရှိနေမူ၊ ဗိဒအတ်၏ ကြီးမား ပြင်းထန်သော ဂိုနာဟ် ခံကြရမည်၊ ယခုခေတ်အခါသမယတွင် များစွာသော ထုံးစံများ ပြန့်နှံ့နေလေသည်၊ လူတို့က အလိုလောဘရမ္မက်ကြောင့် စားရေ့သောက်ရေ၍ အေဗာဒတ် သာသနာလုပ်ငန်းအသွင်ဆောင်နေကြသည်၊ ဤသည်ကိစ္စရပ်များကို အလွန့်အလွန် ရှောင်ကြဉ်ကြရမည်၊ ထိုဗိဒအတ် လုပ်ငန်းများဖြင့် များစွာသော သူများသည် ဝမ်းစာရှာနေကြသည်၊ အလ္လာဟ်အသျှင်မြတ် သဘောတူ နှစ်မြို့မှုကို ရှေ့ရှု၍ ဗိဒအတ် လုပ်ငန်း ဟူသမျှမှ ရှောင်ကြဉ်ကြရမည်၊ အကြင်သူသည် အလ္လာဟ်အသျှင်မြတ် ကြိုက်နှစ်သက်တော်မူသော အလုပ်ကို လုပ်လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏လိုလားချက်အပေါင်းကို ပြည့်စုံအောင် ပြုပေးတော်မူသည်။ (ကောင်းစွာ မှတ်သားထားကြကုန်)။

ဟဒီးသ်တော်တွင်လာသည်၊ အကြင်သူသည် လူတို့အား ကောင်းမြတ်သော တရားလမ်းမှန်ဘက်သို့ ဖိတ်ခေါ်လျှင် ထိုသူဖိတ်ခေါ်၍ လူတို့က ကောင်းမှုပြုကြလျှင် အားလုံးသောသူများ ကောင်းမှုပြု၍ သဝါဗ်ကုသိုလ်ရကြသည်ခန့် ထိုဖိတ်ခေါ်သူတစ်ဦးတည်းက ရရှိပေသည်၊ ထိုပြုသူများမှာလည်း ကုသိုလ်သဝါဗ် မလျော့ကြပေ။

(မစ်ရှိကာတ်ကျမ်း စာမျက်နှာ-၂၉)

ဆိုလိုသည်မှာ.... ကောင်းမှု အေဗာဒတ် ပြုကြသူများနှင့်အမျှ ဖိတ်ခေါ်လှုံ့ဆော်သူ တစ်ဦးတည်းက ကုသိုလ်သဝါဗ်ရမည်၊ ထိုပြုမူကြသော သူများမှာလည်း ကုသိုလ် မလျော့ဘဲ တင်းပြည့်ကျပ်ပြည့်ရရှိကြပေသည်၊ ထိုပြုသူများ ရသင့်ရထိုက်သော ကုသိုလ်ထဲမှ လျော့ပေါ့၍ ဖိတ်ခေါ်သူအား ပေးခြင်း မဟုတ်ပေ၊ ဖိတ်ခေါ်သူမှာ ကောင်းမှုတစ်ခုကို ညွှန်ကြားလိုက်သဖြင့် သီးခြားကုသိုလ်သဝါဗ်ကို အလ္လာဟ်အသျှင်မြတ်က မဟာကရုဏာတော်ဖြင့် ပေးသနားတော်မူခြင်း ဖြစ်ပေသည်။

၎င်းအကြင်သူသည် မှားယွင်းသောကိစ္စကို ညွှန်ပြလျှင် ထိုမကောင်းမှုများပြုသော သူများနှင့်အမျှ ဂိုနာဟ်ပြစ်ဒဏ် ခံရပေမည်၊ ထိုပြောသော ညွှန်ပြ ပြုလုပ်သောသူအတွက်ကြောင့် မကောင်းမှု ဂိုနာဟ်များ ပြုသူများမှ အပြစ်လျော့ပေါ့၍ ထိုညွှန်ပြ ပြုလုပ်သူအပေါ် ဂိုနာဟ်တင်မည်မဟုတ်၊ တစ်သီးတစ်ခြား ထိုသူတို့၏ ဂိုနာဟ်နှင့် အမျှ ကျခံရမည် ဖြစ်ပေသည်၊ ဂိုနာဟ်ပြုသူတို့နှင့်အမျှ ညွှန်ပြသူတစ်ဦးတည်းကခံရမည်၊ ၎င်းပြုသူများ၏ အပြစ်လည်း လျော့မည်မဟုတ်ပေ။　　　(မစ်ရှိကာတ်ကျမ်း စာမျက်နှာ-၂၉)

ပြုလုပ်ညွှန်ပြသဖြင့် ဗိဒအတ် ဂိုနာဟ် စသည်များကို ကျူးလွန်သူများသည် ၎င်းတို့ ကျူးလွန်သည်ခန့် ဂိုနာဟ် အပြစ်ဒဏ်များ ကျခံရမည်၊ လျှော့ပေါ့ခံကြရမည်မဟုတ်၊ တင်းပြည့်ကျပ်ပြည့် ခံကြရမည်၊ ၎င်းလမ်းမှားစေသူအား ထိုသူတို့ပြုကျင့်သည့် ဂိုနာဟ်များနှင့်အညီ တစ်ဦးတည်း အသာဗ်ပြစ်ဒဏ် ကျခံရပေမည်၊ ထိုသူက ဂိုနာဟ်ပြုစေသောအတွက်ကြောင့် ဖြစ်သည်။

ဂိုနာဟ် ပြုစေခြင်းသည်လည်း ဂိုနာဟ်ပင်ဖြစ်သည်၊ ကောင်းမှု ပြုစေခြင်းသည် ကုသိုလ်သဝါဗ်ရလေသည်၊ စဉ်းစားကြရန် အချက်မှာ မိမိတို့ ကျူးလွန် ဖေါက်ဖျက်သော ဗိဒအတ် စသည့် ဂိုနာဟ်များ၏ အသာဗ် ပြစ်ဒဏ်မှာ များပြားသဖြင့် ခံနိုင်ရည်ရှိကြမည် မဟုတ်ပေ၊ ထိုထက် ထိုအတိုင်း လိုက်နာ၍ ပြုကျင့် သူများ၏ ဂိုနာဟ်သည် မည်မျှ များပြားနေမည်ကိုကား အလ္လာဟ် အသျှင်မြတ် သာလျှင် သိတော်မူလေသည်၊ ထိုသူတို့ ပြုကျင့်သည့် ဂိုနာဟ်များကိုပါ မည်သို့ ခံနိုင်ကြမည်နည်း။

ဤသို့သော ဂိုနာဟ်ဆက်တိုက်ခံနေရမည့်တရားသစ်များကိုမပြုကြနှင့်၊ ဤသို့သော ထုံးစံတရားသစ်များကို မတီထွင် မလိုက်နာကြနှင့်၊ တီထွင်ခဲ့သော် မိမိကိုယ်တိုင် ကျူးလွန်ခြင်း၏ ဂိုနာဟ်ခံရမည့်အပြင် အခြားသူများလိုက်၍ ကျူးလွန်ကြခြင်း၏ ဂိုနာဟ်ကိုလည်း ခံရပေဦးမည်။

ဟုတ်ပါ၏၊ ကောင်းမှုကုသိုလ်ကို ကိုယ်တိုင်လည်း ပြုမူကုန်၊ အခြားသူများကိုလည်း ပြုမူစေကြကုန်၊ မိမိပြုသည့် အတွက် ကုသိုလ်သဝါဗ်ရပြီး အခြားသူများကို ပြုမူလိုက်နာစေခြင်းဖြင့်လည်း ကုသိုလ်သဝါဗ်များရပေဦးမည်၊ သင်ပြုလုပ်ခဲ့သော ကောင်းမှုတစ်ခုကိုလိုက်၍ ကေယာမတ်ကမ္ဘာပျက်သည့်အထိ မည်မျှခန့် သူများလိုက်၍ ပြုမူ ဆောက်တည်ကြမည်ကို အလ္လာဟ်အသျှင်မြတ် သာလျှင် သိတော်မူပေသည်။

အင်ရ်ဗ်ဗားသွ ဗင်နံ စာရိယဟ် (ရသွေ.) သခင်က ဆင့်ပြန်ခဲ့သည်၊ တစ်နေ့သ၌ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ကျွန်ုပ်တို့အား အေမာမ်အဖြစ် နှင့် နမာဇ် ဖတ်ပေးတော်မူသည်၊ ပြီးနောက် ရစူလ်ကိုယ်တော်က ကျွန်ုပ်တို့ဘက်သို့လှည့်၍ ဆိုဆုံးမ မြွက်ကြားသည်မှာ လွန်စွာထိရောက်လှသည်၊ မိန့်ဟောတော်မူချက်များကို နားထောင်ယင်း စိတ်လှုပ်ရှားလာသည်၊ မျက်ရည်များပင် ထွက်လာကာ စိတ်တွင် ကြောက်စိတ်များဝင်လာသည်။

ထိုသောအခါ တစ်ဦးသော ပုဂ္ဂိုလ်က လျှောက်သည်၊ ယာရစူလလ္လာဟ် ဆုံးမဟောပြောချက်မှာ ထိရောက်လွန်း၍ ခွဲခွာသွားခါနီးသော သူကို ဆိုဆုံးမလိုက်ဘိအလား ဖြစ်ပါသည်။

ခွဲခွာရမည့်အချိန်တွင် တွေ့ချင်မှတွေ့ရတော့မည် ဟူသော သဘောဖြင့် ကောင်းစွာ ဆုံးမလေ့ ရှိသောကြောင့် ဖြစ်ပေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည်

'ဝဖွာတ်' ကွယ်လွန်တော်မူမည်ဖြစ်၍ ဤမျှဂရုတစိုက် ဆုံးမဩဝါဒပေးနေသည်ဟု ၎င်းလျှောက်သော ပုဂ္ဂိုလ်က ထင်နေသည်၊ ထို့ကြောင့် အရေးကြီးသော အချက်များကို သိထားရလျှင် ကောင်းမည်အထင်နှင့် မေးလျှောက်လိုက်ခြင်း ဖြစ်ပေ၏။

ကျွန်တော်တို့ကို ဆိုဆုံးမတော်မူပါဦး၊ ကိုယ်တော်မရှိသည့်နောက် ဒွန္နယာ အာခေရတ် နှစ်ဌာနတွင် ကောင်းကျိုးများဖြစ်မည့် ဩဝါဒစကားများ မိန့်ကြားတော်မူပါ။

ကိုယ်တော်က မိန့်တော်မူသည်မှာ ငါရစူလ် သင်တို့အား 'ဝစ္စီယတ်' မှာတမ်းတော်မူသည်၊ ၎င်းအမိန့်ပေးတော်မူသည်၊ အလ္လာဟ်အသျှင်မြတ်ကို အမြဲတစေကြောက်ရွံ့ကြကုန်၊ (ထိုသို့ကြောက်ရွံ့ခြင်းသည် ကောင်းမှုအပေါင်းနှင့်လောကီလောကုတ္တရာနှစ်ဌာနအတွက် ကောင်ကျိုးများ၏ အရင်းအမြစ် ဖြစ်သည်) ၎င်းကိုယ်စားလှယ်၏ အမိန့်ကို နာခံလိုက်နာကြကုန်၊ (ဆိုလိုသည်မှာ.... သင်တို့အပေါ် အုပ်ချုပ်သောအစိုးရ၊ ၎င်းဘုရင်သည် ရှရီအတ်တရားတော်အတိုင်း အမိန့်ချမှတ် ပြဌာန်းပါက ထိုအစိုးရ၊ ၎င်းဘုရင်၏ အမိန့်ကို နာခံလိုက်နာကြကုန်။)

ထိုအစိုးရ၊၎င်းဘုရင်သည် နီဂရိုးအသားမည်းကျွန်များဖြစ်သော်လည်း မငြိုမငြင်လိုက်နာကြကုန်၊ ဤသို့ငါရစူလ် ဂရုတစိုက်ဆိုဆုံးမရခြင်းသည် ငါရစူလ်မရှိသည့်နောက် ရှင်နေသူများသည် ကွဲပြားမှုများစွာကို တွေ့ရမည်။

ဆိုလိုသည်မှာ လူတို့၏အဖြစ်သည်ပြောင်းလဲသွားမည်၊ အသစ်အဆန်း'ဗိဒအတ်' တရားသစ်များ ပေါ်ပေါက်လာမည်၊ မငြိမ်မသက် ပျက်စီးမှုများ ပေါ်ပေါက်လာမည်၊ ထိုသို့သောအခါ၌ (တပ်က်ဝါ)အပြစ်ရှောင်ကြဉ်ခြင်း၊ ညီညွတ်စွာ တရားကျင့်သုံးကြရန်လိုအပ်သည်၊ အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့စိတ်ထားလျှင် မတရားမှု မကောင်းမှုများကို ရှောင်ကြဉ်လာပေမည်၊ တရားတော်ဖြင့် ညီညွတ်စွာ နေထိုင်ကြလျှင် ကစင့်ကလျားဖြစ်ကြမည်မဟုတ်၊တရားသောဘုရင်အစိုးရအားဆန့်ကျင်မှုပြုကြလျှင်မွတ်စလင်မ်အချင်းချင်း ညီညွတ်မှုရမည်မဟုတ်၊ ထို့ကြောင့် တစ်ညီတစ်ညွတ်တည်း ဖြစ်နေကြစေရန် ဘုရင်အစိုးရ၏ အမိန့်ကို နာခံလိုက်နာကြကုန်၊ (တပ်က်ဝါ) ရှောင်ကြဉ်ရန် လမ်းစဉ်ကို မိန့်ဟောတော်မူသည်မှာ....

သို့ရှိရာ သင်တို့သည် ငါရစူလ်၏ လမ်းစဉ်တော်ကို စွဲစွဲမြဲမြဲ နာခံ ပြုမူကြကုန်၊ ၎င်း(ခိုလဖွာအေ့ ရာရှေ့ဒီန်)သခင်များ၏ လုပ်ရိုးလုပ်စဉ်များကို လိုက်နာပြုကျင့်ကြကုန်၊ ဤလမ်းစဉ်ကို စွဲမြဲစွာ လက်ကိုင်ပြုပြီး သာသနာတော်၌ အသစ်အဆန်း တီထွင်ခြင်းမှ ရှောင်ကြဉ်ကြကုန်၊ အဘယ့်ကြောင့်ဆိုသော် သာသနာတော်၌ အသစ်အဆန်း တီထွင်ခြင်းသည် ဗိဒအတ်ဖြစ်သည်၊၎င်းဗိဒအတ်တရားသစ်ဟူသမျှသည် လမ်းမှားချည့်ဖြစ်သည်။

(ဂျမ်အုလ်ဖွဝါအစ်ဗ်ကျမ်း စာမျက်နှာ-၁၇၀)

၎င်းလမ်းမှားသည် ရှိုင်တွာန်မိစ္ဆာ၏ လမ်းစဉ်ဖြစ်သည်၊ ဂျဟန္နမ် အပါယ်ငရဲသို့ ရောက်စေသည်၊ လောကီ၌လည်း ဆုံးရှုံးမည့်အရာဖြစ်ကြောင်း ထင်ရှားသည်။ တင်ပြပါ ဟဒီးသ်တော်မြတ်တွင် ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တရားတော် နှင့် ကွဲလွဲသော အရာများ၊ ၎င်း ဗိဒအတ် တရားသစ်များမှ ရှောင်ကြဉ်ကြရန် အထူးတစ်လည် သတိပေးမြွက်ဟထားတော်မူသည်၊ ၎င်း ရှောင်ရှားရန် နည်းကိုလည်း ညွှန်ကြားထားတော်မူသည်၊ ထိုညွှန်ကြားချက်မှာ ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် ၎င်းခိုလဖွာအေ့ရာရှေ့ဒီန်သခင်များ၏ စွန္နတ်တော်လမ်းစဉ်အတိုင်း လိုက်နာဆောင်ရွက် ပြုမူကြရပေမည်။

ထို့ကြောင့် မွတ်စလင်မ်များအတွက် ထိုက်သက်သည်မှာ လောကီအလုပ်ကိစ္စတွင် ဖြစ်စေ၊ သာသနာတော်၏ အလုပ်ဖြစ်စေ ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ လမ်းစဉ်အတိုင်း လိုက်နာကျင့်သုံးကြရမည်၊ ၎င်းလူတို့တီထွင်ထားကြသော ထုံးစံများကို အလျင်း မပြုလုပ်ကြနှင့်၊ သားချင်းအိမ်သားတို့၏ စိတ်ဆိုးခြင်းများကိုအလျင်း ဂရုမစိုက်ကြနှင့်၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို ဦးထိပ်ပန်ဆင်ရန်မှာ အရေးအကြီးဆုံး, အဦးဆုံး ထားရမည်၊ ကောင်းကျိုးဟူသမျှ နှင့် ဆိုးကျိုးဟူသမျှသည် ထို အလ္လာဟ်အသျှင်မြတ်၏ စိုးပိုင်ခြင်း၌သာ ရှိသည်။

ထို့ကြောင့်အကြင်သူကို အလ္လာဟ်အသျှင်မြတ်က နှစ်သက် သဘောတူတော်မူလျှင် ထိုသူသည် မည်သည့်လိုလားချက်မှ မရ,မရှိ၊ အလိုပြည့်မည်ပင် ဖြစ်သည်၊ ၎င်းအကြင်သူကိုအလ္လာဟ်အသျှင်မြတ်က စိတ်ဆိုး မနှစ်မြို့တော်မူလျှင် ထိုသူ့အား မည်သူမျှ ကယ်မ,နိုင်သူမရှိ။

မနုဿလူသားတို့၏ စိတ်ကိုလည်း အလ္လာဟ်အသျှင်မြတ် သာလျှင် စိုးပိုင်တော်မူသည်၊ တစ်ဦးတစ်ယောက်၏စိတ်တွင်း၌ အလိုရှိတော်မူလျှင် မုန်းတီးစိတ်ထည့်သွင်းတော်မူသည်၊ ၎င်းအလိုတော်ရှိသူ၏စိတ်၌ ချစ်ခင်စိတ် ထည့်သွင်းပေးတော်မူသည်။

မိမိတို့နှင့် အတူတူ ဖြစ်သော (မခ်လူးက်) အဖန်ဆင်းခံရသူများ၏ မဟုတ်မလျှားစကားများကိုနာခံလိုက်နာပြုကျင့်သူများသည် အလွန်သေးသိမ်သူများဖြစ်ကြ၍ ရှက်ဖွယ်ကောင်းလေသည်။

ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မည်သည့် အုမ္မတ်သားမဆို၊မိမိတို့နဗီ၏နောက် ထိုနဗီ၏ဒီန်သာသနာတော်၌ဗိဒအတ်တရားသစ်ထွင်ကြလျှင် ထိုဗိဒအတ်နှင့်အမျှ စွန္နတ်တော် လျော့နည်းသွားမည်။

(တရ်ဂီးဗ်ကျမ်း စာမျက်နှာ-၂၈)

အသင်းသား အုပ်စုတစ်စုသည် ဗိဒအတ် တရားသစ်တစ်ခုကို ကျူးလွန်ကြလျှင် စွန္နတ်တော် လမ်းစဉ်တစ်ခုကို မလုပ်နိုင်ဘဲဖြစ်သွားကြသည်၊ တရားသစ်လုပ်သည့် ဂိုနာဟ်

အပြင် စွန္နတ်တော်တစ်ခုကိုလည်း လုပ်နိုင်စွမ်းမရှိကြတော့ပေ၊ သို့ရှိရာ ရိုးရိုးစွန္နတ်တော် တစ်ရပ်ကိုပြုမူခြင်းသည် လူတို့ထံ တန်ခိုးကြီးသော ဗိဒအတ်တရားသစ်တစ်ခုကျူးလွန်ခြင်း ထက် များစွာ ကောင်းလေသည်။

အဘယ့်ကြောင့်ဆိုသော် ရိုးရိုးစွန္နတ်တော်တစ်ရပ်ကို ပြုမူခြင်းဖြင့် ကြီးမားသော ကုသိုလ်သဝါဗ်ရလေသည်၊ ၎င်းကြီးကျယ်သော ဗိဒအတ်တစ်ခုလည်း ၎င်းတို့ထွင် ကျူးလွန်ကြပါက ပြင်းထန် ကြောက်မက်ဖွယ်ကောင်းသော အသာဗ်အပြစ်ဒဏ် အပြင် မည်သည့် အကျိုးမှမရကြပေ၊ သို့ရှိရာ စွန္နတ်တော်ကို လိုက်နာပြုမူခြင်းသည် အကောင်းဆုံး ဖြစ် သည်၊ အကယ်၍ထိုစွန္နတ်တော်သည် 'ဒရ်ဂျာ' ရိုးရိုး (၀၁)သဝါဗ်နည်းသည်ဖြစ်စေကာမူ ကောင်းလေ၏၊ ဥပမာ... စွန္နတ်တော်နှင့်အညီ 'အစ်တင်န်ဂျာ' သန့်ပြန့်အောင် ပြုခြင်း စသည်များ စွန္နတ်တော်နှင့်ညီသော 'အစ်တင်န်ဂျာ' ရေကိုင်ခြင်းသည် လူတို့ထံ ကြီးကျယ် သော 'ဗိဒအတ်'ထက် များစွာ သာမြတ်လေသည်။

ဗိဒအတ်သည် မည်သို့ပင်ဖြစ်စေ အကျိုးကျေးဇူးမရှိ၊ ထိုတီထွင်မှုအတွက် မည်မျှ ဒုက္ခခံကြိုးစားမှုလည်း အချည်းနှီးသာတည်း၊ ကြီးကျယ်သော ဗိဒအတ်ကို တီထွင်ရာ၌ အကျိုးကျေးဇူးမရှိဖြစ်လေရာ၊ သေးနုတ်သော ဗိဒအတ်အငယ်စားများလည်း အဘယ်မှာ အကျိုးရှိမည်နည်း၊ ဗိဒအတ်အကြီးစား, အသေးစား, အားလုံး ဗွန္နယာ - အာခေရတ် နှစ်ဌာန ဆုံးရှုံးပျက်စီးမည့်အရာများဖြစ်ကြသည်၊ ၎င်းစွန္နတ်တော်လမ်းစဉ်ကို လိုက်နာ ဆောက်တည်ပြုမူခြင်းသည် မည်သို့ပင်ဖြစ်စေ သဝါဗ်ကုသိုလ် ရလေသည်။

قَالَ قَالَ رَسُوْلُ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ مَنْ وَقَّرَ صَاحِبَ
بِدْعَةٍ فَقَدْ اَعَانَ عَلٰى هَدْمِ الْاِسْلَامِ - اِذَا مُدِحَ الْفَاسِقُ
غَضِبَ الرَّبُّ تَعَالٰى وَاهْتَزَّ الْعَرْشُ (تذكير الاخوان صـ١٨٧)

ဟဒီးသ်တော်တွင် လာသည်၊ ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့် တော်မူသည်မှာ.... အကြင် သူသည် 'ဗိဒအတ်' သမားကို ဂုဏ်ပေးလျှင်၊ ထိုသူသည် အစ္စလာမ်သာသနာတော်ကို ဖြိုဖျက်သူပင်ဖြစ်သည် ၊(ဤသည်ကို ဗိုင်ဟကီ ကျမ်းရှင်က ရှုအ်ဘုလ် အီမာန်အခန်းတွင် အကြောင်းပြုခဲ့သည်) ၎င်းပြင် အကြင်သူသည် 'ဖွာစစ်က်' ကို ချီးကျူးလျှင် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် စိတ်ဆိုးတော် မူသည်၊ ၎င်း 'အရ်ရှ်'တော် တုန်လှုပ်သွားလေသည်။

(တသ်ကီရွလ်အစ်ခ်ွဝါန်ကျမ်းစာမျက်နှာ-၁၈၇)

ဆိုလိုသည်မှာ.... ဗိဒအတ်သမား သည် စွန္နတ်တော်လမ်းစဉ်နှင့် ကွဲလွဲစွာ ပြုမူသဖြင့် အစ္စလာမ်သာသနာတော်မှာ အားနည်းရာ အားနည်းကြောင်းဖြစ်သည်၊ သို့ရှိရာ အကြင်သူသည် 'ဗိဒအတ်'သမားကို ဂုဏ်ပေးလျှင်၊ ထိုဂုဏ်ပေးသူသည် ထို'ဗိဒအတ်'သမားအား ကူညီသူပင်ဖြစ်သည်၊ ဂိုနာဟ်အလုပ်ကို ကူညီခြင်းသည် ဂိုနာဟ်ပင်ဖြစ်ပေရာ၊ ထိုဂုဏ်ပေးသူလည်း ဂိုနာဟ်ဂါရ်ပင် ဖြစ်သည်။

ပထမအချက်....

ဗိဒအတ်သမားကို ဂုဏ်ပေးသူအား ကူညီသူဟု ရည်တွက်ခြင်းမှာ ဗိဒအတ်သမားကို ပြစ်တင် ဂုဏ်ပျက်အောင်ပြုကာ အဆက်အသွယ် ဖြတ်တောက်ထားလျှင် ထိုသူသည် မိမိ၏ မှားယွင်းသော လမ်းစဉ်ကို စွန့်လွှတ်လာမည်၊ ထိုသို့ စွန့်လွှတ်သွားပါက ထိုသူဖြင့် အစ္စလာမ်သာသနာတော်မှာ နစ်နာမှု ဖြစ်တော့မည် မဟုတ်ပေ၊ ၎င်းအကယ်၍ ထိုသူ့အား ဂုဏ်ပေးသဖြင့် လုပ်အားရှိနေပါက အစ္စလာမ်သာသနာတော်မှာ အားနည်းသော အကြောင်းဖြစ်သည်၊ ၎င်းဂိုနာဟ်ဖြစ်သည်၊ ထို့ကြောင့် ဂိုနာဟ်ကို ကူညီ အားပေးရာ ရောက်သည်။

ဒုတိယအချက်....

'ဗိဒအတ်' တရားသစ် လုပ်သူသည် အလ္လာဟ်အသျှင်မြတ်၏ ရန်သူ ဖြစ်သည်၊ အလ္လာဟ်အသျှင်မြတ်၏ ရန်သူကို ဂုဏ်ပေးခြင်းသည် 'ရှရီအတ်' တရားတော်အရ မပြုပိုင်၊ သို့ရှိရာ အကြင်သူသည် အလ္လာဟ် အသျှင်မြတ်၏ ရန်သူကို ဂုဏ်ပေးလျှင် ထိုသူသည် သာသနာတော်ကို ဂုဏ်မထားသူ၊ ၎င်း ဆန့်ကျင်မှုပြုခြင်း ဖြစ်သည်။

ဤအမိန့်သည် ဂိုနာဟ်တိုင်း အတွက် ဖြစ်သည်၊ သီးခြား၍ ဗိဒအတ်သမားကို အများကဂုဏ်ပေးကြသည်၊ ထို့ကြောင့် ဤသို့ဂုဏ်ပေးခြင်းသည် ကြီးမားသောဂိုနာဟ် ဖြစ်၍ စိုးရိမ်ဖွယ်ကောင်းကြောင်း အထက်တွင် ရေးခဲ့ပေပြီ။

وَعَنِ ابْنِ عَبَّاسٍ عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ مَنْ
تَمَسَّكَ بِسُنَّتِيْ عِنْدَ فَسَادِ أُمَّتِيْ فَلَهُ أَجْرُ مِائَةِ شَهِيْدٍ (رواه البيهقي)

ဟဒီးသ်တော်ဘွင်လာသည်၊ ရစူလ္လုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ....ငါ့ရစူလ်၏ အုမ္မတ်များ ကွဲပြားမှု (ဗိဒအတ်နှင့်ဆိုးသွမ်းခြင်း)များ ဖြစ်ပေါ်လာသောအခါသမယတွင် အကြင်သူသည် ငါရစူလ် ချမှတ်တော်မူခဲ့သော စွန္နတ်တော်လမ်းစဉ်အပေါ် လိုက်နာပြုမူနေပါက ထိုသူသည် (ရှဟီဒ်) သာသနာစစ်ပွဲတွင် ကျဆုံးကြသော ပုဂ္ဂိုလ် ၁၀၀-၏ ကုသိုလ်သဝါဗ် ရမည်ဖြစ်သည်။ (ဗိုင်ဟကီကျမ်း)

သို့ရှိရာ မှတ်စလင်မ်အပေါင်းတို့သည် ဤသို့မှန်မြတ်သော 'အမလ်'မှ နောက်မဆုတ်ကြရန်ထိုက်သည်၊ သို့မှသာ ဤမျှကြီးမားသော သဝါဗ်ကုသိုလ်မှ လက်မဲ့မဖြစ်ကြမည်။

ယခုခေတ်အခါသမယတွင် စွန္နတ်တော်လမ်းစဉ်ကို ပြင်းထန်စွာ ဆန့်ကျင်နေကြလေရာ၊ ဤသဝါဗ်ရအောင်ယူကြရန်ထိုက်ပေသည်၊ ဤသို့ပင် ကိုယ်တိုင် စွန္နတ်တော်ကို လိုက်နာ ကျင့်သုံးပြီး အခြားသူများကိုလည်း လိုက်နာ ကျင့်သုံးကြစေရန် တိုက်တွန်းဟောပြောရမည်၊ သို့သော် ခိုက်ရန်ဖြစ်မှုကိုကား ရှောင်ကြရမည်၊ ခိုက်ရန်ဖြစ်မည်ဟု စိုးရိမ်ရသော နေရာတွင် ကိုယ်တိုင် သာလျှင် စွန္နတ်တော် လမ်းစဉ်ကို လိုက်နာနေပြီး၊ ၎င်း ဆန့်ကျင်သူတို့အား ပြောရန်မလို၊ ခိုက်ရန်ဖြစ်ရန် အကြောင်းမရှိသော နေရာတွင် တရားသစ်များကို စွန့်လွှတ်၍ စွန္နတ်တော်လမ်းစဉ်ကို လိုက်နာရန် ကောင်းစွာဟောပြော တိုက်တွန်းကြရမည်။

ဤတွင်၍ကား ဘဟာစ်ရှိတီ ဇေဝါင်ဟရ်ကျမ်း
ဆဋ္ဌမတွဲ ပြီး၏။

**မုဟမ္မဒ်မူစာ [မဇ္ဈာဟေရီ]**

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ نَحْمَدُهٗ وَنُصَلِّيْ عَلٰى رَسُوْلِهِ الْكَرِيْمِ

**ဒုတိယ နောက်ဆက်တွဲ**

# ဘဲဟ်တရိန်ဂျဟေးဇ် အကောင်းဆုံး လက်ဆောင်မွန်

အသည်း နှင့် ထပ်တူ ချစ်လှစွာသော သမီး....

သမီးသည် ယခုတိုင် ကြင်နာယုယသောမိခင်နှင့် ကရုဏာသက်သော ဖခင်၏အရိပ် အာဝါသအောက်တွင် ခိုလှုံ လူလားမြောက်နေခဲ့သည်၊ သမီး၏ ဖခင်နှင့်မိခင်က သမီး အတွက် သက်သာ ပျော်ရွှင်မှုကို အမြဲတစေ ဂရုစိုက်ခဲ့သည်၊ ယနေ့ထိအောင် သမီး၏ ဘာသာရေး ပညာ တတ်သိနားလည်မှုနှင့် အကျင့်စာရိတ္တ ကောင်းမွန်မှုများ အတွက် ဖခင်တို့မှာ တာဝန်ဖြစ်ခဲ့သည်။

ယနေ့မှစ၍ သမီးသည် လောကသစ်သို့ ခြေလှမ်းရတော့မည်၊ ထိုနေရာ၌ သမီး၏ လုပ်ငန်းဟူသမျှနှင့် အကျင့်စာရိတ္တ ကောင်းမွန်ရေးတို့သည် သမီးတာဝန်သာ ဖြစ်သွား ပေတော့မည်၊ ထို့ကြောင့်သမီးအား ဆိုဆုံးမစကားအနည်းငယ်ပြောလိုသည်၊ အကယ်၍ သမီးသည် ဖခင်ပြောသည့်အတိုင်း လိုက်နာ ကျင့်သုံးနေခဲ့လျှင် 'ဒွန္နယာ အာခရေတ်' နှစ်ဌာနတွင် သမီးမှာ အသျှင်မြတ် အလိုတော် နှင့် အောင်မြင်ထုမြောက်မှု ရရှိမည် ဖြစ်သည်။

ထိုဆုံးမ လိုသောအချက်မှာ....

ပထမဦးစွာ အလ္လာဟ်အသျှင်မြတ်နှင့်ထိုအသျှင်မြတ်၏ရစူလ်မုဟမ္မဒ်(ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်တော်များကို တသဝေမတိမ်း လိုက်နာဆောက်တည် ကျင့်သုံးရမည်၊ ဤသည်ကို အမြဲတစေ စိတ်ဖြင့် စွဲမှတ် သံမိုနှက်ထားရမည်၊ အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏အမိန့်နှင့် ဆန့်ကျင်ကာ အကယ်၍ တစ်ဦးသော သူကပြောခဲ့သော် ထိုစကားကို အလျင်း မယုံကြည်, မနာခံနှင့်။

မိဘနှစ်ပါး၏ စကားကို မြေဝယ်မကျ နာခံရန် ကုရ်အာန်ကျမ်းတော်မြတ်က မိန့်မှတ် ပြဋ္ဌာန်းထားတော်မူသည်၊ ရဝ်းပြင် ဂျန္နတ်ဥယျာဉ်ဘုံနန်းသည် မိဘနှစ်ပါး၏ ခြေဖဝါးအောက်တွင်ရှိသည်ဟု မိန့်ဆိုထားတော်မူသည်၊ သို့သော် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်တော်နှင့် ဆန့်ကျင်၍ မိဘက စေခိုင်းခဲ့သော် ထိုမိဘ၏စကားကို မနာယူရ။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ကုရ်အာန် ကျမ်းတော်မြတ်တွင် မိန့်မြွက်ထားတော်မူသည်မှာ....ဝအင်န်၊ဂျာဟဒါက၊အလာအန်တွရှ်ရေ့ကဗီ၊ (အဆုံးထိ) ၎င်းအကယ်၍ မိဘက သင့်အား ငါ့အသျှင်မြတ်အား အခြားအရာဖြင့် တုဖက် ယှဉ်တွဲ (ရှစ်ရိက်)ပြုရန် စေခိုင်းလျှင် သို့ရှိရာ မိဘ၏ပြောစကားကို မနာခံကြနှင့်၊ ၎င်း ဒွန္နယာ လောကီရေးရာ၌ ထိုမိဘနှင့် ကောင်းစွာဆက်ဆံကုန်။

သမီးအတွက် ရေးပေးထားသော (ဟဒီးသ်ပေါင်းလေးဆယ်)ကို အဓိပ္ပါယ်နှင့် တကွ သမီးအာဂုံကျက်ထားသည်၊ ထိုဟဒီးသ်များတွင် ဤဟဒီးသ်လည်းပါဝင်သည်။

လာတွာအတ၊ လေ့မခ်လူကင်၊ ဖွီမအ်စွေ့ယတာင်လ်.... ခါလေ့ကေ့။

အလ္လာဟ်အသျှင်မြတ် အမိန့်တော်နှင့် ဆန့်ကျင်သောအရာများ၌ မည်သည့် 'မခ်လူးက်' လူသား၏ စကားများကိုမျှ နားမထောင်ရ။

သို့ရှိရာ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို နာခံ လိုက်နာလိုသော စိတ်ဆန္ဒရှိနေလျှင် သမီးသည် အလိုအလျောက် အမိန့်တော်မြတ်များကို လိုက်နာ ကျင့် သုံးလာပေမည်၊ အလ္လာဟ်အသျှင်မြတ်၏အမိန့်တော် စည်းမျဉ်းများသည် မြောက်မြားစွာ

ရှိသည်၊ အကျယ်တဝင့် ဘာသာရေးကျမ်းစာများ သီးခြား၍ ဘဟာစ်ရှိတီဇေဝရီကျမ်းတွင် သမီးဖတ်ပြီးလေပြီ၊ ထိုအချက်များကို ဤနေရာတွင် ထပ်မံ ရေးပြနေရန် မလို၊ သို့သော် ထိုအနက် အရေးကြီးသော အချက်များကို အကျဉ်းရုံး၍ ရေးပြမည်။

အကီဒပ်တောဝ်ဟီးဒ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် နဗီရစူလ် ဖြစ်ကြောင်း ဝန်ခံ ယုံကြည် သက်ဝင်ပြီးနောက် ကုရ်အာန်ကျမ်းတော်မြတ်တွင် နေရာအနှံ့ အပြား ထပ်တစ်လဲလဲ သတိပေးထားသည်မှာ နမာဇ် ဖြစ်သည်။

နမာဇ်သည် အစ္စလာမ်သာသနာတော်၏ 'ရကွန်' မဏ္ဍိုင်၊ ၎င်း အရေးကြီးဆုံးသော 'ဖွရ်သွ်'မပျက်မနေရ တာဝန်တစ်ရပ်ဖြစ်သည်၊ အရွယ်ရောက်သူ၊ အသိဉာဏ်ရှိသူ၊ (သူရူးမဟုတ်သူမှတစ်ပါး)အားလုံးအပေါ် အချိန်မှန်စတ်ပြုရန် တာဝန်ရှိသည်၊ သို့ရှိရာ နမာဇ် ၅-ကြိမ်ကို အိမ်မှာ ရှိနေသည် ဖြစ်စေ၊ ခရီးထွက်နေသည် ဖြစ်စေ မပျက်မကွက် ဂရုတစ်စိုက်ဝတ်ပြုကုန်။

အချို့အမျိုးသမီးများသည် နမာဇ်ကို လေးစား ဂရုစိုက်ကြသော်လည်း၊ ခရီးသွားရာ၌ ပေါ့လျော့ကြသည်၊ သမီးသည် ခရီးသွားရာ၌ မည်သည့်နမာဇ်မှ 'ကသွာ' အချိန်လင့်မသွားရန် ဂရုစိုက်ကုန်၊ ခရီးသွားနေသောအဖြစ်၌ နမာဇ်ကို အချိန်ဦးတွင် ဖတ်လိုက်ခြင်းက ပို၍ကောင်းသည်။

ခရီးသွားခြင်းသည် မီးရထား၊ ၎င်းမြင်းရထား၊ ဘီရိုလှည်းလည်း ဖြစ်နိုင်သည်၊ အကယ်၍ မြင်းရထား၊၎င်းဘီရိုလှည်းဖြင့် ခရီးသွားမှု ထိုယာဉ်ကို မိမိလိုရာတွင် အရပ်ခိုင်းနိုင်သည်၊ထို့ကြောင့်နမာဇ်အချိန်ရောက်လျှင် တစ်ခုနေရာ၌ ရပ်ခိုင်းပြီး 'ဘွရ်ကာဟ်' သို့မဟုတ် ကြီးသောစောင်တစ်ထည်ဖြင့် နမာဇ်ဖတ်လိုက်ကုန်။

အကယ်၍ 'ဝိုသွူ'ရေသန့်စင်မှုမပြုရသေးလျှင် မြင်းလှည်း၊ သို့မဟုတ် ဘီရိုလှည်းကို အကာအကွယ်ယူပြီးပြုကုန်၊ အကယ်၍ မီးရထားဖြင့်သွားရာ အမျိုးသမီးများအတွက် သီးသန့်ပြုထားသောတွဲ၌စီးနင်းလိုက်ပါက သမီးသည်နမာဇ်ဖတ်ရန် နီယတ်စိတ်ဆန္ဒထားပါက နမာဇ်ဖတ်ရန် နေရာ ရမည်သာ ဖြစ်သည်၊ မီးရထားသည် အချို့ဘူတာများ၌ ခပ်ကြာကြာရပ်သဖြင့် နမာဇ် ၂-ရကာအတ်၊ ၃-ရကာအတ်ကို လွယ်လင့်တစ်ကူ ဖတ်ချိန်ရသည်။

အဘယ့်ကြောင့်ဆိုသော် ခရီးသွားရာ၌ (မိုစာဖွင်ရ်)မှာ နမာဇ် ၂-ရကာအတ်နှင့် ၃-ရကာအတ်သာရှိသည်၊ ထို့ကြောင့် လွယ်လင့်တစ်ကူဖတ်နိုင်မည်သာဖြစ်သည်၊ အကယ်၍ စွန္နတ်နှင့်နဖ်လ်များ ခရီး၌ မဖတ်နိုင်လျှင် ကိစ္စမရှိ၊ ဖွဂ်ျရ်၏စွန္နတ် ၂-ရကာအတ်ကိုကား ဖတ်ရမည်၊ ၎င်းဖွရ်သွ်နှင့် ဝါဂျစ်ဗ် နမာဇ်ကို ခရီးသွားရာ၌ လုံးဝမလွတ်နှင့်။

အကယ်၍ သမီးသည် အမျိုးသမီးများအတွက် သီးသန့်တွဲတွင် မဟုတ်ဘဲဖြစ်မှု သဒိးခင်ပွန်း၊၎င်း(မဟ်ရမ်)နေကာဟ်မပိုင်သူတစ်ဦးဦးအတူပါမည်ဖြစ်ရာ ထိုသူပင် သမီးအတွက်လုံခြုံလာက်သည်၊ အချုပ်မှာ ... တစ်နည်းအားဖြင့် နမာဇ်ဖတ်ရပေတော့မည်။

မှတ်ချက်။ အကယ်၍ အမျိုးသမီးသည် (မဟ်ရမ်) နေကာဟ်မပိုင်သူ၊ ဥပမာ- ဖခင်၊ အစ်ကို၊ မောင်၊ ကျာကျာ၊ မာမူတို့နှင့် ယောကျ်ားတဲ့တွင် စီးနင်းလိုက်ပါလျှင် နမာဇ် ချိန်ရောက်လာပါက၊ ဆင်းရမည့်ဘူတာမှာနီးလျှင် ဘူတာဆင်းလျှင် ဆင်းခြင်း နမာဇ် ဖတ်ရမည်၊ အကယ်၍ ဘူတာမှာဝေးနေ၍ ထိုဘူတာသို့ အရောက်ဆိုင်းနေပါက နမာဇ် ချိန်း ကုန်သွားမည်ဖြစ်သော် အတူပါလာသော 'မဟ်ရမ်'အား နမာဇ် ဖတ်ပေးရန် ပြောရမည်။

နမာဇ်ဖတ်ရန်အတွက်မှတ်စလင်မ်ဖြစ်စေ၊ ကာဖ္ဖင်ရ်ဖြစ်စေနေရာဖယ်ပေးကြသည်၊ အတူပါလာသူသည် လူတို့အား ခေတ္တခဏ အဖယ်ခိုင်း၍ အဝတ်အထည်ကို ဖြန့်ကာ 'ပရ်ဒဟ်' အကာအကွယ်ပြုပေးရမည်၊ သို့မှသာ အမျိုးသမီးမှာ လွတ်လပ်စွာ နမာဇ် ဖတ်နိုင်ပေမည်။

နမာဇ် ဂရုစိုက်သူ ယောကျ်ား ဖြစ်စေ၊ မိန်းမ ဖြစ်စေ ခရီးသွားသော အခါ လမ်း၌ နမာဇ်အချိန်ရောက်လာလျှင် ဖတ်မည်သာဖြစ်သည်၊ မီးရထားသည် ကိုယ်ရပ်လိုရာရပ်ခိုင်း နိုင်သော အစီးအနင်း မဟုတ်သော်လည်း နမာဇ်ကို မဖတ်ဘဲ နေလိုက်ရန် (အွဇ်ရ်) အကြောင်းခံ လုံလောက်မှု မရှိပေ။

သမီးသည် နမာဇ် ဖတ်ရာ၌ 'တအ်ဒီလေ အရ်ကာန်' များကိုပါ ဖြေးညှင်းစွာ ဂရုစာစ်စိုက် ဖတ်သည်ကို ဝမ်းသာမိသည်၊ အလ္လာဟ်အ္ရှင်မြတ်သည် သမီးအား ပို၍ ဂရုတစ်စိုက်ဖတ်နိုင်သော စွမ်းအား ပေးတော်မူပါစေ။

ဖွရ်သွ် နမာဇ်နှင့် အတူ စွန္နတ်မို့ အတက်ကာဒ့ဟ်များလည်း ဖတ်ကုန်၊ ဖြစ်နိုင်လျှင် ဟဒီးသ်တော်အရ အတည်ဖြစ်သော စွန္နတ်နှင့်နဖိလ်နမာဇ်များကိုပါဖတ်ကုန်၊ တဟဂျ်ဂျုဒ် နမာဇ်၏ သဝါဗ်သည် အလွန်ကြီးမားသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် အမြဲတဟဂျ်ဂျုဒ်နမာဇ်ဖတ်တော်မူခဲ့သည်၊ အကယ်၍တစ်ခါတစ်ရံ ညတွင်မဖတ်ဖြစ်ခဲ့သော် နေ့တွင် ဖတ်တော်မူသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော် များသည် တဟဂျ်ဂျုဒ်နမာဇ်ကို ဖတ်ခဲ့ကြသည်၊ တဟဂျ်ဂျုဒ် အချိန်သည် ဒိုအာလက်ခံ တော်မူသော ဝင်း 'ရဟ်မတ်'ကျရောက်သော အချိန်ဖြစ်သည်။

နမာဇ်ဖတ်ပြီးတိုင်း ကုရ်အာန်ကျမ်းတော်မြတ်ကို အနည်းအကျဉ်း သရဇ္ဈယ်ကုန်၊ ဖဂျ်ရ်နမာဇ် ပြီးနောက် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်ရန် အချိန်တစ်ချိန် ထားလျှင် ကောင်းသည်၊ သမီးသည် ကုရ်အာန်ကျမ်းတော်မြတ်ကို အဓိပ္ပါယ်နှင့် တကွ ဖတ်ထား သည်၊ ဖတ်သောအခါ အဓိပ္ပါယ်ကိုလည်း ဂရုတစ်စိုက်ဖတ်သွားကုန်၊ နားမလည်သော နေရာတွင် နားလည်သူအား မေး၍ ဖတ်ကုန်။

သမီးသည် ကုရ်အာန်ကျမ်းတော် ဖတ်ရာ၌ 'အိုင်န်'၊ 'ဟောကြီး' စသည့် အက္ခရာ များကို မှန်ကန်ပီသစွာဖတ်နိုင်သည့်အတွက် ဝမ်းသာမိသည်၊ အများအားဖြင့် အမျိုးသမီး များသည် ကုရ်အာန် ဖတ်ရာ၌ အက္ခရာများကို အသံထွက် မှန်အောင် မဖတ်နိုင်ကြ၊

'ပေါကြီး'နေရာ 'ပေါလေး'၊ 'အိုင်နှ်'နေရာတွင် 'အလစ်ဖ်'နှင့် 'ဟမ်ဇဟ်' အသံဖြင့် ဖတ်ကြသည်။

ရိုဇဟ်ဥပုသ်နှင့် ပတ်သက်၍ အထူးရေးနေရန်မလို၊ သမီးသည် ရိုဇဟ်ကို အထူးဂရုစိုက်သည်၊ ရမသွာန်လ၏ ရိုဇဟ်နှင့် နဖ်လ် ရိုဇဟ်များလည်းစောင့်သည်၊ များသောအားဖြင့်ဦ မိန်းကလေးများသည် ရိုဇဟ်ကို ကြိုက်ကြသည်၊ ဤကိစ္စ၌ အမျိုးသမီးများက ယောကျ်ားများထက် သာပိုသည်။

သို့သော် ရေးလိုသည်မှာ ... ရိုဇဟ်ကို သန့်ရှင်းစွာ ထားကုန်၊ နောက်ကွယ်အတင်းစကားကို မည်သည့်အဖြစ်၌မဆို အမှန်တစ်ကိုယ်ရှောင်ကြဉ်ကုန်၊ အဘယ့်ကြောင့်ဆိုသော် အတင်းစကားသည် ပြင်းထန်သော 'ဂိုနာဟ်-ကဗီရဟ်'ဖြစ်သည်၊ ဤသည်နှင့် ပတ်သက်၍ ကုရ်အာန်ကျမ်းတော်မြတ်နှင့်ဟဒီးသ်တော်များ၌ ပြင်းပြင်းထန်ထန် သတိပေးချက်များ လာရှိသည်။

သို့သော်သီးခြား၍ရိုဇဟ်စောင့်သောအဖြစ်၌ သူတစ်ပါး၏အတင်းမပြောမိစေရန် ဂရုစိုက်ရမည်၊ အတင်း ပြောခြင်းဖြင့် ရိုဇဟ်၏ ကုသိုလ် သဝါဗ်သည် လျော့နည်းသွားသည်၊ ရိုဇဟ်စောင့်လျက်နှင့် အတင်းပြောသူ၊ မှုသားပြောသူတို့၏ရိုဇဟ်ကို အလ္လာဟ်အသျှင်မြတ်သည် ဂရုစိုက်တော်မမူပေ။

ဘာသာရေးကျမ်းစာများတွင် ဖတ်ဘူးခဲ့သည့်အတိုင်းပင် ဇကာတ် ဒါနကြေးသည် 'ဖွရ်သွ'ဖြစ်သည်၊ ဇကာတ်၏စည်းမျဉ်းများ၊ ရွှေငွေပေးဆောင်ရသောအခန်းနှင့် မည်သူမည်ဝါကို ပေးရမည့်အကြောင်း ကုရ်အာန်ကျမ်းတော်မြတ်၌ လာရှိသည်ကို သမီးဖတ်ရှုပြီးဖြစ်သည်၊ ထို့ကြောင့် ဤနေရာတွင် ရေးပြနေရန်မလို။

ရေးလိုသည်ကား ... များစွာသော အမျိုးသမီးများသည် ဇကာတ်ကို ဂရုမစိုက်ကြ၊ ပထမသော်ကား ပစ္စည်းသည် စုံမက်စရာဖြစ်သည်၊ လူသားသည် ပစ္စည်းကို ပေးကမ်းမပစ်လိုပေ၊ ဒုတိယသော်ကား ပျင်းရိ၍ ဂရုမစိုက်သဖြင့် ဇကာတ်မပေးဖြစ်၊ ထို့ ဇကာတ် ဒါနကြေးကို ပေးဆောင်ရန် အထူး ဂရုစိုက်ရမည်။

သမီးအားပေးလိုက်သော ရွှေများသည် ဇကာတ်ထိုက်လောက်အောင် များနေ၍ ထိုအတွက် နှစ်စဉ်ဇကာတ်ထုတ်ကုန်၊ ခင်ပွန်းဖြစ်သူက ဇနီးအတွက်ဇကာတ်ထုတ်ပေးလျှင် ပိုင်သည်၊ အကယ်၍ အမျိုးသမီးတစ်ဦးသည် မိမိပိုင် ငွေနှင့်ရွှေ ရှိနေသဖြင့် ထိုအတွက် ဇကာတ်ထုတ်သည်ကို ခင်ပွန်းသည်က တားမြစ်လျှင် ထိုတားမြစ်မှုကိုမနာခံရ ၊(လာတွာအတ်၊ လေ မခ်လူကင်၊ ဖွ မအ်စေ့ယတင်လ်၊ ခါလေ့ကေ့၊) ဟူသော ဟဒီးသ်တော်အရ မနာခံရခြင်းဖြစ်သည်။

သို့သော် သမီးအား ခင်ပွန်းဖြစ်သူက ဤသို့တားမြစ်မည်မဟုတ်ပေ၊ သာမက ဖွရ်သွများနှင့် အခြားမိတ်စ်အလဟ်များကိုပါ လိုက်နာသိသွားစေရန်ပြောဟောမည်ပင် ဖြစ်သည်။

ဇကာတ်သည် ဖွရ်သ္ဂြဖြစ်သည်၊ ဆွဒ်ကဟ်ဖွစ်တ်ရိသည် ဝါဂျိဗ်ဖြစ်သည်၊ ဤသည်ကိုမပေးလျှင် တာဝန်မကျဒေ၊ ဤသို့ပင်၎ အီးဒ်နေ့ နံနက်မဖြစ်မီ မွတ်စလင်မ်ဖြစ်လာသူ၊ ရှင်းမွေးဖွားသော ကလေးအပေါ်မှာလည်း ဖွစ်တ်ရဟ်ပေးရန် ဝါဂျစ်ဗ်ဖြစ်သည်၊ ဤသို့ပင် အကြင်သူသည် အီးဒ်နေ့ည (မြန်မာအခေါ် အီးဒ် မဖြစ်မီည)တွင် သေဆုံးပါက ထိုသူအပေါ်၌ ဖွစ်တ်ရဟ် ဝါဂျစ်ဗ်မဟုတ်ပေ၊ ဖွစ်တ်ရဟ်ကို အီးဗ်နေ့နံနက်တွင် စောလျှင်စွာ ပေးခြင်း 'မွတ်စ်တဟဗ်' ဖြစ်လေသည်။

ဇကာတ် ထုတ်ရာတွင် လွယ်ကူစေရန် အတွက် ငွေ ၁၀၀၀-မှ ၁၀-ကျပ် အထိ၊ အောက်တွင် ရေးဆွဲ၍ပြမည်၊ ငွေ ၁၀၊ ၎င်း ၂၀မှာ 'နေစွာဗ်' မပြည့်၍ ဇကာတ် မထိုက်၊ သို့သော် ဇကာတ်ထိုက်သူများအတွက် အစွန်းထွက်ပိုနေသည်ကို တွက်ချက်၍ ပေးရန် လွယ်ကူလာပေမည်။

ရွှေ နှင့် ငွေစမှာ ဇကာတ် ထိုက်လောက်ပြီးနောက် ၅-ပုံ ၁-ပုံ ပိုလျှံမှသာ ထိုအပိုအတွက် ဇကာတ် ထိုက်သည်၊ သို့တည်းမဟုတ်က မထိုက်ပေ။

| ပိုင်ဆိုင်သောငွေ | | ဇကာတ်ထုတ်ရမည့်ငွေ |
|---|---|---|
| | | ကျပ်-ပြား |
| ၁၀၀၀ | လျှင် | ၂၅.၀၀ |
| ၉၀၀ | ။ | ၂၂-၅၀ |
| ၈၀၀ | ။ | ၂၀-၀၀ |
| ၇၀၀ | ။ | ၁၇-၅၀ |
| ၆၀၀ | ။ | ၁၅.၀၀ |
| ၅၀၀ | ။ | ၁၂-၅၀ |
| ၄၀၀ | ။ | ၁၀.၀၀ |
| ၃၀၀ | ။ | ၇-၅၀ |
| ၂၀၀ | ။ | ၅.၀၀ |
| ၁၀၀ | ။ | ၂-၅၀ |
| ၅၀ | ။ | ၁-၂၅ |
| ၂၀ | ။ | .၅၀ |
| ၁၀ | ။ | -၂၅ |

ဤပုံစံဖြင့် ကြားငွေနှင့် အစွန်းထွက်နေသောငွေကို လွယ်လင့်တစ်ကူ သိနိုင်သည်။ ဥပမာ- ငွေ ၁၅၀-အတွက် ဇကာတ်ထုတ်ရမည်ဖြစ်သော် ပုံစံတွင်ပြထားသည့် ၁၀၀-နှင့် ၅၀-အတွက် ကျသင့်ငွေကို ပေါင်းယူရမည်၊ ၎င်း ၇၅-ကျပ် ဇကာတ် ထိုက်နေသော် ၅၀-နှင့် ၂၅-ကျပ်အတွက် ကျသင့်သော ဇကာတ်ငွေကို ပေါင်းယူရမည်။

ဟဂ်ျသည် တတ်ကုန်နိုင်သူအတွက် ဖွရ်သွ ဖြစ်သည်၊ ဟဂ်ျ ဖွရ်သွ ဖြစ်ပါလျက် မပြုမူသူကို ဟဒီးသ်တော်မြတ်က ပြင်းပြင်းထန်ထန် သတိပေးထားတော်မူသည်၊ ဤသို့ မပြုသူသည် မွတ်စလင်မ်မဟုတ်ဘဲ သေသူပမာ ဖြစ်သည်ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူထားလေသည်။

သမီးအား ပေးလိုက်သောရွှေသည် ဟဂ်ျဖွရ်သွ ဖြစ်လောက်အောင် မရှိပါ၊ ရွှေငွေမှာ ဟဂ်ျထိုက်သက်စေကာမူ အမျိုးသမီးအတွက် 'မဟ်ရမ်' နေကာဟ်မပိုင်သူ မပါခဲ့သော် သွားရန်မထိုက်၊ ဤကိစ္စ အကြောင်းကို သမီးသည် ဘာသာရေးကျမ်းစာများ၌ ဖတ်ဘူးထားပေပြီ၊ အကယ်၍ အလ္လာဟ်အသျှင်မြတ်က သမီးအား ဟဂ်ျ ပြုနိုင်လောက်အောင် ပစ္စည်းပေး၍ ဟဂ်ျဖွရ်သွ ဖြစ်လာလျှင် ပျင်းရိပေါ့ဆမှုမပြုဘဲ ဟဂ်ျပြုမူဆောင်ရွက်ရမည်။

ဟဂ်ျသည် ဖွရ်သွ ဖြစ်သည်၊ ဟဂ်ျကို ပယ်သူသည် ကာဖွင်ရ်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ်က ကုရ်အာန် ကျမ်းတော်တွင် ဝလစ်လ္လာဟေ ၊ အလန်နာစေ ၊ (အဆုံးထိ) တတ်ကုန်နိုင်သူများသည် ဟဂ်ျပြုကြရမည် ဟူ၍ မိန့်မြွက်ထားတော်မူပေသည်။

တစ်သက်တစ်ခါ ဟဂ်ျပြုရန် ဖွရ်သွ ဖြစ်သည်၊ တစ်ကြိမ်ထက်ပို၍ပြုခြင်း နဖ်လ်ဖြစ်သည်၊ အမျိုးသမီးသည် ခင်ပွန်း၊ သို့မဟုတ် 'မဟ်ရမ်' မပါဘဲ ဟဂ်ျမပြုရ၊ ဟဂ်ျတွင် ဖွရ်သွ ၃-ချက်၊ ဝါဂျစ်ဗ်၅-ချက် ရှိသည်၊ ထို၈-ချက် အပြင် ကျန်အချက်များသည် စွန္နတ်နှင့် မွတ်စ်တဟဗ်များ ဖြစ်ကြသည်။

ဖွရ်သွ (၃) ချက်မှာ....

(၁) အဲဟ်ရာမ် ဝတ်ခြင်း၊ (၂) အရဖွာတ်တွင် ဆိုင်းငံ့ခြင်း၊ (၃) တွဝါဖွ့ ဇေယာရတ် ပြုခြင်း။

ဝါဂျစ်ဗ် (၅) ချက်မှာ....

(၁) မွဇ်ဒလေဖွဟ်တွင်ဆိုင်းငံ့ခြင်း၊ (၂) စွဖွာနှင့်မရ်ဝဟ်ကြားတွင် ပြေးခြင်း၊ (၃) ကျောက်စရစ်ခဲများ ပစ်ခြင်း၊ (၄) ခရီးသည်များ တွဝါဖွ စွဒရ် ပြုခြင်း၊ (၅) ဆံပင်များ ခေါင်းရိတ်ခြင်း။

# ဆက်ဆံရန် နည်းလမ်း အကြောင်း

ခင်ပွန်းသည်၏ပြောစကားကိုနားထောင်လိုက်နာရန်ဇနီးဖြစ်သူအပေါ် 'ဝါဂျစ်ဗ်' ဖြစ်သည်၊ ဟဒီးသ်တော်မြတ်တွင် သတိပေးချက်များ လာရှိသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ....အကယ်၍ ငါရစူလ်သည် လူသားအချင်းချင်း 'စဂ်ျဒဟ်' ဦးချရန် မိန့်မှတ်လိုတော်မူလျှင် ဇနီးဖြစ်သူသည် ခင်ပွန်းသည်ကို 'စဂ်ျဒဟ်' ဦးချရန် အမိန့်ပေးမည် ဖြစ်သည်။

အစ္စလာမ်သာသနာတော်တွင် အရှိအသေသတော ‘စစ်ဂျိဒဟ်’ ဦးချခြင်းပင်လျှင် ဟရာမ် ဖြစ်သည်၊ ထို့ကြောင့် ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မည်သူ့ကိုမျှ ‘စစ်ဂျိဒဟ်’ဦးချရန် အမိန့်ပေးတော်မမူခဲ့ပေ။

ဤဟာဒီးသ်တော်မြတ်ဖြင့် ခင်ပွန်းသည်၏ပြောစကားကို နာခံလိုက်နာရန် မည်မျှ အရေးကြီးကြောင်း သိထားရန်ထိုက်သည်၊ အကြင် အမျိုးသမီးသည် ခင်ပွန်းသည်၏ စကားကို မနာခံလျှင်၊ ၎င်းခင်ပွန်းသည်၏ စိတ်ဆိုးမှုကို ခံရလျှင် စိတ်ဆိုးမပြေမခြင်း ထိုအမျိုးသမီးသည် အလ္လာဟ်အသျှင်မြတ်၏ ‘ရဟ်မတ်’တော်မှ ဝေးကွာ သူမ ဖြစ်သည်။

သိမှတ်ထားရန်မှာ … ခင်ပွန်းသည်က ဖွရ်သွ် တာဝန်ထမ်းဆောင်ရာတွင် စိတ်ဆိုးခဲ့သော် ထို စိတ်ဆိုးမှုကို ဂရုမစိုက်ရ၊ အဘယ့်ကြောင့် ဆိုသော် ဟာဒီးသ်တော်တွင် (လာတွာအတ၊ လေ့မခ်လူကင်၊ ဖွီမအ်စွေ့ယတင်လ်၊ခါလေ့ကေ့)ဟူ၍ လာရှိထားပေသည်၊ ဤသို့ရေးရခြင်းမှာ အကြောင်းတစ်ခုပေါ်၍သာရေးခြင်းဖြစ်သည်၊ သို့သော် သမီး ဤသို့စိတ်ဆိုးမှု၊ တားမြစ်မှုကို တွေ့ရမည်မဟုတ်ပေ။

၃-မျိုးသော အချင်းလက္ခဏာ ရှိသူမအပေါ် ခင်ပွန်းသည်က ဘယ်သောအခါမှ စိတ်ဆိုးမည်မဟုတ်၊ ဤသည်ကို‘ရှိုင်ခ်စအ်ဒီ’(ရဟမတွလ္လာဟ်)သခင်က ဘိုစတာန်ကျမ်းတွင် ‘ဖွာရစီ’ဘာသာဖြင့် ဤသို့ လင်္ကာ ရေးထားသည်။

ဇနေ့ခူဗို့၊ ဖွရ်မာန်၊ ဘာရိုပါရစာ၊ ကို့နဒ်မရ်ဒေ့၊ ဒရ်ဝေးရှိရာ၊ ပါဒ်ရှာ။

ချောမောလှပသော၊ အကျင့်စာရိတ္တ ကောင်းသော၊ အမိန့် နာခံလိုက်နာသော သူမသည် ဆင်းရဲသောလင်ယောကျ်ားကို ဘုရင်တစ်ဆူဖြစ်စေသည်၊ (ဝါ)ပျော်စေသည်၊

စာရိတ္တနှင့် အမိန့်နာခံရန်မှာ အသျှင်မြတ်အလိုတော်နှင့် ပြုပြင်၍ရသော ကိစ္စများ ဖြစ်သည်၊ အကယ်၍အမျိုးသမီးတစ်ဦးတစ်ယောက်သည် ချောမောလှပသော အင်္ဂါ မရှိစေကာမူ စာရိတ္တ ကောင်းမွန်ခြင်းနှင့် ပြောစကားနာခံသူ ဖြစ်ပါက အိမ်ထောင်ရေးမှာ သာယာပျော်ရွှင်မှုရှိမည်၊ ၎င်းအကယ်၍ ချောမောလှပသောအချင်းရှိပြီး စာရိတ္တ ပျက်ပြားခြင်း လင်ယောကျ်ားစကားမနာခံသူဖြစ်ခဲ့သော် ထိုသူမသည်လောကဥ္စလည်း နာမည်ပျက် ဂုဏ်ငယ်မည်၊ နောင်အာခေရတ်တွင် ပြင်းပြသော ‘အသာဗ်’ ပြစ်ဒဏ်ငရဲ ခံရမည်။

အကြင်အမျိုးသမီးသည် ခင်ပွန်းသည်၏ စကားကိုမနာခံ၊ စာရိတ္တ မကောင်းဘဲ ရန်လိုသူဖြစ်ခဲ့သော် ထိုသို့သောအမျိုးသမီးနှင့်ပတ်သက်၍‘ရှိုင်ခ်စအ်ဒီ’(ရဟမတွလ္လာဟ်) သခင်က ဖွာရစီကဗျာဖြင့် မိန့်ထားသည်မှာ….

ဇနေဘဒ်၊ဒရ်စရာယေ့၊မရ်ဒေ့နေ့ကို၊ဟမ်ဒရီန်၊အာလမတ်စ်တ်၊ဒိုဇခေ့အို။

ကောင်းသောသူ၏အဆောင်၌မကောင်းသောမိန်းမရှိနေခြင်းသည် ထိုသူ့အတွက် ဤလောကသည် ဂျဟန္နမ် ငရဲဘုံပမာ ဖြစ်နေသည်။

အမှန်ပင် မကောင်းသောဇနီးသည်ကြောင့် အိမ်ထောင်ရေးသည် သာယာမှုကင်းမဲ့သွားလေသည်၊ အကြင် အိမ်ထောင်ရေးသည် သာယာမှုကင်းမဲ့နေပါက ထိုအိမ်သည်

ဂျဟန္နမ် ငရဲပမာဖြစ်ပေသည်၊ သာမက လူတို့က လက်ညှိုးထိုးကဲ့ရဲ့ကြသည်၊ ဇနီးရော ခင်ပွန်းသည်ပါ စိတ်ဒုက္ခရောက်ကြရသည်၊ ဤသို့ မသင့်မြတ်ကြ၍ သာယာမှု ကင်းမဲ့သော အိမ်ထောင်ရှင်များကို မျက်မြင်တွေ့ဘူးသည်။

၎င်း အကြင်အိမ်၌ ဇနီးမောင်နှံ သင့်တင့်ကြလျှင်၊ ထိုအိမ်ထောင်သည် ဆင်းရဲသူများဖြစ်ကြသော်လည်း ထိုအိမ်သည် သူဌေး၊ ၎င်း ဘုရင်နန်းတော်ထက် သာပြီး ဂျန္နတ်သဖွယ် သာယာမှုရှိလေသည်။

တစ်ခါတစ်ရံ ခင်ပွန်းသည်၏စိတ်ဆိုးခြင်းသည် မှုမမှန်ဟု သမီးထင်ခဲ့သော်....၎င်း အမှန်ပင် သမီးထင်ခဲ့သည့်အတိုင်း အကြောင်းမဲ့ မကျေမနပ်ဖြစ်နေသော်လည်း သမီးသည် မွတ်မြတ်သောစိတ်ထားဖြင့် သည်းခံနေကုန်၊ သာမက သမီး၏နှုတ်လျှာဖြင့် မဆိုထားနှင့် အမူအရာဖြင့်လည်း စိတ်ဆိုး ခံရခြင်းမှာ အကြောင်းမဲ့ ဖြစ်ကြောင်း မပေါ်လွင်စေနှင့်၊ သမီး၏ သည်းခံနေခြင်းဖြင့် နောက်ဆုံး ၎င်းကိုယ်တိုင် စိတ်ဆိုးသည်မှာ မှားယွင်းနေကြောင်း ကိုယ်တိုင် သိသွားပေမည်။

ထိုသို့ ခင်ပွန်းသည်ကိုယ်တိုင် မှားယွင်းကြောင်းသိသွားခြင်းပင်လျှင် သမီးအတွက် အမြတ်ထွက်ပေသည်၊ သမီးအပေါ် ပို၍ပင် ချစ်ခင်ကြင်နာလာပေမည်၊ သည်းခံတရားထားခြင်းဖြင့် ရန်သူပင် မိတ်ဆွေဖြစ်နိုင်လေရာ၊၎င်းကား ခင်ပွန်းပင်ဖြစ်နေသည်၊ သည်းခံရာ၌ မျက်မှောင်ပင်မကုတ်မိရန် ဂရုစိုက်ရမည်၊ သာမက ရယ်မောပျော်ရွှင်စွာ နေရမည်၊ စကားပြောဆိုရာ နှင့် အမူအရာဖြင့်လည်း သမီး စိတ်ထိခိုက်နေကြောင်းကို မပေါ်လွင်စေနှင့်။

ခင်ပွန်းသည်နှင့် စကာပြောဆိုရာနှင့် ခေါ်ဆိုရာတွင် ၎င်း၏ အဆင့်အတန်းကို ဂရုစိုက်ရမည်၊ ရယ်မောကျီစယ်ရာ၌လည်း အမည်ကို ခေါ်ရာ၌ မရိုမသေ မဖြစ်စေနှင့်၊ ခင်ပွန်းသည်က တစ်စုံတစ်ရာပြောလျှင် ပထမ ကောင်းစွာနားစိုက်၍ နားထောင်ကုန်၊ ပြီးနောက် စဉ်းစား၍ လျော်ကန်သောအဖြေကိုပေးကုန်၊ ဖြေရာ၌ အသံမကျယ်စေနှင့်၊ မကြားလောက်အောင် တိုးလည်းမတိုးစေနှင့်။

အကယ်၍ ခင်ပွန်းသည်က အကြောင်းတစ်ခုကိုမသိလျှင်၊ ၎င်းဒွိဟသံသယဖြစ်နေလျှင် ထိုကိစ္စနှင့်ပတ်သက်၍ ဒွိဟသံသယဖြစ်မှုကို အမြန်ဆုံး တစ်ရိုတစ်သေရှင်းပြကုန်၊ ရှင်းပြရာ၌ ခင်ပွန်းသည်သိထားသည်ကို သေးသိမ်သွားစေသော စကားလုံးမျိုး မသုံးရန် ဂရုစိုက်ရမည်။

မနုဿလူသားအနေနှင့် အလုပ်တစ်ခုခုတွင် သမီးက မှားသွားလျှင်ဖြစ်စေ၊ ချွတ်ချော်ခဲ့လျှင်ဖြစ်စေ ထိုမှားယွင်းမှုကို ဝန်ခံ၍တောင်းပန်ရမည်၊ ဤသို့အမှားဝန်ခံခြင်းဖြင့် သမီးအား ပိုမို ကြင်နာလာမည်၊ ခင်ပွန်းသည် တတ်နိုင်သည်ထက် ပို၍ ပစ္စည်းပစ္စယကို အဝယ်မခိုင်းနှင့်။

သမီးသည်တစ်စုံတစ်ရာကိုမေးလိုလျှင်၊ ထိုအချက်သည်'မတ်စ်အလဟ်'ဘာသာရေးနှင့် သက်ဆိုင်သော ပြဿနာဖြစ်စေ၊ လောကီရေးရာဖြစ်စေ သဘောထားကြီးစွာဖြင့်မေးကုန်၊ ၎င်းကောင်းစွာနားလည်ပြီးမှ ပြုမူကုန်။

ဒရ်တွလစ်၊ ကရ်ဒနေ့၊ ဟကိီကတေ့ကာရ်။ အဇ်ခိုဒါရှရ်မ်ဒါရို့၊ ရှရ်မ်မဒါရ်။

အမှန်ကိုရှာဖွေပြောဆိုရာ၌ အလ္လာဟ်အသျှင်မြတ်ကိုသာ အရှက်ထားကုန်၊ လူတို့မှ အရှက်မထားနှင့်။

အမျိုးသမီးတို့တွင် ခင်ပွန်းသည်အား ကျေးဇူးမတင်သောမလေ့တစ်ခုမှာ အလွန်မကောင်းသောမလေ့တစ်ခုဖြစ်ပေသည်၊ ခင်ပွန်းသည် ၎င်းယောက္ခထံမှ စားသောက်ရန်ရသည်ကို ကျေးဇူးတင်စွာဖြင့် လက်ခံရမည်၊ မလုံမလောက် အနည်းငယ် ရသော်လည်း ကျေးဇူးတင် တင်းတိမ်ကုန်၊ သမီးကဲ့သို့ မစားရ၊ မဝတ်ရ၊ သက်သာမှုမရှိသောသူများ၊ သိန်းနှင့်ချီ၍ ရှိနေပေမည်။

စားဝတ်နေရေးတွင် ကြွယ်ဝသူအားမလိုစိတ်မထားနှင့်၊ မနာလို'ဟစဒ်'ထားခြင်းမှ ရှောင်ကြဉ်ကုန်၊ ဤသို့'ဟစဒ်' မလိုစိတ် ထားခြင်းသည် ပြင်းထန်သော 'အဿာဗ်' ပြစ်ဒဏ်ခံရမည့်ပြင် လူသားသည် ဒုက္ခ၌ နစ်မွန်းရပေသည်။

လောကီရေးရာစားဝတ်နေရေးတွင် အစဉ်ထာဝရ မိမိထက် နိမ့်ကျဆင်းရဲသူအားကြည့်ရှုကုန်၊ ၎င်းပြင် ဘာသာရေးတွင် လိုက်နာကျင့်သုံးရာ၌ မိမိထက်သာသူကို ရှုကြည့်ကုန်၊ ဤသို့ပြုခြင်းဖြင့် သမီးသည် လောကီတွင် ချမ်းမြေ့စွာ လောဘသပ်၍ နေနိုင်ပြီး ကောင်းမှုကုသိုလ် ပွားများဆောက်တည်နိုင်သောစွမ်းအား ရရှိမည်ဖြစ်ပေသည်။

# ယောက္ခမ အိမ်၌ ဆက်ဆံနေထိုင်ရန် အကြောင်း

ယောက္ခမ,အမကြီးကို မိမိကြင်နာသော မိခင်အရင်းပမာ တစ်ရိုတစ်သေ ဆက်ဆံကုန်၊ အဖြစ်ဟူသမျှ၌ ထိုယောက္ခမ၏သဘောတူညီမှုကိုရှေ့ရှုရမည်၊ သမီးမှာ ဒုက္ခရောက်သည့်ဖြစ်စေ၊ ပျော်ရွှင်သည်ဖြစ်စေ ယောက္ခမ၏ သဘောကွဲလွဲမှုကို မပြုနှင့်၊ ၎င်းစိတ်ထိခိုက်မည့်စကားကိုမပြောမဆိုရ၊ ၎င်းအား ခေါ်ပြောသောအခါ တန်းတူရွယ်တူများကို ခေါ်ပြောသကဲ့သို့ အသုံးအနှုန်းဖြင့် မခေါ်မပြောနှင့်၊ သာမက လူကြီးများနှင့်ဆက်ဆံပြောဆိုသကဲ့သို့ ပြောကုန်၊ သို့ရှိရာ ခင်ပွန်းသည်အား တစ်ရိုတစ်သေဆက်ဆံရမည့်ပမာ ဆက်ဆံကုန်။

အကယ်၍ တစ်စုံတစ်ရာ သတိပေးပြောဆိုလျှင် ငြိမ်သက်စွာ နားထောင်ရမည်၊ နောက်ဆုံး ရိုင်းပျမခံချင်အောင် ပြောဆိုလျှင်လည်း 'ရှရ်ဘတ်'ဖျော်ရည် သောက်သည့်ပမာ မျိုသိပ်ကုန်၊ (ဤသို့ဆက်ဆံမည်ဟူ၍ကားမထင်) အလျှင်း ခပ်မာမာဖြေကြားမှုမပြုနှင့်၊ ယောက္ခမ,အမကို မိခင်ရင်းပမာ ဝတ်ကြီးဝတ်ငယ်ပြုကုန်၊ အကယ်၍ တစ်ဦးဦးအား အလုပ်တစ်ခုခု စေခိုင်းလျှင် သမီးက ဝင်ရောက်ကူညီ လုပ်ပေးကုန်။

ယောက္ခမအထီးကို ကရုဏာသက်သောဖခင်ပမာ ရှိသေကိုင်းရှိုင်းကုန်၊ ယောက္ခမ အမကြီးနှင့် ဆက်ဆံ ပြောဆိုရာတွင် ရှိသေရမည့် အကြောင်း ရေးပြသကဲ့သို့ ဤနေရာ တွင်လည်း ဂရုစိုက်ကုန်၊ ဥပမာ...တစ်ဦးဦးက 'ဘယ်သွားပါသလဲ'ဟု မေးလျှင် သမီးက 'မည်သည့်နေရာကို ကြွသွားပါတယ်'ဟု ဖြေကုန်၊ 'ဤကိစ္စကို ဘယ်လို ပြောပါသလဲ'ဟု မေးလျှင် 'ဤသို့အမိန့်ရှိပါတယ်'ဟု တစ်ရှိတစ်သေ ဖြေကုန်။

ယောက္ခမ၏သက်သာမှုနှင့် ဝတ်ကြီးဝတ်ငယ်ကို အဘတ်နိုင်ဆုံးပြုမှုရမည်၊ သား ချင်းတစ်ဦးဦးနှင့်တွေ့ဆုံရန်သွားလိုလျှင် ယောက္ခမအထီးနှင့် ခင်ပွန်းသည်အား ခွင့်ပန် ကုန်၊ အကယ်၍ ၎င်းတို့မရှိခဲ့လျှင် ယောက္ခမ အမကြီးထံ ခွင့်ပန်ရမည်၊ ခွင့်ပေးမှ သွား ရမည်၊ ခွင့်မပေးလျှင် မသွားရ၊ အကယ်၍ ညှော်ခံကျင်းပပွဲတစ်ခုခုသို့ အသွားခိုင်းလျှင် သမီးသွားလိုသည်ဖြစ်စေ၊ မသွားလိုသည်ဖြစ်စေ သွားကုန်၊ တရားတော်နှင့် ဆန့်ကျင်မှု ပြုသော ညှော်ခံပွဲများသို့ သမီးအားသွားခိုင်းကြမည်မဟုတ်ပေ၊ အကြင်အိမ်၊ ၎င်းညှော်ခံ ပွဲ၌တရားတော်နှင့်ဆန့်ကျင်သောအလုပ်များပါရှိလျှင် ထိုပွဲသို့ သွားရောက်ခြင်းမပြုရ။

အကယ်၍ အမျိုးသမီးတစ်ဦးသည် သမီးထက် အဆင့်အတန်းတွင်လည်းကောင်း၊ အသက်ဘွင်ကြီးလျှင်လည်းကောင်း၊ ဥပမာ... ခင်ပွန်းသည်အစ်ကို၏ဇနီး၊ ထိုခဲအို၏ဇနီးနှင့် ပြောဆိုသွားလာရာတွင် ၎င်း၏အဆင့်အတန်းမြင့်သည်ကို ဂရုစိုက်ကုန်၊ ၎င်းနှင့် ညီအစ်မ အကြီးအငယ်ပမာ ဆက်ဆံကုန်၊ သမီးက ဤသို့ ဆက်ဆံခြင်းပြုလျှင် တစ်ဘက်မှလည်း ကောင်းစွာဆက်ဆံမှုဖြင့် တုန့်ပြန်မည်ဖြစ်သည်။

အကယ်၍ ခဲအို၏ဇနီးဖြစ်သူသည် အသက်ငယ်သူ၊ သို့မဟုတ် နိမ့်ကျသူဖြစ်လျှင် ညီမငယ်ပမာ ချစ်ခင်စွာ ဆက်ဆံကုန်၊ ကောင်းသောအလုပ်ကိစ္စများကို သွန်သင်ဆုံးမ ကုန်၊ ၎င်းက အလုပ်တစ်ခုခုလုပ်လျှင် ဝင်ရောက်ကူညီ လုပ်ပေးရမည်။

ဤသို့ပင် ခင်ပွန်းသည်၏ အစ်မ, ညီမနှင့် တူမများကို အဆင့်အတန်းအလိုက် ဆက်ဆံရမည်၊ သို့သော် အဆင့်အတန်းနှင့်မကျော်လွန်စေနှင့်၊ အကြီးအငယ်ကိုဆက်ဆံ မှုတွင် ခွဲခြားထားရမည်။

မိမိအိမ်မှာဖြစ်စေ၊ အခြားအိမ် ၎င်းညှော်ခံကျင်းပပွဲများမှာဖြစ်စေ အမျိုးသမီး များနှင့် စုဆိုင်ရာတွင် တစ်ဦးတစ်ယောက်မှာ စိတ်ဆိုးဖွယ်ဖြစ်သော နောက်ကွယ် အတင်း စကားကို မပြောနှင့်၊ ဤသို့ပြောခြင်းကို (ဂီဗတ်) နောက်ကွယ်အတင်းဟု ခေါ်သည်၊ နောက်ကွယ် အတင်း ပြောခြင်းသည် 'ဂိုနာဟ်' အလွန်အပြစ်ကြီးလေသည်၊ နောက်ကွယ် အတင်းအကြောင်းကို ရှိဇဟ် ဥပုသ် ရေးရာ၌ ရေးပြခဲ့ပေပြီ။

ဤနေရာတွင် သိမှတ်ထားရန် အချက်မှာ အချို့သူတို့က ပြောကြသည်၊ 'ကျွန်ုပ်တို့ကမုသားမပြော၊ ဤကိစ္စရပ်သည် မည်သူမည်ဝါတွင် တစ်ကယ်ရှိနေ၍ ပြောခြင်း သာဖြစ်သည်'ဟု ဆင်ခြေကန်ကြသည်၊ ဤသို့ပြောခြင်းသည် မိမိစိတ်နှလုံးကို လှည့်ဖြား ခြင်းသာဖြစ်သည်၊ မိမိပြောဆိုသောစကားသည် ၎င်းသူ၌ အမှန်ပင် ရှိမနေသည်ဖြစ်စေ

မရှိသည်ဖြစ်စေ ဂီဗတ်ပင်ဖြစ်သည်၊ သာမက အပြစ်ဆိုဖွယ်ကိစ္စတစ်ခုကိုပြောဆိုခြင်းသည် ဂီဗတ်ဖြစ်သည်၊ ၎င်း အကယ်၍ ထိုအပြစ် ပြောဆိုချက်သည် ထိုအပြောခံရသူ၌ မရှိလျှင် ဂိုနာဟ် အပြစ်နှစ်ဆဖြစ်သည်၊ စွပ်စွဲခြင်း၏ ဂိုနာဟ်၊ နောက်ကွယ် အတင်းပြောခြင်း၏ ဂိုနာဟ်နှစ်ရပ် ခံရမည်။

သမီးနေသောအိမ်တွင် ကလေးငယ်များရှိလျှင်၊ ထိုကလေးများသည် ယောက္ခမ၏ သားသမီးဖြစ်စေ၊ တစ်အိမ်တည်းနေအခြားသားချင်းတို့၏ကလေးများဖြစ်စေ ထိုကလေးများကို ကြင်နာယုယစွာဖြင့် ဆက်ဆံရမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ၊ အကြင်သူသည် ကြီးသောသူများကို ရိုသေသမှုမထားလျှင်၊ ၎င်းငယ်သူများအပေါ် ကြင်နာမှုမပြုလျှင် ထိုသူသည် ငါရစူလ်၏ နောက်လိုက်များမှမဟုတ်။

ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်သည် ကလေးများကို လွန်စွာချစ်ခင်တော်မူလေသည်၊ တစ်ခါက ကလေးတစ်ဦးသည် ကိုယ်တော်၏ ရင်ခွင်တော်၌ပင် ကျင်ငယ်စွန့်လိုက်လေသည်။

အချို့အမျိုးသမီးများသည် ကလေးများကိုချစ်ခင်ကြသည်၊တစ်စုံတစ်ရာပေးမည်ဟု လှည့်ဖြားခေါ်ကြသည်၊ အမှန်မှာပေးရန်မဟုတ်၊ ခေါ်ယူရန်သက်သက်သာဖြစ်သည်၊ မပေးဘဲ ပေးမည်ဟုပြောခြင်းသည် မုသားတစ်မျိုးဖြစ်သည်၊ ဤသို့မပြုလုပ်ကြရပေ။

တစ်ခါက အမျိုးသမီး တစ်ဦးက ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ရှေ့မှောက်တွင် ကလေးတစ်ဦးအားတစ်စုံတစ်ရာပေးမည်ဟု ခေါ်ယူသည်၊ လှည့်ဖြားခေါ်ယူခြင်း မဟုတ်ဘဲ ပေးမည်ဆိုသည့်အတိုင်း ပေးလေသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... သင်မသည် ၎င်းပစ္စည်းကို ကလေးအား မပေးခဲ့သော် မုသားဖြစ်သွားပေမည်။

အိမ်တွင်အစေခံရှိလျှင် ထိုသူမအား မနိုင်မနင်းအလုပ်မခိုင်းနှင့်၊ အကယ်၍အလုပ်တစ်ခုခုဝန်လေးနေသည်ကိုတွေ့ရမူ၊ကိုယ်တိုင်ဝင်ရောက်ကူညီလုပ်ကိုင်ပေးရမည်၊ ထိုအခိုင်းအစေအားပြင်းပြမာကျောစွာမပြောဆိုရ၊ထိုသူမနေမကောင်းလျှင်သော်လည်းကောင်း ဒုက္ခတစ်ခုခုတွေ့နေလျှင်သော်လည်းကောင်း ကြင်နာမှုဖြင့်ကူညီကုန်၊ အိမ်တွင်သမီးမိခင်က အစေခံများကို မည်သို့မည်ပုံကြင်နာစွာဆက်ဆံသကဲ့သို့ဆက်ဆံရမည်၊ အကယ်၍ အစေခံမမှာ ခေါင်းကိုက်နေလျှင် ထိုသူမ၏ အလုပ်ကို လုပ်ပေးသည်၊ ဤသို့အဖြစ်၌ ထိုသူမကို ဒုက္ခမပေးပေ။

ဟုတ်ပါ၏၊ အစေခံမကို အသက်သာခံသူ၊ အလုပ်ခိုသူ ဖြစ်မသွားစေနှင့်၊ ထိုသို့ အသက်သာခိုအောင်ပြုလုပ်ခြင်းသည် ထိုသူမကိုဒုက္ခပေးရာရောက်သည်၊ အခြားအိမ်များတွင် သွားရောက်လုပ်ကိုင်သောအခါ ငေါက်ငမ်းဆူပူမှုကို ခံနေရပေမည်။

တစ်စုံတစ်ရာ ကောင်းသောလက်ဆောင် စားဖွယ်၊ သောက်ဖွယ် ရောက်လာလျှင် အစေခံမကို အနည်းအကျဉ်း ပေးရမည်၊ သမီး မိခင်၏ ဆက်ဆံမှုကို သမီး တွေ့ဘူးနေသည်၊ အနည်းငယ်ပင်ရသည်ဖြစ်စေ၊ သမီးမိခင်သည် အစေခံမအတွက် ဝေစုပေးလေသည်၊ သမီးသည် မိခင်ကဲ့သို့ ရက်ရောမှုရှိသဖြင့် ဖခင်ဝမ်းသာမိသည်၊ အလ္လာဟ်အသျှင်မြတ်သည် သမီးအားပို၍ ရက်ရောနိုင်စွမ်းပေးတော်မူပါစေ၊ ၎င်းခင်ပွန်းသည်နှင့် အိမ်ရှိ အမျိုးသမီးများကို ရက်ရောစွာ ဆက်ဆံကုန်။

အိမ်ဘွင်းရှိ အမျိုးသမီးများ၊ ၎င်းဧည့်ခန်းရှိ အမျိုးသားများ အတွက် ခင်ပွန်းသည် စိတ်ဘိုင်းကျ ဖြစ်အောင် စိတ်ရောကိုယ်ပါ ဧည့်ဝတ်ကျေပွန်စေရမည်၊ ဧည့်သည်အဘွက် မိမိတို့ စားနေကျထက် ပိုကောင်းအောင် ချက်ပြုတ် ပြုစုနိုင်သည်၊ သို့သော် အပိုသုံးဖြုန်းသည့်အခန့်သို့ မရောက်စေရ။

အာကာသ်၍ဧည့်သည်၊ သည်'မွတ်တကီ'အဖြစ်ရှောင်ကြဉ်သူ၊ အလ္လာဟ်အသျှင်မြတ်၏ မွန်မြတ်သော 'ဗန္ဒဟ်' ဖြစ်နေလျှင် ထိုပုဂ္ဂိုလ်အား ပြုစုကျွေးမွေးရခြင်းကို 'ဘရိကတ်' ကောင်းချီးမင်္ဂလာရှိသည်ဟု ယူဆရမည်၊ သို့သော် မည်သည့်ဧည့်သည်ကိုမှ စိတ်မတိုဘဲ စိတ်ထားဖြူစင်စွာ ကျွေးမွေးရမည်။

ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်သည် ကာဖွင်ရိကိုပင် ဧည့်သည်အဖြစ် ဧည့်ခံတော်မူခဲ့သည်၊ ဧည့်သည်ကို ကျွေးမွေးခြင်း၊ ၎င်း ဆက်လက်နေထိုင်ရန်တားနိုင်သည်၊ သို့သော် ဧည့်သည်မှာ ဒုက္ခဖြစ်လောက်အောင် မတားဆီးရ၊ ဤသို့ အကျပ်ကိုင် တားနေခြင်းမှာ အလွန် မကောင်းသော အလုပ်ဖြစ်သည်၊ ဧည့်သည်မှာ အရေးကြီးသောအလုပ်ကိစ္စတစ်ခုရင်ဆိုင်နေရသဖြင့်သွားလိုနေသည်၊အိမ်ရှင်က အလ္လာဟ် ရစူလ်ကိုပင် တိုင်တည်၍တားမြစ်နေသည်၊ ဤသည်မှာ မကောင်းသောကိစ္စရပ်ဖြစ်သည်၊ ဤသို့ဒွတ်ဘားခြင်းဖြင့် ဧည့်သည်မှာ စိတ်မကောင်းဖြစ် ညည်းညူသွားပေမည်၊ ကျွန်ုပ်တို့၏ဆရာ မောင်လာနာ ရရှိဒ်အဟ်မဒ် (ရဟ္မတုလ္လာဟ်) သခင်သည် ဧည့်သည်ကို ဇွတ်တားမြစ်ခြင်းကို လုံးဝ နှစ်သက်တော်မမူခဲ့ပေ။

ဧည့်သည်အား ကျွေးမွေးရခြင်းကို မိမိဘက်မှ ကျေးဇူးပြုသည်ဟု အလျှင်းမထင်မှတ်နှင့်၊ သာမက ဧည့်သည်က သင်တို့ကို ကျေးဇူးပြုခြင်းဖြစ်သည်၊ ဧည့်သည်က မိမိ စားရန် 'ရိဇ်'ကို သင်တို့ အိမ်တွင် စား၍ သင်တို့ကို ကုသိုလ် 'သဝါဗ်' ပေးခြင်းသာ ဖြစ်သည်။

ရှပ်က်နိ၊ ဘာဂျာအာရ်၊ ကေဟ်မဲဟ်မာနေ့တူ၊ ရိဇ်ခွဒ်မေခွရ်ဝ်၊ ဘရ်နာ္ခါနေ့တူ။

ကျေးဇူးဘာဉ်ကုန်၊ သင်၏ဧည့်သည်၊သည် မိမိ၏ရိဇ်အတွက် စားဖွယ်ကို သင်၏ စားပွဲခင်း၌ စားခြင်းသာ ဖြစ်သည်။

ဤသို့ပင် တစ်ဦးတစ်ယောက်အား ကောင်းမှုဖြင့် ဆက်ဆံလျှင် ထိုသူ့အပေါ် ကျေးဇူးပြုသည်ဟု မယူဆနှင့်၊ အဘူသရိ(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည် ရစူလွလ္လာဟ်

(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ... (၃)ဦးသောသူကိုအလ္လာဟ်အသျှင်မြတ်သည် 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ စကားပြောတော်မူမည်မဟုတ်၊ ရင်းရှုကြည့်ဂရုစိုက်တော်မူမည်မဟုတ်၊ ထို ၃-ဦးအနက် တစ်ဦးမှာ ကျေးဇူးပြုပြီး ဂုဏ်ဖော်သူဖြစ်လေသည်။

ကျေးဇူးပြုသည်ကို ထုတ်ဖော်ခြင်းဖြင့် ကောင်းမှုပြုထားသော 'သဝါဗ်'ကုသိုလ်သည် ပျက်ပြယ်သွားသည်ဟု ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိလေသည်၊ သို့ဖြစ်ရာ ဤသို့ကျေးမွေးပြုစုခြင်းကို အလ္လာဟ်အသျှင်မြတ် သဘောတူတော်မူရန်သက်သက်အတွက်သာ ပြုမူကြရန် ထိုက်သည်။

တင်ပြခဲ့သည့်အတိုင်း ဧည့်ဝတ်ကျေပွန်ပြီးနောက် အိမ်၏စည်ပင်သာယာ တင့်တယ်ခြင်းအတွက် အိမ်တွင်းလုပ်ငန်းများသည် အရေးကြီးသော အချက်တစ်ရပ်ဖြစ်ပေသည်၊ အိမ်တွင်းလုပ်ငန်းကို ကောင်းမွန်သေသပ်စွာ လုပ်ကိုင်ခြင်းဖြင့် ငွေဝင်နည်းသောအိမ် ဖြစ်သော်လည်း အိမ်မှာ တင့်တောင့်တင့်တယ် ကျက်သရေ ရှိလေသည်၊ ဆင်းရဲသား အိမ်ဟူ၍ပင် မသင်မှတ်ရပေ၊ အကယ်၍ ဤသို့ ဂရုတစ်စိုက် အိမ်တွင်းလုပ်ငန်းများကို မပြုလုပ်ပါက ပစ္စည်း ကြွယ်ဝသော အိမ်ပင်လျှင် ကျက်သရေမရှိ ဖြစ်ရလေသည်၊ ငွေကြေးချမ်းသာကြွယ်ဝသောအိမ်ရှိ အမျိုးသမီးများသည် အိမ်တွင်းလုပ်ငန်း မသေသပ်မှုကြောင့် ဆင်းရဲသားအိမ်ထက်ပင် အမြင်ဆိုးသည်ကို ကျွန်ုပ်မြင်တွေ့ရလေသည်။

အရေးကြီးဆုံးသောအချက်မှာ.... သုံးစွဲမှုကို သူ့နေရာနှင့်သူ သုံးစွဲရန်ပင်ဖြစ်သည်၊ ငွေကို အဝေစ်ကြည့်၍ လိုမှပင်သုံးရမည်၊ အလဟဿမဖြုန်းမိစေရန် ဂရုစိုက်ရမည်၊ ဆိုလိုသည်မှာ ဝင်ငွေထက်မပိုစေနှင့်၊ ၎င်းနှမြောတွန့်တိုသောအဆင့်သို့လည်း မရောက်စေနှင့်။

နှမြောတွန့်တိုသူ နှင့် အပို ဖြုန်းတီးသူများအား ကုရ်အာန် ကျမ်းတော်မြတ်က ရှုတ်ချထားလေသည်၊ ရွှေငွေပစ္စည်းကို ခင်တွယ်မှုလွန်ကဲခါ၊ ပိုက်ဆံတစ်ပြားစီ ရည်တွက်နေပါက လူတို့၏ ပြစ်တင်ခံရမှုအပြင် ရှင်နေမှုမှာလည်း ဒုက္ခရောက်ရသည်၊ သို့သော် အလတ်တန်းစား သုံးစွဲနေထိုင်သူသည် နှမြောတွန့်တိုသူ ဟူ၍လည်းကောင်း၊ အပိုဖြုန်းတီးသူ ဟူ၍လည်းကောင်း အခေါ်မခံရပေ၊ ထို့ပြင် လိုအပ် အရေးကြီးသော အခါထုတ်၍ သုံးစွဲနိုင်သည်။

သုံးစွဲမှုကို သုံးစွဲသူသာလျှင် ချိန်ဆရမည့်အချက်ဖြစ်သည်၊ ဤကိစ္စကို အသေးစိတ်ရေးပြရန်ခဲယဉ်းသည်၊ မသုံးမဖြစ်သော လိုအပ်သည့်နေရာတွင်သာ သုံးစွဲရန်ထိုက်သည်၊ နေ့စဉ် အသုံးစာရင်းကို ခင်ပွန်းသည်က လိုလားလျှင် ရေးမှတ်ထားကုန်၊ ၎င်းနေ့စဉ် သို့မဟုတ်(၇)ရက်တစ်ကြိမ် စာရင်းကို ခင်ပွန်းသည်အား ပြသရမည်၊ ထိုသို့ ပြခြင်းဖြင့် ခင်ပွန်းသည်မှာ စိတ်အေးချမ်းမှုရရှိမည်၊ စာရင်းရေးမှတ်ခြင်းသည်ကောင်းသောအလုပ်တစ်ခုဖြစ်သည်၊ လောကီ-လောကုတ္တရာ အသုံးဝင်လေသည်။

ကောက်ပဲသီးနှံ စသည်များဝယ်ယူလာသောအခါ ချိန်တွယ်ကြည့်ရမည်၊ ဤသို့ပင် ငွေကိုလည်းတွက်ချက်ရမည်၊ အကယ်၍ တစ်ဦးဦးအား ငွေချေးလျှင် ၎င်းကိုယ်တိုင် ငွေချေးယူရမှု ရေးမှတ်ထားကုန်၊ ပြန်ရသော၊ ပြန်ဆပ်သောအခါလည်း ရေးမှတ်ရမည်၊ ဤသို့ပင် ဒိုဘီအဝတ်ဖွပ်သည်အား ပေးသောအထည်များ စာရင်းမရေးဘဲ မပေးနှင့်၊ ထို့ပြင် သမီးထံ၌ရှိသောဘယက်တန်ဆာ,ငွေစသည်များကို ရေးမှတ်ထားခြင်းဖြင့် အလွန်အသုံးဝင်မည်ဖြစ်သည်။

အိမ်တွင်းလုပ်ငန်းများတွင် ပစ္စည်းများကို သူ့နေရာနှင့်သူ ထားကုန်၊ အခင်း၊ ခုတင်၊ ထိုင်ခုံ စသည်များကို သူ့နေရာနှင့်သူထားရမည်၊ အသုံးလိုသောပစ္စည်းတစ်ခုကို ထုတ်ယူပြီးနောက် သုံးပြီးလျှင် သူ့နေရာတွင်ပြန်ထားရမည်၊ ဤသို့ပင် နေ့စဉ်သုံးစွဲသော ပစ္စည်းများနှင့်နေ့စဉ်လုပ်ရမည့်အချက်များကို ဂရုတစ်စိုက် ပြုမူရမည်၊ ကယားများသည် လိမ့်နေခါ ပန်းကန် ပြန့်ကြဲနေခြင်းများမဖြစ်စေရ၊ အိုး,ခွက်များသည် ယင်ကောင်များ နားနေအောင် မဆေးမကြောဘဲမထားရ၊ စဥ့်အိုး,စည်ပိုင်းများ ပွင့်မနေစေရ၊ ပွင့်နေပါက ကျီးကန်းများသည် ရေသောက်ကြမည်၊ ကျင်ကြီးလည်း စွန့်သွားကြပေမည်။

အဝတ်အထည်များကိုလည်း စနစ်တစ်ကျထားကုန်၊ ဟိုဟိုသည်သည် ပြန့်နှံ့မနေစေနှင့်၊ အကယ်၍ သက္ကလတ်ထည်နှင့် ပိုးထည်ဖြစ်မူ အမြဲဂရုစိုက်ထားကုန်၊ သီးခြား၍ မိုးရာသီတွင် ပိုးတောက်တတ်၍ ပိုပြီး ဂရုစိုက်ရမည်၊ ဖြစ်ပျက်သည်မှာ အလိုတော်အတိုင်း ဖြစ်သော်လည်း ကြိုးစား ဆောင်ရွက်မှုကိုကား လက်မလွှတ်အပ်ပေ။

အိမ်ရှိ အရည်အချင်းရှိသော စီမံခန့်ခွဲမှုကို နားလည်သော အမျိုးသမီး ရှိလျှင် အမြဲ ထိုသူမထံမှ အိမ်တွင်း လုပ်ငန်းများကို သင်ယူရမည်၊ ၎င်းထိုသူမ ပြုလုပ်သည်ကို ဂရုတစ်စိုက်ကြည့်ရှုရမည်၊ ၎င်းထိုအတိုင်း နမူနာယူ၍ လုပ်ကိုင်ရမည်။

ယခုဤဆုံးမစကားများကိုရပ်နားတော့မည်၊ ဤဆုံးမချက်များကို သမီးလိုက်နာကျင့်သုံးလျှင် (အင်န်ရှာ၊ အလ္လာဟ်) လောကီ - လောကုတ္တရာ ဒွန္နယာ - အာခေရတ်တွင် အောင်မြင်ထမြောက်မှုရရှိမည်၊ ဒွန္နယာလောကတွင် ပျော်ရွှင်ချမ်းမြေ့စွာ နေထိုင်ရပြီး အိမ်လည်း သာယာတင့်တယ်မည်။

ဤကျမ်းငယ်မှာ... သမီး၏ 'ရှာဒီ' လက်ထပ်ပွဲတွင် ဖခင်ဘက်မှ အကောင်းဆုံး လက်ဆောင်မွန်ဖြစ်သည်၊ ဤကျမ်းငယ်ကို တစ်ပတ်တွင် ၂-ကြိမ်၊ ၃-ကြိမ် ဖတ်ကုန်၊ မဖတ်နိုင်လျှင် တစ်ပတ်တစ်ကြိမ်တော့ အနည်းဆုံးဖတ်ကုန်။

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် သမီးအား ဒွန္နယာ-အာခေရတ် နှစ်ဌာနတွင် 'ဘရ်ကတ်' ကောင်းချီး မင်္ဂလာ ပေးတော်မူပါစေဟု ဖခင် 'ဒိုအာ' ပြုလိုက်သည်၊ ၎င်း သမီးပါရော၍ (ရဗ်ဗနာ၊ အာတေ့နာ၊ ဖွစ်ဒ်ဒွန္နယာ ဟစနတန်ဝ်၊ ဝဖွင်လ်အာခေ့ရတေ့၊ ဟစနတန်ဝ်၊ ဝကေ့နာ၊ အသာဗန်နာရ်။) 'ဒိုအာ' တောင်းပါသည်။

သမီးထံမှအလိုရှိသည်မှာ.... သမီး၏ ဖခင်နှင့်မိခင်တို့ အသက်နှင့်ရှိနေကြစဉ် ထိုမိဘနှစ်ပါးအားချမ်းမြေ့သာယာရန်၊ ၎င်း'အီမာန်'ပါရန်နှင့် နောင်အာခေရတ် ကောင်းမွန်စေရန် 'ဒိုအာ' ဆုမွန် ပြုနေကုန်၊ အကယ်၍ မိဘနှစ်ပါးသည် ကွယ်လွန်သွားကြသော် (ဒိုအာအေ့မဂ်ဖွေရတ်)ဖြင့် အမြဲသတိရနေကုန်။

မှတ်ချက်။ ဤဒုတိယ နောက်ဆက်တွဲ အစနှင့်အဆုံးပါ အချက်များကို မလိုအပ်ဟု ယူဆသဖြင့် မရေးတော့ပြီ၊ ဤကျမ်းငယ်မှာ မောင်လာနာ အဗ်ဒွလ်ဟပ်က် (ရဟာမတွလ္လာဟ်)သခင်က ရေးပြီး၊ မောင်လာနာ အရှ်ရှဖ်အလီထာနဝီ(ရဟာမတွလ္လာဟ်) သခင်က ကြိုက်နှစ်သက်သဖြင့် ထည့်သွင်းထားခြင်း ဖြစ်ပါသည်။

ဤတွင်၍ကား ဒုတိယ နောက်ဆက်တွဲ ပြီး၏။

မုဟမ္မဒ်မူစာ (မဇ္ဇာဟောရီ)

ဒေရိုဗန်ဒ် ကျောင်းတော်၏ ဖွတ်ဝါ

# ခေတ်ပေါ်ကရိယာများ နှင့် ရှရီအတ်၏ အမိန့်ပညတ်ချက်

'ရှရီအတ်'တရားတော်မြတ်ကို ကျွမ်းကျင်နားလည်သော သာသနာခေါင်းဆောင်မွဖ်တီအာလင်မ်ကြီးများခင်ဗျား.... အောက်ပါမတ်စ်အလက်ပြဿနာရပ်များကို မည်သို့ဆုံးဖြတ်တော်မူကြပါမည်နည်း။

၁။ ကြေးနန်း၊ တယ်လီဖုန်း၊ စာ၊ ဝါယာလက် စသည်များသည် ခေတ်ပေါ်ကရိယာများဖြစ်ကြသည်၊ ထိုကရိယာများဖြင့် အကယ်၍ လမြင်ကြောင်း သတင်းလာသော် 'ရှရီအတ်'တရားတော်မြတ်ဖြင့် ထိုခေတ်ပေါ်ကရိယာများ ခိုင်မာသည်ဟု ယူဆရမည်လော၊ မခိုင်မာဟု ယူဆရမည်လော ဟူသည့် အဖြေမှန်ကို ကျမ်းညွှန်းနှင့် တကွ ဖြေကြားတော်မူပါ။

၂။ အသံချဲ့စက်ကို ဘာသာရေးလုပ်ငန်းများ၌အကယ်၍သုံးစွဲခဲ့သော်'ရှရီအတ်' တရားတော်မြတ်အနေဖြင့် အပြစ်တစ်စုံတစ်ရာရှိပါသလား၊ ဤသို့ပင် လောကီကိစ္စများ၌ သုံးစွဲလျှင် ပိုင်ပါသလား။

၃။ ရိုဇဟ် စောင့်ရာ၌ ရောဂါတစ်ခုခုအတွက်ကြောင့် အင်ဂျက်ရှင်းဆေးထိုးလျှင် ရိုဇဟ် ပျက်ပါသလား၊ ထိုသို့ဆေးထိုးခြင်း ပိုင်ပါသလား။

၄။ အာကယ်၌ တစ်ဦးတစ်ယောက်သည် လေယာဉ်ပျံဖြင့်ခရီးသွားနေရာ၊ နမာဇ်ချိန်ရောက်လာလေသည်၊ ၎င်းခရီးမှာလည်း ၈-နာရီ၊ ၁၀-နာရီခန့် ကြာမည်၊ ဤသို့သော အဖြစ်၌ မည်သို့ နမာဇ်ဖတ်ရမည်နည်း၊ 'ဝိုသွူ'လည်းမရှိ၊ ရပ်ရန်လည်းမလွယ်ကူ၊ ဤသည်နှင့်ပတ်သက်၍ တရားတော်၏ အဆုံးအဖြတ်ကိုသိပါရစေ၊ ဤသို့ပင် မီးရထားဖြင့် ခရီးသွားရာ၊ ခရီးလည်းရှည်သည်၊ လူကလည်း ပြည့်ကြပ်နေသည်၊ ထိုင်ရန်ပင် ခဲယဉ်းနေမှု ထိုအဖြစ်၌ မည်သို့နမာဇ်ဖတ်ရမည်နည်း။

မေးလျှောက်သူ....

မုဟာမ္မဒ်အလီ ဒေရှိဘာန်ဒ်။

အဖြေ....

၁။ ယခုအချိန်ထိ ခေတ်ပေါ် ကရိယာများကို ဤခေတ်ရှိ အာလင်မ်ပညာရှင်များက ကြေးနန်း၊ ရေဒီယို စသည်များ၏ သတင်းပေးချက်ကို ရမသွာန်အထွက်တွင် ခိုင်မာသည်ဟု မယူဆကြ၊ သို့သော် ရမသွာန်အဝင်တွင် အကယ်၍ မြို့အချို့မှ ရေဒီယို လာလျှင် ၎င်းသတင်းပေးပြောသူသည် မွတ်စလင်မ်ဂုဏ်ရှိသူ၊ ယုံကြည်စိတ်ချရသူဖြစ်၍ ထိုသူ၏အသံကို ကြားသူက ကောင်းစွာ မှတ်မိနေပြီး၊ ထိုသူက ရမသွာန်အဝင်၏ လမြင်ကြောင်း ပြောပြလျှင် သို့တည်းမဟုတ် ကျွန်ုပ်အား လမြင်သူက ကိုယ်တိုင်ပြောပြသည်ဆိုလျှင်၊ ၎င်းရမသွာန်အဝင်နှင့် ပတ်သက်၍ ယုံကြည် စိတ်ချရသော ပုဂ္ဂိုလ်တို့၏စာ နေရာ အချို့ချို့တို့မှ လာလျှင် ထိုစာကို လက်ခံယူသူက ကောင်းစွာမှတ်မိလျှင် ၎င်းထိုစာသည် လိမ်လည် လှည့်ဖြားသော စာတု မဟုတ်ကြောင်း သိလျှင်၊ ၎င်းရေးသူက ကိုယ်တိုင် ရမသွာန် အဝင်လကို မြင်ကြောင်း ရေးလျှင်၊ သို့တည်းမဟုတ် ကျွန်ုပ်အား ကိုယ်တိုင်မြင်သူ မည်သူမည်ဝါက ပြောပြသည်။

သို့ရှိရာ ဤအဖြစ်များ၌ ရမသွာန်အဝင်လမြင်သည်ကို လက်ခံမည်ဆိုက လက်ခံနိုင်ပေသည်၊ မခံဘဲနေက နေနိုင်သည်။

၂။ 'ဝအ်ဇ်'ဆုံးမခြင်းတရားဟောပြောခြင်းများတွင် အသံချဲ့စက်ကို သုံးပိုင်ခွင့်ရှိသည်၊ နမာဇ်ဖတ်ရာတွင် ထိုအသံချဲ့စက်ကို သုံးပိုင်ခွင့်မရှိ။

၃။ ရိုဇဟ်စောင့်နေသောအဖြစ်၌ အင်ဂျက်ရှင်းဆေး ထိုးနိုင်သည်၊ ထိုသို့ ဆေးထိုးခြင်းဖြင့် ရိုဇဟ်တွင် မည်သို့မျှ လျော့နည်းမှု မဖြစ်။

၄။ 'အွသ်ရ်'အခွင့်ရှိသောအဖြစ်တွင် လေယာဉ်ပျံသည် ပျံနေသော် ဥပမာ.... ထိုလေယာဉ်ကို အဆင်းမခိုင်းနိုင်သော် ၎င်းဆင်းလျှင် ပျက်စီးမည်ကိုစိုးရိမ်ရမှု၊ ပျံနေ

လျက်ပင် လေယာဉ်အပေါ်၌ နမာဇ်ဖတ်နိုင်သည်၊ သို့တည်းမဟုတ်က မဖတ်နိုင်၊ ၎င်းပြင် မီးရထားတွင် လူများပြည့်ကြပ်နေပါက ဖတ်နိုင်သောအခွင့်အရေး ရလျှင်ရခြင်း နမာဇ် ဖတ်လိုက်ရမည်။

မတ်စ်အူးဒ်အဟ်မဒ်
ဒါရွလ်အိုလူမ် ဒေရိုဘန်ဒ်၊
ဟစ်ဂျ်ရီတော် ၁၃-၁၁-၁၃၆၇။

ထပ်ဆင့်အဖြေ....

ရမဇွာန်လအဝင်တွင် 'ရှဟာဒတ်' သက်သေခံမှုနှင့် ထိုအတွက် စည်းကမ်းဥပဒေ များမှာ 'ဖွှေကဟ်' ကျမ်းရှင်များထံ အရေးမကြီးပေ၊ ထို့ကြောင့် သတင်းပေးပြော ကြားသူတစ်ဦးတည်းဖြင့် ထိုပြောသူသည် အမျိုးသမီးဖြစ်စေ၊ အမျိုးသားဖြစ်စေ၊ လွတ် လပ်သူဖြစ်စေ၊ ကျွန်ဖြစ်စေ၊ 'အာဒင်လ်'ဖြစ်စေ 'အာဒင်လ်'မဟုတ်သူဖြစ်စေ တိမ်ကြီး လကြီး မစင်ကြယ်သောအခါတွင် ရမဇွာန်ဝင်ကြောင်း ကြေငြာနိုင်သည်။

ထို့ကြောင့် ဤအဖြစ်၌ နေရာအနှံ့အပြား ရေဒီယိုအသံလွှင့်ရုံများမှ အကယ်၍ ရမဇွာန်၏ လမြင်ကြောင်း ခိုင်မာယုံကြည်ရသောသူများက သတင်းပေးကြလျှင်၊ ၎င်း 'မွှအ်တဗရ်'ခိုင်မာယုံကြည်ရသောသူများထံမှ အနေနေရာက သတင်းလာလျှင် ထိုသတင်း ရေးသောစာကို စာရသူက မည်သူမည်ဝါရေးကြောင်း မှတ်မိလျှင်၊ သိလျှင်၊ ၎င်းထိုရေး သူ၏လက်ရေးကိုသိထားသူဖြစ်လျှင်၊ ၎င်းထိုစာကို စိုးစေ့မျှ လုပ်ကြံထားသည်ဟု ဒွိဟ ယနသံသယမရှိ၊ သာမကထိုသူကိုယ်တိုင်ရေးသောစာဟု တစ်ထစ်ချယုံကြည်လျှင် လက်ရေး တူပင်မဖြစ်နိုင်၊ ထိုသူရေးသည်ပင် ဖြစ်သည်ဟု စိတ်ချယုံကြည်မှု ထိုသို့သော အဖြစ်၌ ရမဇွာန်လ၏ လမြင့်ကြောင်းသတင်းကို ကျွန်ုပ်ထံ၌ လက်ခံလိုက လက်ခံနိုင်စရာ ဖြစ်လာ သည်၊ မည်သည့်အခါ စာများ၌ ၎င်းအသံလွှင့်ရုံများက သတင်းပေးရာတွင် ကျွန်ုပ်တို့ကိုယ် တိုင်လမြင်သည်ဟု ကြေငြာလျှင်၊ သို့မဟုတ် ကျွန်ုပ်တို့ရှေ့မှောက်တွင် လမြင်သူများက ပြောပြသည်၊ ထိုပြောပြသူများကို ကျွန်ုပ်တို့က 'မွှအ်တဗရ်' စိတ်ချ ယုံကြည်ရသူများဟု ယူဆယုံကြည်သည်ဟု ပြောဆိုအသံလွှင့်ကြလျှင် ရမဇွာန်လမြင်ကြောင်း အတည်ဖြစ် သည်ကို အမိန့်ပေးလိုက်ရန် ထိုက်သည်။

အမှန်ကို အသျှင်မြတ်သာလျှင် သိတော်မူပါသည်။

စိုင်ယစ်ဒ် မဟ်ဒီဟစ်
မွှဖ်တီ၊ ဒါရွလ်အိုလူမ်ကျောင်း
ဒေယိုဘန်ဒ်၊ ဟစ်ဂျ်ရီတော် ၁၃-၁၁-၁၃၆၇။

# ဘဟာစ်ရှိတီ ဇော၀ရီကျမ်း [ဆဋ္ဌမတွဲ]၏
## နောက်ဆက်တွဲ

ဒုတိယ နောက်ဆက်တွဲတွင် 'ရှရီအတ်' တရားတော်မြတ်၏ အရေးကြီးသော အကြောင်းအချက်များကို လုံလောက်ပြည့်စုံစွာ အတိုချုံးရေးသားပြီးခဲ့လေပြီ၊ ယခု ခေတ်အခါ သမယတွင် အမျိုးသမီးများသည် ၀တ်စားဆင်ယင်ရာ၌ အလှပိုစေခြင်းကို ဂုဏ်ယူကြသည်၊ ၎င်း 'ကာဖွင်ရ်နှင့် ဖွာစစ်က်'တို့၏ ၀တ်စားပုံများကို စိတ်စွဲလန်း နှစ်သက်နေကြသည်၊ ရိုးရိုးတန်းတန်း၀တ်စားမှုကို အပြစ်ဆိုလာကြကာ 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သော အ၀တ်၀တ်ခြင်းကို ကြွား၀ါရန်အတွက် ဂုဏ်ရှိသည်ဟုလည်းကောင်း၊ ရိုးရိုးအ၀တ်၀တ်သူမများကိုသေးသိမ်သည်ဟုလည်းကောင်း ထင်မြင်ယူဆလာကြလေသည်။

ထို့ကြောင့် ချစ်ချင်စဖွယ် ကုရ်အာန်ကျမ်းတော်မြတ်နှင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ ဟဒီးသ် ဩ၀ါဒတော်များမှ ဤသို့ အပိုအလှဆင်ခြင်းနှင့် ကာဖွင်ရ်များနှင့် တူညီစေခြင်းနှင့် ပတ်သက်သော အကြောင်းအချက်များကို အကျဉ်းချုံး၍ ကူးယူဖော်ပြမည်။

ထိုသို့ဖော်ပြရေးသားခြင်းဖြင့် အလ္လာဟ်အသျှင်မြတ်၏ 'ဘန္ဒီ' အမျိုးသမီးတစ်ဦးတစ်လေသည် အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ကာ ထိုမကောင်းသော ၀တ်စားဆင်ယင်မှုကို စွန့်လွှတ်သွားပါက ကျွန်ုပ်'ဂိုနာဟ်'နှင့် ပြည့်နက်နေသူမှာ လွတ်ကင်းရာလွတ်ကင်းကြောင်းဖြစ်လာပေမည်၊ အလ္လာဟ်အသျှင်မြတ်သည် မွတ်စလင်မ် အမျိုးသမီးများအား တရားလမ်းမှန်ပြတော်မူ၍ လိုက်နာဆောင်ရွက်နိုင်သောစွမ်းအား ပေးသနားတော်မူပါစေသတည်း။

---

### တတိယ နောက်ဆက်တွဲ [ပဌမပိုင်း]

## ဆင်ယင်မှုကို သာပိုအောင်ပြုခြင်း၏ ထုံးစံ
### အကြောင်း

သိမှတ်ကြရန် ထိုက်သည်၊ အဖိုးတန်သော အ၀တ်ကို ၀တ်ခြင်း၊ ၎င်း အဖိုးတန်သော ပန်းကန်ခွက်ယောက်ဖြင့် အစားအစာကို စားသောက်ခြင်း၊ ၎င်းကောင်းမွန်သော အိမ်၌နေခြင်းတို့သည် ထိုအဖိုးတန်အ၀တ်၊ ၎င်းအကောင်းဆုံးသော ပန်းကန်ခွက်ယောက်၊ ၎င်းကောင်းမွန်သော အစားအစာတို့ကို စားသောက်ခြင်း၊ ၎င်းကောင်းမွန်သော အိမ်သည် နေပိုင်လျှင် တရားတော်အရ ပိုင်သည်ခန့် ဆင်ယင်ခြင်းသည် တားမြစ်ချက်မရှိပေ၊ သို့သော် နာမည်ရ ဂုဏ်ဖော် ကြွား၀ါရန်အတွက် ဖြစ်မူ 'မတ်က်ရူးဟ်' ၎င်း 'ဟရာမ်' ဖြစ်သည်။

သို့ရာတွင် အကယ်၍ နာမည်ရ ဂုဏ်ဖော် ကြွားဝါရန်အတွက် မဟုတ်သော်လည်း ထိုသို့ပြုခြင်းဖြင့် ကာဖွင်ရ်များ၊ ၎င်း 'ဖွာစစ်က်' များ ၎င်းဗိဒအာတ်သမားများနှင့် တူညီနေသော် ထိုအလုပ်လည်း မပြုလုပ်ပိုင် ဖြစ်သွားလေသည်၊ အကယ်၍ ပြုလုပ်သူက တူညီရန် ဆန္ဒဖြင့် မပြုလုပ်သည်ဖြစ်စေကာမူလည်း မပြုလုပ်ပိုင်ပေ။

သီးခြား၍ ယခုခေတ်သမယတွင် အမျိုးသမီးများသည် အခြားသော အသုံးအဆောင်များအပြင် သီးခြား၍ အဝတ်အစားတွင် သာပို၍ ဆင်ယင်ကြသည်၊ သာပို ဆင်ယင်ခြင်းမှာ ကြွားဝါ ဂုဏ်ဖော်လို၍ဖြစ်သည်၊ ၎င်းဂုဏ်ရည်တူသူများ အရပ်သူအချင်းချင်းနှင့် သားချင်းတို့တွင် နာမည်ကြီးရန်နှင့် ဂုဏ်မြင့်စေရန်ဖြစ်သည်၊ နောက်ဆုံးတွင် ပိုင်သည်, မပိုင်သည် ဟရာမ်၊ ဟလာလ်ကိုပင် မကြည့်ကြတော့ပေ၊ သို့ရှိရာအချို့သည် ကိုယ်တိုင်ပင် 'ဟရာမ်' ဖြစ်သည်၊ ပမာဆိုသော်.... အိမ်များတွင် သက်ရှိရုပ်ပုံများ ချိတ်ဆွဲခြင်း။

ဤသို့ သက်ရှိရုပ်ပုံများ ချိတ်ဆွဲခြင်းသည် တစ်နေ့တစ်ခြား ဒီရေအလားတိုးတက်များပြားလာနေသည်၊ သက်ရှိရုပ်ပုံများ၏ မကောင်းခြင်းများကို ဤအတွဲ အစပိုင်းတွင် ရေးသားခဲ့ပေပြီ။

၎င်းအချို့သော ဆင်ယင်ထုံးဖွဲ့မှုများသည် ကာဖွင်ရ်များ၊ ဖွာစစ်က်များနှင့်တူညီနေသောကြောင့် 'ဟရာမ်' ဖြစ်ပေသည်၊ အချို့သည် ကြွားဝါ ဂုဏ်ဖော်မှုအတွက်တားမြစ်ခြင်းဖြစ်သည်၊ ၎င်းပကာသန နာမည်ကြီးလိုမှုအတွက် မကောင်းဖြစ်သည်၊ သို့ရှိရာ အကြွင်သူသည် ဤသို့မကောင်းသောလုပ်ငန်းကို လိုက်စားပြုမူနေလျှင် လောကီရေးကိုပင် ရှေ့ရှုနေပေတော့သည်၊ ၎င်း အလ္လာဟ်အသျှင်မြတ်နှင့် နောင် အာခိရတ်ကို မေ့လျော့သွားပေမည်။

ပထမဟာဒီးသ်တော်....

အဘူဒါဝူးဒ် ကျမ်းရှင်က ရေးခဲ့သည်၊ အာအေရှာ် (ရသွေ့) သခင်မက ဆင့်ပြန်ခဲ့သည်၊ အဘူဘကရ်(ရသွေ့)သခင်၏သမီးတော်၊ အာအေရှာ်(ရသွေ့)သခင်မ၏အစ်မ ဘီဘီအတ်စ်မာအ်(ရသွေ့)သခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံအခစားဝင်လေရာ သခင်မ၏ ကိုယ်ပေါ်တွင် ပါးသော အဝတ်ရှိလေသည်၊ သို့ရှိရာ ရစူလ်ကိုယ်တော်က သခင်မဘက်မှ မျက်နှာလွှဲတော်မူလိုက်လေသည်။

ကိုယ်တော်က ဆက်လက်၍ မိန့်တော်မူသည်မှာ.... အိုး... အတ်စ်မာအ်၊ အမျိုးသမီးသည် အရွယ်ရောက်လာလျှင် မျက်နှာနှင့် လက်ဖျားများအပြင် ကိုယ်ကာယကို အခြားသူများ မြင်စေရန် လုံးဝမထိုက်၊ ဆိုလိုသည်မှာ.... ကိုယ်ကာယကို မြင်စေရသော အဝတ်များ ဝတ်ဆင်ရန်မထိုက်၊ ဝတ်ခဲ့သော် ထိုအမျိုးသမီးသည် ဝတ်လစ်စလစ်ပမှာ ဖြစ်သည်။

(အဘူဒါဝူးဒ်ကျမ်း)

ဒုတိယဟဒီးသ်တော်....

အေမာမ်မာလစ်က် (ရဟမတွလ္လာဟ်) သခင်ကအကြောင်းပြုခဲ့သည်၊ အလ်ကမဟ် ဗင်အဗိအလ်ကမဟ်က မိမိ၏မိခင်မှကြားသည်ကို ဆင့်ပြန်ခဲ့သည်၊အဗ်ဒုလ်ရဟ်မာန်သခင်၏ သမီးဟဖ္ဖစွာဟ် (ရဒေသွ) သခင်မသည် အာအေရှဟ်(ရဒေသွ )သခင်မထံ ပါးလွှာသော ခြုံထည်ကိုခြုံ၍လာရာ အာအေရှဟ် (ရဒေသွ) သခင်မက ထိုခြုံထည်ကို စုတ်ဖြဲပစ်တော်မူပြီး ထူပိန်းသော ခြုံထည်ကို ခြုံပေးတော်မူလိုက်လေသည်။

ဤဟဒီးသ်တော်များအရ အမျိုးသမီးများသည်အလွန်ပါးလွှာသော အဝတ်ကို ဝတ်ခြင်းနှင့် ထိုသို့ပါးလွှာသောအဝတ်ကိုဝတ်၍ အမျိုးသမီးများ အကြားအလယ်၌ပင် သွားခြင်း မပိုင်ကြောင်း သိရလေသည်။

ကြီးကျယ်သော ဝလီသူတော်စင် တစ်ပါးဖြစ်သူ ရှာဟ်အဗ်ဒုလ်ကာဒင်ရ်ဂျီလာနီ (ရဟမတွလ္လာဟ်)သခင်က 'ဂွန်ယတွတ်တွာလေဗီန်' ကျမ်း၌ ရေးသားတော်မူသည်မှာ....

ကိုယ်ကာယ မြင်စေရသော ပါးလွှာသည့်အဝတ်ကို ဝတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်၊ အကယ်၍ အရှက်ဖုံးရမည့်နေရာ ပေါ်လွင်မြင်ရလျှင် ထိုသူ (သူမ) သည် 'ဖွာစစ်က်'ဖြစ်သည်၊ဥပမာ မည်သည့်အခါအတလီ (တမင်သက်သက်)ထိုင်မှု ထို့နောက် ထိုအဝတ်ကို လှပ်လိုက်သည်၊ ၎င်းထုံအဖြစ်၌ ထိုသူ (သူမ) ၏ နမာဇ် မပိုင်ဖြစ်လေသည်။

(ဂွန်ယတွတ်တွာလေဗီန်ကျမ်း။)

အေမာမ်ဂဇာလီ(ရဟမတွလ္လာဟ်)သခင်က မိမိပြုစုသော ကီမယာအေစအာဒတ် ကျမ်းဘွင်ရှေးသူတော်စင်များ၏ အမိန့်ကိုရေးသားသည်မှာ....အကြင်သူ၏အဝတ်အစားသည် ပါးလွှာလျှင် ထိုသူ၏ အီမာန် ယုံကြည်ချက်လည်း အားနည်းမည်ပင်ဖြစ်သည်။

ဤသို့ပင် ပါးလွှာသော အဝတ်များကို ဝတ်ခြင်း၏ မကောင်းကြောင်းများ၊ အခြားကျမ်းများ၌လည်း ရေးသားပါရှိလေသည်၊ ထို့ကြောင့် ဤသို့ ပါးလွှာသော ကိုယ်ကာယမြင်ရသောအဝတ်များကိုမဝတ်ကြရန်ထိုက်ပေသည်၊အဘယ့်ကြောင့်ဆိုသော် ဤသို့ ပါးသောအဝတ်ကို ဝတ်ခြင်းဖြင့် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် ၎င်းထိုအသျှင်၏မှန်ကန်တော်မူသော တမန်တော်ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အမိန့်ကို ဖီဆန်ရာရောက်သည့်ပြင် မနှစ်မြို့သောကိစ္စကို ကျူးလွန်ရာလည်းမည်ပေသည်၊ သို့ရှိရာ အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မနှစ်မြို့ခြင်း ဖြစ်နေမှု (ခစေ ရဗ်ဒွန္နယာ၊ ဝလ်အာခေရဟ်) လောကီ လောကုတ္တရာ နှစ်ဌာနဆုံးရှုံး နစ်နာမှုအပြင် မည်သည့်မျှ အကျိုးထက်ရောက်မည် မဟုတ်ပေ။

# ဒုတိယ ပိုင်း
## ကြွားဝါသော အဝတ်အစား အကြောင်း

ဤသို့ပင် ပကာသနကြွားဝါရန်အတွက် ဝတ်သောအဝတ်များ၊ ထိုအဝတ်များနှင့်ပတ်သက်၍ ဟဒီးသ်တော်မြတ်၌ မြောက်မြားစွာ ရှုတ်ချ ထားခြင်းနှင့် မကောင်းကြောင်းများ လာရှိပေသည်၊ ထိုသို့ ပကာသနကြွားဝါရန်အဝတ်ဝတ်ကြရာ၌အမျိုးသားနှင့် အမျိုးသမီးများတို့သည် နစ်မွန်းနေကြသည်၊ သီးခြား၍ အမျိုးသမီးများက ပို၍ပင် ဝတ်ဆင်နေကြပေသည်။

ဟဒီးသ်တော်....

အေမာမ်အဟ်မဒ်၊ အဘူဒါဝူးဒ်နှင့် အစ်ဗ်နို့မာဂျဟ် ကျမ်းရှင်များက ရေးသားခဲ့ကြသည်၊ အစ်ဗ်နို့အုမရ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် လောက၌ ထင်ပေါ်စေရန်အတွက် အဝတ်ဝတ်ခဲ့လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ကေယာမတ်ကမ္ဘာ့တရားခွင်မနေ့၌ ထိုသူ့ကို သေးသိမ်သောအဝတ် ဝတ်စေတော်မူမည်။

ဟဒီးသ်တော်....

ဤဟဒီးသ်တော်မြတ်ဖြင့် ထင်ပေါ်စေရန် အဝတ်မဝတ်ပိုင်ကြောင်း သိရလေသည်၊ ဝတ်ခဲ့သော် ထိုပြစ်မှုအတွက် 'ကေယာမတ်' နေ့၌ သေးသိမ်ခြင်း ဖြစ်မည်၊ အလ္လာဟ်အသျှင်မြတ်သည် မွတ်စလင်မ် ယောကျ်ား, မိန်းမများကို ဤသို့သော အဖြစ်မှ ထိန်းသိမ်းတော်မူပါစေသော်။

အဘူဒါဝူးဒ် ကျမ်းရှင်ကရေးသားခဲ့သည်၊ စို့ဝိုင်ဒ်ဗင်န်ဝဟဗ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အဆွဟာဗ်တော် များ၏ သားများအနက် တစ်ပါးက မိမိ၏ဖခင်မှ ကြားခဲ့သည်ကို မိန့်သည်မှာ.... ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ကြွားဝါသောအဝတ်ကို စွန့်လွှတ်၍ ကျိုးငယ်နှိမ့်ချသော အဝတ်ကို ဝတ်လျှင် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ထိုသူ့အား မွန်မြတ်သောဝတ်စုံကို ဝတ်ပေးတော်မူပေမည်။

ဟဒီးသ်တော်....

အေမာမ်အဟ်မဒ်၊ နေစာအီနှင့် အစ်ဗ်နို့မာဂျဟ် ကျမ်းရှင်များက အကြောင်းပြုကြသည်၊ အမရ်ဗင်န်ရှို့အိုင်ဗ် သခင်က ဆင့်ပြန်ခဲ့သည်၊ ကျွန်ုပ်၏ဖခင်က အဖိုးထံမှ ကြားသည်ကို ပြောပြသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ...စားကြသောက်ကြကုန်၊ ငွေခိုင်ရာတ်လှူဒါန်းကြကုန်၊ ဝတ်ဆင်ကြကုန်၊ သို့သော် အခန့်ထက်ပို၍ ဖြုန်းတီးသူများ၊ ငွေကြွားဝါဂုဏ်ဖော်သူများ မဖြစ်ကြစေနှင့်။

သတိပေးချက်။

များသောအားဖြင့် အမျိုးသမီးတို့သည် မိမိတို့၏ သားများကို ပိုးထည်၊ ရွှေများကို ဝတ်ဆင်ပေးကြသည်၊ ငယ်ရွယ်သူဖြစ်၍ 'ဂိုနာဟ်' မဖြစ်၊ ထို့ကြောင့် ဤသို့သော အဝတ်များကို ဝတ်ပေးခြင်းမှာ ကိစ္စမရှိဟု ယူဆကြသည်၊ အမှန်မှာ ဤသို့ ယူဆထင်မြင်ခြင်းသည် မှားလေ၏။

အမျိုးသားများအတွက် ရွှေနှင့် ပိုးထည်ဝတ်ဆင်ခြင်း မပိုင်သကဲ့သို့ ငယ်ရွယ်သော ယောကျ်ားလေးများကိုလည်း ဝတ်ပေးခြင်း မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ဟဒီးသ်တော်မြတ်၌ ရွှေနှင့်ပိုးထည်မှာ ယောကျ်ားများအတွက် အရွယ်ရောက်သူဖြစ်စေ၊ မရောက်သေးသူဖြစ်စေ 'ဟရာမ်' ဖြစ်ကြောင်း လာရှိပေသည်၊ (အင်နဲ၊ တာခသိုင်နဲ၊ ဟာရာမွှန်၊ အလာ၊ သို့ကူရေ့အွှမ်မတီ) အဆိုအရ ထင်ရှားလေသည်။

အဘူဒါဝူးဒ်ကျမ်းတွင် လာရှိသည်မှာ.... ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ပိုးထည်ကို လက်ယာလက်တော်နှင့်ကိုင်ပြီး ရွှေကိုလက်ဝဲလက်တော်ဖြင့် ကိုင်တော်မူကာ မိန့်တော်မူသည်မှာ....အမှန်မုချ ဤပစ္စည်းနှစ်ရပ်သည် ငါ့ရစူလ်၏အွှမ္မတ်သားယောကျ်ားများအပေါ်, 'ဟရာမ်' ဖြစ်သည်။

မစ်ရှ်ကာတ်ကျမ်း၏ ရှရဟ် (အကျယ်ပြန်)၌ ရေးသားသည်မှာ.... ဟဒီးသ်တော်မြတ်တွင် ပါရှိသော (သွု ိ ့ကူရ်)တွင်အရွယ်မရောက်သေးသော ယောကျ်ားကလေးများလည်း ပါဝင်သည်၊ သို့သော် အရွယ်မရောက်သေးသူများသည် အပြစ် 'ဂိုနာဟ်' ထိုက်သူများ မဟုတ်ကြ၊ ထို့ကြောင့် ဝတ်ဆင်ပေးသူများအပေါ် 'ဟရာမ်' ဖြစ်သည်။

ရွှေ,ငွေ၏ ဘယက်တန်ဆာများသည် အမျိုးသမီးများအတွက် ပိုင်သည်၊ အမျိုးသားများအတွက် မပိုင်ပေ၊ တင်ရ်မေသီကျမ်းတွင်လာရှိသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ....

အို့ဟင်လ်၊ လသ်သဟဗိုု့၊ ဝလ်ဟရီရိုု့၊ လင်လ်အိုု့နာသေ့မင်န်အွှမ္မတီ၊ ဝဟရို့မ၊ အလာသွု ိ ့ကူရေ့ဟာ။

အလ္လာဟ်အသျှင်မြတ်က ငါ့ရစူလ်၏အွှမ္မတ်အမျိုးသမီးများအတွက် ရွှေနှင့်ပိုးထည်ကို 'ဟလာလ်' ပြုထားတော်မူသည်၊ ၎င်းငါ့ရစူလ်၏ အွှမ္မတ်အမျိုးသားများ အပေါ် ဟရာမ်ပြုထားတော်မူသည်၊တင်ရ်မေသီကျမ်းရှင်က ဤဟဒီးသ်တော်သည် (ဟစံစွဟီးဟ်) မှန်ကန်သည်ဟု ဆိုထားလေသည်။

သို့သော် အကြံသူသည် လက်စွပ် ဝတ်လိုသောဆန္ဒရှိမူ ငွေလက်စွပ် ဝတ်ရမည်၊ 'ရှရီအတ်' တရားတော်မြတ်တွင် ယောကျ်ားများသည်ငွေသား'မစ်ကာလ်'တစ်ခုနှင့်အညီ ငွေလက်စွပ် ဝတ်ပိုင်ခွင့် ပေးထားပေသည်၊ ဤအချိန်ထက်ပို၍ ဝတ်ပိုင်ခွင့် မရှိပေ။

(မစ်ကာလ်သည် တစ်မတ်သားကျော် ၅-ပဲသားခန့်ရှိသည်။

ဒွရ်ရေ့မွခ်တာ၁ရ် ကျမ်းတွင် လာရှိသည်၊ (ဝလာယဇီဒို့၊ အလာမစ်ကာလင်) လက်စွပ်၏အလေးချိန်သည် မစ်ကာလ်တစ်ခုထက် သာပိုခြင်းမရှိစေရ၊ ဤသည်ထက်ပိုလျှင် ဝတ်သော ယောကျ်ားကလေးများအပေါ် ဂိုနာဟ် မဖြစ်သော်လည်း ဝတ်ပေးသော လူကြီးများအပေါ် ဂိုနာဟ် ဖြစ်ပေသည်။

ဒွရ်ရေ့မွခ်တာ၁ရ် ကျမ်းတွင် လာရှိသည်မှာ.... ငယ်ရွယ်သော ယောကျ်ားကလေးများအား ရွှေကိုလည်းကောင်း ပိုးထည်ကိုလည်းကောင်း ဝတ်ဆင်ပေးခြင်းသည် 'မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် အကြင်ပစ္စည်းတစ်ခုကို ဝတ်ခြင်း၊ ၎င်းသောက်ခြင်း ဟရာမ်ဖြစ်လျှင် ထိုပစ္စည်းကို ဝတ်စေခြင်း သောက်စေခြင်းလည်း ဟရာမ် ဖြစ်လေသည်။

ဟေဒါယဟ်ကျမ်းတွင်လာရှိသည်၊ ယောကျ်ားကလေးများကိုရွှေကိုလည်းကောင်း ပိုးထည်ကိုလည်းကောင်း ဝတ်ပေးခြင်းသည်၊ ,မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ အဘယ့် ကြောင့်ဆိုသော် ထိုပစ္စည်းကို ဝတ်ခြင်းသည် ယောကျ်ားများအတွက် ဟရာမ်ဖြစ်လေရာ ဝတ်ဆင်ပေးခြင်းလည်း ဟရာမ်ပင်ဖြစ်ပေသည်၊အရက်သေစာကဲ့သို့ဖြစ်သည်၊ထိုအရက်ကို သောက်ခြင်း ဟရာမ် ဖြစ်သကဲ့သို့ တိုက်ခြင်းလည်း ဟရာမ်ပင်ဖြစ်လေသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်းတွင် လာရှိသည်၊ အရွယ်မရောက်သေးသော ယောကျ်ားကလေးများကို ရွှေကိုလည်းကောင်း ပိုးထည်ကိုလည်းကောင်း ဝတ်ဆင်ပေးခြင်းသည် မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ ပမာဆိုသော် အရက်သောက်ခြင်းသည် ဟရာမ်ဖြစ်သည် ထို့သို့ပင် အရက်တိုက်ခြင်းလည်း ဟရာမ်ပင်ဖြစ်သည်။

အာလမ်ဂီရီ ကျမ်း၌ပါရှိသည်၊ အကြင်ပစ္စည်းသည် ယောကျ်ားများ ဝတ်ရန် 'မတ်က်ရူးဟ်တဟ်ရီမဟ်' ဖြစ်ပေရာ ထိုပစ္စည်းကို ကျွန်များ အရွယ်မရောက်သေးသော ယောကျ်ားကလေးများ ဝတ်ခြင်းလည်း မတ်က်ရူးဟ်တဟ်ရီမဟ်ပင်ဖြစ်သည်၊ အဘယ့် ကြောင့်ဆိုသော်ရွှေနှင့်ပိုးထည်ကိုရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အုမ္မတ်သားများ အပေါ် အရွယ်ရောက်သည် မရောက်သည်ကို ခွဲခြားခြင်းမပြုဘဲ အားလုံးအပေါ် ဟရာမ် ပြုထားတော်မူပေသည်၊ ၎င်းဂိုနာဟ်အပြစ်သည် ဝတ်ဆင်ပေးသော လူကြီးများအပေါ် ကျရောက်သည်၊ အဘယ့်ကြောင့်ဆိုသော် ကျွန်ုပ်တို့သည် ကျွန်များ ကလေးများကို စောင့်ရှောက်အုပ်ထိမ်းသူများ ဖြစ်ကြလေသည်။

ကန်ဇ်၏ရှရ်ဟ် အိုင်နီကျမ်းတွင်လည်း ဤသို့ပင်ပါရှိလေသည်၊ ဤတင်ပြပါ အချက်များဖြင့် မွတ်စလင်မ်ယောကျ်ားများ၊ ယောကျ်ားကလေးများအပေါ် ရွှေနှင့် ၎င်းပိုးထည် ဝတ်ခြင်းနှင့် ဝတ်စေခြင်းတို့သည် ဟရာမ် ဖြစ်ကြောင်းသိရလေပြီ။

ယခုခေတ်သမယတွင် မွတ်စလင်မ်ယောကျ်ားများ သီးခြား၍ အမျိုးသမီးများသည် မိမိတို့၏ သားယောကျ်ားကလေးများကို မသိမိုက်မဲခြင်းဖြင့် ရွှေလက်စွပ်၊ ရွှေချည်ကွပ်သားသော ဖိနပ်ပင် နှစ်ခြိုက်စွာဝတ်ကြ၍ အမျိုးသမီးများက ကလေးများကို ဝတ်ပေးကြသည်၊ သီးခြား၍ နေကာဟ်လက်ထပ်ရာ၌ ယောက္ခမဘက်မှရသောဖိနပ်နှင့် လက်စွပ်ကို အသားယူ၍ ဂုဏ်ယူ၍ဝတ်ကြသည်၊ ထိုပစ္စည်းကိုဝတ်ပြီး အချင်းချင်း ဂုဏ်ယူကာ မိတ်သင်္ဂဟများကို ပြသကြသည်၊ ဤသို့ကျူးလွန်မိခြင်းကိုနောင်တ၊ သံဝေဂ ရရန်ထိုက်သည်၊ ဖုံးအုပ်သိမ်းဆည်းထားလျှင် ကောင်းပေ၏။

သိမ်းဆည်းမထားသည့်ပြင် အထင်အရှားဝတ်ကြသည်၊ မဝတ်ရန်တားမြစ်သူများကို ယောက္ခမ၏ လက်ဆောင်ဖြစ်သည်၊ ကျွန်ုပ် ဝယ်သည်မဟုတ် လူကြီးများ၏ အထိမ်းအမှတ်ဖြစ်သည်ဟု အဖြေပေးကြလေသည်၊ အလ္လာဟ်အသျှင်မြတ်သည် ဤသို့ဝတ်သူများကို လမ်းမှန်ပေးတော်မူပါစေ၊ လူကြီးများ၏အမိန့်ကို နာခံသည်၊ သို့သော် လူကြီးများထက် ကြီးကျယ်သောပုဂ္ဂိုလ် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်တော်ကို ဖီဆန်နေသည်ကို အဘယ့်ကြောင့် ကြောက်စိတ်မပေါ် မရှက်သနည်း။

ပမာဆိုသော် ထိုမေ့လျော့ပေါ့ဆသူများသည် ယောက္ခမ ပေးသောပစ္စည်းသည် ဟလာလ်ဖြစ်စေ၊ ဟရာမ်ဖြစ်စေ ဝတ်ရမည်ဟု ထင်နေကြသည်၊ သို့တည်းမဟုတ် လူကြီးများကအမှတ်တရပေးသော လက်ဆောင်ဟရာမ်ဖြစ်စေကာမူ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တားမြစ်ထားသည် ဖြစ်စေကာမူ ဝတ်ဆင်လျှင်ကိစ္စမရှိဟု ယူဆထင်မြင်ကြဟန် တူပေသည်။

ဝမ်းနည်းဖွယ်ကောင်းလေစွ၊ နှစ်ဦးနှစ်ဘက် 'ဂိုနာဟ်ဂါရ်' အပြစ်ထိုက်သူများ ဖြစ်ကြသည်၊ ဤသူက ဝတ်သဖြင့် ဂိုနာဟ်ဖြစ်သည်၊ ထိုလူကြီးများကပေး၍ ဂိုနာဟ်ယူကြရသည်၊ ပမာဆိုသော် ကိုယ်တိုင် ဂိုနာဟ်ကျူးလွန်၍ ပေးသူများကိုလည်း ဂိုနာဟ်လက်ဆောင်ပေးလေသည်။

အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်တို့အားလုံးအား သနားကရုဏာ ထက်တော်မူပါစေ၊ ၎င်းကျွန်ုပ်တို့ကို 'ရှရီအတ်' တရားတော်မြတ်က တားမြစ်ထားချက်များမှ ရှောင်ရှားနိုင်သော စွမ်းအားပေးတော်မူပါစေ၊ ၎င်းမိမိတို့အတွက် (ဂျဟန္နမ်) အပါယ်လားစေမည်ကို ကြောက်ရွံ့စိတ် ပေါ်ပေါက်လာသော စွမ်းအား ပေးသနားတော်မူပါစေသတည်း၊ 'အာမီန်' သဘောတူတော်မူပါ။

ဤတွင်၍ကား 'ဘာဟစ်ရှိတီဇေဝရ်' ကျမ်း၏ ဒုတိယ နောက်ဆက်တွဲ

ပြီး၏။

မုဟမ္မဒ်ယူစုဖ [မင်္ဂလာဟေရီ]

# ဘဟာစ်ရှိတီဇေဝရ်ကျမ်း

# သတ္တမတွဲ

بسم الله الرحمن الرحيم

باسمه تعالى حامدا ومصليا ومسلما

ရှိဒ်သသမ္မု စာရိတ္တ နှင့် သဝ ါဗ် ကုသိုလ်ဒုင်းအသာဗ် ဖြစ်ဒဏ်များအကြောင်း၊ ဒုင်းအေဗ ါဒတ် ခ, ဝပ်မှုများကို ဆင်ယင်ခြင်း အကြောင်းများကို ဆိုပေအံ့။

## ဝိသ္ဗူနှင့် သန့်ရှင်းရန်အကြောင်း

အမလ် လိုက်နာရန် အချက်များ။

၁။ တစ်ခါတစ်ရံ စိတ်မလိုလားအပ်မှုရှိသော်လည်း ဝိသ္ဗူရေသန့်စင်မှုကိုကောင်းစွာ ပြုကုန်။

၂။ ဝိသ္ဗူကို လပ်ဆာပ်အောင်ပြုခြင်းသည် သဝ ါဗ် ပိုမိုရရှိလေသည်။

၃။ ကျင်ကြီး, ကျင်ငယ် စွန့်သောအခါ ကစ်ဗ်လဟ်အနေ ာက်ဘက်သို့မျက်နှာမပြုနှင့်၊ ကျောလည်းမပေးနှင့်။

၄။ ကျင်ငယ်စက်များ မလူးထိစေနှင့် ဂရုမစိုက်သဖြင့် ကျင်ငယ်စက် လူးထိပါက ကဗရ်သင်္ချိုင်းတွင် ပြစ်ဒဏ်ငရဲ ခံရမည်။

၅။ မည်သည့်တွင်းပေါက်၌မဆို ကျယ်ငယ်မစွန့်နှင့် တွင်းထဲမှမြွေ၊ဒုင်းကင်းစသည် များ ထွက်လာမည်ကို စိုးရသည်။

၆။ ရေချိုးမည့်နေရာတွင် ကျင်ငယ်မစွန့်နှင့်။

၇။ ကျင်ကြီး, ကျင်ငယ်စွန့်သောအခါ စကားစမြည်မပြောနှင့်။

၈။ အိပ်ရာမှထသောအခါ, လက်ကို ကောင်းစွာ မဆေးမကြောမီ ဒ လျင်ရေထဲသို့ လက်မနှိုက်နှင့်။

၉။ နေဖြင့်ပူနေသော ရေကိုမသုံးစွဲနှင့်၊ ထိုနေဖြင့် ပူနေသောရေကို သုံးစွဲပါက ခရူသင်းရောဂါ ဖြစ်မည်ကို စိုးရသည်၊ ခရူသင်းရောဂါဖြစ်ပါက ကိုယ်ကာယ တွင် အဖြူကွက်များ ပေါ်လာလေသည်။

## နမောဇ်၏ အကြောင်း

အမလ်လိုက်နာရန် အချက်များ။

၁။ နမာဇ်ကို သူ့အချိန် နှင့် သူ ဖတ်ကုန်၊ ရိုကူအ်ဦးညွတ်ခြင်းနှင့် 'စစ်ဂျိဒဟ်' ဦးချခြင်းကို ကောင်းမွန်သေသပ်စွာပြုကုန်၊ စိတ်ရောကိုယ်ပါ စွဲလမ်းစွာဖြင့် နမာဇ်ဝတ်ပြုကုန်။

၂။ ကလေးသည် (၇) နှစ်သက်တမ်းသို့ ရောက်လာလျှင် ဂရုတစိုက်နမာဇ်ဖတ်ရန် စေခိုင်းကုန်၊ မည်သည့်အခါ (၁၀) နှစ်သက်တန်းသို့ ရောက်လာလျှင် နမာဇ်မဖတ်က ရိုက်ပုတ်၍ အဖတ်ခိုင်းရမည်။

၃။ စိတ်စွဲလန်းသွားစေမည့် အဖူးအပွင့်ပါသော အဝတ်ဖြင့် ၎င်းထိုသို့သော အခင်းတွင် နမာဇ်ဖတ်ခြင်း မကောင်းပေ။

၄။ (လွင်ပြင်၌ဖြစ်ခဲ့သော်) နမာဇ်ဖတ်သူ၏ရှေ့တွင် အဆီးအတားတစ်ခု ရှိစေရမည်၊ အကယ်၍ တစ်စုံတစ်ရာမရှိလျှင် တုတ်တစ်ခု ထောင်ထားရမည်၊ သို့တည်းမဟုတ် မြင့်မားသော အရာတစ်ခုထားရမည်၊ ထိုအရာကို မျက်ခုံး၏ ဝဲဘက်၊ ၎င်းယာဘက်တည့်တည့်တွင် ထားရမည်။

၅။ ဖွရ်သွ် နမာဇ် ဖတ်ပြီးနောက် အကောင်းဆုံးမှာ ထိုနေရာမှရွှေ့လျား၍ စွန္နတ် နဖ်လ် နမာဇ်များ ဖတ်ရမည်။

၆။ နမာဇ် ဖတ်ရာ၌ ဟိုဟိုသည်သည် မကြည့်နှင့် အပေါ်သို့လည်း မကြည့်နှင့် တတ်နိုင်သမျှ ဟားသန်းမှုကို တားဆီးကုန်။

၇။ ကျင်ကြီး, ကျင်ငယ် စွန့်ချင်လွန်းလျှင် ပထမ ဤသည်စွန့်ကုန်၊ ပြီးမှ နမာဇ် ဖတ်ကုန်။

၈။ နဖ်လ် နမာဇ်နှင့် ဝဇီဖွာဟ်များကို တတ်နိုင်သည်ခန့် ပြုမူရမည်။

## သေခြင်းနှင့် ဒုက္ခအကြောင်း

အမလ်လိုက်နာရန် အချက်များ။

၁။ အကယ်၍ လွန်လေပြီးသော ဒုက္ခကို သတိရလာလျှင် (အင်န်နာလစ်လ္လာဟေ ဝအင်န်နာ၊ အေ့လိုင်ဟေ့၊ ရာဂျေ့အူန်) ဖတ်ကုန်၊ ပထမက ဒုက္ခခံခဲ့ရ၍ ကုသိုလ် (သဝါဗ်) ရပေဦးမည်။　　(မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ ၄၀၀)

၂။ အပူသောကသည် မည်သို့ပင် သေးငယ်စေကာမူ ထိုအတွက် (အင်န်နာ၊ လစ်လ္လာဟေ့။) အဆုံးထိဖတ်ကုန် ကုသိုလ် (သဝါဗ်) ရမည်။

## ၁၆။ ဇကာတ်နှင့် ခိုင်ရာတ် အကြောင်း

'အမလ်' လိုက်နာရန် အချက်များ။

၁။ ဇကာတ်ဒါနကြေးကို တတ်နိုင်သည်ခန့် ဂုဏ်သရေရှိအတွက်ကြောင့် မတောင်း ဘဲ အိမ်များတွင် နေသူများကို အဦးထား၍ ပေးကြရမည်။

၂။ 'ခိုင်ရာတ်' လှူဖွယ် ပစ္စည်းကို အနည်းငယ်ပင် ဖြစ်စေ အရှက်မထားနှင့်၊ ပေးလှူကုန်။

၃။ ဇကာတ်ပေးပြီးနောက် ခိုင်ရာတ်ပေးရန်မလိုဟုမယူဆနှင့်၊ လိုအပ်သောအခါ တတ်နိုင်သည်ခန့် ခိုင်ရာတ် လှူတန်းကုန်။

အမျိုးသမီးများသည် ဆဒကဟ်ခိုင်ရာတ်လှူတန်းနေကြရန်ထိုက်ပေသည်၊ အဘယ့်ကြောင့် ဆိုသော် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အမျိုးသမီးများကို ဂျဟန္နမ်အပါယ်ငရဲဘုံ၌ မြောက်မြားစွာ မြင်တွေ့တော်မူသည် ဟု မိန့်ဆိုတော်မူပေသည်။

၄။ ဆွေမျိုးသားချင်းများကို ပေးခြင်းဖြင့် ကုသိုလ်သဝါဗ် နှစ်ဆရလေသည်၊ ခိုင်ရာတ်လှူတန်းခြင်း၏အကျိုးနှင့် ဆွေမျိုးသားချင်းတို့ကို ကျေးဇူးပြုခြင်း၏ အကျိုးသဝါဗ် ရလေသည်။

၅။ ဆင်းရဲသော အိမ်နီးချင်းတို့ကို ဂရုစိုက်ကုန်။

၆။ အမျိုးသမီးသည် ခင်ပွန်းသည်၏ ပစ္စည်းမှ ခင်ပွန်းသည် စိတ်ဆိုးလောက်အောင် 'ခိုင်ရာတ်' ပေးလှူခြင်း မပြုရ။

## ရိဇဟ် အကြောင်း

'အမလ်' လိုက်နာရန် အချက်များ။

၁။ 'ရိဇဟ်' ဥပုသ်စောင့်ရာ၌ အကျိုးမဲ့ အဟောသိကစကားများ ပြောဆိုခြင်း၊ ခိုက်ရန်ဖြစ်ခြင်းတို့သည် လွန်စွာမကောင်းသောကိစ္စဖြစ်သည်၊ ရဝ်းတစ်ဦးဦးအား(ဂီဗတ်) နောက်ကွယ်အတင်းပြောမှု၊ ပို၍ပင် 'ဂိုနာဟ်' အပြစ်ကြီးလေသည်။

၂။ အမျိုးသမီးသည် ခင်ပွန်းသည်အိမ်တွင်ရှိပါက ခင်ပွန်းသည်အားခွင့်ပန်ပြီးမှ 'နဖိလ်ရိဇဟ်' ထားရမည်။

၃။ 'ရမသွန်'လမြတ် (၁၀)ရက်အကျန်တွင် အမလ်အဲဗာဒတ် ခ,ဝပ်မှုကို ပိုမို၍ ပြုကုန်။

# ကုရ်အာန် ကျမ်းတော်မြတ် ဖတ်ရန် အကြောင်း

'အမလ်' လိုက်နာရန် အချက်များ။

၁။ အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ်ကို ကောင်းစွာ ပီပီသသ မဖတ်နိုင်လျှင် စိတ်ပျက်၍ လွှတ်မထားနှင့်၊ ဆက်တိုက် ဖတ်နေရမည်၊ ဤသို့သောသူမှာ ကုသိုလ် သဝါဗ် နှစ်ဆရပေသည်။

၂။ အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ် ဖတ်နိုင်နေလျှင် မမေ့စေနှင့်၊ သာမက ထာဝရ ဖတ်ရွတ်သရဇ္ဈာယ်နေကုန်၊ သို့တည်းမဟုတ် မေ့သွားပါက ဂိုနာဟ် ကြီးစွာ ခံရမည်။

၃။ ကုရ်အာန် ကျမ်းတော်မြတ်ကို စိတ်ပါလက်ပါ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့၍ ဖတ်ရွတ်နေကုန်။

# ဒိုအာ နှင့် သစ်ကျ်ရ် အကြောင်း

'အမလ်' လိုက်နာရန် အချက်များ။

၁။ 'ဒိုအာ'ဆုမွန် တောင်းဆိုရာ၌ အောက်ပါ အချက်များကို ဂရုစိုက်ရမည်၊ ကောင်းစွာစိတ်ထက်သန်စွာဖြင့်ဒိုအာတောင်းရမည်၊ ဂိုနာဟ်အပြစ်ဖြစ်မည့် အရာကို မတောင်းဆိုရ၊ အကယ်၍ လိုလားချက်မရသေး၊ မပြည့်စုံသေးလျှင် စိတ်အားလျော့၍ တောင်းဆိုမှုကို လျော့မပစ်နှင့်၊ အလ္လာဟ်အသျှင်မြတ်က လက်ခံတော်မူမည် ဟူ၍ ယုံကြည်မှုထားကုန်။

(မစ်ရှ်ကာတ်ကျမ်း စာမျက်နှာ-၁၉၅)

၂။ ဒေါသအလျောက် မိမိ၏ပစ္စည်း၊ သားသမီးအသက်ကိုမကျိန်ဆဲနှင့်၊ အလ္လာဟ် အသျှင်မြတ်က ဒိုအာလက်ခံတော်မူသောအချိန်နှင့် တိုက်ဆိုင်နေလျှင် ခက်ပေမည်။

၃။ တစ်နေနေရာတွင် ထိုင်၍ လောကီစကားများ၊ လုပ်ငန်းဆောင်တာများကို ပြောဆိုနေလျှင်၊ ထိုအချိန်၌ အနည်း အကျဉ်း အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား သစ်ကျ်ရ် တသမှုကို အမှန်ပြုရမည်၊ သစ်ကျ်ရ် တသခြင်း မပြုပါက ထိုလုပ်ငန်းများမှာ ဘေးဒုက္ခ တွေ့တတ်သည်။

၄။ 'အစ်တစ်ဂ်ဖွာရ်' အပြစ် ချမ်းသာသုတောင်းဆိုမှုကို များများပြောင်စွာ ပြုကုန်၊ ဤသို့ တောင်းဆိုခြင်းဖြင့် အခက်အခဲများ လွယ်ကူမှုဖြစ်ခါ ရိဇ်ဇ် စားနပ် ရိက္ခာတွင် 'ဘရ်ကတ်' ဖြစ်ပေသည်။

၅။ အကယ်၍ စိတ်အလိုကြောင့် ဂိုနာဟ်ပြစ်မှုတစ်ခုခု ကျူးလွန်မိလျှင် ထိုဂိုနာဟ် အမှားဝန်ခံမှုကို ချက်ချင်းပြုရမည်၊ ဆိုင်းတွဲမထားနှင့်၊ အကယ်၍ တစ်ဖန် ကျူးလွန်မိပြန်လျှင် ထပ်၍ 'တောင်ဗဟ်'ပြုကုန်၊ တောင်ဗဟ်ပြုပြီး ထပ်၍ ကျူးလွန်မိပြန်သဖြင့် တောင်ဗဟ်ပြု, အမှားဝန်ခံနေခြင်းဖြင့် အကျိုးရှိမည် မဟုတ်ဟု မယူဆလေနှင့်။

၆။ အချို့ဒိုအာများသည် သီးခြားသောအချိန်တွင် ဖတ်ရလေသည်၊ အိပ်သော အခါ ဤဒိုအာကို ဖတ်ကုန်။

اَللّٰهُمَّ بِاسْمِكَ اَمُوْتُ وَاَحْيٰى

အလ္လာဟုမ္မ၊ ဗစ်မေ့က၊ အမူတို၊ ဝအဟ်ယာ။

အဓိပ္ပါယ်။ အို ... အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးသည် ကိုယ်တော်အသျှင်၏ နာမံတော်နှင့်အတူ ရှင်နေပါသည်၊ ၎င်းသေပါသည်။

အိပ်ရာမှ နိုးသောအခါ ဤဒိုအာကို ဖတ်ကုန်။

اَلْحَمْدُ لِلّٰهِ الَّذِىْ اَحْيَانَا بَعْدَ مَا اَمَاتَنَا وَاِلَيْهِ النُّشُوْرُ

အလ်ဟမ်ဒို၊ လစ်လ္လာဟင်လ်လသီ၊ အဟ်ယာနာ၊ ဗအ်ဒ၊ မာအမာတနာ၊ ဝအေ့ လိုင်ဟင်န်၊ နို့ရှူရ်။

အဓိပ္ပါယ်။ ချီးမွမ်း ထောပနာ ပြုပြုသမျှ အပေါင်းသည် အလ္လာဟ်အသျှင်မြတ် အတွက်သာတည်း၊ အကြင်အသျှင်မြတ်က ကျွန်ုပ်ကိုသေစေပြီးနောက် ရှင်စေတော်မူသည်၊ ၎င်းထိုအသျှင်ဘက်တော်သို့ (သေပြီးနောက်) ရှင်၍ တစ်ဖန်ပြန်လှည့်ကြရမည်။

နံနက်အချိန်တွင် ဤဒိုအာကို ဖတ်ကုန်။

اَللّٰهُمَّ بِكَ اَصْبَحْنَا وَبِكَ اَمْسَيْنَا وَبِكَ نَحْيٰى وَبِكَ نَمُوْتُ
وَاِلَيْكَ النُّشُوْرُ

အလ္လာဟုမ္မ၊ ဗေ့က၊ အတ်စ်ဗဟ်နာ၊ ဝဗေ့က၊ အမ်စိုင်နာ၊ ဝဗေ့က၊ နဟ်ယာ ဝဗေ့က၊ နမူတို၊ ဝအေ့လိုင်ကန်၊ နို့ရှူရ်။

အဓိပ္ပါယ်။ အို ... အလ္လာဟ် အသျှင်မြတ်၊ ကျွန်တော်မျိုးသည် ကိုယ်တော်၏ အမိန့်သဟဲဖြင့် နံနက်လင်းခဲ့ပါသည်၊ ၎င်းကိုယ်တော်အသျှင်၏ အမိန့်သဟဲဖြင့် နေကုန်ခဲ့ပါ

သည်၊ ၎င်းကိုယ်တော်အသျှင်မြတ်၏ 'ကုဒ်ရတ်' တန်ခိုးဂုဏ်တော် ဘုန်းတော်ကြောင့် အသက်ရှင်နေကြပါသည်၊ ၎င်းကိုယ်တော်အသျှင်မြတ်၏ 'ကုဒ်ရတ်' ၎င်း အမိန့်တော်မြတ်ဖြင့် ကျွန်တော်မျိုးများ သေကြရပါသည်၊ ၎င်းကိုယ်တော်အသျှင်၏ ဘက်တော်သို့ ရှင်ပြန် လှည့်ကြရမည် ဖြစ်ပါသည်။

ညနေအချိန်တွင် ဤဒိုအာကိုဖတ်ကုန်။

اَللّٰهُمَّ بِكَ اَمْسَيْنَا وَبِكَ اَصْبَحْنَا وَبِكَ نَحْيٰى وَبِكَ نَمُوْتُ

وَاِلَيْكَ النُّشُوْرُ

အလ္လာဟွမ္မ၊ ဗေ့က၊ အမ်စိုင်နာ၊ ဝဗေ့က၊ အတ်စ်ဗဟ်နာ၊ ဝဗေ့ကနဟ်ယာ ဝဗေ့က၊ နမူဘို၊ ဝအေ႐ိုလိုင်ကန်၊ နိုရှူ႐ိ။

အဓိပ္ပါယ်မှာ.... နံနက်အချိန် ဖတ်ရန် ဒိုအာ၏ အဓိပ္ပါယ်အတိုင်းပင် ဖြစ်သည်၊ ထမင်း စားသောက်ပြီး နောက် ဤ ဒိုအာကို တစ်ကိုယ်တည်း ဖတ်ကုန်။

اَلْحَمْدُ لِلّٰهِ الَّذِىْ اَطْعَمَنَا وَسَقَانَا وَجَعَلَنَا مِنَ الْمُسْلِمِيْنَ وَكَفَانَا وَاٰوَانَا

အလ်ဟမ်ဒို၊ လစ်လ္လာဟင်လ်လသီ၊ အတ္တ^အမ္မနာ၊ ဝစကာနာ၊ ဝဂျအလနာ မိနလ်မွတ်စ်လေ့မီန၊ ဝကဖွာနာ၊ ဝအာဝါနာ။

အဓိပ္ပါယ်။ ချီးမြှင့်ထောပနာ ပြုပြုသမျှ အပေါင်းသည် ထိုကြီးကျယ် မြတ်ထွတ်တော်မူသော အလ္လာဟ်အသျှင်မြတ်အတွက် သာတည်း၊ အကြင် အသျှင်က ကျွန်တော်မျိုးများကို ကျွေးမွေးထားတော်မူသည်၊ ၎င်းအကြင်အသျှင်က ကျွန်တော်မျိုးများကို တိုက်ကျွေးတော်မူသည်၊ ၎င်းအကြင်အသျှင်က ကျွန်တော်မျိုးများကို မွတ်ဆ်လင်မ်များအနက်မှ ဖြစ်စေတော်မူသည်၊ ၎င်းအကြင်အသျှင်က ကျွန်တော်မျိုးများအတွက် အစစအရာရာ ပြည့်စုံ လုံလောက်စေတော်မူသည်၊ ၎င်း အကြင်အသျှင်က ကျွန်တော်မျိုးများကို နေထိုင်ရန် နေရာချထားပေးတော်မူသည်။

ဖွဂျ်ရ်နမာဇ်ပြီး နှင့် မဂ်ရစ်ဗ်နမာဇ်ပြီးနောက်...

اَللّٰهُمَّ اَجِرْنِىْ مِنَ النَّارِ

အလ္လာဟွမ္မ၊ အဂျင်ရ်နီ၊ မေနန်နာရေ။ ကို (၇) ကြိမ် ဖတ်ကုန်။

အမိပ္ပါယ်။ အို...အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးကို 'ဂျဟန္နမ်' အပါယ်ငရဲမီးဘေးမှ လွတ်ကင်းစေတော်မူပါ။

ထို့နောက်....

بِسْمِ اللّٰهِ الَّذِىْ لَا يَضُرُّ مَعَ اسْمِهٖ شَيْئٌ فِى الْاَرْضِ وَلَا فِى السَّمَاءِ وَهُوَ السَّمِيْعُ الْعَلِيْمِ

ဗစ်မစ်လ္လာဟင်လ်လသီ၊ လာယဉ္ဇုရ်ရို့၊ မအာတ်စ်မေ့ဟီ၊ ရှိုင်အွန်၊ ဖွင်လ်အရ်ဒွေ့ ဝလာဖွစ်စမာအေ့၊ ဝဟို့ဝတ်စ်စမီအွလ်၊ အလီးမ်။ ကို (၃)ကြိမ် ဖတ်ကုန်။

အမိပ္ပါယ်။ ကျွန်တော်မျိုးသည် အလ္လာဟ်အသျှင်မြတ်၏ နာမ ်တော်ဖြင့် အဦးအစပြုပါသည်၊ အကြင်အသျှင်မြတ်၏နာမ ်တော်ဖြင့် မိုးမြေ၌ရှိသော မည်သည့်အရာမျှ ဆိုးရှုံးနစ်နာမှု မပြုနိုင်၊ ၎င်းထိုအသျှင်သာလျှင် ကြားတော်မူသော သိတော်မူသော အသျှင် ဖြစ်တော်မူပေသည်။

အစီးအနင်း၌ ထိုင်သောအခါ ဤဒိုအာကို ဖတ်ကုန်။

سُبْحَانَ الَّذِىْ سَخَّرَ لَنَا هٰذَا وَمَا كُنَّا لَهٗ مُقْرِنِيْنَ وَ اِنَّا اِلٰى رَبِّنَا لَمُنْقَلِبُوْنَ

စွဗ်ဟာနလ္လာသီ၊ စခ်ခရလနာ၊ ဟာသာ၊ ဝမာကွန်နာ၊ လဟူ၊ မွတ်က်ရေ့နီန၊ ဝအင်န်နာ၊ အေ့လာရဗ်ဗေ့နာ၊ လမွန်ကလေ့ဗူန်။

အမိပ္ပါယ်။ ထိုအလ္လာဟ်အသျှင်သည် သန့်ရှင်းတော်မူသည်၊ အကြင်အသျှင်က (ဤအစီးအနင်းကို) ကျွန်တော်မျိုး အသုံးချရန် ပေးသနားတော်မူသည်၊ အမှန်မှာ ကျွန်တော်မျိုးသည် ဤအစီးအနင်းကို ထိန်းထားနိုင်သူမဟုတ်ပါ၊ ၎င်းကျွန်တော်မျိုးတို့သည် မိမိတို့အား ဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြရမည့်သူများ ဖြစ်ကြကုန်၏။

တစ်ဦးတစ်ယောက် အိမ်တွင် ထမင်းစားသုံးသော် စားပြီးနောက် ဤဒိုအာကို တစ်ကိုယ်တည်း ဖတ်ကုန်။

اَللّٰهُمَّ بَارِكْ لَهُمْ فِيْمَا رَزَقْتَهُمْ وَاغْفِرْ لَهُمْ وَارْحَمْهُمْ

အလ္လာဟုမ္မ၊ ဗါရစ်က်၊ လဟုမ်၊ ဖွီမာရဇပ်က်တဟုမ်၊ ဝဂ်ဖွင်ရ်၊ လဟုမ် ဝရ်ဟမ်ဟုမ်။

အဓိပ္ပါယ်။ အို...အလ္လာဟ်အသျှင်မြတ်၊ ကိုယ်တော်အသျှင်က ထိုသူ့အား ပေးထားသောပစ္စည်းများတွင် 'ဘရ်ကတ်' ပြုပေးတော်မူပါ၊ ထိုသူ၏အပြစ်'ဂိုနာဟ်'များကို လွှတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူပါ၊ ၎င်းထိုသူ့အပေါ် မဟာကရုဏာသက်တော်မူပါ။

လမြင်သောအခါ ဤဒိုအာကို ဖတ်ကုန်။

اَللّٰهُمَّ اَهِلَّهٗ عَلَيْنَا بِالْاَمْنِ وَالْاِيْمَانِ وَالسَّلَامَةِ وَالْاِسْلَامِ رَبِّيْ وَرَبُّكَ اللّٰهُ

အလ္လာဟုမ္မ၊ အဟင်လ်လဟူ၊ အလိုင်နာ၊ ဗင်လ်အမ်နေ့၊ ဝလ်အီမာနေ့၊ ဝတ်စ်စလာမတေ့၊ ဝလ်အစ္စလာမေ့၊ ရဗ်ဗီ၊ ဝရဗ်ဗို့ကလ္လာဟို့။

အဓိပ္ပါယ်။ အို...အလ္လာဟ်အသျှင်မြတ်၊ ဤလကို ကျွန်တော်မျိုးများ အပေါ် 'ဘရ်ကတ်' ရှိခြင်း၊ 'အီမာန်' ရှိခြင်းနှင့် ချမ်းမြေ့သာယာစွာဖြင့် ထွက်ခြင်း ပြုပေးသနားတော်မူပါ၊ (အို့...လ) သင့်အား မွေးမြူဖန်ဆင်းသူနှင့် ကျွန်ုပ်အား မွေးမြူဖန်ဆင်းသူသည် အလ္လာဟ်အသျှင်မြတ် ဖြစ်တော်မူသည်။

ဒုက္ခရောက်သူ တစ်ဦးတစ်ယောက်ကို မြင်လျှင် ဤဒိုအာကို ဖတ်ကုန်၊ အလ္လာဟ် အသျှင်မြတ်သည် သင့်အား ဤဒုက္ခမှ လွတ်ကင်းစွာ ထားတော်မူပေမည်။

اَلْحَمْدُ لِلّٰهِ الَّذِيْ عَافَانِيْ مِمَّا ابْتَلَاكَ بِهٖ وَفَضَّلَنِيْ عَلٰى كَثِيْرٍ مِّمَّنْ خَلَقَ تَفْضِيْلًا

အလ်ဟမ်ဒ္ဒိုလစ်လ္လာ၊ ဟင်လ်လသီ၊ အာဖွာနီ၊ မင်မ်မဗ်တလာက၊ ဗေ့ဟီ၊ ဝဖွာတ်သွလနီ၊ အလာကသီရင်၊ မင်မန်ခလက၊ တဖ်သွီလာ။

အဓိပ္ပါယ်။ ချီးမြင့်ထောပနာ ပြုပြုသမျှ အပေါင်းတို့သည် ထိုကြီးကျယ်တော်မူသော အသျှင်မြတ် အတွက် သာဖြစ်သည်၊ အကြင် အသျှင်မြတ်က ကျွန်တော်မျိုးအား ဤဒုက္ခမှ လွတ်ကင်းစေတော်မူ၍ သင့်အား ဤဒုက္ခ၌ထားတော်မူသည်၊ ၎င်းကျွန်တော်မျိုးအား များစွာသော 'မခ်လူးက်' အဖန်ဆင်းခံများ အပေါ် ပြည့်စုံသော ထွတ်မြတ်ခြင်း ပေးသနားတော်မူသည်။

တစ်ဦးတစ်ယောက်သည်သင်နှင့်ခွဲခွါသွားလျှင် ထိုသူ့အားဤသို့ပြောဆိုနှုတ်ဆက်ကုန်။

اَسْتَوْدِعُ اللّٰهَ دِيْنَكُمْ وَاَمَانَتَكُمْ وَخَوَاتِيْمَ اَعْمَالِكُمْ

အတ်စ်တောင်၊ ဒေ့အွလ်လာဟ၊ ဒီနကွန်မ်၊ ဝအမာနတကွန်မ်၊ ဝခဝါတီမ၊ အအ်မာလေ့ကွန်မ်။

အဓိပ္ပါယ်။ ကျွန်ုပ်သည် သင်၏ 'အီမာန်' ယုံကြည်ချက်၊ ၎င်းသင့်အတွက် ထိန်းသိမ်းသင့်သောပစ္စည်းများနှင့် သင်၏'အမလ်'များ၏အဆုံး ကောင်းမှုများကို အလ္လာဟ်အသျှင်မြတ်အား အပ်နှင်းပါသည်။

သတို့သား၊ ၎င်းသတို့သမီးအား 'နေကာဟ်' လက်ထပ်မှုအတွက် ကောင်းချီးပေးလျှင် ဤသို့ဆိုကုန်။

بَارَكَ اللّٰهُ لَكُمَا وَبَارَكَ عَلَيْكُمَا وَجَمَعَ بَيْنَكُمَا فِيْ خَيْرٍ

ဗာရကလ္လာဟို၊ လကို့မာ၊ ဝဗာရက၊ အလိုင်ကို့မာ၊ ဝဂျမအ၊ ဗိုင်နကို့မာ၊ ဖွီခိုင်ရင်န်

အဓိပ္ပါယ်။ အလ္လာဟ်အသျှင်မြတ်သည် သင်တို့နှစ်ဦး အပေါ်တွင် 'ဘရိကတ်' ကောင်းချီး မင်္ဂလာ ပေးတော်မူပါစေ၊ ၎င်းသင်တို့နှစ်ဦးအား ဘရိကတ် ဖြစ်တော်မူပါစေ၊ ၎င်းသင်တို့နှစ်ဦးအား ကောင်းစွာဆက်ဆံမှု ပြုပေးတော်မူပါစေ။

တစ်ဦးတစ်ယောက် ဒုက္ခရောက်နေလျှင်၊ ဤဒိုအာကို ဖတ်ကုန်။

يَا حَيُّ يَا قَيُّوْمُ بِرَحْمَتِكَ اَسْتَغِيْثُ

ယာဟိုက်ယို့၊ ယာကိုက်ယူမို့၊ ဗေ့ရဟ်၊ မတေ့က၊ အတ်စ်တဂီသို။

အဓိပ္ပါယ်။ အို အမြဲရှင်နေ ၎င်း တည်နေတော်မူသောအသျှင်မြတ်၊ ကိုယ်တော်၏ 'ရဟ်မတ်' မဟာကရုဏာတော် ရရှိရန် တောင်းဆိုအသနားခံပါ၏။

နမာဇ်ငါးကြိမ်ပြီးတိုင်းနှင့် အိပ်စက်သောအခါ ဤဒိုအာများကို ဖတ်ရွတ်ကုန်။

اَسْتَغْفِرُ اللّٰهَ الَّذِيْ لَآ اِلٰهَ اِلَّا هُوَ الْحَيُّ الْقَيُّوْمُ وَاَتُوْبُ اِلَيْهِ

အတ်စ်တဂ်ဖွေရုလ်လာ၊ ဟလ်လဇီ၊ လာအေ့လာဟ၊ အစ်လ္လာ၊ ဟွီဝလ်ဟိုက်ယွလ်ကိုက်ယူမို့၊ ဝအတူဗို့၊ အေ့လိုင်ဟေ့။ ကို (၃)ကြိမ် ဖတ်ကုန်။

အခ်ိပ္ပါယ်။ ကျွန်တော်မျိုးသည် ကြီးကျယ် မြတ်ထွတ်တော်မူသော အလ္လာဟ် အသျှင်မြတ်ထံတော်တွင် 'မဂ်ဖွေရတ်' လွှတ်ငြိမ်းချမ်းသာမှုတောင်းခံပါသည်၊ ထိုအသျှင် မြတ်မှတစ်ပါး မည်သူမျှ ခ, ဝပ်ကိုးကွယ်ခြင်း ခံထိုက်သူမရှိ၊ ထိုအသျှင်သည် အမြဲရှင်နေ တော်မူသော အမြဲ တည်ရှိတော်မူသော အသျှင်ဖြစ်တော်မူသည်၊ ၎င်း ထိုအသျှင့် ဘက် တော်သို့ ကျွန်တော်မျိုး လှည့်ပါ၏။ (တောင်ပတ်ပြုပါ၏။)

لَآ اِلٰهَ اِلَّا اللّٰهُ وَحْدَهٗ لَا شَرِيْكَ لَهٗ لَهُ الْمُلْكُ وَلَهُ الْحَمْدُ
وَهُوَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ

လာအေ လာဟ၊ အစ်လလ္လာဟို၊ ဝဟ်ဒဟူ၊ လာရှရီက၊ လဟူ၊ လဟွလ်မွလ်ကို၊ ဝလဟွလ်ဟမ်ဒို၊ ဝဟို၀၊ အလာကွလ်လေ၊ ရှိုင်အင်ကဒီးရ်။ ကို (၁) ကြိမ် ဖတ်ကုန်။

အခ်ိပ္ပါယ်။ အလ္လာဟ်အသျှင်မြတ်မှတစ်ပါး မည်သူမျှ ခ, ဝပ်ကိုးကွယ်ခြင်း ခံထိုက် သူ မရှိ၊ ထိုအသျှင်သည် တစ်ပါးတည်းတည်ရှိတော်မူသည်၊ ထိုအသျှင်နှင့် ဖက်ပြိုင်နိုင်သူ မည်သူမျှမရှိ၊ ထိုအသျှင့်သည် လောကအားလုံးကို ပိုင်ဆိုင်တော်မူသည်၊ ထိုအသျှင်မြတ် အတွက် (နှစ်လောက)လုံးတွင် ချီးမွမ်းထောပနာခြင်းများရှိသည်၊ ၎င်း ထိုအသျှင့်မြတ် သည် အရာခပ်သိမ်းကို စွမ်းနိုင်တော်မူသော အသျှင် ဖြစ်တော်မူလေ၏။

စွဗ်ဟာနလ္လာဟ် (၃၃) ကြိမ်ဖတ်ကုန်။

اَلْحَمْدُ لِلّٰهِ

အလ်ဟမ်ဒို၊ လစ်လ္လာဟ် (၃၃) ကြိမ် ဖတ်ကုန်။

اَللّٰهُ اَكْبَرُ

အလ္လာဟို၊ အတ်ကဗရ် (၃၄) ကြိမ် ဖတ်ကုန်။

قُلْ أَعُوذُ بِرَبِّ الْفَلَقِ မှ قُلْ أَعُوذُ بِرَبِّ النَّاسِ

ကုလ်အအူဇူ ဗိ ရဗ်ဗင်နာစေ (နှင့်)ကုလ်အအူဇူ ဗိ ရဗ်ဗင်လ်ဖလက ကို (၁) ကြိမ်စီ ဖတ်ကုန်။

အာယတုလ် ကုရ်စီ (၁) ကြိမ်ဖတ်ကုန်။

အာယတုလ် ကုရ်စီသည် တင်လ်ကရ်ရှိစိုလိုဂျဇ် အစတွင် ပါရှိသည်၊ ဟဒီးသ် တော်မြတ်တွင် ဤသည်၏ ထူးမြတ်ခြင်းများ မြောက်မြားစွာ လာရှိသည်၊ အကြင်သူ သည် မိမိအိမ်၌ အာယတုလ်ကုရ်စီကို (၁) ကြိမ်ဖတ်လျှင် ထိုအိမ်၌ ရှိုင်တာန်မိစ္ဆာမဝင် ရောက်ပေ၊ ထို့ပြင် အိပ်ရာထက်တွင် အိပ်သောအခါ တွဟာရတ် သန့်ပြန့်စွာဖြင့်ဖတ်မူ 'ရှိုင်တာနီ' အိပ်မက် (အိပ်မက်ဆိုး) များနှင့် မကောင်းသော အတွေးများမှ လွတ်ကင်း နေမည်ဖြစ်လေသည်။

နံနက်အချိန်တွင် စူရဟ်ယာစီန် (၁) ကြိမ်၊ ၎င်း မဂ်ရစ်ဗ် နမာဇ် ပြီးနောက် စူရဟ်ဝါကေအဟ် (၁) ကြိမ်၊ အေရှာအ် နမာဇ်ပြီးနောက် တဗာရကလ္လဇီ (၁) ကြိမ် ၎င်းသောကြာနေ့တွင် စူရဟ်ကဟ်ဖ် (၁) ကြိမ် ဖတ်ရွတ်သဇ္ဈာယ်ကုန်။

آمَنَ الرَّسُولُ မှ

အိပ်သောအခါ အာမနရ်ရစူလို လည်းစူရဟ်အဆုံးထိ(၁)ကြိမ် ဖတ်ကုန်၊၎င်းတတ် နိုင်သည်ခန့် ကုရ်အာန်ကျမ်းတော်မြတ်ကို နေ့စဉ်ဖတ်ရွတ်ကုန်၊ သိမှတ်ထားကြရမည်မှာ တင်ပြပါ အချက်များကို ဖတ်ခြင်းဖြင့် ကုသိုလ်သဝါဗ် ရလေသည်၊ မဖတ်လျှင်လည်း ဂိုနာဟ် အပြစ်ကားမဖြစ်ချေ၊ သို့သော် တတ်နိုင်သည်ခန့် နေ့စဉ် ကုရ်အာန်ကျမ်းတော် မြတ် ဖတ်ခြင်းကို မလွှတ်သင့်ပေ။

# ကဆမ် နှင့် ကိုးခြင်း အကြောင်း

အမလ် လိုက်နာရန် အချက်များ....

၁။ အလ္လာဟ်အသျှင်မြတ်မှတစ်ပါးအခြားမည်သည့်အရာနှင့်မှ 'ကဆမ်' မကျိန်နှင့် ဥပမာ....မိမိရင်သွေး၊ မိမိ၏ကျန်းမာခြင်း၊ မိမိ၏မျက်စိစသည်များ ဤသို့ကျိန်တွယ်ခြင်း ပြုပါက 'ဂိုနာဟ်' ဖြစ်လေသည်၊ မေ့လျော့၍ ဤသို့ 'ကဆမ်' ကျိန်မိလျှင် ချက်ချင်း ကလေမဟ်တော်ကို ဖတ်လိုက်ကြရမည်။

၂။ မှန်ကန်သောစကားပင် ဖြစ်စေကာမူ အကယ်၍ ကျွန်ုပ် မုသားပြောဆိုခဲ့ပါလျှင် အိမာန်ပျက်ပါစေသားဟု ဘယ်သောအခါမှ 'ကဆမ်' မကျိန်ဆိုနှင့်။

၃။ အကယ်၍ ဒေါသအလျောက် ဂိုနာဟ်ဖြစ်သောအချက်ကို 'ကဆမ်' ကျိန်ဆိုမိလျှင်'ကဆမ်'ကိုဖျက်၍ 'ကဖ်ဖွာရဟ်' ပေးကုန်၊ ဥပမာ... ဖခင်၊ ရင်းမိခင်နှင့် စကားမပြော၊ ထို့ပြင် ဤသို့အလားတူ 'ကဆမ်' ကျိန်ဆိုခြင်းပြုခဲ့လျှင် ဖျက်ပြီးကဖ်ဖွာရဟ်ပေးရမည်။

# ဆက်ဆံမှုနှင့် ပေးယူခြင်းများ အကြောင်း

မို့အာမလတ် ဆက်ဆံမှုများ—

၁။ ဟာရာမ်၊ ဟလာလ် တရားမျှတစွာ ယူသောငွေနှင့် မတရားသဖြင့် ယူသောငွေကို ခွဲခြားခြင်းမပြုနိုင်လောက်အောင် ငွေကြေးကို လောဘမထားနှင့် ဟလာလ် သန့်ပြန့်သောပစ္စည်းကို အလ္လာဟ်အသျှင်မြတ်က ပေးထားတော်မူလျှင် ထိုပစ္စည်း အလဟာသသုံးဖြုန်းမပစ်နှင့် ချင့်ချိန်၍သုံးကုန်၊ မသုံးမဖြစ်သောနေရာမှသာ သုံးစွဲရမည်။

၂။ ဒုက္ခရောက်နေသူသည် မတတ်သာ၍ မိမိပစ္စည်းကိုရောင်းလျှင် မရောင်းတဲနေနိုင်မည်မဟုတ်ဟုသိကာ ဖိနှိပ်ခြင်းမပြုနှင့် မနှိမ်နှင့် ထိုသူ့ကို ကူညီကုန်၊ သို့မဟုတ် သင့်လျော်သောဈေးဖြင့် ဝယ်ယူလိုက်ရမည်။

၃။ အကယ်၍ သင့်ထံမှ ကြွေးယူထားသူသည် ဆင်းရဲလျှင် ထိုသူ့ကို စိတ်ဒုက္ခမရောက်စေနှင့် သာမက ပေးဆပ်ရန်အချိန် တိုးမြှင့်ပေးကုန်၊ အချို့တစ်ဝက်ဖြစ်စေ အားလုံးကိုဖြစ်စေ လျှော်ပစ်ကုန်။

၄။ သင့်မှာ တစ်ဦးတစ်ယောက်အား ပေးဆပ်ရန်ကြွေးရှိသည်၊ သင့်မှာပေးဆပ်ရန် ငွေရှိပါလျက် မပေးသေးဘဲ ရက်ရွှေ့ဆိုင်းထားလျှင် မတရားမှုပင်ဖြစ်သည်၊ ရှိလျှင် ရှိချင်းပေးဆပ်ရမည်။

၅။ ဖြစ်နိုင်လျှင် မည်သူ့ထံမှ ကြွေးငွေချေးနှင့် အကယ်၍ မတတ်သာသဖြင့် ချေးယူခဲ့သော် အမြဲထာဝရ ပေးဆပ်ရန် အကြံထုတ်နေကုန်၊ ပေးဆပ်ရန် ဆန္ဒထားခြင်းမှ ကျောမခိုင်းနှင့် ကြွေးရှင်က တစ်စုံတစ်ရာမကျေနပ်၍ ပြောဆိုလျှင် ပြန့်လှန်ရန်တွေခြင်း မပြုနှင့် စိတ်မဆိုးနှင့်။

၆။ ဂျီဆယ်သောသဘောဖြင့် တစ်ဦးတစ်ယောက်၏ပစ္စည်းကို ယူငှက်ခြင်းဖြင့် ထိုသူ့မှာ စိတ်ဒုက္ခရောက်မည်ဖြစ်လျှင် အလွန်မကောင်းသောအလုပ်ဖြစ်သည်၊ မပြုလုပ်အပ်ပေ။

၇။ လုပ်သားအား အလုပ်ခိုင်းပြီး ထိုသူ၏လုပ်ခကို ပေးရန်ပျက်ကွက်ခြင်းမပြုနှင့်

၈။ မိုးခေါင် ဒုက္ခရောက်သောအခါ အချို့သူတို့သည် မိမိတို့၏ရင်သွေးများ၊ ငဝ်းအခြားသူတို့၏ကလေးများကိုရောင်းပစ်ကြသည်၊ ထိုကလေးများကိုငွေဝယ်ကျွန်ထီး, ကျွန်မပြုခြင်း 'ဟရာမ်' ကြီးလေးသောအပြစ်ဖြစ်သည် မပြုပိုင်။

၉။ ချက်ပြုတ်ရန်အတွက် တစ်ဦးဦးအား မီးပေးခြင်း၊ စားဖွယ်အတွက် ဆား တောင်း၍ ပေးလိုက်ခြင်းတို့သည်ထမင်းကျွေးမွေးသကဲ့သို့ ကုသိုလ် 'သဝါဗ်'ရလေသည်။

၁၀။ ရေတစ်ခွက်တိုက်ခြင်းပင် ကြီးမားသော ကုသိုလ် 'သဝါဗ်' ရလေသည်၊ ရေပေါများသောနေရာတွင် ရေတိုက်ခြင်းဖြင့် ကျွန်တစ်ယောက် သူကောင်းပြုခြင်း၏ ကုသိုလ် 'သဝါဗ်' ရသည်၊ ရေရှားပါးသောနေရာတွင် ရေတိုက်ခြင်းဖြင့် သေသူကို ရှင်ဖအောင်ပြုသော ကုသိုလ် 'သဝါဗ်' ရပေသည်။

၁၁။ အကယ်၍သင်သည် တစ်ဦးတစ်ယောက်မှ ရရန်, ပေးရန်ရှိနေလျှင်ငင်းတစ်ဦး တစ်ယောက်က အပ်နှံထားသောပစ္စည်းရှိလျှင် နှစ်ဦး,လေးဦးအား ပြောပြထားကုန်၊ သို့မဟုတ် ရေးမှတ်ထားကုန်၊ အကယ်၍ ရုတ်တရက် သေဆုံးသွားခဲ့သော်.... သင့်အပေါ် မည်သူ၏တာဝန်မှ မကျန်ရစ်ပေမည်။

# နေကာဟ် ထိမ်းမြား လက်ထပ်မှု အကြောင်း

မို့အာမလဟ် ဆက်ဆံမှုများ....

၁။ မိမိတို့၏ သား,သမီးအား နေကာဟ် ထိမ်းမြား လက်ထပ်ပေးရာ၌ ဘာသာ, သာသနာရေး လေးစားသူအား ရွေးချယ်ကုန်၊ ပစ္စည်းနှင့် ဂုဏ်သရေအပေါ် မလိုက်နှင့် သီးခြား၍ ယခုခေတ်အခါသမယတွင် အင်္ဂလိပ်စာ ဖတ်ထားခြင်းဖြင့် 'ကွဖ်ရ်' ဘာသာ ပျက်သော အသုံးအနှုန်းများ ပြောဆိုတတ်ကြသည်၊ ဤသို့ 'ကွဖ်ရ်' စကားသုံးသူနှင့် နေကာဟ်ပင် မပိုင်ပေ၊ ရာသက်ပန် (ဇနာ) လောရီဖေါက်ပြားသော 'ဂိုနာဟ်' ခံနေရမည်။

၂။ များသောအားဖြင့် အမျိုးသမီးများ၏ ဓလေ့တစ်ခုမှာ သူစိမ်းမိန်းမများ၏ ရုပ်ဆင်းရူပါအကြောင်းကို ခင်ပွန်းသည်တို့အား ပြောပြလေ့ရှိကြသည်၊ ဤသို့ပြောပြ ခြင်းမှာ မကောင်းသောလုပ်ငန်းဖြစ်သည်၊ ခင်ပွန်းသည်က ထိုအမျိုးသမီးကို စိတ်စွဲလန်း သွားလျှင် ဇနီးသည်မှာ မျက်ရည်စက်လက်နှင့် ကျန်ရစ်မည်။

၃။ အကယ်၍ တစ်နေရာတွင် တစ်ဦးဦးထံမှ နေကာဟ် လက်ထပ်ရန် ကမ်းလှမ်း ချက်လာပြီးကာ သဘောတူညီမှု၏ အရိပ်အရောင်တွေ့ရလျှင် ထိုသို့သောနေရာ၌သင်သည် မိမိရင်သွေးအတွက် လက်ထပ်မှုကို ကမ်းလှမ်းခြင်းမပြုနှင့်၊ ဟုတ်ပါ၏၊ အကယ်၍ကမ်း လှမ်းမှု ဖျက်ပစ်လိုက်လျှင် ငင်းကမ်းလှမ်းခြင်းခံရသူက ဖျက်ပစ်လိုက်လျှင် ထိုအခါသင်က ကြောင်းလမ်းနိုင်သည်။

၄။ ဇနီးမောင်နှံတို့၏ သီးခြားသောဆက်ဆံမှုများကို မိမိတို့၏ သူငယ်ချင်းများ၊ သူငယ်ချင်းမများအား ပြောပြခြင်းသည် အလ္လာဟ်အသျှင်မြတ် ထံတော်တွင် လွန်စွာ မနှစ်သက်ဆုံးသော ကိစ္စဖြစ်သည်၊ များသောအားဖြင့် သတို့သားနှင့် သတို့သမီးတို့သည် ဤကိစ္စကို ဂရုမစိုက်ကြပေ။

၅။ အကယ်၍ တစ်ဦးဦးနှင့် နေကာဟ် လက်ထပ်ရန် သင့်အား တိုင်ပင်လျှင် ဤသည်၌ မကောင်းမှု၊ မသင့်လျော်မှုရှိနေလျှင် ထုတ်ဖော်ပြောဆိုရမည်၊ ဤသို့ထုတ်ဖော် (ဂီဗတ်) ပြောဆိုရခြင်းမှာ 'ဟရာမ်' မဖြစ်ပေ၊ ဟုတ်ပါ၏၊ မည်သူ့ကိုမျှ သက်သက် မကောင်း မပြောဆိုနှင့်။

၆။ အကယ်၍ ခင်ပွန်းသည်က တတ်နိုင်ပါလျက် ဇနီးဖြစ်သူအား လိုအပ်သည် ခန့်အသုံးစရိတ် မပေးသော် ဇနီးသည်သည် တိတ်တဆိတ် ယူငင်သုံးပိုင်သည်၊ သို့သော် အပိုဖြုန်းရန်အတွက် ၎င်းပကာသန လောကီ၏ထုံးစံများ ပြုလုပ်ရန်အတွက် ယူခြင်း မပိုင်ပေ။

# တစ်ဦးတစ်ယောက်အား ဒုက္ခပေးခြင်း အကြောင်း

မို့အာမလတ် ဆက်ဆံမှုများ....

၁။ အကြွင်သူသည် ပြည့်စုံစွာနားလည်သော ဆေးဆရာသမားတော်မဟုတ်လျှင် ထိုသူသည် တစ်ဦးတစ်ယောက်အား ဆုံးရှုံးနစ်နာမည်ကို စိုးရိမ်ရသော ဆေးဝါးပေး ခြင်း မပိုင်ပေ၊ အကယ်၍ ပေးခဲ့သော် 'ဂိုနာဟ်' အပြစ်ကျူးလွန်သူဖြစ်သည်။

၂။ ထက်မြက်သော အရာဝတ္ထုဖြင့် ကျီစယ်သော သဘောနှင့်ဖြစ်စေ မည်သူ့ ကိုမျှ မခြောက်လှန့်နှင့် လက်လွှန်သွားလျှင် ခက်ပေမည်။

၃။ မောင်းချခေးကိုဖွင့်လျက် မည်သူ၏လက်၌မှ မပေးနှင့် ပိတ်ပြီးပေးရမည်၊ သို့တည်းမဟုတ် ခုတင်, ခုံ စသည် အပေါ်တင်၍ အခြားသူအား ယူစေရမည်။

၄။ ခွေး,ကြောင်နှင့် မျောက်စသည့် တိရစ္ဆာန်တို့ကို ငတ်မွတ်လျက် ဒုက္ခရောက် လောက်အောင် ပိတ်လှောင်မထားနှင့် ထားခဲ့သော် ကြီးသော ဂိုနာဟ် အပြစ်ဖြစ်သည်။

၅။ ဂိုနာဟ် အကုသိုလ် ဒုစရိုက် ကျူးလွန်သူအား ကဲ့ရဲ့ခြင်းသည် မကောင်း ဖြစ်ပေသည်၊ ဟုတ်ပါ၏၊ ဆုံးမသောသဘောနှင့် ပြောဆိုလျှင် ကိစ္စမရှိပေ။

၆။ အပြစ်မရှိဘဲ ကြောက်လန့် သွားလောက်အောင် တစ်ဦးတစ်ယောက်အား မျက်လုံးပြူးပြခြင်း၊ မျက်နှာထားနှင့်ကြည့်ခြင်း မပိုင်ပေ၊ မျက်လုံးပြူး၍ ကြည့်ခြင်းပင် မပိုင်ဖြစ်လေရာ တစ်ဦးဦးအား ကျီစယ်သောသဘောဖြင့် ရုပ်တရက်ခြောက်လှန့်လိုက်ခြင်း သည် အဘယ်မျှ မကောင်းဖြစ်ဘိသနည်း။

၇။ အကယ်၍ တိရစ္ဆာန်ကို 'သဗ်ဟ်' လှီးလိုမူ ဓါးကို ထက်မျက်အောင်သွေးကုန်၊ အကြောင်းမဲ့ ဒုက္ခပေးခြင်း မပိုင်ပေ။

၈။ ခရီးသွားသောအခါ တိရစ္ဆာန်ကို ဒုက္ခမပေးနှင့်၊ ၎င်းကုန်ပစ္စည်း များစွာ မတင်နှင့်၊ လျင်မြန်စွာပြေးအောင်မပြုနှင့်၊ ၎င်းခရီးစခန်းသို့ရောက်သော် ပထမတိရစ္ဆာန်အတွက် အစာရေစာကို စီမံပေးရမည်။

## အလေ့အထများ ပြုပြင်ခြင်း အကြောင်းကို ဆိုပေအံ့။

# စားသောက်ခြင်း အကြောင်း

'အဒဗ်' ရှိသေသမှုများ။

('အဒဗ်' ၏အဓိပ္ပါယ်မှာ ကျယ်ဝန်းလှသဖြင့်၊ အနီးကပ်ဆုံးအဓိပ္ပါယ်ကို သုံးခြင်းဖြစ်ပါသည်။)

၁။ 'ဗစ်မစ်လ္လာဟ်' ဆို၍ စားသောက်ကုန်၊ လက်ယာလက်ဖြင့် စားရမည်၊ မိမိရှေ့တွင်ရှိသည်ကိုစားရမည်၊ သို့သော်အကယ်၍ ထိုပန်းကန်တွင် အမျိုးမျိုးရှိလျှင် ဥပမာ-သစ်သီးမျိုးစုံ၊ အချိုမုန့်မျိုးစုံများရှိနေပါက စိတ်အလိုရှိသည်ကို ယူ၍စားနိုင်သည်။

၂။ စားသောက်ပြီးလျှင် လက်ချောင်းများကို လျက်ကုန်၊ အကယ်၍ ပန်းကန်၌ ဟင်းများကျန်နေလျှင် ကုန်စင်အောင် စားရမည်။

၃။ ထမင်းလုတ်လက်မှလွတ်ကျလျှင်ယူ၍သန့်ရှင်းစေကာစားကုန်၊ဘဝင်မမြင့်နှင့်။

၄။ ဖရဲသီးစိတ်များ၊ စွန်ပလွံ၊ သလဲသီးများ၊ မုန့်ချိုခဲများ ထည့်ထားသည်ကို တစ်ခုပြီးတစ်ခု ယူ၍စားကုန်၊ တစ်ခါတည်း နှစ်ခုယူ၍ မစားနှင့်။

၅။ အကယ်၍ နံစေ်သောပစ္စည်းကိုစားလျှင်၊ ဥပမာ.... ကြက်သွန် အနီ-အဖြူ၊ အစိမ်းလိုက်ကိုစားလျှင်၊ လူတို့အလည်၌ ထိုင်လိုမူ ပထမ ပါးစပ်ကို စင်ကြယ်အောင်ဆေးကြောရမည်၊ သို့မှသာ အနံ့ပျောက်သွားပေမည်။

၆။ နေ့စဉ်သုံးစွဲရန်အတွက် ဂျုံမှုန့်၊ ၎င်းဆန်ကို ချိန်တွယ်၍ သုံးကုန်၊ အရမ်းမှန်းခြေနှင့် ထုတ်မသုံးနှင့်။

၇။ စားသောက် ပြီး နောက် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်အား ကျေးဇူး ဥပကာရ တင်ကုန်။

၈။ မစားမီအလျှင်နှင့် စားပြီးနောက် လက်ဆေးကုန်။

၉။ ခံနိုင်ရည်ရှိသည်ထက် ပို၍ပူသော အစားအစာကို မစားနှင့်။

၁၀။ တတ်နိုင်သည်ခန့် ညှော်သည်ကို ညှော်ဝတ်ကျေကုန်၊ အကယ်၍ သင်သည် ညှော်သည်အဖြစ်နှင့် သွားလျှင် အိမ်ရှင်ဒုက္ခဖြစ်လောက်အောင် ရက်ကြာစွာ မတည်းနှင့်၊ ရက်ကြာစွာတည်းခိုနေခြင်းသည် စွန္နတ်တော်နှင့်ကွဲလွဲသည်၊ အိမ်ရှင်မှာ စိတ်ထိခိုက်လာမည်ကို စိုးရပေသည်။

၁၁။ ထမင်းကို စုပေါင်းရော၍ စားသုံးခြင်းဖြင့် 'ဘရိကတ်' မင်္ဂလာအဖြာဖြာ တိုးပွားပေသည်။

၁၂။ ထမင်းစားသုံးပြီးသော် မထမီထမင်းပွဲကို သိမ်းစေရမည်၊ မသိမ်းမီ ထသွားခြင်းသည် ရှိသေသမှု ကင်းမဲ့ရာရောက်သည်၊ ၎င်း အကယ်၍ အတူစားသူတို့အလျင်စားပြီးနေလျှင်လည်း စားနေသူတို့ အရှက်မရစေရန်အလို့ငှာ အနည်းငယ်စီ စားနေရမည်၊ အကယ်၍ အကြောင်းကြီးငယ်တစ်ခုခုကြောင့် ထသွားရမည်ဖြစ်သော်.... ထိုစားနေသူအား တောင်းပန်၍ သွားရမည်။

၁၃။ ညှော်သည်ကို တံခါးပေါက်အထိ လိုက်ပို့ခြင်းသည် စွန္နတ်တော် လမ်းစဉ်ဖြစ်သည်။

၁၄။ ရေကိုအသက်တစ်ခါရှူရုံဖြင့်မသောက်နှင့်၊ (၃)ခါရှူဖြင့် နား၍သောက်ကုန်၊ အသက်တစ်ခါ ရှူသောအခါ သောက်ရေခွက်ကို ပါးစပ် နှင့် ခွာထားရမည်။ မသောက်မီ 'ဗစ်မစ်လ္လာဟ်'ဖတ်၍ သောက်ပြီးလျှင် 'အလ်ဟမ်ဒို၊လစ်လ္လာဟ်'ဖတ်ရမည်။

၁၅။ ရေများစွာပါမည်ဟုထင်ရသောခွက်၊၎င်းခွက်အတွင်း၌ပိုးမွှား၊ဆူးစသည် ရှိမရှိ မသိရသောခွက်ကို ပါးစပ်တေ့၍ မသောက်နှင့်။

၁၆။ အကြောင်းမဲ့ မတ်တတ်ရပ်၍ ရေမသောက်နှင့်။

၁၇။ ရေသောက်၍ အခြားသူများကိုလည်း သောက်ရန်ပေးရမည်ဖြစ်မူ၊ ပထမ မိမိလက်ယာဘက်တွင်ရှိသူအား ပေးရမည်၊ ၎င်းက ၎င်း၏ လက်ယာဘက်တွင် ရှိသူအား ပေးရမည်၊ ဤသို့ပင် ကွမ်း၊ ရေမွှေး၊ မုန့် စသည်များဝေငှမူ၊ ဤနည်းအတိုင်း ကျင့်သုံးကြရမည်။

၁၈။ ကွဲ့ပဲ့နေသော ခွက်ဘက်မှ ရေမသောက်နှင့်။

၁၉။ ညနေပိုင်း အစတွင် ကလေးသူငယ်များကို အိမ်ပြင်သို့ မထွက်စေနှင့်၊ ညအခါ 'ဗစ်မစ်လ္လာဟ်' ဆို၍ အိမ်တံခါးများပိတ်ကုန်၊ ၎င်းမအိပ်မီ မီးကိုငြိမ်းပစ်ကုန်၊ မီးဖို၏မီးကိုငြိမ်းကုန်၊ သို့မဟုတ် အုပ်ထားကုန်။

၂၀။ စားသောက်ဖွယ် ပစ္စည်းများ တစ်ဦးဦးထံသို့ ပေးမည်ဆိုလျှင် ဖုံးအုပ်၍ ပို့ရမည်။

# ဝတ်ဆင်ခြင်း အကြောင်း

'အဒဗ်' ရှိသေသမှုများ

၁။ ဖိနပ်တစ်ဘက်ထည်းကိုစီး၍သွားလာခြင်းမပြုနှင့်၊ စောင်စသည်ကို ခြုံရာ၌၊ သွားလာရာနှင့် လက်ကို အမြန်မထုတ်နိုင်အောင် မခြုံနှင့်။

၂။ အဝတ်ကို လက်ယာဘက်မှ စ၍ဝတ်ကုန်၊ ဥပမာ.... ညာဘက် အင်္ကျီလက်မှ စကုန်၊ ညာဘက်ဘောင်းဘီမှ စကုန်၊ ညာဘက်ဖိနပ်မှ စဝတ်ကုန်၊ ၎င်းတို့ကိုချွတ်သည့်အခါ ဘယ်ဘက်မှစ၍ ချွတ်ကုန်။

(အဝ်နံ၊ နလ္လာဟ၊ ယိုဟစ်ဗွတ်တယာမို့န၊ ဖွီကွလ်လေ၊ ရှိုင်အင်န်) အလ္လာဟ် အသျှင်မြတ်သည် ကောင်းသောကိစ္စများ၌ ညာဘက်မှစသူများကို နှစ်သက်တော်မူသည် ဟူ၍ ဟဒီးသ်တော်မြတ်တွင် လာရှိပေသည်။

၃။ အဝတ် ဝတ်ပြီးနောက် ဤဒိုအာကိုဖတ်လျှင် 'ဂိုနာဟ်'များ ကျွတ်လေသည်။
အလ်ဟမ်ဒို၊ လစ်လ္လာဟင်လ်လသီ၊ ကစာနီ၊ ဟာသာ၊ ဝရဇကနီဟေ၊ မင်န်
ဂိုင်ရေ၊ ဟောင်လင်၊ မင်နီ၊ ဝလာကုဝတင်။

အဓိပ္ပါယ်။ ချီးမွမ်းထောပနာ ပြုပြုသမျှအပေါင်းနှင့် ကျေးဇူးဥပကာရတင်ခြင်း အပေါင်းတို့သည်၊ အလ္လာဟ် အသျှင်မြတ် အတွက် သာတည်း၊ အကြင် အသျှင်က ကျွန်တော်မျိုးအား ဤအဝတ်ပေးသနားတော်မူသည်၊ ၎င်းကြိုးပမ်း ဒုက္ခမခံရဘဲ မိမိ၏ စွမ်းအားမပါဘဲ ပေးသနားတော်မူလေသည်။

၄။ ကိုယ်ကာယကကို မြင်လောက်အောင်အဖြစ်၊ ပါးသော အဝတ်အထည်ကို မဝတ်နှင့်၊ ကိုယ်ကာယမြင်ရသော ပါးလွှာသောအဝတ်ကို ဆိုလိုသည်။

၅။ အမျိုးသမီးတို့သည် အဖိုးထိုက်တန်သည့် အဝတ်အထည်များ၊ ၎င်း ရွှေ၊ ငွေ ဘယက်တန်ဆာများဝတ်ဆင်သော သူဌေး အမျိုးသမီးများနှင့် ကြာရှည်စွာ မထိုင်နှင့်၊ အကြောင်းမှဲ လောကီ၏ လိုဘရမ္မက် တတ်မက်ခြင်း ဖြစ်လာမည်။

၆။ အဝတ်အထည်ချုပ်ဖါဝတ်ရသည်ကို သေးသိမ်သည်ဟု မအောက်မေ့ မထင်မှတ်နှင့်။

၇။ အဝတ်အထည်ကို အကောင်းကြီး မဝတ်နှင့်၊ ညစ်ပေစွာလည်း မဝတ်နှင့်၊ အလတ်တန်းစား ဝတ်၍ သန့်သန့်ရှင်းရှင်း နေထိုင်ရမည်။

၈။ အမျိုးသမီးတို့သည် ဆံပင်ကို ဆီထည့်၍ ခေါင်းဖီးကာနေကုန်၊ သို့သော် အမြဲ ဤအလုပ်၌ မွေ့လျော်မနေနှင့်၊ လက်များ၌ ဒန်းဆိုးကုန်။

၉။ စွရ်မာသုံးသည့်အခါ မျက်စိတစ်ဘက်တစ်ဘက်၌ (၃) ကြိမ်စီ သားကုန်။

၁၀။ မိမိကို၏ အိမ်ကို သန့်ရှင်းစင်ကြယ်စွာ ထားကြရမည်။

# ရောဂါနှင့် ရှောင်ရန် အကြောင်း

'အဒဗ်' ရှိသေသမှုများ။

၁။ ရောဂါသည်ကို အတင်းအဓမ္မ စားသောက်ရန် မခိုင်းနှင့်။

၂။ ရောဂါဖြစ်သောအခါ အရမ်းကာရော မဆင်မခြင် မစားသောက်နှင့်၊ စိတ်ထင်ရာစားခြင်းဖြင့် ရောဂါတိုးတက်မည်ကို စိုးရိမ်ရသည်။

၃။ ရှရီအတ်တရားတော်မြတ်နှင့်ဆန့်ကျင်သော 'တအ်ဝီးသ်ဒိုအာ'နှင့် ပယ, ကိုးခြင်းများမပြုနှင့်၊ 'ရှရီအတ်'တရားတော်နှင့်ကိုက်ညီသော 'တအ်ဝီးသ်ဒိုအာ'ကိုသာ သုံးနိုင်သည်။

၄။ အကယ်၍ တစ်ဦးမှာ 'နသရ်' အံ့ကျလျှင် နသရ်ထိသည်ဟု ထင်သောသူကိုခေါ်၍ ထိုသူ၏မျက်နှာ, လက်နှစ်ဘက် တံတောင်ဆစ်ပါ, ခြေနှစ်ဘက် ဒူးနှစ်ဘက်နှင့်အရှက် တံဆာနေရာကိုဆေး၍၊ ထိုရေကို စုယူကာ နသရ်ထိခံရသူ ၏ခေါင်းမှခြေအထိလောင်းချကုန်၊ 'အင်န်ရှာအလ္လာဟ်' ပျောက်ကင်းသွားပေမည်။

၅။ အခြားသူများ ရွံရှာဖွယ်ဖြစ်သောရောဂါများ၊ ဥပမာ.... ယားနာ၊ ဝှင်းသွေးပျက်သောရောဂါနှင့် အနာကြီးရောဂါသည်များသည် အခြားသူများနှင့် တစ်ခြားနေရမည်၊ သို့မှသာ အခြားသူများမှာ စိတ်ဒုက္ခမရောက်ပေမည်။

# အိပ်မက် မြင်မက်ခြင်း အကြောင်း

'အဒဗ်' ရှိသေသမှုများ

၁။ အကယ်၍ ကြောက်မက်ဖွယ်အိပ်မက်မြင်မက်လျှင်၊ လက်ဝဲဘက်သို့ (၃)ကြိမ်တံထွေး ထွေးကုန်၊ ထို့ပြင်(အဥူသူ ဗိလ္လာဟေ၊ မေ့နရှိရှိုင်တွာ၊ နစ်ရ်ရဂျီးမ်။) (၃)ကြိမ်ဖတ်၍ တစ်ဘက်သို့စောင်းအိပ်ကုန်၊ ဤကြောက်ဖွယ် အိပ်မက်အကြောင်း မည်သူ့ကိုမျှမပြောနှင့်၊ 'အင်န်ရှာအလ္လာဟ်' မည်သည့်ဒုက္ခမှ ရောက်မည်မဟုတ်ပေ။

အာယတုလ်ကုရ်စီ၊ အလ်ဟမ်ဒို့နှင့် ကူလ်(၄)ချက်ကို ဖတ်၍၊ မအိပ်မီ မိမိကိုယ်ကိုမှုတ်လျှင် 'အင်န်ရှာအလ္လာဟ်' ကြောက်မက်ဖွယ် အိပ်မက် မြင်မက်မည်မဟုတ်ပေ။

၂။ အကယ်၍ အိပ်မက်ကိုပြောလိုလျှင် ဉာဏ်ရှိသူ၊ ရင်းသင့်အား အကောင်းအလိုထားသူအား ပြောပြရမည်၊ သို့မှသာ မကောင်းသော အဓိပ္ပါယ် ကောက်မည်မဟုတ်ပေ။

၃။ အိပ်မက်ကို လိမ်လည်၍ထွင် ပြောပြခြင်းသည် ကြီးသော'ဂိုနာဟ်'အပြစ်ဖြစ်ပေသည်။

# စလာမ် နှုတ်ခွန်းဆက်ခြင်း အကြောင်း

'အဒဗ်' ရှိသေသမှုများ

၁။ တစ်ဦးနှင့်တစ်ဦး တွေ့သောအခါ၊ 'စလာမ်'ပေး နှုတ်ခွန်းဆက်ကြရမည်၊ ဤသို့နှုတ်ခွန်းဆက်ခြင်းဖြင့် မလိုမုန်းတီးမှုများ ပျောက်ကွယ်ဆိတ်သုဉ်းကာ ချစ်ခင်စိတ် ပေါ်ပေါက်လာမည်၊ ပေးသူက(အတ်စလာမို့၊အလိုင်ကွန်းမ်)ဟုပေး၍(ဝအလိုင်ကို့ မွတ်စလာမ်) ဟု အဖြေပေးရမည်၊ ဤနည်းလမ်း အပြင် အခြား နှုတ်ဆက်နည်းများ အလဟဿ အဖော်သိက အလုပ်များ ဖြစ်သည်။

၂။ စလာမ် စ တင်ပေး၍ နှုတ်ခွန်းဆက်သူမှာ သဝါဗ်ကုသိုလ် များပြားစွာရရှိ ပေသည်။

၃။ အကြွင်သူသည် တစ်ဦးသောသူ၏ 'စလာမ်'ပေးခြင်းကို ယူဆောင်လာလျှင် (တဆင့်ပြောလျှင်) အလိုင်ဟင်မ်၊ ဝအလိုင်ကို့ မွတ်စ်စလာမ် ဟု ဖြေကြားရမည်။

၄။ လူအများ ရှိနေရာ၊ တစ်ဦးက 'စလာမ်' ပေးလိုက်လျှင် အားလုံးဘက်မှ လုံလောက်သည်၊ ဤသို့ပင် လူအများ ရှိနေရာက တစ်ဦးက 'စလာမ်' ပြန်လိုက်လျှင် အားလုံးဘက်မှ လုံလောက်သွားပေသည်။

# ထိုင်ခြင်း၊ လဲခြင်း၊ သွားခြင်း အကြောင်း

'အဒဗ်' ရှိသေသမှုများ

၁။ မော်ကြွားသောအဖြစ်နှင့်မသွားနှင့်၊ အဘယ့်ကြောင့်ဆိုသော် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က မော်ကြွား၍ သွားသူကို 'ကေယာမတ်' ကမ္ဘာ့ တရားခွင် နေ့၌ 'ရဟ်မတ်' မဟာ ကရုဏာတော်၏ အရှုဖြင့် ရှုကြည့်တော်မူမည်မဟုတ်ဟု မိန့်ဆို ထားတော်မူသည်။ (ဘိုခါရီ၊ မွတ်စ်လင်မ်၊ တင်ရ်မေသီ နှင့် နေစာအီကျမ်း)

၂။ မှောက်လျက် မအိပ်နှင့်။

၃။ အကာအဆီးမရှိသော အမိုးပေါ်တွင် မအိပ်နှင့်၊ လိမ့်ကျသွားမည်ကို စိုးရ လေသည်။

၄။ အရိပ်တစ်ဝက် နေပူတစ်ဝက်တွင် မထိုင်နှင့်။

၅။ အကယ်၍ အမျိုးသမီးသည် မတတ်သာသဖြင့် အပြင်ထွက်ရန်ဖြစ်မူ လမ်း ဘေးမှ သွားရမည်၊ လမ်းလယ်မှ သွားခြင်းသည် အမျိုးသမီးများ အတွက် ရှက်ဖွယ် ဖြစ်သည်။

# အများ နှင့် ရောနှော ထိုင်ခြင်း အကြောင်း

'အဒဗ်' ရှိသောသမှုများ

၁။ တစ်ဦးတစ်ယောက်ကိုအဖယ်ခိုင်း၍မထိုင်နှင့်၊အဘယ့်ကြောင့်ဆိုသော် ဤသို့ပြုခြင်းဖြင့် မွတ်စလင်မ်တစ်ယောက်မှာ ဒုက္ခရောက်သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် မွတ်စလင်မ်တစ်ယောက်ကို ဒုက္ခပေးလျှင်လည်းကောင်း၊ လိမ်လည်လှည့်ဖြားလျှင်လည်းကောင်း ထိုသူသည် (မလ်အူန်) ဇာအ်နတ်အပြုခံရသူဖြစ်သည်။ (တင်ရိမေသီကျမ်း)

၂။ တစ်ဦးတစ်ယောက်သည် အလုပ်တစ်ခုခုနှင့် ထိုင်နေရာမှထသွားလျှင်၊ ပြန်လာလိမ့်မည်ဟုထင်လျှင် ထိုအဖြစ်၌ ထိုသူ့နေရာတွင်မထိုင်ရ၊ ထိုနေရာကို ထိုသူသာလျှင်ဆိုင်လေသည်။

၃။ အကယ်၍ လူနှစ်ယောက်သည် စိတ်ဆန္ဒသဘောဖြင့် အတူထိုင်နေကြလျှင်သင်သည် ၎င်းတို့နှစ်ဦးကြားတွင် သွား၍ မထိုင်နှင့်၊ သို့သော် အကယ်၍ ထိုသူတို့ကသဘောတူစွာ ခွင့်ပြုကြလျှင် ကိစ္စမရှိပေ။

၄။ တစ်ဦးသောသူက သင့်အားတွေ့ရန်လာလျှင်၊ ထိုသူ့ကိုမြင်သောအခါ မိမိထိုင်နေရာမှ အနည်းငယ်ဖယ်ပေးကုန်၊ ထိုသို့ ဖယ်ပေးခြင်းဖြင့် ဂုဏ်ပေးသည်ဟု ထိုသူကသိသွားပေမည်။

၅။ ပရိသတ်အလည်တွင် လူစွာလုပ်၍မထိုင်နှင့်၊ ထိုင်ရန် နေရာရှိသည့်နေရာတွင်ကျိုးငယ် သိမ်မွေ့စွာ ထိုင်ကုန်။

၆။ ချီလျှင် ပါးစပ်ပေါ်အဝတ်အုပ်၍ဖြစ်စေ၊ လက်အုပ်၍ဖြစ်စေ ချီကုန်၊ အသံကိုလည်း ထိန်းနိုင်သမျှ ထိန်းချုပ်ကုန်။

၇။ သန်းဝေခြင်းကို ထိန်းနိုင်သမျှထိန်းကုန်၊ အကယ်၍ မထိန်းနိုင်လျှင် ပါးစပ်ကို အုပ်လိုက်ကုန်။

၈။ ဟက်ဟက်ပက်ပက် မရယ်နှင့်။

၉။ ပရိသတ်အလည်တွင် နှာခေါင်းရှုံ့၍၊ နှုတ်ခမ်းစူ၍ မထိုင်နှင့်၊ ကျိုးငယ်စွာသူဆင်းရဲများကဲ့သို့ ထိုင်ကုန်၊ ပြောဆိုသင့်သော နေရာတွင် ပြောဆိုလိုက်ကုန်၊ သို့သော် 'ဂိုနာဟ်' အပြစ်ဖြစ်မည့်စကားကို မပြောဆိုနှင့်။

၁၀။ ပရိသတ်အလည်တွင် မည်သူ၏ဘက်မှ ခြေဆင်း၍ မထိုင်နှင့်။

# နှုတ်လျှာကို ထိန်းသိမ်းရန် အကြောင်း

'အဒဗ်' ရှိသောသမှုများ

၁။ မစဉ်းစားမဆင်ခြင်ဘဲမည်သည့်စကားမှမပြောဆိုနှင့်၊ စဉ်းစားပြီးပြောမည့်စကားသည် မကောင်းမဖြစ်ဟု ယုံကြည်သောအခါကျမှသာ ပြောဆိုရမည်။

၂။ တစ်ဦးတစ်ယောက်ကို 'အီမာန်' မရှိဟု ပြောခြင်း၊ မည်သူ့အား အလ္လာဟ်အသျှင်မြတ် ရိုက်ပါစေဟု ကျိန်ဆဲခြင်း၊ အမျက်တော် (ဂသ္ဗဗ်)ရောက်ပါစေဟု လည်းကောင်း၊ ဂျဟန္နမ်သို့ ကျပါစေဟုလည်းကောင်း၊ လူသားကိုဖြစ်စေ၊ တိရစ္ဆာန်ကိုဖြစ်စေ ပြောဆိုခြင်းအားလုံးသည် ဂိုနာဟ် အပြစ်ဖြစ်သည်၊ မပြောဆိုရ၊ ပြောဆိုစကားသည် အပြောခံရသူမှာ မရှိလျှင် ဤကျိန်ဆဲခြင်း အားလုံးသည် ပြောသူ အပေါ် ပြန်လည် ရောက်လာပေမည်။

၃။ အကယ်၍သင့်အား တစ်ဦးတစ်ယောက်က မလျော်ကန်သောစကားကိုဆိုလျှင် ထိုမျှပင် ပြန်ပြောနိုင်သည်၊ အပြောခံရသည်ထက် အနည်းငယ်ပင် ပို၍ပြောခဲ့ဆိုခဲ့သော် သင်သည် 'ဂိုနာဟ်ဂါရ်' အကုသိုလ်ကျူးလွန်သူဖြစ်သည်။

၄။ မျက်နှာလိုက်၍ စကားနှစ်ခွမပြောနှင့်၊ ဤသူ့အား တစ်မျိုးပြော၍ ထိုသူ့အား တစ်မျိုးမပြောနှင့်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... 'ကေယာမတ်' နေ့၌ အလ္လာဟ်အသျှင်မြတ်ထံ မကောင်းဆုံးသော သူသည် မျက်နှာလိုက်၍ စကားနှစ်ခွပြောသူပင်ဖြစ်သည်။ (ဘိုခါရီ၊အဘူဒါဝူးဒ်၊တင်ရ်မေသီ၊မွတ်စလင်မ်ကျမ်း)

၅။ ကုန်းချောခြင်း မပြုနှင့်၊ ကုန်းချောသောစကား ပြောသည်ကိုလည်း နားမထောင်နှင့်။

၆။ မုသားကို အလျှင်း မပြောဆိုနှင့်။

၇။ မြှောက်ပင့်၍ ရှေ့တွင် မည်သူ့ကိုမျှ ချီးမွမ်းခြင်းမပြုနှင့်၊ ၎င်းနောက်ကွယ်တွင်လည်း အတိုင်းထက်အလွန် ချီးမွမ်းခြင်းမပြုနှင့်။

၈။ အလျှင်း မည်သူ၏ နောက်ကွယ် အတင်းကိုမှ မပြောနှင့်၊ 'ဂီဗတ်' နောက်ကွယ်အတင်းဟူသည်ကား.... တစ်ဦးတစ်ယောက်၏ အကြောင်းကို ၎င်း၏နောက်ကွယ်မှ ပြောခြင်း၊ ထိုစကားသည် မှန်နေစေကာမူ ထိုသူမနှစ်သက်သောအကြောင်းဖြစ်လျှင် နောက်ကွယ်အတင်းပင်ဖြစ်သည်၊ အကယ်၍ထိုအတင်းပြောသောစကားသည် မမှန်ကန်ခဲ့သော် စွပ်စွဲမှုဖြစ်သည်။ မတရားစွပ်စွဲမှု ဗုဟ်တာန်သည် ပို၍ပင်ဂိုနာဟ်အပြစ်ကြီးလေသည်။

၉။ မည်သူနှင့်မျှ (အကျိုးမရှိသောစကားကို) မငြင်းခုံနှင့်၊ မိမိစကားကို အသာရအောင် မပြောနှင့်။

၁၀။ များစွာ ရယ်မောခြင်း မပြုနှင့်၊ ထိုသို့ ရယ် မော ခြင်းဖြင့် စိတ် သေစေလေသည်။

၁၁။ တစ်ဦးတစ်ယောက်၏အတင်း 'ဂီဗတ်'ကို ပြောခဲ့မိ၍ ၎င်းသူအား မတောင်းပန်လိုက်နိုင်ခဲ့သော် ထိုသူ့ အတွက် 'ဒိုအာအေ့မဂ်ဖွေရတ်' ချမ်းသာဆုတောင်းပေးကုန်၊ ဤသို့ပြုခြင်းဖြင့် 'ကေယာမတ်' နေ့၌ ခွင့်လွှတ်ပေလိမ့်မည်။

၁၂။ လိမ်လည်၍ ကတိပေးခြင်း အလျင်းမပြုနှင့်။

၁၃။ တစ်ဦးတစ်ယောက်အား သေးသိမ်မှုဖြစ်အောင် ရယ်မောခြင်းမပြုနှင့်။

၁၄။ မိမိ၏ပစ္စည်းတစ်ခုခုအပေါ် ဖြစ်စေ၊ လက်မှုပညာတစ်ခုခုအပေါ် ဖြစ်စေ ဂုဏ်ဖေါ် ကြွားဝါခြင်း မပြုနှင့်။

၁၅။ ကဗျာလင်္ကာများကို မလိုက်စားနှင့်၊ သို့သော် အကယ်၍ 'ရှရီအတ်'တရားတော်နှင့် မဆန့်ကျင်သော ဒိုအာ၊ ရင်းဆိုးမစာ ကဗျာလင်္ကာကို တစ်ခါတစ်ရံဖတ်လျှင် ကိစ္စမရှိပေ။

၁၆။ တဆင့်ကြား စကားများကို မပြောနှင့်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့ တဆင့်ကြားစကားများသည် များသောအားဖြင့် မမှန်စကားများ ဖြစ်ပေသည်။

# အထွေထွေသော ပညတ်ချက်များ အကြောင်း

'အဒဗ် ရှိသေသမှုများ

၁။ စာရေး၍ ထိုစာအပေါ် မြေဖြူးကုန်၊ ဤသို့ပြုခြင်းဖြင့် အကြင်ကိစ္စအတွက် စာရေးသည်မှာ လွယ်ကူမှုဖြစ်လာပေမည်။

၂။ 'ဇမာနဟ်' ခေတ်သမယကိုမကောင်းမပြောနှင့်။

၃။ စကားများကို အံကျိတ်၍ မပြောနှင့်၊ ရင်းပြင် များစွာ ရှည်လျားသော သွယ်ဝိုက်သော စကားကိုလည်း မပြောနှင့်၊ လိုအပ်သည်ခန့် ပြောဆိုကုန်။

၄။ တစ်ဦးတစ်ယောက် သီဆိုသော သီချင်းသံဘက်သို့ နားမစွင့်နှင့်။

၅။ တစ်ဦး တစ်ယောက်၏ အရုပ်ဆိုးခြင်းကို လည်းကောင်း၊ မကောင်းသော စကားကိုလည်းကောင်း တဆင့်မပြောနှင့်။

၆။ တစ်ဦးဦး၏အပြစ်ကိုမြင်တွေ့မူ၊ ဖုံးအုပ်ရမည်၊ တဆင့် ဖေါ်ကျသည်မချနှင့်။

၇။ အလုပ်တစ်ခုကိုလုပ်လျှင် စဉ်းစား၍အဆုံးကိုတွေးဆကာပြုလုပ်ကုန်၊ အလျင်အမြန် မဆင်ခြင်ဘဲလုပ်သောအလုပ်ကိစ္စများသည် များသောအားဖြင့် ပျက်ပြားသည်က များပေသည်။

၈။ တစ်ဦးဦးက သင့်ထံ အလုပ် ကိစ္စ တစ်ခုခုအတွက် တိုင်ပင်လျှင် မိမိ ထံမှ အကောင်းဆုံးသော အကြံဉာဏ်ကို ပေးကုန်။

၉။ ဒေါသကို အတတ်နိုင်ဆုံး ဆိမ်းသိမ်းကုန်။

၁၀။ လူတို့အား မိမိက မကောင်း ပြောဆိုခဲ့သည်များ ရှိလျှင် တောင်းပန်ကုန်၊ သို့တည်းမဟုတ်ပါက 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့တွင် ဒုက္ခကြီးစွာရောက်မည်။

၁၁။ လူတို့အား ချိုသာစွာ ကောင်းသော အလုပ်ကိစ္စများကို ညွှန်ကြား၍ မကောင်းသော အလုပ်ကိစ္စများကို မကျူးကြရန် တားမြစ်ကုန်၊ ထိုသော် ဆုံးမသည်ကို လုံးဝလက်မခံဟု ယုံကြည်လျှင် ၎င်းဆိုဆုံးမသည့်အတွက် ဒုက္ခပေးမည်ဟု ယုံကြည်ပါက ဆိတ်ဆိတ်နေပိုင်သည်၊ ထိုရာတွင် မကောင်းသော လုပ်ငန်းများကို စိတ်ကမကောင်းဟု ထင်မြင်ကုန်၊ မတတ်သာသော ကိစ္စမှတပါး ဤသို့သောသူများနှင့် မတွေ့ဆုံနှင့်။

စိတ်ကို ပြုပြင်သော အကြောင်းများကို ဆိုပေအံ့။

အစားလောဘကြီးခြင်း၏ မကောင်းခြင်းနှင့် အနည်းငယ်စားခြင်း၏

## အကျိုးကျေးဇူးများ အကြောင်း

များစွာသော 'ဂိုနာဟ်' အကုသိုလ်များသည် ဝမ်းဗိုက်ကို အလိုလိုက်ခြင်းဖြင့် ပေါ်ပေါက်လာလေသည်၊ ဤသည်နှင့်ပတ်သက်၍ အချို့အချက်များကို မှတ်သားထားကြကုန်။

အရသာရှိသော စားဖွယ်ဘောဇဉ်များကိုသာ စားသုံးလိုစိတ် မထားကြနှင့်၊ 'ဟရာမ်' မတရားသဖြင့် 'ရိဇ်ဗ' စားနပ်ရိက္ခာကို မရှာဖွေကြနှင့်၊ ဝမ်းဗိုက်ကို ပြည့်အောင် မစားနှင့် ၂-လုပ်၊ ၄-လုပ် ချန်စားကုန်၊ ဤသို့လျော့စားခြင်းဖြင့် အကျိုးကျေးဇူး များစွာ ရှိသည်။

ပထမအချက်....

စိတ်သန့်ရှင်း ကြည်လင်သည်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်၏ ပေးသနားထားတော်မူသော စည်းစိမ်တော်များကို သိမြင်လာမည်၊ ထိုသို့သိမြင်ပြီး အလ္လာဟ်အသျှင်မြတ်အား ချစ်ခင်စိတ် တိုးပွားလာပေမည်။

ဒုတိယအချက်....

စိတ်သည် နူးညံ့သိမ်မွေ့နေပေမည်၊ ထိုသို့ စိတ်နူးညံ့သိမ်မွေ့ နေပါက 'ဒိုအာ' တောင်းဆုပတ္ထနာ ပြုရာနှင့် 'သစ်က်ရ်' ဘာဝနာစည်းဖြန်းရာ၌ အရသာတွေ့မည်။

တတိယအချက်....

စိတ်ခေါ်တွင် မကောင်းသော စိတ်ထားများနှင့် မာန်မာန ထောင်လွှားခြင်းများ မပေါ်ပေါက်ပေ။

စတုတ္ထအချက်....

အနည်းငယ် စားခြင်းဖြင့် စိတ်ဒုက္ခရောက်သည်၊ ၎င်းစိတ်ဒုက္ခ ရောက်သည်ကို သိမြင်ကာအလ္လာဟ်အသျှင်မြတ် ပေးတော်မူမည့် 'အဇာဗ်' ပြစ်ဒဏ်များကို သတိရပေမည်၊ ဤသို့ ပြစ်ဒဏ်ကို သတိရနေခြင်းဖြင့် စိတ်သည် 'ဂိုနာဟ်'မကောင်းမှု ဒုစရိုက်များမှ ရှောင်ကြဉ်လာပေမည်။

ပဥ္စမအချက်

'ဂိုနာဟ်' အကုသိုလ် လိုက်စားချင်စိတ် လျော့နည်းသွားပေမည်။

ဆဋ္ဌမအချက်....

စိတ်ပေါ့ပါးနေမည်၊ အိပ်ချင်ခြင်း လျော့နည်းလာမည်၊ 'တဟာဂျဲဂျဒ်' ညထ၍ ကောင်းမှုပြုခြင်းနှင့် အခြားသော 'အေဗာဒတ်' ခ,ဝတ်ပြုမှုများကို ပြုမူဆောက်တည်ရန် ပျင်းရိမည် မဟုတ်ပေ။

သတ္တမအချက်....

ဝတ်မှတ်သူများ မစွမ်းနိုင်သူများအပေါ် ညှာတာကရုဏာ သက်လာပေမည်၊ သာမက လူတိုင်းနှင့် ကြင်နာစွာ ဆက်ဆံချင်စိတ် ပေါ်ပေါက်လာပေမည်။

# များစွာပြောဆိုခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်း အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ (မန်စကတ၊ နဂျာ) အဓိပ္ပါယ်မှာ အကြင်သူသည် များစွာစကားမပြောဘဲ ဆိတ်ဆိတ်နေလျှင် ထိုသူသည် မကောင်းမှုမှ လွတ်ကင်းသူဖြစ်သည်၊အခြား ဟဒီးသ်တော်တွင် လာရှိသည်မှာ(မန်စွမတ၊ စလမ) အဓိပ္ပါယ် အကြင်သူသည် ဆိတ်ဆိတ်နေလျှင် အေးချမ်းသူဖြစ်သည်။

စိတ်သည် များစွာပြောခြင်းဖြင့် နှစ်သိမ့်မှုဖြစ်သည်၊ ထိုသို့ များစွာပြောခြင်းဖြင့် မြောက်မြားစွာသော ဂိုနာဟ်များလည်း ဖြစ်လာပေသည်၊ မုသားနောက်ကွယ် အတင်း ခြိမ်းခြောက် မကောင်းပြောခြင်း၊ တစ်ဦးဦးကို ကဲ့ရဲ့ပြစ်တင်ခြင်း၊ မိမိကိုယ်ကိုကြွားဝါ ဂုဏ်ဖော် အမွန်းတင်ခြင်း၊ သက်ဆက်ဘစ်ဦးဦးနှင့် ငြင်းခုံခြင်း၊ပစ္စည်းကြွယ်ဝချမ်းသာသူ များကို မျက်နှာလိုအားရပြုခြင်း၊ အခြားသူစိတ်ထိခိုက်စေမည့်ရယ်မောခြင်းမျိုးပြုခြင်း။

ဤအဖြစ်များမှ လွတ်ကင်းရန်နည်းလမ်းမှာ နှုတ်လျှာကို ထိန်းသိမ်းမှုဖြစ်ပေမည်၊ ထိန်းသိမ်းရန်နည်းလမ်းမှာစကားကိုပြောလိုလာသောအခါ ချက်ချင်းမပြောနှင့်သာမက ထိုစကားဖြင့် ကုသိုလ် 'သဝါဗ်' ဂိုနာဟ် ဖြစ်မည်ကို ဦးစွာပထမ စဉ်းစားဆင်ခြင်ရမည်၊ ထိုပြောဆိုမည့်စကားသည် အပြစ်မကောင်းမှု 'ဂိုနာဟ်' အနည်းငယ်၊ ၎င်းများစွာပါရှိနေလျှင် လုံးဝမပြောဆိုနှင့်။

အကယ်၍ စိတ်ကပြောလိုစိတ်ပြင်းပြနေလျှင်မပြောဘဲ မျိုသိပ်နေခြင်းက 'ဂျဟန္နမ်' အပါယ်ငရဲ၏ 'အသာဗ်' ပြစ်ဒဏ်ခံရမည်ထက်ပို၍ လွယ်ကူသည်ဟု စိတ်ကိုဖြေဖျောင်းလိုက်ရမည်၊ အကယ်၍ ထိုပြောဆိုမည့် စကားသည် 'သဝါဗ်' ကုသိုလ်ရမည့်စကားဖြစ်လျှင် ပြောဆိုကုန်၊ အကယ်၍ ကုသိုလ်လည်းမရ၊ ဂိုနာဟ်လည်း မဖြစ်သော စကား ဖြစ်လျှင် လည်းမပြောဆိုနှင့်၊ ထိုသို့ကုသိုလ်လည်းမရ ဂိုနာဟ်လည်းမဖြစ်သောစကားကို အလွန်အမင်း ပြောဆိုစိတ် ပြင်းပြနေလျှင် အနည်းငယ်သာပြော၍ ဆိတ်ဆိတ်နေကုန်။

စကားပြောဆိုခြင်းများတွင် ဤသို့စဉ်းစားဆင်ခြင်၍ ပြောဆိုနေပါက မကြာမီ မကောင်းသော စကားများ ပြောဆိုခြင်းမှ အလိုအလျောက် ရှုံမုန်းလာပေမည်၊ နှုတ်လျှာကို ထိန်းသိမ်းရန် နည်းလမ်းတစ်ခုမှာ အကြောင်းမဲ့ မည်သူနှင့်မှ မတွေ့ဆုံနှင့် တစ်ကိုယ်တည်းနေခြင်းဖြင့် နှုတ်လျှာသည် အလိုအလျောက်ဆိတ်ငြိမ်နေမည်ဖြစ်ပေသည်။

# ဒေါသ၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်း အကြောင်း

ဟာဒီးသ်တော်တွင်လာသည်၊ သင်သည်တစ်ဦးတစ်ယောက်အားဆုံးမမှု ဒေါသမဖြစ်နှင့် ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ဒေါသဖြစ်ခြင်းသည် မုတ်ခါးက ပျားရည်ကို ဖျက်ဆီးသကဲ့သို့ 'အီမာန်'ကို ထိခိုက်စေလေသည်။

ဒေါသဖြစ်သောအခါ စိတ်ကိုမထိန်းနိုင်ပေ၊ အကောင်းအဆိုးကို စဉ်းစားဆင်ခြင်ခြင်း မရှိတော့ပေ၊ ထို့ကြောင့် နှုတ်လျှာဖြင့် မဆီမဆိုင်ပြောဆိုမိလေသည်၊ ၎င်းလက်ဖြင့်လည်း ကျူးလွန်မိတတ်လေသည်၊ ထို့ကြောင့် ဤသို့ ဒေါသဖြစ်ခြင်းကို တားဆီးရန် *ထိုက်*လေသည်။

ဒေါသကိုတားဆီးရန်နည်းလမ်းမှာပထမဦးစွာဒေါသအဖြစ်ခံရသူကို ရှေ့မှောက်မှ အလျင်အမြန် ဖယ်ရှားပစ်ရမည်၊ အကယ်၍ ထိုသူက ထွက်မသွားလျှင် ကိုယ်တိုင် ရှောင်ဖယ်သွားရမည်၊ ထို့နောက် ဤသူ့ကို ကျွန်ုပ် ပြစ်ဒဏ်ပေးရန်ထိုက်သည်၊ ဤသည်ထက် ကျွန်ုပ်သည် အလ္လာဟ်အသျှင်မြတ်ထံ ပြစ်ဒဏ်ထိုက်သက်သူဖြစ်နေမည်၊ ကျွန်ုပ်အားပြစ်မှုအတွက် အလ္လာဟ်အသျှင်မြတ်က ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပါ၊ ဤသို့ပင် ကျွန်ုပ်ကလည်း ထိုသူ၏ပြစ်မှုကို ခွင့်လွှတ်ပေးရန် ထိုက်သည်ဟူ၍ စဉ်းစားစိတ်ဖြေရမည်၊ ၎င်းပြင် နှုတ်ဖြင့် (အအူသွု ၊ ဗစ်လ္လာဟ်) ကို အကြိမ်များစွာဖတ်ကုန်၊ ရေသောက်ပစ်ရမည်၊ သို့တည်းမဟုတ် 'ဝိုသွူ' ရေသန့်စင်ရမည်၊ ဤသို့ ပြုမှုခြင်းဖြင့် ဒေါသပြေလည်သွားပေမည်။

ထို့နောက် ဒေါသပြေပြီးမှ....ထိုသူ့အား ပြစ်မှုအတွက် ဆုံးမရန် လိုအပ်နေလျှင် ဥပမာ.. ဆုံးမခြင်းဖြင့် ထိုသူ့အတွက် အကောင်းဖြစ်သော်၊ ပမာဆိုသော် သား၊ သမီးဖြစ်၍ လိမ္မာစေရန် ဆုံးမရန်လိုအပ်မှု၊ ၎င်းဆုံးမခြင်းဖြင့် အခြားသူအတွက်ကောင်းကျိုးဖြစ်မည်ဆိုသော် ပမာဆိုသော် ထိုသူက အခြားသူအပေါ် မတရားပြုခဲ့သည်၊ ယခုမတရားအပြုခံရသူကို ကူညီရန်နှင့် ထိုသူအတွက် အစားယူရမည် ဖြစ်နေ၍ ဆုံးမရန် အရေးမကြီးပါက....

ပထမ ထိုပြစ်မှုအတွက် မည်မျှဆုံးမရန် ထိုက်သည်ကို ချိန်ဆရမည်၊ 'ရှရီအတ်' တရားတော်နှင့်အညီ ဆုံးမရန်အခန့်ကို တွက်ဆပြီးသော် ထိုမျှခန့် ဆုံးမရမည်၊ ရက်အချို့ ဤနည်းလမ်းအတိုင်း ဒေါသကိုထိန်းချုပ်လိုက်လျှင် အလိုအလျောက် ဒေါသကို ထိန်းလာနိုင်မည်ပင် ဖြစ်ပေသည်၊ ဒေါသ အဖြစ်မြန်ဆန်မည်လည်း မဟုတ်တော့ပေ။

ရန်ငြိုးလည်း ဒေါသမှ ပေါ်ပေါက်လာရခြင်းဖြစ်သည်၊ ဒေါသကို ထိန်းသိမ်းနိုင်လျှင် ရန်ငြိုးလည်း စိတ်မှ ပျောက်ကွယ်သွားပေမည်။

# 'ဟစဒ်' မနာလို ဝန်တိုခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်းအကြောင်း

တစ်ဦးတစ်ယောက်ကို စားသောက်နိုင်ခြင်းကိုလည်းကောင်း၊ သာယာပျော်ရွှင်စွာနေခြင်းကိုလည်းကောင်း၊ ဂုဏ်သရေမြင့်မားစွာဖြင့် နေရခြင်းကိုလည်းကောင်း မြင်တွေ့ကာ မလိုလားစိတ် ပေါ်ခြင်းနှင့် ဝန်တိုစိတ် မကောင်းဖြစ်ခြင်း၊ ၎င်းထိုသူ ကျဆင်းသွားသည်ကို ပျော်ရွှင်ခြင်းတို့ကို 'ဟစဒ်' မနာလို ဝန်တိုခြင်းဟု ခေါ်လေသည်။

ဤသို့ မနာလို ဝန်တိုမှုထားခြင်းသည် အဆိုးဝါးဆုံးဖြစ်ပေသည်၊ ဤမလိုခြင်း၌ မြောက်မြားစွာသော 'ဂိုနာဟ်' များလည်းဖြစ်လေသည်၊ ဤသို့မနာလိုဝန်တိုစိတ်ထားသူသည် ရာသက်ပန် ရှင်နေမှုမှာ ကျဉ်းကျပ်ရပေသည်၊ အချုပ်မှာ ထိုသို့သောသူ၏ ရှင်နေရခြင်းမှာ ဒွန္နယာ အာခေရတ် နှစ်ဌာနစလုံး ပျော်ရွှင်မှု ကင်းမဲ့လေသည်၊ ထို့ကြောင့် ဤဒုက္ခများမှ လွတ်ကင်းစေရန် အထူးကြိုးစားရန် ထိုက်ပေသည်။

ရှောင်ရှားရန် နည်းလမ်းမှာ ပထမကျွန်ုပ်၏ 'ဟစဒ်' ထားခြင်းဖြင့် ကျွန်ုပ်သာ လျှင် ဆုံးရှုံးဒုက္ခရောက်ရသည်၊ ထိုသူ့မှာကား နစ်နာမှုမဖြစ်၊ ကျွန်ုပ်၏ဆုံးရှုံးမှုမှာ ကျွန်ုပ်၏ ကောင်းမှုကုသိုလ်'အမလ်'များ လျော့နည်း ဆုတ်ယုတ်သွားရသည်ဟု စဉ်းစားဆင်ခြင်ရမည်။

အဘယ့်ကြောင့်ဆိုသော်....ဟဒီးသ်တော်တွင် လာရှိသည်၊ 'ဟစဒ်' မနာလိုဝန်တိုခြင်းသည် မီးက ထင်းကို လောင်ကျွမ်းစေသကဲ့သို့ ကောင်းမှုကုသိုလ်များကို ပျောက်ပျက်သွားစေသည်။

အမှန်မှာ 'ဟစဒ်' ထားသူသည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်အား ဆင်ခြေကန်သူဖြစ်သည်၊ မည်သူ မည်ဝါသည် ဤသို့သော စည်းစိမ်နှင့် မထိုက်တန်ပါလျက် အဘယ့်ကြောင့် စည်းစိမ်ပေးတော်မူပါသနည်းဟူ၍ သက်ရောက်နေသည်၊ (တောဗဟ်၊ တောဗဟ်) အလ္လာဟ်အသျှင်မြတ်ကို ယှဉ်ပြိုင်ခြင်းပြုနေရာ မည်မျှအပြစ် 'ဂိုနာဟ်' ကြီးမည်ကို စဉ်းစားကြည့်သင့်လှသည်။

အစဉ်မနာလို ဝန်တိုမှု ထားသဖြင့် စိတ်မှာ သောကနှင့် ပူဆွေးဒုက္ခ ရောက်ရခြင်းမှာ ထင်ရှားသည်၊ မနာလို ဝန်တိုမှု ခံရသူမှာကား မည်သို့မျှ ဆုံးရှုံး နစ်နာမှုမဖြစ်ပေ၊ အဘယ့်ကြောင့်ဆိုသော်'ဟစဒ်'ထားခြင်းဖြင့် ထိုသူရနေသော စည်းစိမ်မှာ ပျောက်ပျက်သွားမည် မဟုတ်ပေ၊ သာမက မနာလို ဝန်တိုမှုထားသူ၏ ကောင်းမှုကုသိုလ်'အမလ်'များလည်း ၎င်းသူက ရရှိနေမည် ဖြစ်ပေသည်။

ဤတင်ပြချက်များကို နားလည်ထားပြီးနောက် စိတ်ကိုတင်း၍ မိမိမနာလိုနေသူအား အခြားသူများရှေ့တွင် ချီးမွမ်းဂုဏ်ပေး အကောင်းပြောကုန်၊ ၎င်းထိုသူ့ထံ ဤသို့သော စည်းစိမ်များ ရှိ၍ အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်ပါသည်၊ အလ္လာဟ်အသျှင်မြတ်သည် သာ၍ စည်းစိမ်ပေးသနားတော်မူပါစေဟု ပြောကုန်။

အကယ်၍ ထိုမနာလိုခံရသူနှင့်တွေ့ဆုံလျှင် ထိုသူ့အား ဂုဏ်ပေး၍ ကျိုးငယ်စွာ ဆက်ဆံကုန်၊ ဤသို့ပြုမူခြင်းဖြင့် အစပထမသော်ကား စိတ်တွင် အောင့်သက်သက်ရှိမည် ဖြစ်သော်လည်း တစ်ဖြည်းဖြည်း လွယ်ကူ့နေသားကျသွားမည်၊ ထို့ပြင် 'ဟစဒ်' မနာလိုဝန်တိုမှုလည်း ပ,ပျောက်သွားပေမည်။

# လောက နှင့် ပစ္စည်းကို ခင်တွယ်မှု၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် အကြောင်း

ဟဒီးသ်တော်တွင် လာရှိသည်၊ လောကကို ခင်တွယ် ချစ်ခင် စွဲလန်းခြင်းသည် အမှားတစ်ကာတို့၏ ဘုရင်ဖြစ်သည်။ (အဘူဒါဝူးဒ်ကျမ်း)

ဟဒီးသ်တော်၏အလိုသဘောမှာ (အဒ်ဒွန်နယာ၊ စစ်ဂျိန္နလ်မုအ်မေ့နှေ၊ ဝဂျန်နတွလ်၊ ကာဖွေ့ရေ့) အဓိပ္ပါယ်မှာ.... 'ဒွန္နယာ' လောကသည် 'အီမာန်' ရှိသူများ အတွက် အကျဉ်းထောင်သဖွယ် ဖြစ်သည်၊ ၎င်းကာဖွင်ရိမျာ းအတွက် 'ဂျန္နတ်' သဖွယ် ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ကာဖွင်ရ်များသည် နောင်'အာခေရတ်'၌ မည်သည့် အကျိုးခံစားမှုမှရရှိကြမည်မဟုတ်၊ အီမာန် သက်ဝင်ယုံကြည်သူများအတွက် ဂျန္နတ်၌ အမျိုးမျိုးသော စည်းစိမ်များ အသင့်ရှိလေသည်။

ပစ္စည်းပစ္စယအား ခင်တွယ်စွဲလန်းခြင်းသည် အလွန်ပင်ဆိုးဝါးပေသည်၊ စိတ်၌ စွဲငြိသွားလျှင် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်အား ချစ်ခင် သတိရခြင်းများ ကင်းစင်သွားလေသည်၊ အဘယ့်ကြောင့် ဆိုသော် ဤသို့သော သူသည် ငွေကို မည်သို့ရှာ၍၊ မည်သို့စုဆောင်းရမည်ကို ဂရုစိုက် လုံးပန်းနေမည် ဖြစ်ပေသည်။

ရွှေ,ငွေ,ဘယက်တန်ဆာ၊ အဝတ်အထည်ကို ဤသို့ဝယ်ယူ ချုပ်လုပ်ရမည်၊ ထိုပစ္စည်းများကို မည်သို့ အသုံးချရမည်နည်း၊ ဤမျှ အိုးခွက်ရှိရမည်၊ ဤမျှ ပစ္စည်းများ စုဆောင်းဝယ်ယူရမည်၊ အိမ်ကို ဤသို့ ကောင်းအောင် ဆောက်လိုက်မည်၊ ဥယျာဉ် မြေဝယ်မည်၊ အိမ်မြေဝယ်၍လခနှင့်ထားမည်ဟူ၍ နေ့-ည စိတ်ကူးစွဲလန်းနေပါက မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်အား သတိရ တ,သရန် အဘယ်မှာလျှင် အချိန်ရတော့မည်နည်း၊ မရတော့ပေ။

မကောင်းသော အချက်တစ်ရပ်မှာ.... ငွေ့ငွေကို စိတ်စွဲလန်းသွားလျှင် သေပြီး အလ္လာဟ်အသျှင်မြတ် ထံတော်သို့ ရောက်ရမည်ကို မနှစ်သက်တော့ပေ၊ (မသေလိုပေ) အဘယ့်ကြောင့်ဆိုသော် သေလျှင် ဤစည်းစိမ်များကိုစွန့်လွှတ်သွားရမည်ကို စိုးရိမ်နေသောကြောင့်ဖြစ်သည်၊ ၎င်းတစ်ခါတစ်ရံ သေခါနီးအချိန်တွင် လောကကိုလွှတ်ရန် မနှစ်သက်ပေ၊ အလ္လာဟ်အသျှင်မြတ်က လောကကို စွန့်လွှတ်စေသည် ဟု ယူဆတတ်သည်၊ (တောင်ဗဟ်-တောင်ဗဟ်) အလ္လာဟ်အသျှင်မြတ်အား ရန်သူ သဖွယ် သဘောထားသွားတတ်သည်၊ ၎င်း အဆုံးတွင် 'အီမာန်' မရှိ၊ ကာဖွင်ရ်အဖြစ်နှင့် သေရတတ်သည်။

မကောင်းသောအချက်တစ်ရပ်မှာ....လူသားသည် ငွေ့ငွေစုဆောင်းရန် အားထုတ်နေလျှင်၊ ထိုသူသည် 'ဟလာလ်-ဟရာမ်' တရားသည်-မတရားသည်ကိုပင် ဂရုမစိုက်တော့ပေ၊ မိမိနှင့်အခြားသူများ၏ တာဝန်ဝတ္တရားများကိုမကြည့်တော့၊ မုသားနှင့် လိမ်လည်ခြင်းကို ဂရုမစိုက်တော့ဘဲ ရရာနည်းဖြင့် သိမ်းကျုံး ယူမည်ဟု စိတ်သဘော ထားလေတော့သည်။

ထို့ကြောင့် ဟဒီးသ်တော်မြတ်တွင် လာရှိသည်မှာ... ဒွန္နယာလောကအား ချစ်ခင်စွဲလန်းခြင်းသည် 'ဂိုနာဟ်' အကုသိုလ်အပေါင်း၏ အရင်းအမြစ် ဖြစ်သည်။

လောကအား ခင်တွယ်စွဲလန်းခြင်းသည် ဤမျှ မကောင်းဖြစ်ပေရာ မွတ်စလင်မ်တိုင်းသည် ဤ'ဘလာ'ဒုက္ခမှ လွတ်ကင်းရန်နှင့် လောကီကို ခင်တွယ်စွဲလန်းမှုကို စိတ်မှထုတ်ပယ်ပစ်ရန် ကြိုးစားကြဘို့ ထိုက်ပေသည်။

ရှောင်ရှားရန် နည်းလမ်းများမှာ....

ပထမအချက်....

သေခြင်းကို များစွာသတိရနေရမည်၊ ဤပစ္စည်းအားလုံးကို တစ်နေ့ စွန့်လွှတ်သွားရမည်ဟု အချိန် ဟူသရွေ့ စဉ်းစားနေရမည်၊ ထိုပစ္စည်းများကို စိတ်စွဲလန်းခြင်းတွင် အကျိုးမရှိ၊ သာမက စိတ်စွဲလန်းမှုပိုလေလေ စွန့်လွှတ်ရခြင်းကို ဝန်လေး နှမြောမည်သာဖြစ်သည်။

ဒုတိယအချက်....

များစွာသော သူတို့နှင့် ဆက်ဆံခြင်း၊ အပေး-အယူများစွာမပြုနှင့်၊ လိုအပ်သည်ထက်ပို၍ ပစ္စည်းပစ္စယ မြေယာအဆောက်အအုံများ မစုဆောင်းနှင့်၊ အရောင်းအဝယ်ကုန်သွယ်မှုကို အခန့်ထက်ပို၍ မကျယ်ပြန့်စေနှင့်၊ ထိုပစ္စည်းများကို သက်သာမှု လိုအပ်သည်ခန့်ထားကုန်၊ အချုပ်မှာ ... ပစ္စည်းပစ္စယအားလုံးကို အကျဉ်းချုံး၍ ထားရမည်။

တတိယအချက်....

အပိုဖြုန်းတီးခြင်းမပြုနှင့်၊ အဘယ့်ကြောင့်ဆိုသော် အပိုဖြုန်းခြင်းဖြင့် ငွေဝင်များများရလိုမှု လောဘတက်လာမည်၊ ထိုသို့ လောဘသာပိုလာမှုကြောင့် မကောင်းမှုအားလုံး ပေါ်ပေါက်လာရခြင်း ဖြစ်ပေသည်။

စတုတ္ထအချက်....

အညံ့စား အစားအသောက်နှင့် အညံ့စား အဝတ်အထည်ကို သုံးစွဲရန် အလေ့အထ ပြုကုန်။

ပဉ္စမအချက်....

မရှိဆင်းရဲသားများနှင့်ရောရောနှောနှော နေထိုင်ခါ၊ ပစ္စည်း ကြွယ်ဝသူများနှင့် များစွာ ရောနှော၍ မနေနှင့်၊ အဘယ့်ကြောင့်ဆိုသော် သူဌေးများနှင့် ပေါင်းသင်းခြင်းဖြင့် အရာဟူသမျှကို လိုချင်သောရမ္မက် ပေါ်ပေါက်လာပေမည်။

ဆဋ္ဌမအချက်....

ဒွန္နယာလောကကို ကျော်ခိုင်းစွန့်လွှတ်ထားသော ပုဂ္ဂိုလ်ကြီးများ၏အကြောင်းအရာ အထုပ္ပတ္တိများကို ဖတ်ရှုနေကုန်။

သတ္တမအချက်....

စိတ်အစွဲအလန်းဆုံး ပစ္စည်းကို လှူတန်းလိုက်ကုန်၊ သို့တည်းမဟုတ် ရောင်းချပစ်ကုန်။

(အင်န်ရှာအလ္လာဟ့်၊တအာလာ) အလ္လာဟ်အသျှင်မြတ်အလိုတော်ဖြင့် တင်ပြပါနည်းလမ်းများကို လိုက်နာ ကျင့်သုံးပါက လောကကို ခင်တွယ်စွဲလန်းမှုများသည် စိတ်မှလွင့်စင်ပပျောက်သွားပေမည်၊ ၎င်းစိတ်ကူးယဉ်မှုများ ဤသို့ငွေစုမည်၊ဤသို့ပစ္စည်းပစ္စယ ဝယ်မည်၊ သားသမီးများအတွက် အဆောက်အအုံ ရှာများ ဝယ်ထားခဲ့မည် စသည့် အတွေးယဉ်မှုများတို့သည် လောကီအား ခင်တွယ်စွဲလန်းမှုကို စွန့်လွှတ်လိုက်ပါက ဤသို့ စိတ်ကူးယဉ်မှုများသည် အလိုအလျောက် ပျောက်ကွယ်သွားမည် ဖြစ်ပေသည်။

# နှမြောတွန့်တိုခြင်း၏မကောင်းခြင်းနှင့် ရှောင်ရှားရန်

## နည်းလမ်း အကြောင်း

ပေးလှူရန် ဖွရ်သွ်၊ဝါဂျစ်ဗ်ဖြစ်သော အချက်များရှိလေသည်၊ ဥပမာ...ဇကာတ်ဒါနကြေး၊ 'ကုရ်ဘာနီ' မရှိဆင်းရဲတောင့်တသူကိုကူညီခြင်း၊ ဆင်းရဲသော သားချင်းတို့အား ကူညီ စောင့်ရှောက်ခြင်း၊ နှမြော တွန့်တိုသဖြင့် ဤဝတ္တရားများ ပျက်ကွက်လစ်ဟင်းခဲ့သော်ထို အတွက်'ဂိုနာဟ်'အပြစ်ဖြစ်ပေသည်၊ ဤသည်မှာ သာသနာအတွက်

ဆိုးရှုံးနစ်နာမှုဖြစ်သည်၊ ၎င်းနှမြောတွန့်တိုသူသည် လူတို့ထံ သေးသိမ်သူ၊ ဂုဏ်မရှိသူဖြစ်သည်၊ ဤသည်မှာ လောက၏ ဆိုးရှုံးနစ်နာမှုဖြစ်သည်၊ ဤသို့ နစ်နာမှုများထက် မကောင်းခြင်းကား မရှိတော့ပေ။ ရှောင်ရှားရန် နည်းလမ်းမှာ...,

ပထမအချက်....

ရွှေ,ငွေပစ္စည်းနှင့် လောကအား စွဲလန်းမှုကို စိတ်မှ ဖျောက်ပစ်ရမည်၊ စိတ်၌ ရွှေ,ငွေပစ္စည်းကို ခင်တွယ်စွဲလန်းမှုမရှိလျှင် နှမြောတွန့်တိုသူ အလျဉ်းမဖြစ်နိုင်ပေ။

ဒုတိယအချက် ...

မိမိသုံးစွဲရန် လိုအပ်သည်ထက် ပိုသည်ကို စိတ်တင်းတင်းထား၍ တစ်ဦးဦးအား ပေးလှူလိုက်ကုန်၊ ဤသို့ ပေးလှူလိုက်ခြင်းဖြင့် စိတ်ဒုက္ခ ရောက်သော်လည်း စိတ်ဒုက္ခကို မျိုသိပ်ရမည်၊ နှမြောတွန့်တိုမှု၏ အရိပ်အရောင်ပင် စိတ်၌ရှိနေသေးပါက ဤတင်ပြပါ အတိုင်း ပြုမူကုန်။

## နာမည်ကြီးလိုခြင်းနှင့် အချီးမွမ်းခံလိုခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်းအကြောင်း

လူသား၏စိတ်တွင် နာမည်ကြီးရန်နှင့် အချီးမွမ်းခံလိုခြင်း ကိန်းအောင်းနေပါက ထိုသူသည် အခြားသူ နာမည်ကြီးခြင်း၊ ၎င်းအချီးမွမ်းခံရခြင်းကိုကြားကာ မခံချင်စိတ် ပေါ်လာသည်၊ ၎င်း 'ဟစဒ်' မနာလိုဖြစ်လာပေသည်၊ ဤသို့မနာလိုခြင်း၏အကြောင်း အထက်တွင် ရေးပြခဲ့ပေပြီ။

၎င်းပြင် အခြားသူ၏မကောင်းခြင်း၊ ၎င်းသေးသိမ်ခြင်းကိုကြား၍ စိတ်ပျော်ရွှင် လေသည်၊ ဤသို့အခြားသူအား မကောင်းအလိုထားခြင်းသည်လည်း 'ဂိုနာဟ်' အပြစ် အလွန်ကြီးလေသည်။

တစ်ခါတစ်ရံ မတရားသောနည်းဖြင့် နာမည်ကြီးရန် ကြံစည်မှု၏ မကောင်းခြင်း လည်း ပါဝင်သည်၊ ဥပမာ.... 'ရှာဒီ' လက်ထပ်ပွဲ စသည်များတွင် ငွေကုန်ကြေးကျခံ၍ ခင်းကျင်းသည်၊ အပိုဖြုန်းသည်၊ ၎င်းထိုအတွက်ငွေကို တစ်ခါတစ်ရံ တံစိုးလက်ဆောင် လာဘ်ယူ၍ စုထားသည်၊ ၎င်းတစ်ခါတစ်ရံ ငွေတိုးယူသည်၊ ဤသို့ 'ဂိုနာဟ်' အပြစ်ဖြစ်ရ ခြင်းသည် နာမည်ကြီးလိုသောကြောင့် ဖြစ်လေသည်။

လောကတွင် ဆိုးရှုံးနစ်နာမှုမှာ ဤသို့ နာမည်ကြီးလိုသော ဘဝမြင့်သူအား ရန်သူနှင့်မလိုသူများစွာဖြစ်လာလေသည်၊ ၎င်းအမြဲပင် ထိုသို့ကြားဝါသူအား သေးသိမ် အောင်၊ နာမည်ပျက်အောင်၊ နစ်နာအောင်၊ ဒုက္ခရောက်အောင် အကြံထုတ်နေကြမည် ဖြစ်ပေသည်။

ရှောင်ရှားရန် နည်းလမ်းများမှာ....

ပထမအချက်....

လူတို့ထံ နာမည်ကြီးဂုဏ်ယူရန် ပြုလုပ်ခြင်းဖြင့် တစ်နေ့တွင် ၎င်းသူတို့ရှိကြမည် မဟုတ်၊ ကိုယ်တိုင်လည်းရှိတော့မည်မဟုတ်၊ သေကုန်ကြမည်ဟု စဉ်းစား ဆင်ခြင်ရမည်၊ ရက်အတန်ကြာသောအခါ လူတို့က မေ့ပစ်လိုက်ကြမည်၊ သို့ရှိရာ ဤသို့ အခြေအမြစ် မရှိသောလုပ်ငန်းကို ပြုလုပ်၍ပျော်ရွှင်ခြင်းသည် မသိနားမလည်ခြင်းပင်ဖြစ်ပေသည်။

ဒုတိယအချက် ...

'ရှရီအ့တ်' တရားတော်မြတ်နှင့် မဆန့်ကျင်သော လူတို့ထံတွင်သေးသိမ် ဂုဏ်ပျက် နေသာ အလုပ်ကိစ္စကို ပြုလုပ်ရမည်၊ ဥပမာ.... အိမ်ရှိမုန့်နှင့် ထမင်းကျန်များကို ဆင်းရဲ သားတို့အား ခပ်ပေါပေါ ထုတ်ရောင်းချရမည်၊ ဤသို့ပြုခြင်းဖြင့် မိမိ၏ ဂုဏ်မာနကို ပျက်အောင်ပြုရာရောက်ပေမည်။

## မာန်မာန ထောင်လွှားခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်း အကြောင်း

မာန်မာနထောင်လွှားခြင်းဆိုသည်မှာ.... လူသားသည် မိမိကိုယ်ကို ပညာရှိခြင်း အေဗာဒတ်ခံ ဝပ်မှုပိုခြင်း၊ စာရိတ္တကောင်းခြင်း၊ ဘာသာရေးလိုက်စားဆောက်တည်ခြင်း၊ အမျိုးအနွယ် ပစ္စည်းပစ္စယ ပေါများခြင်း၊ ဂုဏ်သရေရှိခြင်း၊ အသိဉာဏ်ထက်မြက်ခြင်း ၎င်းအခြားသောကိစ္စရပ်တစ်ခုခုတွင်ပို၍သာသည်၊ အခြားသူများကို မိမိထက်နိမ့်ကျသည် သေးသိမ်သည်ဟု ထင်ခြင်းတို့သည် အပြစ် 'ဂိုနာဟ်' အလွန်ကြီးလေသည်။

ဟာဒီးသ်တော်မြတ်တွင်လာရှိသည်၊ အကြင်သူ၏စိတ်၌ မုံညင်းစေ့ ခန့်မျှ မာန်မာန ထောင်လွှားခြင်းရှိလျှင် ထိုသူသည် ဂျန္နတ် ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ရမည်မဟုတ်။

၎င်း လောကတွင် ဤသို့ မာန ထောင်လွှား သူအား ရှံ့ရှာ မုန်းတီးကြသည်၊ ကြောက်ရွံ့၍မထုတ်ဖော်ကြသော်လည်း စိတ်တွင်းမှ ရန်သူပမာထားကြသည်၊ မကောင်း ဆုံးအချက်မှာ ... ဤသို့မာနထောင်လွှားသူသည် မည်သူ၏ဆိုဆုံးမခြင်းကိုမှ နားမထောင် ပေ၊ မည်သူကမှ အမှန်စကား ပြောသည်ကို လက်မခံပေ၊ သာမက စိတ်ဆိုးလေသည်၊ ဆုံးမသူကိုပင် ရန်ပြုချင်ပေသည်။

ရှောင်ရှားရန် နည်းလမ်းမှာ ...

မိမိ၏ မူလဇာစကိုစဉ်းစားရမည်၊ ကျွန်ုပ်သည်ကား.... မြေ၊ ၎င်းကလလရေကြည်မှ ဖြစ်လာခဲ့သည်၊ ကောင်းခြင်း အင်္ဂါများကို အလ္လာဟ်အသျှင်မြတ်က ပေးသနားထား တော်မူသည်၊ အကယ်၍ အလ္လာဟ်အသျှင်မြတ် အလိုတော်ရှိပါက ကိုယ်အင်္ဂါ အစိတ်

အပိုင်း အားလုံးကို ပြန်လည်ရုပ်သိမ်းယူနိုင်သည်၊ မာန်မာန ထောင်လွှားနေခြင်းသည် အလဟဿဖြစ်သည်။

၎င်းအလ္လာဟ်အသျှင်မြတ်၏ ကြီးကျယ် ဘုန်းတံခိုးကြီးတော်မူခြင်းကို တ,သနေကုန်၊ ထိုသို့ပြုလုပ်နေထိုင်ခြင်းဖြင့် မိမိနာမည်ကြီးရန် ကြွားဝါလိုသောစိတ် ပ,ပျောက်သွားပေမည်၊ မိမိကသေးသိမ်သူဟုထင်သောသူ၏ ရှေ့မှောက်တွင် ၎င်းအား ကျိုးငယ်နှိမ့်ချစွာဖြင့်ဆက်ဆံကုန်၊ ၎င်းထိုသူအားဂုဏ်ပေးရမည်၊ ဤသို့ပြုခြင်းဖြင့် မာနထောင်လွှားသောစိတ် ပ,ပျောက်သွားပေမည်။

၎င်းအကယ်၍ ဤမျှခန့်ပြုရန် ဝန်လေးနေလျှင်၊ မိမိထက်နိမ့်ကျသူတစ်ဦးဦးအား တွေ့ပါက ပထမဦးစွာ 'စလာမ်'ပေးနှုတ်ဆက်ရမည်၊ (အင်န်ရှာအလ္လာဟ်) ဤသို့ပြုခြင်းဖြင့် စိတ်တွင် ကျိုးငယ်စိတ် ပေါ်ပေါက်လာပေမည်။

## မော်ကြွားခြင်းနှင့် မိမိကိုယ်ကို အထင်ကြီးခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်းအကြောင်း

ဟဒီးသ်တော်တွင်လာရှိသည်၊ အကြင်သူသည် အဝတ်အထည် စသည်ကို ဝတ်၍ မော်ကြွားလျှင်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် 'ကေယာမတ်' ကမ္ဘာ့ တရားခွင်နေ့၌ ထိုသူ့ဘက်သို့ 'ရဟ်မတ်' မဟာကရုဏာတော်၏ အရှုဖြင့် ရှုကြည့်တော်မူမည်မဟုတ်ပေ။

အကယ်၍ မည်သူသည် မိမိကိုယ်ကို အထင်ကြီးကာ အခြားသူများကို သေးသိမ်သည်ဟုမယူဆဘဲ အဝတ်အစားဝတ်ခြင်း၊ ၎င်းအမျိုးသမီးတို့လည်းဤသို့ဘယက်တန်ဆာဝတ်ခြင်းတို့လည်း မကောင်းပင်ဖြစ်ပေသည်၊ ဤသို့ပြုမူခြင်းသည် ဘာသာ သာသနာတော်ကို ဖျက်ဆီးရာရောက်သည်ဟု ဟဒီးသ်တော်မြတ်တွင် လာရှိပေသည်။

ထို့ပြင်ဤသို့သောသူသည် မိမိကိုယ်ကို ကောင်းအောင်ပြုပြင်ရန် စိတ်မကူးပေ၊ အဘယ့်ကြောင့်ဆိုသော် .. မိမိကိုယ်ကိုလူကောင်းဟုထင်မြင်ယူဆနေပါက အမှားအယွင်း ချွတ်ချော်မှုများကို မြင်တွေ့တော့မည်မဟုတ်ပေ။

ရှောင်ရှားရန် နည်းလမ်းမှာ....

မိမိ၏မကောင်းမှု ချွတ်ချော်ချို့ယွင်းမှုများကို စဉ်းစားရှာဖွေရမည်၊ ကျွန်ုပ်ကိုယ်တွင်း၌ ရှိသော ကောင်းခြင်းများသည် အလ္လာဟ်အသျှင်မြတ်၏ အသနားတော်မျှသာ ဖြစ်သည်၊ ကျွန်ုပ်ကိုယ်၌ကား ဘာမျှစွမ်းအားမရှိဟုစဉ်းစားဆင်ခြင်ရမည်၊ ၎င်းစဉ်းစားပြီး အလ္လာဟ်အသျှင်မြတ်ကို ကျေးဇူးဥပကာရ တင်နေရမည်၊ ၎င်းပေးသနားထားတော်မူသော စည်းစိမ်တော်များကို ရုပ်သိမ်းခြင်းမပြုပါရန် အလ္လာဟ်အသျှင်မြတ် ထံတော်၌ 'ဆုမွန်' ဒိုအာ တောင်းဆိုရမည်။

## ကောင်းမှု ကိစ္စကို ပကာသနအတွက် ပြုခြင်း၏ မကောင်းခြင်းနှင့် ရှောင်ရှားရန် နည်းလမ်းအကြောင်း

ပကာသနဂုဏ်ဖော်မှုသည် အမျိုးမျိုးရှိလေသည်၊ တစ်ခါတစ်ရံကျွန်ုပ်သည် ဤမျှ ကုရ်အာန်ကျမ်းတော်ကိုဖတ်ခဲ့သည်၊ ဤမျှညဉ့် ထ၍ 'အေဗာဒတ်'ပြုခဲ့သည်ဟု နှုတ်လျှာ ဖြင့် ထုတ်ဖော် ပြောဆိုလေသည်။

တစ်ခါတစ်ရံ အခြားစကားများဖြင့် ရောနှော၍ ဂုဏ်ဖော်ကြသည်၊ ဥပမာ.... မတ်က်ကဟ်မြို့တော်ရှိ ဘဒူလူမျိုးတို့၏အကြောင်းကို တစ်ဦးကပြောလေရာ၊ ဝင်စွက်၍၊ မဟုတ် ကျွန်တော်တို့နှင့် ဤသို့ဆက်ဆံပါသည်ဟုပြောဆိုရာ၊ ၎င်းအား 'ဟဂ်ျ'ပြုခဲ့သည်ဟု လူတို့က သိသွားရသည်။

တစ်ခါတစ်ရံ အလုပ်ဖြင့် ဂုဏ်ဖော်ကြသည်၊ ပမာဆိုသော်.... ဂုဏ်ဖော်ရန် ဆန္ဒ 'နီယတ်'ဖြင့် လူအများ၏ရှေ့တွင် 'တတ်စ်ဗီးဟ်' စိတ်ပုတီးကိုင်၍ ထိုင်သည်။

တစ်ခါတစ်ရံ ပြုမူနေကျကိုဟန်လုပ်ကြသည်၊ ပမာဆိုသော်....အမြဲထာဝရကုရ်အာန် ဖတ်ရွတ် 'သရဇ္ဈာယ်'နေသော်လည်း လူ ၄-၅-ယောက် ရှိနေပါက ဟန်လုပ်၍ အမူအရာ ဖြင့်ဖတ်လေသည်။ တစ်ခါတစ်ရံ ထိုသို့ဖတ်ရာ၌ မျက်စိမှိတ်၍ ခေါင်းညွတ်၍ ဖတ်သည်၊ မြင်သူများက အလ္လာဟ်အသျှင်မြတ်ကို တစ်ကယ်ကြောက်ရွံ့သူ၊ ၎င်းအမြဲဤသို့ပင်ဖတ်နေ သူ၊ ၎င်းညမအိပ်ဘဲ 'အေဗာဒတ်'ပြုနေသဖြင့် အိပ်ချင်နေသူဟု ထင်ကြစေရန်ဖြစ်သည်။

ဤသို့ပင် ပကာသနဂုဏ်ဖော်ခြင်းများသည် မြောက်မြားစွာရှိလေသည်၊ မည်သို့ ပင်ဖြစ်စေကာမူ ဤသို့ပကာသန ဂုဏ်ဖော်ခြင်းသည် အလွန်မကောင်းသောကိစ္စဖြစ်ပေ သည်၊ 'ကေယာမတ်'ကမ္ဘာ့တရားခွင်နေ့၌ ဤသို့ကောင်းမှုများကို ပကာသန ဂုဏ်ဖော် ရန်အတွက် ပြုမူကြလျှင်၊ ကုသိုလ် 'သဝါဗ်'ရမည့်အစား 'ဂျဟန္နမ်'အပါယ်မီးဘေး သင့် မည် ဖြစ်သည်။

ရှောင်ရှားရန်နည်းလမ်းမှာ နာမည်ကြီးလိုခြင်းနှင့်အချီးမွမ်းခံလိုခြင်း၏မကောင်း မှုအကြောင်းတွင် တင်ပြထားသည့်အတိုင်းပင် ဖြစ်သည်၊ အဘယ့်ကြောင့် ဆိုသော်.... ပကာသနဂုဏ်ဖော်ခြင်းသည် နာမည်ကြီးလိုခြင်း၊ ၎င်းအချီးမွမ်းခံလိုခြင်းအတွက်ကြောင့် ပြုကြခြင်းဖြစ်ပေသည်။

## အရေးတကြီး ပြောပြရန် လိုသော အချက်

အထက်တွင် မကောင်းသော အလေ့အကျင့်များကို ရှောင်ရှားရန် နည်းလမ်း များ တင်ပြခဲ့ပေရာ၊ ထိုရှောင်ရှားနည်းများကို ၂-ကြိမ်၊ ၄-ကြိမ် လိုက်နာခြင်းဖြင့် အောင်မြင်ကာ မကောင်းမှုများ ပျောက်ကွယ် ဆိတ်သုဉ်းသွားမည် မဟုတ်ပေ။

ပမာဆိုသော်... ဒေါသကို ၂-ကြိမ်၊ ၄-ကြိမ် မျှိုသိပ်လိုက်ခြင်းဖြင့် ဒေါသ ဖြစ် လွယ်ခြင်း လုံးဝပပျောက်သွားမည်မဟုတ်ပေ၊ ၎င်းတစ်ကြိမ်တစ်လေ ဒေါသမဖြစ်တော့

ပါကလည်း မျိုးသိပ်နိုင်စွမ်းရှိလာပြီဟု မထင်မှတ်လေနှင့်၊ သာမက ရက်ပေါင်းများစွာ ထိုရှောင်ရှားရန် နည်းလမ်းများကို လိုက်နာနေရမည်၊ ပျက်ကွက်ခဲ့လျှင် နောင်တရပြီး ပူဆွေးနေရမည်၊ ငိုင်း နောက်နောင် မဖြစ်စေရန် ဂရုစိုက်ရမည်၊ ဤနည်း အတိုင်း ပြုပါက (အင်န်ရှာအလ္လာဟ်) ရက်အတန်ကြာသွားသောအခါ ထိုမကောင်းမှုများသည် စိတ်တွင်းမှ လုံး၀ ပပျောက်သွားပေမည်။

## အရေးကြီးသော အချက်တစ်ရပ်

စိတ်ဖြင့် ကျူးလွန်သော မကောင်းမှုများ၊ ငင်းလက်ခြေဖြင့်ကျူးလွန်သော 'ဂိုနာဟ်'များနှင့်ပတ်သက်၍ အလွယ်ဆုံးသော ရှောင်ရှားရန် နည်းလမ်းမှာ....

စိတ်ဖြင့်မကောင်းသော'ဂိုနာဟ်ဖြစ်သောကိစ္စတစ်ခုခုကျူးလွန်မိလျှင်၊ ထိုစိတ်ကို အပြစ်ဒဏ်ပေးရမည်၊ အပြစ်ပေးရန် နည်းလမ်းနှစ်ရပ်မှာ လွယ်ကူ၍ လူတိုင်း လိုက်နာနိုင်ကြပေသည်။

ပထမအချက်....

၅-ပြား၊ ၁၀-ပြား၊ ၁-ကျပ်၊ ၂-ကျပ် တတ်နိုင်သည်ခန့် ဒဏ်တတ်ခံရသည့်ပမာ သတ်မှတ်ထားကာ၊ မကောင်းသော ကိစ္စတစ်ခု ကျူးလွန်မိပါက ထိုသတ်မှတ်ထားသော ငွေကို သူဆင်းရဲများအား ဝေငှပေးလိုက်ရမည်၊ အကယ်၍ ထပ်မံ ကျူးလွန်မိပြန်လျှင် ထပ်၍သတ်မှတ်ထားပြီး ဒဏ်ငွေသဘောကို ပေးလှူပစ်ရမည်။

ဒုတိယအချက်....

ထမင်း ၁-နပ်၊ ငင်း ၂-နပ် မစားဘဲ နေရမည်။

အကယ်၍အကြင်သူသည် ဤတင်ပြပါအပြစ်ဒဏ်များကိုလိုက်နာလျှင်၊ (အင်န်ရှာအလ္လာဟ်) အလ္လာဟ်အသျှင်မြတ်အလိုတော်ဖြင့် မကောင်းမှုစိတ်ထားအားလုံး ပပျောက်သွားပေမည်။

ကောင်းမြတ်သော စိတ်ထား ပြုပြင်မှုများ အကြောင်းကို ဆိုပေအံ့။

## တောင်ဗဟ်ပြုရန် နည်းလမ်းအကြောင်း

'တောင်ဗဟ်'ပြု အမှားဝန်ခံခြင်းဖြင့် 'ဂိုနာဟ်' အကုသိုလ်များမှ လွတ်ငြိမ်းချမ်းသာခွင့် ရလေသည်၊ လူသားသည် စေ့စေ့တွေးကြည့်ပါက 'ဂိုနာဟ်' အကုသိုလ် တစ်ခုမဟုတ်တစ်ခု ကျူးလွန်မိသည်ကို တွေ့ရပေမည်၊ အချိန်တိုင်းတွင် တောင်ဗဟ်ပြုရန် အရေးကြီးသည်ဟု မှတ်ထင် ယူဆနေရမည်။

တောင်ဗဟ် ပြုချင်လာမည့် နည်းလမ်းမှာ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးသ်တော်မြတ်များတွင် အပြစ်'ဂိုနာဟ်'အလိုက် အပြစ်ဒဏ်အမျိုးမျိုး လာရှိသည်ကို ဖတ်ရှုကျက်မှတ်ထားရမည်၊ ဤအလုပ်လုပ်လျှင် ဤသို့အပြစ်ခံရမည်ဟု စဉ်းစားရမည်၊ ဤသို့ပြုခြင်းဖြင့်'ဂိုနာဟ်'ကျူးလွန်ချစ်စိတ် ပပျောက်သွားပေမည်၊ ထိုအချိန်၌ နှုတ်လျှာဖြင့် 'တောင်ဗဟ်'ပြု အမှားဝန်ခံရမည်။

အဘူဟုရိုင်ရဟ် (ရသေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ... အကယ်၍ သင်သည် ပထဝီမြေမှ မိုးထိအောင် များစွာသောဂိုနာဟ်အကုသိုလ်များကျူးလွန်မိသော်လည်း တစ်စိတ်တစ်လက်ဖြင့် တောင်ဗဟ်ပြု အမှား ဝန်ခံလျှင် (ကျူးလွန်မိခဲ့သည်ကိုရှက်၍ နောက်နောင် မကျူးလွန်ပါက) မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် သင်အမှားဝန်ခံ တောင်ဗဟ်ပြုသည်ကို လက်ခံတော်မူပေမည်။ (အစ်ဗ်နို မာဂျဟ်ကျမ်း)

နမာဇ် ရိုဇဟ် စသည် ကသ္ဇာပျက်ကွက်ခဲ့မူ၊ ဤသည်ကိုဖြည့်ကုန်၊ အကယ်၍ လူလူချင်း ဝတ္တရားများ ပျက်ကွက်နစ်နာစေခဲ့လျှင် 'တောင်ဗဟ်'ပြု၍ နစ်နာခံရသူအား တောင်းပန်ရမည်၊ ငွေပေးဆပ်ရမည့်နေရာမှာ ပေးဆပ်ရမည်၊ ဂိုနာဟ် ပြစ်မှုအလိုက် ငို၍ငိုယိုသောအမူအရာဖြင့် အလ္လာဟ်အသျှင်မြတ်ထံ ချမ်းသာပေးရန်ဆုပန်ဒိုအာပြုရမည်။

## အလ္လာဟ် အသျှင်မြတ်အား ကြောက်ရန် နှင့်
## နည်းလမ်း အကြောင်း

အလ္လာဟ် အသျှင်မြတ်က ငါအသျှင်မြတ်အား ကြောက်ရွံ့ကြကုန် ဟု မိန့်မြွက်ထားတော်မူသည်။

ကုရ်အာန် ကျမ်းတော်မြတ်တွင် (ဝအီယာယ၊ဖွာတ်တကူန်) သီးခြား၍၊ ငါအသျှင်မြတ်ကိုသာ ကြောက်ရွံ့ကြကုန်၊ လောကရှိ မည်သည့်အင်အားကိုမှ မကြောက်ကြနှင့်၊ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ်၏ အပြစ်ဒဏ်သည် ၎င်းတို့အင်အားထက်ကြီးမားပြင်းပြလေသည်။ (အင်န်န၊ ဗတ္တရှ၊ရဗ်ဗဲကာ၊ လရှဒီးဒ်။)

ကြောက်ရွံ့နေခြင်းဖြင့် လူသားသည် ဂိုနာဟ် အကုသိုလ်အပေါင်းမှ လွတ်ကင်းနေမည် ဖြစ်ပေသည်၊ ဂိုနာဟ်များမှ ရှောင်ရှားနေရန် နည်းလမ်းမှာ တင်ပြခဲ့သော တောင်ဗဟ်ပြုရန် နည်းလမ်းအတိုင်းပင်ဖြစ်သည်၊ အလ္လာဟ်အသျှင်မြတ်က ပြစ်ဒဏ်ပေးတော်မူမည်များကို စဉ်းစား တွေးတော သတိရနေရမည်။

## အလ္လာဟ် အသျှင်မြတ်ထံ မက် ထား နေရန် နှင့်
## နည်းလမ်း အကြောင်း

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူထားသည်၊ (လာတပ်က်နတူ၊ မင်ရ်ရဟ်မတင်လ်လာဟ်။) ငါအသျှင်မြတ်၏ 'ရဟ်မတ်' မဟာကရုဏာတော်မှ မက်မကင်းကြနှင့်။

မက်ထားခြင်းဖြင့် ကောင်းမှုကုသိုလ်'အမလ်'များ ဆောက်တည်ချင်စိတ် တိုးပွား ပေသည်၊ ၎င်းအမှားကျူးလွန်မိသည့်အတွက် 'တောဗဟ်'ပြုချင်စိတ် ပေါ်လာမည်၊ ထိုသို့ဖြစ်လာရန်နည်းလမ်းမှာ အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်' မဟာကရုဏာတော်ကို စဉ်းစားတွေးတော သတိရနေရမည်။

## စွဗရ် သည်းခံခြင်းနှင့် နည်းလမ်းအကြောင်း

စိတ်ကို ဘာသာ သာသနာတော်က ချမှတ်ထားသော စည်းမျဉ်းအပေါ် တည်ရှိနေစေခြင်း၊ ဘာသာရေးနှင့် ဆန့်ကျင်ဘက်အလုပ်ကို မပြုမူစေခြင်းတို့ကို 'စွဗရ်' သည်းခံခြင်းဟုခေါ်လေသည်၊ 'စွဗရ်' သည်းခံခြင်းမှာ အမျိုးမျိုး ရှိလေသည်။

ပထမအချက်....

လူသားသည် အေးချမ်းသာယာစွာနေရလျှင်၊ အလ္လာဟ်အသျှင်မြတ်က ကျန်းမာခြင်း၊ ရွှေ,ငွေပစ္စည်း၊ ဂုဏ်သရေ၊ ချွေရိသင်းပင်း၊ သားသမီး၊ အိမ်ယာ အဆောက်အအုံ၊ ပစ္စည်းပစ္စယများ ပေးသနားထားတော်မူလျှင်၊ ဤသို့သောအဖြစ်၌ 'စွဗရ်'ပြုရမည်မှာ....ဘ၀င်မမြင့်နှင့်၊ အလ္လာဟ်အသျှင်မြတ်ကိုမေ့လျော့မသွားနှင့်၊ သူဆင်းရဲများကို သေးသိမ်သည်ဟုမအောက်မေ့နှင့်၊ ထိုသူဆင်းရဲများနှင့် ချိုသာစွာ ကောင်းကျိုးပြုခြင်းဖြင့် ဆက်ဆံရမည်။

ဒုတိယအချက်.....

အေဗာဒတ် ခ,၀ပ်မှုပြုသောအခါ၊ စိတ်သည် ပျင်းရိတတ်သည်၊ နမာဇ်ဖတ်ရန်မထလိုပေ၊ 'ဇကာတ်' ဒါနကြေးပေးဆောင်ရန် နှမြောတတ်သည်၊ ဤသို့သောအဖြစ်၌ စွဗရ်(၃)မျိုးထားရပေမည်၊(အင်န်နလ္လာဟ၊မအာတ်စ်စွာဗေ့ရီးန်)အလ္လာဟ်အသျှင်မြတ်သည်၊ စွဗရ်ပြုသူများနှင့်အတူ ရှိတော်မူသည်ဟူ၍ ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိပေသည်၊ ဆိုလိုသည်မှာ.... ၎င်းတို့၏အလုပ်ဟူသမျှကို ကူညီပေးတော်မူသည်။

၁။ အေဗာဒတ် ခ,၀ပ်မှု မပြုမီ 'နိယတ်' စိတ်ဆန္ဒကို ကောင်းစွာထားရမည်၊ အလ္လာဟ်အသျှင်မြတ် အတွက် သက်သက်လုပ်ဆောင်ရမည်၊ စိတ်အတွက် အလိုလောဘ တစ်ခုမှ မပါစေနှင့်။

၂။ အေဗာဒတ်ပြုသောအခါ စိတ်တင်းတင်းထားရမည်၊ အားမလျော့စေနှင့်၊ အေဗာဒတ်ပြုရန် ထိုက်သကဲ့သို့ မလစ်ဟင်းစေဘဲ ပြုရမည်။

၃။ အေဗာဒတ်ခ,၀ပ်မှုပြုပြီးနောက် မည်သူ၏ရှေ့၌မှ မည်သို့မည်ပုံပြုပါသည်ဟု ထုတ်ဖော် ဂုဏ်ယူခြင်းမပြုနှင့်။

တတိယအချက်....

'ဂိုနာဟ်'အကုသိုလ်ကျူးလွန်သောအခါ'စွဗရ်'ပြုရမည်မှာ စိတ်ကို ဂိုနာဟ် မပြုမိစေရန် တားဆီးရမည်။

စတုတ္ထအချက်....

တစ်ဦးတစ်ယောက်က ဒုက္ခပေးသောအခါ၊ မကောင်းပြောသောအခါ 'စွဗရ်'ပြုရမည်မှာ အစားပြန်မယူနှင့်၊ ဆိတ်ဆိတ်နေလိုက်ရမည်။

ပဥ္စမအချက်....

ဒုက္ခ၊ ရောဂါ၊ ပစ္စည်းဆုံးရှုံးခြင်း၊ သားချင်း မိတ်သင်္ဂဟ သေဆုံးသောအခါ 'စွဗရ်'ပြုရမည်မှာ နှုတ်လျှာဖြင့် တရားတော်နှင့်ဆန့်ကျင်သော စကားလုံးများ မထွက်စေနှင့်၊ ရှိုးမယ်ဖွဲ့၍ မငိုနှင့်။

အားလုံးသောအချက်များကိုခြုံ၍ 'စွဗရ်'ပြုရန်မှာ ထိုအဖြစ်၌ ရရှိမည့် ကုသိုလ်သဝါဗ်များကို သတိရနေရမည်၊ ဖြစ်ပျက်မှုအပေါင်းတို့သည် ကျွန်ုပ် အကျိုး အတွက်ဖြစ်သည်၊ မချိမဆန့် ဖြစ်နေခြင်းဖြင့် ဖြစ်ပျက်ရမည်မှာ လွဲပြောင်းသွားမည်မဟုတ်၊ အကျိုးမဲ့ရရှိမည့် ကုသိုလ်သဝါဗ် လက်လွတ်မသွားစေသင့်ဟု စဉ်းစားဆင်ခြင်ရမည်။

# ကျေးဇူးတင်ခြင်း နှင့် နည်းလမ်းအကြောင်း

မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်အား ကျေးဇူးတင်ခြင်း၏ အထိမ်းအမှတ်တစ်ခုမှာ အလ္လာဟ်အသျှင်မြတ်က တစ်ဦးတစ်ယောက်မှတဆင့် ရွှေငွေစည်းစိမ်ပေးသနားတော်မူလျှင် ထိုသူ့ကိုလည်း ကျေးဇူး တင်ရမည်၊ အဘယ့်ကြောင့် ဆိုသော် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ....

(မန်လမ်ယရှ်ကို့ရင်နာစ၊လမ်ယရှ်ကို့ရစ်လ္လာဟ။) အကြင်သူသည် လူတို့အား ကျေးဇူးတင်သူ မဟုတ်လျှင်၊ ထိုသူသည် အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်သူ မဖြစ်နိုင်။

အလ္လာဟ် အသျှင်မြတ်က ပေးသနားထားတော်မူသော စည်းစိမ်များ အပေါ် ပျော်ရွှင်၍ အလ္လာဟ်အသျှင်မြတ်အား အချစ်စိတ်ထားရမည်၊ စည်းစိမ်များ ပေးသည့်အတွက် ချစ်ခင်စိတ်ထားကာ ထိုအလ္လာဟ်အသျှင်မြတ်အား ကောင်းမွန်ကျနစွာ 'အေဗာဒတ်' ခဝပ်သမူပြုရမည်၊ ဤသို့စည်းစိမ်များ ပေးသနားတော်မူသော အလ္လာဟ်အသျှင်မြတ်အား ဖီဆန်ခြင်းသည် အလွန်ပင် ရှက်ဖွယ်ကောင်းလေသည်၊ ဤသည်မှာ ကျေးဇူးတင်ခြင်း၏ အကျဉ်းချုပ်ပင် ဖြစ်သည်။

'ဗန္ဒဟ်'လူသားများအပေါ် အလ္လာဟ်အသျှင်မြတ်၏စည်းစိမ်တော်များ ထောင်ပေါင်းများစွာရှိသည်၊ အကယ်၍ ဒုက္ခတစ်ခုခုဖြစ်သော်လည်း ထိုဒုက္ခတွင် လူသား၏ အကျိုးရှိနေမှု၊ ထိုဒုက္ခလည်း စည်းစိမ်ပင် ဖြစ်ပေသည်။

သို့ရှိရာ အချိန်တိုင်းတွင် စည်းစိမ်ချည့်ဖြစ်နေမှု၊ အချိန်ဟူသရွေ့ စိတ်ပျော်ရွှင်ပြီး အချစ်စိတ်တိုးကာ ဘယ်သောအခါမှ အလ္လာဟ်အသျှင်မြတ်၏အမိန့်တော်မြတ်ကို ဦးထိပ်ပန်ဆင်ရာ၌ လျော့ပေါ့ လစ်ဟင်းမှု မဖြစ်စေနှင့်။

ထိုသို့ အမိန့်နာခံ လိုက်နာစေနိုင်သောနည်းမှာ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ပေးသနားတော်မူသော စည်းစိမ်တော်များကို သတိရ စဉ်းစားတွေးတောနေရမည်။

## အလ္လာဟ်အသျှင်မြတ် အပေါ် အားထားရန် နှင့် နည်းလမ်း အကြောင်း

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် အလိုတော် မပါမရှိဘဲ မည်သည့်ကောင်းကျိုးဆိုးကျိုးမှ မဖြစ်နိုင်ဟု မွတ်စလင်မ်တိုင်း ယုံကြည် သက်ဝင်ကြသည်၊ ထို့ကြောင့် မည်သည့်အလုပ်ကိစ္စ ဆောင်ရွက် လုပ်ကိုင်စေကာမူ မိမိ အကြံအစည်အပေါ် အားမထားနှင့်။

အလ္လာဟ်အသျှင်မြတ်အပေါ်သာ ယုံပုံကိုးစား အားထား၍ မည်သည့်'မ်ခ်လူးက်' အဖန်ဆင်းခံ လူသားများအပေါ် မက်မျှားစွာ မထားနှင့်၊ ၎င်းမည်သူ့ကိုမျှ အလွန်ကြောက်ရွံ့ခြင်း မပြုနှင့် အဘယ့်ကြောင့် ဆိုသော် အလ္လာဟ်အသျှင်မြတ် အလိုတော်မရှိဘဲ မည်သူမျှ ကောင်းကျိုး ဆိုးကျိုးမပေးနိုင်ဟု ယုံကြည်ယူဆထားကြရမည်၊ ဤသို့ ယုံကြည်ခြင်းကို အားထားခြင်း၊ ၎င်း'တဝပ်က်ကွလ်'ဟု ခေါ်ဆိုသည်။

ယုံပုံ အားထားလိုစိတ် ပေါ်လာစေရန် နည်းလမ်းမှာ.... မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ 'ကွဒ်ရတ်'နှင့် 'ဟစ်က်မတ်' စွမ်းအား တံခိုးဂုဏ်တော်များနှင့် လူသားတို့မစွမ်းနိုင်ခြင်းများကို ကောင်းစွာဆင်ခြင်တွေးတော ယုံကြည်မှုထားကြရမည်။

## အလ္လာဟ်အသျှင်မြတ်အား ချစ်ခင်ရန် နှင့် နည်းလမ်း အကြောင်း

အလ္လာဟ်အသျှင်မြတ်ဘက်တော်သို့ စိတ်စွဲလန်းခြင်း၊ ၎င်းအလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်များကို ကြားသိ၍ လမ်းစဉ်များကိုတွေ့မြင်ကာ စိတ်သဘောကျခြင်းတို့သည် ချစ်ခင်ခြင်း မည်ပေသည်။

ချစ်ခင်စိတ်ပေါ်ရန်နည်းမှာ.... အလ္လာဟ်အသျှင်မြတ်၏ နာမံတော်ကို မြားမြောင်စွာ တ, သရမည်၊ ၎င်းထိုအသျှင်၏ ကောင်းခြင်းများကိုသတိရနေရမည်၊ အသျှင်မြတ်က ချစ်ခင်သော သူတော်စင်များနှင့်ပတ်သက်၍ စဉ်းစားနေရမည်။

## အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော် အပေါ် သဘောတူရန် နှင့် နည်းလမ်း အကြောင်း

အလ္လာဟ်အသျှင်မြတ်ဘက်တော်မှ ဖြစ်ပျက်ခြင်းအပေါင်းတို့သည် 'ဗန္ဒဟ်'လူသားများအတွက် အကျိုး ၎င်း ကုသိုလ် ဖြစ်သည်ဟု မွတ်စလင်မ်တိုင်း ယုံကြည်ကြသည်။

ထို့ကြောင့် မည်သို့အဖြစ်နှင့် ကြုံတွေ့ရစေကာမူ သဘောတူစွာနေရမည်၊ စိတ်ပျက်ခြင်း၊ ဖြစ်တင်ခြင်းများ မပြုရ၊ နည်းလမ်းမှာ.... အလ္လာဟ် အသျှင်မြတ် ပြုသမျှ အပေါင်းတို့သည် အကောင်းချည့်ပင် ဖြစ်သည်ဟု စဉ်းစား တွေးတောနေရမည်။

# စိတ်ထား ကောင်းမွန်ရန် နှင့် နည်းလမ်း အကြောင်း

ဘာသာသာသနာရေးရာလုပ်ငန်းတစ်ခုလုပ်ဆောင်လျှင် လောကီလိုဘမပါစေရ၊ ပကာသနဂုဏ်ဖော်မှုလည်းမရှိစေရပေ၊ ဤသို့လိုဘလည်းမပါစေရ၊ ဥပမာ.... တစ်ဦးဦးတွင် ဝမ်းဗိုက်မကောင်း၍ ပေါ့ပါးသွားစေရန် 'ရှိဇဟ်' ဥပုသ်ထားလိုက်မည်၊ ၎င်းနမာဇ် အချိန်ရောက်လာသောအခါ 'ဝိုသျူ' ရှိလျက်နှင့် ပူအိုက်သဖြင့် ခြေလက် အေးစေရန် ဝိုသျူလည်း အသစ်ဖြစ်သွားမည်၊ ၎င်းတောင်းရမ်းသူအား၊ ၎င်းတောင်းရမ်းသောဒုက္ခ 'ဘလာ'မှ လွတ်ကင်းရန်ပေးလိုက်သည်၊ ဤအချက်အားလုံးတို့သည် စိတ်ထား 'နိယတ်' ကောင်းမွန်ခြင်းနှင့် ကွဲလွဲဆန့်ကျင်လေသည်။

'နိယတ်' စိတ်ကောင်းမွန်စေရန် နည်းလမ်းမှာ.... အလုပ်လုပ်မည် ကြံလျှင် ပထမ ကောင်းစွာစဉ်းစားရမည်၊ အကယ်၍ ထိုအလုပ်တွင် အစွန်းအထင်းတစ်ခုတစ်လေ ပါနေလျှင် ဤသည်ကို သန့်ရှင်းအောင် ပြုပြင်ရမည်။

# မိုရာကဗဟ် အလ္လာဟ်အသျှင်မြတ်အား စိတ်စွဲလန်းရန် နှင့် နည်းလမ်း အကြောင်း

အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်၏စိတ် အတွင်းအပြင် အကြောင်း ဟူသရွေ့ကို အချိန်မရွေးသိမြင်တော်မူသည်ဟု စိတ်စွဲလန်းယုံကြည်ရမည်၊ အကယ်၍ မကောင်းသော အလုပ်ကို လုပ်မိလျှင်၊ မကောင်းသောအတွေးကို တွေးမိလျှင် အလ္လာဟ်အသျှင်မြတ်သည် ဒွန္နယာ လောက၌သော်လည်းကောင်း၊ နောင်အာခေရတ်၌သော်လည်းကောင်း ဖြစ်ဒဏ် ပေးတော်မူမည်ဟု ယုံကြည်ယူဆထားရမည်။

အေဗာဒတ် ခ,ဝပ်မှုပြုသောအခါ ကျွန်ုပ်ပြုနေသောခ,ဝပ်မှုကို အလ္လာဟ်အသျှင်မြတ် မြင်တော်မူမည်ဟု ယုံကြည်ကာ ကောင်းမွန်ကျနစွာ ဆောက်တည် ခ,ဝပ်ရမည်။

စိတ်စွဲလန်းသွားရန်နည်းမှာ.... အချိန်ရှိသရွေ့ အလ္လာဟ်အသျှင်မြတ် သိနေတော်မူသည်ဟု စဉ်စား နေရမည်၊ ဤသို့စဉ်းစားနေပါက ရက်အတန်ကြာက အလေ့ဖြစ်ကာ စွဲလန်းသွားပေမည်၊ ထို့နောက် မည်သည့် အလုပ်မှ (အင်န်ရှာအလ္လာဟ်) အလ္လာဟ် အသျှင်မြတ် အလိုတော်နှင့် ဆန့်ကျင်ဘက် ပြုလုပ်လာမည်မဟုတ်ပေ။

# ကုရ်အာန်ကျမ်းတော် ဖတ်ရာ၌ စိတ်စွဲလန်းရန် နည်းလမ်း အကြောင်း

ကုရ်အာန်ကျမ်းတော်မြတ်ကို မည်သို့ မည်ပုံ ဖတ်သည်ကို နားထောင်လိုသဖြင့် အဖတ်ခိုင်းသောအခါ ကောင်းမွန်ပီသစွာ ဖတ်ပြသော အလေ့အထရှိလေသည်။

သို့ရှိရာ ကုရ်အာန်ကျမ်းတော်ကို ဖတ်တော့မည်ဆိုလျှင် အလ္လာဟ်အသျှင်မြတ်က ခိုင်းသဖြင့် ဖတ်ပြနေသည်ဟု သဘောထားရမည်၊ လူသားအချင်းချင်းက အဖတ်ခိုင်းသောအခါ ကောင်းမွန်ပီသစွာဖတ်သည်ထက် ပို၍ပင် ဂရုတစ်စိုက်ဖတ်ရန် ထိုက်လေသည်။

ဤသို့ အလ္လာဟ်အသျှင်မြတ် ကြားတော်မူနေသည်ဟု သဘောပိုက်ကာ ဖတ်ရွတ်နေရမည်၊ ဖတ်နေစဉ်တွင် ဤအချက်ကို ဂရုစိုက်ရမည်၊ ဖတ်သောအခါ ပီသမှု ပျက်သွားလျှင်၊ ၎င်း စိတ် ဟိုဟိုသည်သည်ရောက်နေပါက ခေတ္တရပ်ဆိုင်းထားပြီး တင်ပြပါ အချက်များကိုစဉ်းစားရမည်။

(အင်န်ရှာအလ္လာဟ်) အသျှင်မြတ်အလိုတော်ဖြင့် ဤနည်းလမ်းဖြင့် ဖတ်နေပါက မှန်ကန်ပီသစွာလည်း ဖတ်နိုင်မည်၊ ၎င်းစိတ်လည်း စွဲလန်းမှုဖြစ်လာပေမည်၊ အကယ်၍ ရက်အတန်ကြာ ဤတင်ပြပါနည်းအတိုင်းဖတ်နေပါမူ၊ စိတ်စွဲခြင်းနှင့် ပီသမှုမှာ အလေ့အကျင့် ဖြစ်သွားပေမည်။

# နမာဇ်ဖတ်ရာ၌ စိတ်စွဲလန်းစေရန် နည်းလမ်းအကြောင်း

နမာဇ်ဝတ်ပြုရာ၌ ဖတ်ရွတ်ခြင်းနှင့်လုပ်ဆောင်ရခြင်းများကို စိတ်မပါဘဲ မဖြစ်စေရန် သတိထားရမည်၊ သာမက လုပ်ရပ်တိုင်းတွင် စိတ်ပါခြင်း၊ စဉ်းစားခြင်းရှိနေစေရမည်။

ဥပမာ... (အလ္လာဟို၊ အတ်ကဗ်ရ်)မြွက်ဆိုပြီးရပ်မူ၊ ယခု(စွဗ်ဟာန၊ ကလ္လာဟွမ္မ) ဖတ်နေသည်ဟု စာလုံးတိုင်းတွင် စဉ်းစားနေရမည်၊ ထို့နောက်(ဝဗေ့ဟမ်ဒေ့က) ဆိုနေသည်ဟု စဉ်းစားရမည်၊ ၎င်း (ဝတဗာရ၊ ကတ်စ်မို့က) ဆိုနေသည် ဟု တွေးတော နေရမည်၊ ဤသို့ပင် စာလုံးတိုင်းတွင် တစ်သီးတစ်ခြားစီ စိတ်စိုက် စဉ်းစားတွေးတော နေရမည်။

ထို့နောက် 'အလ်ဟမ်'နှင့်'စူရဟ်'တွဲရာတွင်လည်း ဤသို့ပင် စဉ်းစားနေရမည်၊ ပြီးနောက် 'ရှိကူအ်' ဦးညွှတ်ရာ၌ (စွဗ်ဟာန၊ရဗ်ဗေ့ယလ်၊အဇွီးမ်) ကို အကြိမ်တိုင်း စဉ်းစား၍ဖတ်ရမည်၊ အချုပ်မှာ.... နှုတ်မှထွက်သော စာလုံးကို စိတ်ဖြင့်လည်း စဉ်းစား ရမည်။

တင်ပြပါနည်းလမ်းအတိုင်း နမာဇ်ဖတ်ရွတ်ပါက'အင်န်ရှာအလ္လာဟ်' စိတ် ဟိုဟို သည်သည် ရောက်မည်မဟုတ်ပေ၊ ရက်အတန်ကြာသောအခါ နမာဇ်ဖတ်ရာတွင် စိတ်ပါ လာမည်၊ ၎င်း အရသာလည်း တွေ့ပေမည်။

# ပိရ်ရိမှုရိဒ် ဆရာ တပည့် အကြောင်း

မို့ရီးဒ် တပည့်ခံလိုသောစိတ်ဆန္ဒရှိမူ၊ ပထမ ပီရ်ဆရာတင်မည့်သူကို ကောင်းစွာ ဂရုတစ်စိုက် ကြည့်ရမည်၊ အလ္လာဟ်အသျှင်မြတ်နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏လမ်းစဉ်တော်နှင့် ကွဲလွဲသည်၊မကွဲလွဲသည်ကို ကြည့်ရမည်၊ နမာဇ်ကို'ဂျမာအတ်' နှင့်ဖတ်၍ ရိုဇဟ်ဥပုသ် စသည့်ကိစ္စရပ်များကို'ရှရီအတ်'တရားတော်မြတ်အတိုင်း လိုက်နာကျင့်သုံးသည်၊ မကျင့်သုံးသည်ကို ကြည့်ရမည်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ စွန္နတ်တော်လမ်းစဉ်ကို လိုက်နာသည်၊ မလိုက်နာသည်ကို ကြည့်ရမည်။

အကယ်၍ ထိုဆရာ၏ပြုမူကျင့်သုံးမှုအလုံးစုံသည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကိုက်ညီနေပါက ထိုပီရ်ဆရာထံ မို့ရီးဒ်တပည့်ခံနိုင်သည်၊ သို့တည်းမဟုတ်ပါက မို့ရီးဒ် တပည့်ခံခြင်းသည် အရေးကြီးသော အလုပ်မဟုတ်ပေ။

'မို့ရီးဒ်' တပည့်ခံရာ၌ အကျိုးကျေးဇူး များစွာ ရှိလေသည်။

၁။ အထက်တွင်တင်ပြခဲ့သော စိတ်ထားပြုပြင်ရန် နည်းလမ်းများကို လုပ်ဆောင်လိုက်နာရာ၌၊ နားလည်မှုနည်းပါးသဖြင့် မှားယွင်းတတ်ပေသည်၊ ထိုသို့မှားယွင်းသည်ကို ဆရာက မှန်ကန်သွားစေရန် နည်းလမ်းပြပေးပေမည်။

၂။ စာအုပ်ကိုဖတ်ခြင်းထက် ပီရ်ဆရာက ပြောပြသည်မှာ ပိုမို၍ စူးရှထိရောက်လေသည်၊ ဆရာသခင်၏ 'ဘရ်ကတ်' ဖြင့် စူးရှလာသည့်ပြင်၊ ကောင်းမှုတစ်ခု ပြုရာ၌ ပေါ့လျော့ လစ်ဟင်းသွားလျှင်၊၎င်းမကောင်းမှုတစ်ခုခု ကျူးလွန်မိမည်ကို ကြောက်ရွံ၍ ဆရာသခင်ထံ အရှက်ရမည်ကို စိုးရိမ်ကာ ဂရုစိုက်လာပေမည်။

၃။ ပီရ်ဆရာသခင်အား ယုံကြည်ချစ်ခင်စိတ်ပေါ်လာသည်၊ ဆရာသခင် လုပ်ကိုင်သော နည်းလမ်းအတိုင်း ကျွန်ုပ်လည်း လိုက်နာဆောက်တည်မည်ဟု လိုလားစိတ်ပေါ်လာပေမည်။

၄။ ပီရ် ဆရာသခင်က ဆိုဆုံးမရာ၌၊ ပြင်းပြင်းထန်ထန် ပြောမူ၊ ဒေါသ ဖြစ်မူလည်း စိတ်မဆိုးပေ၊ သာမက ဆုံးမချက်အတိုင်း 'အမလ်'ပြု ဆောက်တည်ရန် ကြိုးစားလာလေသည်။

ထို့ပြင် မြောက်မြားစွာသော အကျိုးကျေးဇူးရှိပေသေးသည်၊ အလ္လာဟ်အသျှင်မြတ် (ဖွဲသ်လ်) အသနားတော် ရရှိကြသူများသည် အကျိုး ကျေးဇူး ရရှိကြပေသည်၊ ၎င်း အသနားတော် ရရှိမှသာလျှင် အကျိုးကျေးဇူးကို သိမြင်ကြသည်။

အကယ်၍တပည့်ခံလိုသောစိတ်ဆန္ဒရှိမူ၊ ပထမ ဆရာသခင်တွင် အောက်ပါအချက်များ ရှိ-မရှိ ကြည့်ရမည်၊ အောက်ဖော်ပြပါအချက်များ ဆရာတွင်မရှိပါက ထိုဆရာထံ တပည့်မခံနှင့်။

ပထမအချက်....

'ပီရ်'ဆရာသခင်သည် ရှရီအတ်တရားတော်၏ 'မတ်စ်အလဟ်'များကို ကောင်းစွာနားလည်သူ ဖြစ်ရမည်၊ နားမလည်သူ မဖြစ်စေရ။

ဒုတိယအချက်....

ထိုပီရ်ဆရာ၌ မည်သည့် အချက်အလက်မှ 'ရှရီအတ်' တရားတော်နှင့် ဆန့်ကျင်မှု မရှိစေရ၊ (ဘဟစ်ရှိတီဇေဝရ်ကျမ်း) ပထမတွဲ 'အကီဒဟ်'ယုံကြည်မှုအကြောင်းတွင် ပါရှိသည့် အချက်များ အတိုင်း ထိုပီရ်ဆရာသည် လိုက်နာ 'အကီဒဟ်'ထားသူ ဖြစ်ရမည်၊ ၎င်းဤကျမ်း၌ ပါဝင်သော 'မတ်စ်အလဟ်'များနှင့် စိတ်ပြုပြင်ရန် အကြောင်းကို သင်ဖတ်ခဲ့သည်၊ ထိုအချက်များနှင့်လည်း ပီရ်ဆရာလုပ်သူသည် ဆန့်ကျင်သူ မဖြစ်စေရပေ။

တတိယအချက်....

ငွေရှာရန်၊ ငွေအစားအသောက်အတွက် ပီရ် ဆရာလုပ်သူ မဖြစ်စေရ။

စတုတ္ထအချက်....

ဘာသာရေးနားလည်သော ကောင်းသောသူအများစုကသာ သူတော်ကောင်းဟု ယူဆသော ဆရာထံ၌သာ 'မို့ရီးဒ်' တပည့်အဖြစ် ခံယူရမည်။

ပဉ္စမအချက်....

ထိုပီရ်ဆရာကို ကောင်းသောသူများကသာ လူကောင်းဟုဆိုမှ တပည့်ခံရမည်။

ဆဋ္ဌမအချက်....

ထိုဆရာ၏ သင်ပြမှုဖြင့် သာသနာရေးရာကို ဆောက်တည်ချင်စိတ်နှင့် ချစ်ခင်စိတ်ဖြစ်လာမှသာ တပည့်ခံယူရမည်။

ဤကိစ္စကို ၎င်း၏တပည့်များအား ကြည့်ခြင်းဖြင့် သိသာနိုင်ပေသည်၊ အကယ်၍ တပည့် (၁၀)ယောက်တွင် (၅)ယောက်(၆)ယောက် လူကောင်းများ ဖြစ်လာပါက၊ ထိုဆရာသည်စူးရှထိရောက်သူဖြစ်သည်ဟုယူဆရမည်၊ တစ်ယောက်တစ်လေ ကောင်းမလာသဖြင့် ဆရာအား ဒွိဟသံသယ မထားကြနှင့်၊ သူတော်စင်များတွင် ထိရောက် စူးရှမှု ရှိသည်ဟု သင်ကြားဘူးပေသည်၊ ထိုစူးရှထိရောက်ခြင်းသည် ဤသည်ပင်ဖြစ်ပေသည်။

ထိုပီရ်ဆရာ ပြောလိုက်ခြင်းဖြင့် စူးရှ ထိရောက်သည် ဆိုခြင်းကို မယုံကြည်နှင့်၊ ထိုဆရာက ထိကိုင်လိုက်လျှင် ရောဂါပျောက်သည်၊ အလုပ်ကိစ္စတစ်ခုခုအတွက်'တအ်ဝီးဇ်' လက်ဖွဲ့ပေးလိုက်လျှင် ထိုကိစ္စသည် ဆရာအလိုကျဖြစ်သည်၊ ထိုပီရ်ဆရာက (တဝဂ်ဂျဟ်) စိတ်အာရုံစူးစိုက်လိုက်လျှင် လူသားသည် လူးလှိမ့်နေရသည်ဟူသော စသည့် စူးရှထိရောက်မှုများရှိသည်ဟု ဆိုပါက အလျင်း အလိမ်မခံနှင့်၊ ဤသူသည် လူညာပင်ဖြစ်သည်။

သတ္တမအချက်....

ပိရ်ဆရာလုပ်သူသည် ဘာသာ, သာသနာရေးရာကို သွန်သင်ဆုံးမရာ၌ မို့ရီးဒ်တပည့်များ အလိုလိုက်၍ ပြောဆိုသူမဖြစ်စေရ၊ ၎င်း မဆီမဆိုင်စကားများ ပြောဆိုခြင်းမှ တားမြစ်သူ ဖြစ်ရမည်။

အကယ်၍ တင်ပြပါအတိုင်း ကောင်းမွန်သောဆရာ တွေ့ပါက အမျိုးသမီးများ အနေဖြင့် အပျိုဖြစ်သော် မိဘထံခွင့်ယူ၍ ၎င်းအိမ်ထောင်သည်ဖြစ်ခဲ့သော် ခင်ပွန်းသည်ထံ ခွင့်ပန်၍ ဘာသာ, သာသနာတော်ကို ကောင်းဆည်ထက်ကောင်းအောင် ပြုရန်အတွက် မို့ရီးဒ် တပည့်ခံယူရမည်။

အကယ်၍ ခွင့်တောင်းရာ ခွင့်မပေးကြပါက မို့ရီးဒ် တပည့် ခံယူခြင်းသည် 'ဖွရ်သွ' မပြုမနေရ မဟုတ်သဖြင့် တပည့်မခံလေနှင့် သို့သော် ဘာသာ, သာသနာတော် အတိုင်း လိုက်နာ ဆောက်တည်နေရန်မှာ 'ဖွရ်သွ' ဖြစ်ပေသည်၊ တပည့်မခံဘဲ မို့ရီးဒ် မယူဘဲလျက် ဘာသာရေးကို လိုက်နာဆောက်တည်နိုင်ပေသည်။

# ပီရိမိုရီဒ် ဆရာတပည့်နှင့်ပတ်သက်၍ အချို့အချက်များကို တင်ပြမည်

၁။ ပီရ် ဆရာသခင်ကို ကောင်းစွာ ရိုသေလေးစားရမည်၊ အလ္လာဟ်အသျှင်မြတ်ကို တ,သရန် ဆရာပြသော နည်းလမ်းအတိုင်း လိုက်နာရမည်၊ စိတ် ကောင်းမွန်အောင် ပြုပြင်ရာတွင် ယခုခေတ်၌ ဤဆရာထက်ပို၍ မည်သူမျှမပြုနိုင်ဟု ယုံကြည်ရမည်။

၂။ အကယ်၍ မို့ရီးဒ် တပည့်ခံယူသူ၏စိတ်သည် ကောင်းမွန်တိုကျခြင်းမရှိသေးဘဲ ဆရာလုပ်သူမှာ သေဆုံးသွားခဲ့သော် တင်ပြခဲ့သော အချက်များနှင့် ကိုက်ညီသည့် ပြည့်စုံသောဆရာ တစ်ယောက်ယောက်ထံတွင် ဆက်၍တပည့်ခံရမည်။

၃။ ကျမ်းစာအုပ်တစ်အုပ်တွင် 'ဝဇီဖွာဟ်' ဘာဝနာစီးဖြန်းခြင်း၊ ၎င်း'ဖွကီရီ' လောဘသတ်ခြင်း အကြောင်းများဖတ်ပြီး မိမိသဘောနှင့် လိုက်နာခြင်းမပြုနှင့် ဆရာအား မေးပြီးမှ လုပ်ကိုင်ပြုမူရမည်၊ အကောင်း,အဆိုး စိတ်၌ ပေါ်ပေါက် လာလျှင် ၎င်းတစ်ခုခုလုပ်ဆောင်လိုလျှင် ဆရာအားမေးပြီးမှ ပြုမူရမည်။

၄။ အမျိုးသမီးတို့သည် ဆရာရှေ့တွင် 'ပရ်ဒဟ်' မရှိဘဲမနေရ၊ မိုရီးဒ် တပည့်ခံယူသောအခါ ပီရ်ဆရာ၏လက်၌ လက်မပေးနှင့် မျက်နှာသုတ်ပုဝါ အဝတ်စတစ်ခုခု သို့တည်းမဟုတ် တပည့်ခံပါသည်ဟု ပြောဆိုရုံဖြင့် တပည့်ခံယူမှု ပိုင်လေသည်။

၅။ အကယ်၍ 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သော ပီရ် ဆရာလုပ်သူထံမှား၍ မို့ရီးဒ် တပည့်ခံယူမိလျှင် လည်းကောင်း၊ ပထမက လူကောင်းဖြစ်ပြီး နောက်မှ ပျက်ပြားသွားလျှင် လည်းကောင်း တပည့်ခံယူထားမှုကိုဖျက်ပစ်ပြီး သူတော်စင် အစစ်အမှန်တစ်ပါးထံသွား၍ တပည့်ခံယူရမည်။

သို့သော် အကယ်၍ တစ်ခါတစ်ရံ ဆရာသည် ပေါ့ပါးသော အပြစ်တစ်ခုတစ်လေ ကျူးလွန်မိသွားလျှင် ၎င်းသည်း လူသားပင်ဖြစ်သည်၊ 'ဖွရစ်ရှိတဟ်' မဟုတ်ဟုယူဆရမည်၊ အမှားကို တော်ဗဟ်'ပြု ဝန်ခံခြင်းဖြင့် ပျောက်ပျက်သွားနိုင်ပေသည်၊ အနည်းငယ်မျှ အကြောင်းအရာကလေးဖြင့် ယုံကြည်မှု မပျက်စေနှင့်၊ သို့သော် အကယ်၍ ဆရာသည် ထိုအပြစ်မကင်းသည့် မဆီမဆိုင် အလုပ်ကို ဆက်၍ပြုကျင့်နေပါက တပည့်အဖြစ်ခံယူထားမှုကို ဖျက်ပစ်ရမည်။

၆။ ပီရ်ဆရာသည် ကျန်ုပ်တို့၏ အဖြစ်အပျက်အပေါင်းကို သိသည်ဟု ယူဆခြင်းသည် အပြစ်အလွန်ကြီးလေသည်သာမက 'ကာဖွင်ရ်' ဖြစ်သည်။

၇။ ဖွကီရီ လမ်းစဉ်၏ အချို့စာအုပ်များသည် ပြင်ပအားဖြင့် 'ရှရီအတ်' တရားတော်နှင့် ကွဲလွဲဆန့်ကျင်လေသည်၊ ဤသို့သော ကျမ်းစာများကို ဘယ်သောအခါမှ မဖတ်ရှုနှင့်၊ ဤသို့ပင် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲ ဆန့်ကျင်သော ကဗျာလင်္ကာများကို ဘယ်သောအခါမှ မဖတ်လေနှင့်။

၈။ အချို့ 'ဖွကီရ်' များက ဆိုကြသည်၊ 'ရှရီအတ်' လမ်းစဉ်ကတစ်ခြား 'ဖွကီရီ' လမ်းစဉ်ကတစ်ခြားဖြစ်သည်၊ ထိုသို့ ရှရီအတ်နှင့် 'ဖွကီရီ' လမ်းစဉ်ကိုတစ်ခြားစီဟု ယူဆသူအား လိမ်လည်သူ လူညာဖြစ်ကြောင်း မှတ်ယူရန် ဖွရ်သွ် ဖြစ်ပေသည်။

၉။ အကယ်၍ ဆရာက 'ရှရီအတ်' တရားတော်မြတ်နှင့် ဆန့်ကျင်သောကိစ္စကို စေခိုင်းလျှင်ထိုအချက်ကိုလိုက်နာနိုင်ခွင့်မရှိပေ၊ အကယ်၍ဆရာက ထိုဆန့်ကျင်ဘက်အတိုင်း ဇွတ်လုပ်နေလျှင် တပည့်အဖြစ်ကို ပယ်ဖျက်ရမည်။

၁၀။ အကယ်၍ အလ္လာဟ်အသျှင်မြတ် နာမတော် တရွတ်သဖြင့်သော 'ဇာရ်ကတ်' ဖြင့် စိတ်တွင်း၌ ကောင်းသောလက္ခဏာပေါ်လျှင် ၎င်းကောင်းသောအိပ်မက် မြင်မက်လျှင် ၎င်းနိုးကြားလျက်ပင် အသံ၊ အလင်းရောင် တစ်ခုခုတွေ့မြင်ရလျှင် မိမိဆရာမှတစ်ပါး အခြားသူများကို ပြောပြခြင်းမပြုရ၊ ၎င်းမိမိ၏ ဝဇွီဖွာဟ် နှင့် အေဗာဒတ် ခံဝပ်မှုများ အကြောင်း မည်သူ့ကိုမျှမပြောနှင့်၊ အဘယ့်ကြောင့်ဆိုသော် ပြောပြခြင်းဖြင့် ထိုရနေသော စည်းစိမ်မှာ ပပျောက်သွားမည်ဖြစ်လေသည်။

၁၁။ အကယ်၍ ပီရ်ဆရာက 'ဝဇွီဖွာဟ်' ၎င်းသစ်ကိရ်ပြုရန် ပြသထားသည်ကို ရက်ပိုင်းအချို့ လိုက်နာမှုပြုသော်လည်း စူးရှခြင်း၊ ၎င်းစိတ်တွင်း၌ အရသာမတွေ့ရမှု၊ စိတ်ပျက်ခြင်း၊ ၎င်းဆရာကို အယုံအကြည်မမဲ့စေနှင့်၊ သာမက အလ္လာဟ်အသျှင်မြတ်ကို တရွတ်သရန် စိတ်၌ လမ်းပွင့်သွားသည်၊ ၎င်းကောင်းမှုများ ပွားများလာနိုင်သည် ဟူ၍ ထင်မှတ်ရမည်။

သူ့ဘော်စင်များကို အိပ်မက်မြင်မက်ရန် ကောင်းစွာ ငိုကြွေးတတ်ရန်နှင့်အေဗာဒတ်ပြုသောအခါ အခြားကိစ္စရပ်များကို မသိတော့ဘဲ သတိလစ်ဟင်းသွားရန် စသည့်စူးရှမှု

များရရှိရန် စိတ်စွဲလန်းမှု မထားနှင့်၊ တစ်ခါတစ်ရံ ဤအချက်များပေါ်ပေါက်လာတတ်သည်၊ မပေါ်သည်လည်းရှိသည်၊ အကယ်၍ပေါ်ပေါက်ခဲ့သော် အလ္လာဟ်အသျှင်မြတ်ကို ကျေးဇူးတင်ရမည်၊ ၎င်းအကယ်၍ မပေါ်ပေါက်လျှင် နည်းသွားလျှင် ၎င်းလုံးဝပျောက်ပျက်သွားလျှင် ပူဆွေးမှုမထားနှင့်။

သို့သော် 'ရှရီအတ်' တရားတော်မြတ်ကို လိုက်နာရာ၌ ပေါ့လျော့သွားလျှင် ၎င်းဂိုနာဟ် ပြစ်မှုကျူးလွန်မိပါက ဤအချက်သည် ပူဆွေးရန်အချက်ပင် ဖြစ်သည်၊ အလျင်အမြန် စိတ်တင်း၍ မိမိကိုယ်ကို ကောင်းအောင် ပြုပြင်ရမည်၊ ၎င်းပီရ်ဆရာကို အကျိုးအကြောင်း ပြောပြရမည်၊ ဆရာကသွန်သင်သော အချက်များအပေါ် လိုက်နာပြုမူရမည်။

၁၂။ အခြားသော သူတော်စင်များ၊ ၎င်းအမျိုးအနွယ်များကို မပုတ်ခတ်နှင့်၊ ကျွန်ုပ်တို့၏ ပီရ်ဆရာသည် သင်တို့၏ ပီရ်ဆရာထက် ၎င်းကျွန်ုပ်တို့၏ အမျိုးအနွယ်သည် သင်တို့၏ အမျိုးအနွယ်ထက် သာမြတ်သည်၊ ဤသို့ အကျိုးမဲ့စကားများဖြင့် စိတ်မည်းလေသည်။

၁၃။ အကယ်၍ မို့ရီးဒ် တပည့်ချင်း အတူတူအပေါ် ပီရ်ဆရာက ကရုဏာသက်ခြင်းပိုလျှင် ၎င်းထိုသူသည် ဝဇီဖွာဟ်၊ သစ်က်ရ်များဖြင့် ပို၍အကျိုးသက်ရောက်မှု ထိုသူ့အား 'ဟစဒ်' မလိုစိတ်မထားနှင့်။

# မို့ရီဒ် ၎င်းမွတ်စလင်မ်တိုင်း နေ့ညလိုက်နာကြရန်

## အချက်များ

၁။ လိုအပ်သည်ခန့် ဘာသာ, သာသနာရေးပညာကို သင်ယူရမည်၊ ကျမ်းစာအုပ်များ၌ ဖတ်၍ဖြစ်စေ၊ အာလင်မ် ပညာရှင်များအား မေး၍ဖြစ်စေ။

၂။ 'ဂိုနာဟ်' အကုသိုလ်အပေါင်းမှ ရှောင်ရှားနေရမည်။

၃။ အကယ်၍ 'ဂိုနာဟ်' အကုသိုလ်တစ်ခုခု ကျူးလွန်မိပါက ချက်ခြင်းတောင်ဗဟ်ပြုအမှားဝန်ခံရမည်။

၄။ မည်သူ၏ ဝတ္တရားမှ မိမိအပေါ် မကျန်ရှိစေနှင့် ပေးဆပ်ကုန်၊ မည်သူ့ကိုမှ နှုတ်လျှာနှင့်ဖြစ်စေ၊ လက်နှင့်ဖြစ်စေ ဒုက္ခမပေးနှင့်၊ မည်သူ့ကိုမျှမကောင်းမပြောမပြုနှင့်။

၅။ ငွေ, ပစ္စည်းဥစ္စာကို ခင်တွယ် စွဲလန်းမှုနှင့် နာမည်ကြီးလိုသောစိတ် မထားနှင့် ကောင်းမွန်ဆုံးသော အစားအသောက်နှင့် အဝတ်အထည်ဝတ်ရန်စိတ်မကူးနှင့်။

၆။ အကယ်၍ မေ့မှားမှုအတွက် သတိပေးလျှင် ဆင်ခြေမကန်နှင့်၊ ချက်ချင်းဝန်ခံ၍ 'တောင်ဗဟ်'ပြုရမည်။

၇။ အလွန်အရေးကြီးသော အလုပ်ကိစ္စမရှိဘဲ ခရီးမထွက်နှင့် ခရီးသွားလာခြင်းတွင် မဆီမဆိုင်အလုပ်များဖြစ်တတ်သည်၊ ကောင်းမှုကုသိုလ်မြောက်မြားစွာ ပျက်ကွက်သည်၊ 'ဝဇ္ဇီဖွာတ်'များ၌ လစ်ဟင်းမှုဖြစ်သည်၊ အချိန်မှန်ကောင်းမှုများ မပွားများနိုင်ပေ။

၈။ များစွာမရယ်နှင့်၊ များစွာမပြောဆိုနှင့်၊ သီးခြား၍ 'နာမဟ်ရမ်' နေကာဟ်ပိုင်သူများနှင့် အရောတဝင် စကားမပြောနှင့်။

၉။ မည်သူနှင့်မျှ ခိုက်ရန်ငြင်းခုံခြင်း မပြုနှင့်။

၁၀။ 'ရှရီအတ်' တရားတော်မြတ်၏ ပြဋ္ဌာန်းချက်များကို အချိန်မရွေး ဂရုစိုက် သတိပြုရမည်။

၁၁။ အဓာဒတ် ခ,ဝပ်မှုပြုရာ၌ ပျင်းရိခြင်းမပြုနှင့်။

၁၂။ အချိန်အများစု တစ်ကိုယ်တည်းနေကုန်။

၁၃။ အကယ်၍ အခြားသူများနှင့် တွေ့ဆုံရန်ရှိမူ အားလုံးကိုကျိုးငယ်နိမ့်ချစွာဆက်ဆံကုန်၊ အားလုံးကို ဝတ်ကြီး,ဝတ်ငယ်ပြုကုန်၊ အဝင်မမြင့်နှင့်။

၁၄။ သူဌေး, သူကြွယ်များနှင့် များစွာမတွေ့ဆုံနှင့်။

၁၅။ သာသနာတော်ကို မခလေးစား၊ ဘာသာမဲ့တို့နှင့် ဝေးစွာရှောင်ကြဉ်ရမည်။

၁၆။ အခြားသူများ၏ အပြစ်ကို မရှာကြံနှင့်၊ မည်သူ့ကိုမျှ မကောင်းမထင်နှင့်၊ မိမိအပြစ်များကို ကြည့်ရှုစစ်ဆေးရမည်၊ ထိုပြစ်မှုများကို ကောင်းအောင် ပြုပြင်ရမည်။

၁၇။ နမာဇ်ဝတ်ပြုမှုကို ကောင်းမွန်ကျနစွာ အချိန်မှန် ဂရုတစ်စိုက် ဝတ်ပြုရမည်။

၁၈။ စိတ်ငင်းနူတ်လျှာဖြင့် အချိန်တိုင်းတွင် အလ္လာဟ်အသျှင်မြတ်အား သတိရ တ,သ ဓနေရမည်၊ မည်သည့်အချိန်မှ မေ့လျော့ပေါ့ဆ၍ မနေနှင့်။

၁၉။ အကယ်၍ အလ္လာဟ်အသျှင်မြတ်၏ နာမတော်ကို တ,သရာ၌ အရသာတွေ့၍ စိတ်ပျော်ရွှင်လျှင် အလ္လာဟ်အသျှင်မြတ်ကို ကျေးဇူးတင်နေရမည်။

၂၀။ စကားကို နူးညံ့ချိုသာစွာ ပြောဆိုရမည်။

၂၁။ ကောင်းမှုအလုပ်များကို အချိန်သတ်မှတ်ထားပြီး ဂရုတစ်စိုက်ပြုမူရမည်။

၂၂။ ပူပင်သောကနှင့် နစ်နာဆုံးရှုံးမှု ဖြစ်လာလျှင် အလ္လာဟ်အသျှင်မြတ် ဘက်တော်မှ ဖြစ်သည်ဟု ယူဆ၍ ပူဆွေးခြင်း မဖြစ်နှင့်၊ ၎င်းထိုပူပင်သောက နစ်နာဆုံးရှုံးမှုအတွက် ကုသိုလ်သဝါဗ် ရမည်ဟု ယူဆနေရမည်။

၂၃။ အချိန်တိုင်းတွင် ဒွန္နယာလောက အရှုံးအမြတ် စာရင်းနှင့် လုပ်ကိုင်မှုများကို စိတ်စွဲလန်းမှုမထားနှင့်၊ သာမက -စဉ်းစားမှုကိုပင် အလ္လာဟ်အသျှင်မြတ် ဘက်တော်သို့ ထားကုန်။

၂၄။ ဘာသာရေးရာဖြစ်စေ၊ လောကီရေးရာဖြစ်စေ၊ အခြားသူများကို အတတ်နိုင်ဆုံး အကျိုးဖြစ်ထွန်းအောင်ပြုကုန်။

၂၅။ စားသောက်ရာ၌ အားနည်းသွားစေအောင် နှင့် ရောဂါဖြစ်သွားလောက်အောင် အလွန်အမင်း လျှော့မစားနှင့်၊ ၎င်း'အေဗာဒတ်' ခ ဝပ်မှုပြုရာတွင် ပျင်းရိသွားလောက်အောင်လည်း များစွာ မစားနှင့်။

၂၆။ အလ္လာဟ်အသျှင်မြတ်မှ တစ်ပါး မည်သူ့ထံမှ မက်မထားနှင့်၊ မည်သည့်နေရာမှ ကျွန်ုပ်မှာ အကျိုးဖြစ်ထွန်းနိုင်သည် ဟူ၍ပင် စိတ်ကူးမထည့်နှင့်။

၂၇။ အလ္လာဟ်အသျှင်မြတ် အလိုတော်ကျ ဖြစ်ရန် ပူပင်သောက ထားကုန်။

၂၈။ စည်းစိမ် အနည်းငယ်ရသည်ဖြစ်စေ၊ များစွာရသည်ဖြစ်စေ ထိုစည်းစိမ် အတွက် အလ္လာဟ်အသျှင်မြတ်ကိုကျေးဇူးတင်ကုန်၊ ငတ်မွတ်ဆင်းရဲခြင်းဖြင့် စိတ်မညစ်နှင့်။

၂၉။ လူသားအချင်းချင်း အမှားအယွင်းရှိသည်ကို ခွင့်လွှတ်ရမည်။

၃၀။ တစ်ဦးတစ်ယောက်၏အပြစ်ကို သိလျှင် ဖုံးအုပ်ရမည်၊ သို့သော် အကယ်၍ ထိုပြစ်မှုသည် တစ်ဦးတစ်ယောက်အား နစ်နာဆုံးရှုံးစေနိုင်သော်၊ သင်သိပါက ထိုသူ့ကို တီးတိုး ပြောပြရမည်။

၃၁။ ဧည့်သည်များ၊ ခရီးသည်များ၊ သူဆင်းရဲများ၊ အာလင်မ်များ၊ 'ဒရ်ဝေးရှ်'များကို တတ်နိုင်သည်ခန့် ကျွေးမွေး 'ခစ်ဒ်မတ်' ပြုကုန်။

၃၂။ ကောင်းသောသူများနှင့်သာ ပေါင်းသင်းကုန်။

၃၃။ အချိန်တိုင်းတွင် အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့နေကုန်။

၃၄။ သေခြင်းတရားကို သတိပြုကုန်။

၃၅။ တစ်ချိန်မဟုတ်တစ်ချိန် ထိုင်၍ နေ့စဉ်တစ်နေ့လုံးပြုသမျှအလုပ်များကို စဉ်းစားနေရမည်၊ ကောင်းမှုပါလျှင် ထိုအတွက် ကျေးဇူးတင်ရမည်၊ 'ဂိုနာဟ်' မကောင်းမှုပြုမိလျှင် 'တောင်ဗဟ်'ပြု, အမှားဝန်ခံရမည်။

၃၆။ မုသားကို အလျှင်းမပြောနှင့်၊ မုသားပြောခြင်းသည် အပြစ်'ဂိုနာဟ်' အလွန်ကြီးလေသည်။

၃၇။ အကြင်ပရိသတ်သည် 'ရှရီအတ်'တရားတော်နှင့် ကွဲလွဲဆန့်ကျင်နေလျှင် ထိုပရိသတ်သို့ အလျှင်း မသွားနှင့်။

၃၈။ အရှက်ရှိသူ၊ မျိုးသိပ်သူအဖြစ် နှင့် နေကုန်။

၃၉။ ကျွန်ုပ်တွင် ကောင်းခြင်းများရှိသည် ဟူ၍ မာနကြီးခြင်း၊ ဘဝင်မြင့်ခြင်း မပြုနှင့်။

၄၀။ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ် တည်မြဲနေရန် အလ္လာဟ်အသျှင်မြတ်ထံ 'ဒိုအာ' ပြုရမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မိန့်ခွန်းတော်များမှ ကောင်းမှု အတွက် ကုသိုလ်ရ၍၊ မကောင်းမှုအတွက် 'အသာဗ်'ပြစ်ဒဏ် ခံရမည့်အကြောင်းများကို ဆိုပေအံ့၊ သို့မှသာ ကောင်းမှုပြုမှုချင်၍၊ မကောင်းမှုမှ ရှောင်ရှားချင်စိတ် ပေါ်လာပေမည်။

## 'နိယတ်' စိတ်ထား ကောင်းစွာ ထားရန် အကြောင်း

၁။ တစ်ဦးသောပုဂ္ဂိုလ်က 'အီမာန်'သည် အဘယ်အရာပါသနည်းဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်အား အော်ဟစ်၍မေးခဲ့သည်၊ 'နိယတ်' စိတ်ဆန္ဒကို တစ်စိတ် တစ်လက် ကောင်းစွာထားရမည် ဟု ကိုယ်တော်က မိန့်တော်မူလေသည်။

ဆိုလိုသည်မှာ... မည်သည့်အလုပ်ကိစ္စမဆို ပြုမူလျှင် အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်ဖြစ်ရမည်။

၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ အလုပ်ဟူသမျှ သည် 'နိယက်' ကောင်းမှုအပေါ် မူတည်လေသည်။

ဆိုလိုသည်မှာ... ကောင်းမှုလုပ်ငန်း အပေါ်တွင် 'နိယတ်' စိတ်ဆန္ဒ ကောင်းမှု ထိုအတွက် 'သဝါဗ်'ကုသိုလ် ရသည်၊ သို့တည်းမဟုတ်က မရပေ။

## လူတို့အား ပြသရန် အတွက် အလုပ်တစ်ခုခု လုပ်ခြင်း အကြောင်း

၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူ သည် လူတို့ကြားသိရန်အတွက် 'ရေယာ'ဖြင့် ကောင်းမှုတစ်ခုခုလုပ်လျှင်၊ 'ကေယာမတ်' ကမ္ဘာ့တရားခွင် နေ့၌ ထိုသူ၏ မကောင်းမှုများကို အလ္လာဟ်အသျှင်မြတ်က လူတို့အား ကြားသိစေတော်မူမည်၊ ၎င်းအကြင်သူသည် လူတို့မြင်စေရန် အတွက် ကောင်းမှုတစ်ခုခု လုပ်လျှင် အလ္လာဟ်အသျှင်မြတ်သည် 'ကေယာမတ်'နေ့၌ ထိုသူ၏အပြစ်များကို လူတို့အား ပြသတော်မူပေမည်။

၄။ ၎င်းရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အနည်း ငယ်မျှ လူမြင်အောင် 'ရေယာ'ပြု၍ လုပ်ခြင်းပင် 'ရှစ်ရိက်'တစ်မျိုးဖြစ်သည်။

## ကုရ်အာန် နှင့် ဟဒီးသ်တော် အပေါ် လိုက်နာကြရန် အကြောင်း

၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ငါရစူလ်၏ 'အုမ္မတ်'သားများတွင် 'ဒီန်'သာသနာတော်ကို လိုက်နာကြရာ၌ ပျက်ပြားလာကြလျှင်၊ ထိုအခါ၌ အကြင်သူသည် ငါရစူလ်၏လမ်းစဉ်တော်ကို စွဲစွဲမြဲမြဲ ကျင့်သုံးလိုက်နာပါက ထိုသူသည်'ရှဟီဒ်'သာသနာ့စစ်ပွဲတွင် ကျဆုံးသော ပုဂ္ဂိုလ်(၁၀၀)နှင့် အညီအမျှ ကုသိုလ် 'သဝါဗ်' ရပေမည်။

၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ....ငါရစူလ်သည် သင်တို့ထံ အရာတစ်ခုထားပစ်ခဲ့သည်၊ အကယ်၍ ထိုအရာကို စွဲကိုင်နေကြလျှင် ဘယ်သောအခါမှ လမ်းမှားသို့ ရောက်ကြမည် မဟုတ်ပေ။ ပထမမှာ.... အလ္လာဟ်အသျှင်မြတ်၏ ကျမ်းစာတော် ကုရ်အာန်၊ ဒုတိယမှာ.... စွန္နတ်တော်လမ်းစဉ် - ဟဒီးသ်တော်။

## ကောင်းသော လမ်းစဉ် ပေါ်ထွက်ခြင်းနှင့် မကောင်းသော လမ်းစဉ် အုတ်မြစ်ချခြင်း အကြောင်း

၇။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်သူသည် ကွယ်ပျောက်နေသော ကောင်းမှု 'အမလ်'တစ်ခုကို ပြုမူ၍ အခြားသူများကလည်း ထိုအတိုင်း လိုက်နာ ပြုမူကြလျှင် ထိုပြုမူသူသည် မိမိပြုမူသည့်အတွက် ကုသိုလ်'သဝါဗ်' ရသည့်ပြင် အခြားသူများ လိုက်၍ပြုကြသူများနှင့် အညီအမျှ ကုသိုလ်'သဝါဗ်'လည်း ထိုသူက ရရှိပေဦးမည်၊ ၎င်းထိုပြုမူကြသူများ၏ ကုသိုလ်'သဝါဗ်'မှာလည်း လျော့နည်းသွားမည်မဟုတ်ပေ။

၎င်းအကြင်သူသည် မကောင်းသောလုပ်ငန်းကိုတီထွင်ခဲ့လျှင်၊အခြားသူများလည်း ထိုမကောင်းမှုကို လိုက်၍ ပြုကျင့်ကြလျှင် ထိုတီထွင်သူသည် မိမိ ကျူးလွန်သည့်အတွက် အပြစ်'ဂိုနာဟ်' ခံရမည့်ပြင် အခြားသူများလိုက်၍ ကျူးလွန်ကြသော'ဂိုနာဟ်'များနှင့် အညီအမျှ ထိုသူကလည်း ခံရပေဦးမည်၊ အခြားသူများ၏ 'ဂိုနာဟ်'မှာလည်း လျော့နည်းမည်မဟုတ်ပေ။

ပမာဆိုသော်... မိမိသားသမီးတို့ကို 'နေကာဟ်'ပြု လက်ထပ်ပေးရာ၌ မကောင်းသော ထုံးစံများကို ပယ်ဖျက်သည်၊ သို့မဟုတ် မုဆိုးမတစ်ဦးက 'နေကာဟ်'ပြုလိုက်သည်၊ ထိုမုဆိုးမကိုကြည့်၍ အခြားမုဆိုးမများကလည်း 'နေကာဟ်'ပြု လက်ထပ်ကြသည်ဖြစ်မူ ထိုစ,၍ပြုမူခဲ့သူသည် အမြဲထာဝရ ကုသိုလ်'သဝါဗ်' ရနေမည် ဖြစ်ပေသည်။

## ဘာသာရေး ပညာ ရှာဖွေရန် အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊

(အစ်တ်လဗွလ်အင်လ်မ၊ ဝလော်ကာန၊ ဗစ်စွီးန်။)

'အလ်မ်'ဘာသာရေးပညာကိုရှာဖွေကြကုန်၊ အကယ်၍ထိုပညာသည် တရုတ်ပြည်၌ ရှိသော်လည်း....

၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ့ကို အလ္လာဟ်အသျှင်မြတ်က ကောင်းစေလိုတော်မူလျှင် ထိုသူ့ကို ဘာသာရေးပညာ နားလည်မှု ပေးသနားတော်မူသည်။

ဆိုလိုသည်မှာ.... ထိုသူသည့်'မတ်စ်အလဟ်'ဘာသာရေးဆိုင်ရာပြဿနာရပ်များကို လေ့လာ လိုက်စားချင်စိတ် ပေါ်လာပေသည်။

## မတ်စ်အလယ်ကို ဖုံးအုပ်ခြင်း အကြောင်း

၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ့ကို ဘာသာရေးရာ 'မတ်စ်အလယ်' ပြဿနာတစ်ခုမေးလျှင်၊ ထိုသူက မပြောဘဲ ဖုံးထားပါက ထိုသို့ဖုံးထားသူသည် 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့တွင် မီးစက်အခွန့်ခံရမည်။

အကယ်၍ တစ်ဦးတစ်ယောက်က သင့်အား 'မတ်စ်အလယ်' တစ်ခုခုမေးလျှင် သင်သိနေပါက ဖြေကြားရာတွင် ပျင်းရိခြင်း၊ ငင်းငြင်းပယ်ခြင်းမပြုနှင့်၊ ကောင်းမွန်စွာနားလည်သွားအောင် ဖြေကြားပေးရမည်။

## မတ်စ်အလယ် သိလျက် မလိုက်နာသူ အကြောင်း

၁၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဘာသာရေးပညာ အသိပိုမိုရှိလေလေ ထိုအသိအတိုင်းလိုက်နာဆောက်တည်သူမှတစ်ပါး မလိုက်နာသူအပေါ် 'ဝဘာလ်' ဒုက္ခဖြစ်ပေသည်။

ထို့ကြောင့် ဘယ်သောအခါမှ သားချင်း မိတ်သင်္ဂဟ တို့ကို ထောက်ထား၍ သို့မဟုတ် မိမိစိတ်အလိုလိုက်၍ 'မတ်စ်အလယ်' နှင့် ကွဲလွဲဆန့်ကျင်မှုမပြုနှင့်။

## ကျင်ငယ်ကို ဂရုစိုက်ရန် အကြောင်း

၁၁။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ကျင်ငယ်ရေကို ဂရုစိုက်ကုန်၊ မလူးထိစေနှင့်၊ အဘယ့်ကြောင့်ဆိုသော် အများအားဖြင့် 'ကဗရ်' သင်္ချိုင်း၏ 'အသာဗ်' သည် ကျင်ငယ်ရေကို ဂရုမစိုက်သောကြောင့် ဖြစ်ရလေသည်။

## ဝိုသွူ နှင့် ဥတ်စ်လ်ကို ကောင်းစွာ ပြုရန် အကြောင်း

၁၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ စိတ်မလိုလားသောအခါ ဝိုသွူကို ကောင်းစွာပြုခြင်းဖြင့် 'ဂိုနာဟ်' အကုသိုလ်များ ကျွတ်လေသည်။

စိတ်မလိုလားခြင်းသည် တစ်ခါတစ်ရံ ပျင်းရိ၍လည်း ဖြစ်နိုင်သည်၊ အေးလွန်း၍လည်း ဖြစ်နိုင်သည်။

## မစ်ဝါးက် တံပူ စားခြင်း အကြောင်း

၁၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'မစ်ဝါးက်' တံပူဖြင့်သွားတိုက်၍ နမာဇ်(၂)ရကာအတ်ဖတ်ခြင်းသည် 'မစ်ဝါးက်' ဖြင့် သွားမတိုက်ဘဲ ဖတ်သော ရကာအတ်(၇၀)ထက် သာမြတ်လေသည်။

## ဝိုသွူ ကောင်းစွာ ပြုရန် အကြောင်း

၁၄။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က လူအချို့ ဝိုသွူရေသန့်စင်မှုပြုပြီးသော်လည်း ခြေမျက်စိများ ရေမစိုသည်ကို မြင်တော်မူ၍ မိန့်တော်မူသည်မှာ- ဝိုသွူ ရေမနှံ့သော ခြေမျက်စိများသည် 'ဂျဟန္နမ်' အပါယ်ငရဲ၌ 'အသာဗ်' ပြင်းထန်စွာ ခံရမည်။

လက်စွပ်၊ ကျောက်မပါသောလက်စွပ်၊ လက်ကောက်၊ ခြေခြင်းတို့ကို ကောင်းစွာ လှုပ်၍ ရေရောက်စေရမည်၊ ၎င်းဆောင်းရာသီတွင် အများအားဖြင့် ခြေများ ခြောက်သွေ့နေတတ်သည်၊ ထို့ကြောင့် ရေဖြင့် ကောင်းစွာစိုအောင်ပြုကုန်၊ အချို့ ကျား,မ တို့သည် မျက်နှာသစ်ရာတွင် ရှေ့ပိုင်းပင် သစ်ကြသည်၊ နားထိအောင် မဆေးကြပေ၊ ဤအချက်အားလုံးကို ဂရုစိုက်ကြရမည်။

## အမျိုးသမီးများ နမာဇ်ဖတ်ရန် အပြင်သို့ ထွက်ခြင်း အကြောင်း

၁၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီးများအတွက် အကောင်းဆုံးသော ဗလီသည် ထိုသူမတို့၏ အိမ်တွင်းပင်ဖြစ်သည်။

ဤဟဒီးသ်တော်အရ အမျိုးသမီးများသည် ဗလီဝတ်ကျောင်းတော်သို့ သွားခြင်း မကောင်းကြောင်း သိရပေသည်။ သိမှတ်ကြရမည်မှာ.... နမာဇ်နှင့်ညီမျှသော မည်သည့် ကောင်းမှုမှမရှိပေ၊ ထိုနမာဇ်အတွက်ပင် အိမ်မှထွက်ခြင်း မကောင်းဖြစ်ပေရာ၊ အကျိုးမဲ့ တွေ့ဆုံရန် သွားလာခြင်း၊ ၎င်းထုံးစံများ ပြုထားသည်ကို လိုက်နာရန် အိမ်မှထွက်ခြင်း တို့သည် မည်မျှ မကောင်းဖြစ်မည်ကို စဉ်းစားကြည့်သင့်လှပေသည်။

## နမာဇ်ကို ဂရုစိုက်ရန် အကြောင်း

၁၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ (၅)ကြိမ် နမာဇ်၏ပမာ ဤသို့ရှိသည်၊ ပမာဆိုသော်....တစ်ဦးတစ်ယောက်၏အိမ်ရှေ့တွင် နက်ရှိုင်းစီးတွေသော မြောင်းရှိသည်၊ ၎င်းထိုသူက ထိုရေမြောင်းတွင် (၅)ခါ ရေချိုးသကဲ့သို့ ဖြစ်လေသည်။

ဆိုလိုသည်မှာ....တစ်နေ့ရေ(၅)ခါချိုးသဖြင့် ထိုသူ၏ကိုယ်ပေါ်၌ အညစ်အကြေး လုံးဝရှိမည်မဟုတ်သကဲ့သို့၊ အကြင်သူသည် (၅)ကြိမ် နမာဇ်ကို ဂရုတစ်စိုက် ဖတ်လျှင်၊ ထိုသူ၏ 'ဂိုနာဟ်' (စွဂီရဟ်)များ ကျွတ်သွားပေမည်။

၁၇။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ 'ဗန္ဒဟ်'လူသားအား ပထမဦးစွာ နမာဇ်ကို စစ်ဆေးမေးမြန်းတော်မူမည်ဖြစ်သည်။

## အချိန်ဦးတွင် နမာဇ်ဖတ်ခြင်း အကြောင်း

၁၈။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အချိန်ဦးတွင် နမာဇ်ဖတ်ခြင်းကို အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူပေသည်။

အမျိုးသမီးများအနေနှင့်ကား ဂျမာအတ်နှင့် နမာဇ်ဖတ်ရန် မဟုတ်သည် ဖြစ်ရကား ဆိုင်းငံ့နေကြရန် မထိုက်ပေ။

## နမာဇ်ကို ဂရုမစိုက်ဘဲ ဖတ်ခြင်း အကြောင်း

၁၉။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အချိန်မှဲ့ နမာဇ်ဖတ်လျှင်၊ ၎င်းဝိုသျူကို ကောင်းစွာမပြုလျှင်၊ ၎င်းစိတ်စွဲလန်းစွာ မဖတ်လျှင်၊ ၎င်းရိုကူအ်နှင့်စစ်ဂျဒဟ်ကို နည်းလမ်းတစ်ကျ ကောင်းစွာမချလျှင်၊ ထိုနမာဇ်သည် မည်းမှောင်သည်၊ 'နူရ်'မရှိဖြစ်သွားလေသည်၊ သင်ကကျွန်ုပ်ကိုဖျက်ဆီးသကဲ့သို့ အလ္လာဟ် အသျှင်မြတ်က သင့်ကိုဖျက်ဆီးပါစေဟု နမာဇ်ကပြောဌလေသည်၊ အလ္လာဟ်အသျှင်မြတ် သဘောတူတော်မူသော နေရာသို့ ရောက်လေရာ၊ ထိုနမာဇ်ကို ဟောင်းနွမ်းသောအဝတ်ကို လိပ်ပတ်သကဲ့သို့ လိပ်ပတ်ကာ နမာဇ်ဖတ်သူ၏မျက်နှာတွင် အပေါက်ခံရလိမ့်မည်။

အို...အမျိုးသား အမျိုးသမီးအပေါင်းတို့၊ ကုသိုလ်'သဝါဗ်'ရရန်အတွက် နမာဇ် ဖတ်ကြခြင်းဖြစ်လေရာ၊ အဘယ့်ကြောင့်'သဝါဗ်'မရဘဲ ဂိုနာဟ်ဖြစ်အောင် ဖတ်ချင်ကြ သနည်း၊ ဂရုတစ်စိုက် ကောင်းမွန်ကျနစွာ ဖတ်ကြကုန်။

## နမာဇ်ဖတ်ရင်း အပေါ် မော့ကြည့်ခြင်း နှင့် ဟိုဟိုသည်သည် ကြည့်ခြင်း အကြောင်း

၂၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့ နမာဇ် ဖတ်ရာ၌ အပေါ်သို့ မော့မကြည့်ကြနှင့်၊ သင်တို့၏ အရှုကို ရုပ်သိမ်းတော်မူလိုလျှင် ရုပ်သိမ်းလိုက်တော်မူပေမည်။

၂၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ သည် နမာဇ်ဖတ်နေရင်း ရပ်လျက် ဟိုဟိုသည်သည်ကြည့်လျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုဖတ်သောနမာဇ်ဖြင့် ထိုဖတ်သူအား ပြန်ပေါက်တော်မူသည်၊ ဆိုလိုသည်မှာ.... လက်ခံ တော်မမူပေ။

## နမာဇ် ဖတ်နေသူ၏ ရှေ့မှ ဖြတ်သွားခြင်း အကြောင်း

၂၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကယ်၍ နမာဇ်ဖတ်နေသူ၏ရှေ့မှ ဖြတ်သွားခြင်းသည် မည်မျှ 'ဂိုနာဟ်'ဖြစ်ကြောင်း ဖြတ်သွားသူ သိပါက ၎င်းသူအတွက် နှစ်ပေါင်း (၄၀) မတ်မတ်ရပ် နေရခြင်းက နမာဇ်ဖတ်သူ၏ ရှေ့မှဖြတ်သွားခြင်းထက် ပို၍ကောင်းသည်ဟု ယူဆမည်ဖြစ်သည်။

သို့သော် အကယ်၍ နမာဇ်ဖတ်နေသူ၏ရှေ့တွင် တစ်ထောင်ခန့် ၎င်းထိုထက်ရှည်သော အရာတစ်ခုခု ထောင်ထားလျှင် ထိုထောင်ထားသောအရာ၏ရှေ့မှဖြတ်သွားနိုင်ပေသည်။

## သိလျက်နှင့် နမာဇ်ကို 'ကသွာ' ဖြစ်စေခြင်း အကြောင်း

၂၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ အကြင်သူသည် နမာဇ်ကိုလွှတ်လိုက်လျှင် ထိုသူသည် အလ္လာဟ်အသျှင်မြတ် ရှေ့တော်သို့ရောက်သောအခါ အလ္လာဟ်အသျှင်မြတ်သည် အမျက်တော်ရှမည်ဖြစ်ပေသည်။

## ကြွေး ပေးခြင်း အကြောင်း

၂၄။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ငါရစူလ်သည် 'မဲအ်ရာဂျ်'သို့ ကြွသွားတော်မူသောအခါ 'ဂျန္နတ်' ဥယျာဉ်ဘုံနန်း၏ တံခါးဝပေါ်တွင် ရေးသားထားသည်ကိုမြင်တွေ့တော်မူခဲ့သည်၊ 'ခိုင်ရာတ်'လှူတန်းခြင်းဖြင့် ကုသိုလ်၁၀-ဆ ရပြီး အကြွေးပေးခြင်းဖြင့် ကုသိုလ်သဝါဗ် ၁၈-ဆ ရသည်။

## ဆင်းရဲသော ကြွေးယူသူအား ရက်ဆိုင်း ပေးခြင်း အကြောင်း

၂၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဆင်းရဲသူကို ငွေ, စသည်ချေးခြင်းဖြင့် ပေးဆပ်ရန်ရက် မရောက်မခြင်း ကြွေးပေးသူသည် နေ့စဉ် ထိုချေးလိုက်သောငွေ စသည်နှင့်အမျှ 'ခိုင်ရာတ်' လှူတန်းသောအကျိုးရလေသည်၊ ၎င်း ပေးဆပ်ရန်အချိန် ရောက်လာသော်လည်း ရက်ချိန်း ထပ်၍ပေးလိုက်မူ နေ့စဉ် ထိုချေး သောငွေ စသည်၏နှစ်ဆ ခိုင်ရာတ်လှူတန်းသော ကုသိုလ်သဝါဗ်ရလေသည်။

## ကုရ်အာန် ကျမ်းတော် ဖတ်ခြင်း၏ အကျိုးကျေးဇူး အကြောင်း

၂၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ကုရ်အာန် ကျမ်းတော်မြတ်၏ အက္ခရာ တစ်လုံးကိုဖတ်လျှင် ထိုသူသည် အက္ခရာ တစ်လုံး အပေါ်ကုသိုလ်(၁)ခု ရလေသည်၊ ကောင်းမှုပြုခြင်း၏ ဥပဒေမှာ.... ကုသိုလ်တခုလျှင် ကုသိုလ်(၁၀)ဆရပေသည်၊၎င်းငါရစူလ်သည်(အလစ်ဖ်,လာမ်,မီမ်)ကိုအက္ခရာတစ်လုံးဟု မဆိုလို၊သာမက (အလစ်ဖ်)က တစ်လုံး၊ (လာမ်)က တစ်လုံး၊ (မီမ်)က တစ်လုံးဖြစ်သည်၊ ဤစာရင်းအရ အက္ခရာ(၃)လုံးအတွက် ကုသိုလ်(၃၀)ရလေသည်။

## မိမိ အသက်နှင့် သားသမီးကို ကျိန်ဆဲခြင်း အကြောင်း

၂၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မိမိအပေါ် ၎င်း သားသမီးများအပေါ်၊ အခိုင်းအစေများအပေါ်၊ မိမိ၏ပစ္စည်းပစ္စယများအပေါ် 'ဘဒ်ဒိုအာ'မကောင်းကျိန်ဆဲခြင်း မပြုကြနှင့်၊ သင် ကျိန်ဆဲ 'ဘဒ်ဒိုအာ'ပြုသောအချိန် သည် အလ္လာဟ်အံ့သျှင်မြတ်က ဒိုအာလက်ခံတော်မူသောအချိန်ဖြစ်နေပါက ခက်ပေမည်၊ ထိုသို့လက်ခံတော်မူသောအချိန်တွင် တောင်းဆိုသောဒိုအာကို လက်ခံတော်မူပေသည်။

## 'ဟရာမ်' ပစ္စည်း ရှာဖွေခြင်း နှင့် ထိုပစ္စည်းဖြင့် စားဝတ် နေထိုင်ခြင်း အကြောင်း

၂၈။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ၏ အသားနှင့်အသွေးသည် 'ဟရာမ်'မတရားစီးပွားရှာခြင်းဖြင့် ကြီးထွားလာသော် ထိုသူ သည် 'ဂျန္နတ်'ဥယျာဉ်ဘုံနန်းသို့ မရောက်နိုင်၊ 'ဂျဟန္နမ်' အပါယ်ငရဲသာလျှင် ထိုသူနှင့် ထိုက်တန်ပေသည်။

၂၉။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အဝတ်အထည်တစ်ခုကို 'ဒရမ်' ၁၀-ပြားဖြင့်ဝယ်လျှင်၊ ၎င်းထို ၁၀-ပြား၌ 'ဟရာမ်' မတရားနည်းဖြင့် ရယူသော ဒရမ်၁-ပြား ပါရှိနေပါက ထိုအဝတ် ၎င်းသူ၏ကိုယ်ပေါ်၌ ရှိနေသရွေ့ ကာလပတ်လုံး ထိုသူ၏နမာဇ်ကို အလ္လာဟ်အသျှင်မြတ်က လက်ခံတော်မူမည်မဟုတ်၊ (ဒရမ်၁-ပြားသည် ၂၅-ပြားသာသာ ရှိသည်။)

## လိမ်လည်ခြင်း အကြောင်း

၃၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ ကျွန်ုပ်၏ အွမ္မတ်သားများအနက်အကြင်သူသည်လိမ်လည်လှည့်ဖြားခြင်းပြုလျှင် ထိုသူသည်ကျွန်ုပ်မှမဟုတ်၊ ရောင်းဝယ်ရာ၌ဖြစ်စေ၊ အခြား မည်သည့် ကိစ္စ၌ဖြစ်စေ၊ လိမ်လည် လှည့်ဖြားခြင်းသည် အားလုံး မကောင်းပင်ဖြစ်သည်။

## ကြွေးချေးယူခြင်း အကြောင်း

၃၁။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင် သူသည် တစ်ဦးတစ်ယောက်အား 'ဒရမ်'ဖြစ်စေ၊ 'ဒီနာရ်'ဖြစ်စေ ပေးဆပ်ရန်ရှိပြီး၊ မပေးဆပ်သေးဘဲသေဆုံးသွားလျှင်၊ ဒရမ်နှင့်ဒီနာရ်မရှိသော နောင်အာခိရတ်တွင် ထိုပေးဆပ်ရန်ရှိသူသည် မိမိ၏ကောင်းမှုကုသိုလ်များဖြင့် ပေးဆပ်ရမည်၊ (ဒီနာရ်တစ်ခုသည် ဒရမ်၁၀-ပြားနှင့် ညီမျှလေသည်။)

၃၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ကြွေးမှာနှစ်မျိုးရှိသည်၊ အကြင်သူသည် ကြွေးငွေကို ပေးဆပ်လိုပါလျက် မပေးနိုင်ဘဲ သေဆုံးသွားသော် အလ္လာဟ်အသျှင်မြတ်က ထိုသို့သောသူအတွက် ငါအသျှင် စောင့်ရှောက်တော်မူမည်ဟု မိန့်ဆိုထားတော်မူသည်၊ ၎င်းအကြင်သူသည် ပေးဆပ်ရန် 'နိယတ်'ဆန္ဒမထားဘဲ သေဆုံးသွားခဲ့သော် ထိုနေ့တွင် ဒရမ်နှင့်ဒီနာရ် ရွှေငွေမှာ အသုံးမဝင်သဖြင့် ၎င်းသူ၏ ကုသိုလ် 'သဝါဗ်'များမှ ပေးဆပ်ရမည် ဖြစ်ပေသည်။

ငါအသျှင်စောင့်ရှောက်တော်မူမည်ဟု မိန့်ခြင်း၏အလိုမှာ....ငါအသျှင်မြတ်သည် ထိုသို့စိတ်ကောင်းထားသူအတွက် မိမိဘက်မှ အစားပေးတော်မူမည်ဟူ၍ ဖြစ်ပေသည်။

## တတ်နိုင်ပါလျက် မပေးဘဲ အချိန်ဆွဲခြင်း အကြောင်း

၃၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ တတ်နိုင်ပါလျက် အချိန်ဆွဲခြင်းသည် မတရားပြုခြင်းပင် ဖြစ်သည်။

အချို့သူတို့သည် ကြွေးဆပ်ရန်၊ ၎င်းလုပ်ခပေးရန်ကို တတ်နိုင်ပါလျက် မပေးသေးဘဲ မကြာခဏလာစေသည်၊ နက်ဖြန်လာပါ၊ သဘက်ခါလာပါ ဟူ၍ လိမ်လည်ကတိဆိုသည်၊ မိမိကိုယ်အတွက်ကား သုံးစွဲနေပြီး၊ အခြားသူအား ပေးရန်တာဝန်ကို ဂရုမစိုက် ဥပေက္ခာပြုထားကြသည်၊ ဤသို့ပြုကြခြင်းသည် မတရားပြုခြင်းပင် ဖြစ်ပေသည်။

## အတိုးပေးယူခြင်း အကြောင်း

၃၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အတိုးယူသူ၊ ပေးသူနှစ်ဦးစလုံးအပေါ် လအ်နတ်' ကျိန်ဆဲထားတော်မူသည်။

## မြေနေရာခိုးယူခြင်း အကြောင်း

၃၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် တစ်ဦးတစ်ယောက်ထံမှ မြေတစ်ထွာခန့် မတရားသဖြင့် သိမ်းပိုက်ထားလျှင် နောင်အာခေရတ်၌ ထိုသူ၏ လည်ပင်းတွင် ယူသည်အခန့် မြေခုနစ်ထပ် ဆွဲချိပ်မည်ဖြစ်သည်။

## လုပ်ခကို ချက်ချင်းပေးရန် အကြောင်း

၃၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ လုပ်သားကို ထိုသူမှာ ချွေးမခြောက်မီ လုပ်ခကို ပေးရမည်။

၃၇။ အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်၊ (၃)ဦးသောသူအတွက် ငါအသျှင်ကိုယ်တိုင် တောင်းဆိုပေးမည်၊ ထို(၃)ဦးအနက် တစ်ဦးမှာ အလုပ်ခိုင်းပြီး ပြီးပြတ်သွားသော်လည်း လုပ်ခမရသူဖြစ်သည်။

## သား, သမီး သေဆုံးခြင်း အကြောင်း

၃၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်ဇနီးမောင်နှံ နှစ်ဦးသည် မွတ်စလင်မ်ဖြစ်၍ ၎င်းတို့၏ ကလေး(၃)ယောက် သေဆုံးသွားသော် အလ္လာဟ်အသျှင်မြတ်သည် ထိုမိဘနှစ်ပါးကို မိမိ၏ ဖွသွ်လ် နှင့် ရဟ်မတ် မဟာကရုဏာတော်ဖြင့် 'ဂျန္နတ်' သို့ ပို့တော်မူမည်။

အကယ်၍ ကလေး(၂)ယောက် သေသူအတွက် မည်သို့ပါနည်းဟု အချို့ပုဂ္ဂိုလ်များက မေးလျှောက်ကြရာ (၂) ယောက်သေလျှင်လည်း ဤအကျိုးအတိုင်း ရမည်ဟု မိန့်တော်မူလေ၏၊ ထို့နောက် ကလေးတစ်ယောက်ပင် သေပါက မည်သို့ပါနည်းဟု မေးလျှောက်ပြန်ရာ ဤအကျိုးပင်ရမည်ဟု မိန့်တော်မူလေ၏။

ကိုယ်တော်က ဆက်လက်၍ မိန့်တော်မူသည်မှာ....ငါရစူလ်၏ အသက်ကို ပိုင်ဆိုင်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ 'ကဆမ်' အကြင် သန္ဓေသည် ပျက်သွားလျှင် ထိုကလေးသည်လည်း မိဘကို ဂျန္နတ်ဥယျာဉ်ဘုံနန်းသို့ ဆွဲယူသွားမည်ဖြစ်သည်၊ မိခင်သည် 'သဝါဗ်' ကုသိုလ်ရရန် မက်ထားမှသာ ဤစည်းစိမ် ရမည်ဖြစ်သည်။

ဆိုလိုသည်မှာ.... 'သဝါဗ်' ကုသိုလ်ရရန်မက်ထားပြီး ကလေးပျက်သည်ကို 'စွဗရ်' သည်းခံစိတ် ထားမှသာ ဤအကျိုးထူးရမည် ဖြစ်ပေသည်။

## အမျိုးသမီးများ သူစိမ်းယောကျ်ားရှေ့တွင် ရေမွှေးသုတ်လိမ်းခြင်း အကြောင်း

၃၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီး သည် အကယ်၍ နံ့သာဆီလိမ်းပြီး သူစိမ်း ယောကျ်ားများအနီးမှ သွားလျှင် ထိုအမျိုး သမီးသည် ဤသို့-ဤသို့ဖြစ်သည်၊ အဓိပ္ပါယ်မှာ... မိန်းမရွှင်ဖြစ်သည်။

ခဲအို၊ မတ်၊ ငင်းမိခင်၊ ဖခင်ဘက်မှ မောင်နှမတစ်ဝမ်းကွဲ တော်စပ်သူ ယောကျ်ား များ မိမိအိမ်၌ သွားလာမှုရှိနေလျှင် အမွှေးအကြိုင် သုတ်လိမ်းခြင်းမပြုရ။

## အမျိုးသမီးများ ပါးလွှာသော အဝတ်စတ်ခြင်း အကြောင်း

၄၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အချို့အမျိုး သမီးများသည် အဝတ်ဝတ်သည် ဆိုရုံလောက်ပင် ဝတ်ကြသည်၊ အမှန်မှာဝတ်လစ်စလစ် ဖြစ်သည်၊ ဤသို့သော အမျိုးသမီးများ သည် ဂျန္နတ် ဥယျာဉ်ဘုံနန်းသို့ ရောက်ကြမည် မဟုတ်၊ ၎င်းထိုဂျန္နတ်ဥယျာဉ်ဘုံနန်း၏ မွှေးကြိုင်ရနံ့များလည်း ခံစားကြရမည်မဟုတ်။

## အမျိုးသမီးများသည် အမျိုးသားများကဲ့သို့ ဝတ်ဆင်ခြင်း အကြောင်း

၄၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က အမျိုးသားများ ဝတ်သကဲ့သို့ အမျိုးသမီးများ ဝတ်ဆင်ခြင်းကို 'လအ်နတ်' ကျိန်ဆဲတော်မူသည်။

အိန္ဒိယနိုင်ငံတွင် တယင်ပိုင်ခုံဖိနပ်နှင့် အကိုကမ်(လောင်ကွတ်သဘောအင်္ကျီရှည်) သည် အမျိုးသားများသာ ဝတ်ဆင်ကြသဖြင့် ဤသည်မှာ အမျိုးသမီးများ အတွက် 'ဟရာမ်' ဖြစ်ပေသည်။

## မော်ကြွားရန် အဝတ် ဝတ်ခြင်း အကြောင်း

၄၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ဒွန္နယာ လောက၌ နာမည်ကြီးရန်၊ ဂုဏ်ဖော် ကြွားဝါရန် အတွက် အဝတ် ဝတ်လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့ကို 'ကေယာမတ်နေ့၌ သေးသိမ်သော အဝတ်ကို ဝတ် စေတော်မူမည်၊ ပြီးနောက် ထိုအဝတ်တွင် 'ဂျဟန္နမ်' ငရဲဘုံ၏ မီးဖြင့်ရှို့တော်မူမည်။

ဆိုလိုသည်မှာ—ဂုဏ်မြင့်စေရန်၊ လူတို့ချီးကျူးစေရန် လူတို့က ဂရုတစိုက်ကြည့် စေရန် 'နီယတ်' ဆန္ဒဖြင့်ဝတ်လျှင် တင်ပြပါအပြစ်ဒဏ် ခံရပေမည်၊ ဤသို့ကြွားဝါ ဂုဏ်ဖော်မှုသည် အမျိုးသမီးများတွင် များစွာရှိလေသည်။

## မတရားပြုခြင်း အကြောင်း

၄၃။ သူဆင်းရဲ (မွတ်ဖ်လစ်) သည် မည်သူဖြစ်ကြောင်း သင်တို့သိပါ၏လော့ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က အနီးတွင် ထိုင်နေကြသော ပုဂ္ဂိုလ်များအား မေးတော်မူရာ ရွှေ, ငွေ ပစ္စည်းပစ္စယ မရှိသူကိုသူဆင်းရဲဟု ခေါ်ပါကြောင်းဖြင့်လျှောက်ကြလေ၏၊ ကိုယ်တော်က မိန့်တော်မူသည်မှာ....ငါ့ရစူလ်၏အုမ္မတ်သားများတွင် အဆင်းရဲဆုံးသူသည် ထိုသူဖြစ်သည်၊ 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ နမာဇ်၊ ရိုဇဟ်၊ ဇကာတ် အားလုံး ကောင်းမှုပါလာသည်၊ သို့သော် ထိုသူနှင့်အတူ ဤသို့ မကောင်းပါလာသည်၊ တစ်ဦးဦးကို မကောင်းပြောဆိုခဲ့သည်၊ ၎င်းတစ်ဦးဦးကို မတရားစွပ်စွဲခဲ့သည်၊ ၎င်းတစ်ဦးဦး၏ ပစ္စည်းကို အလွဲသုံးစားလုပ်၍စားသည်၊ ၎င်းတစ်ဦးဦးကိုသတ်ခဲ့သည်၊ ၎င်းတစ်ဦးဦးကို ရိုက်ပုတ်ခဲ့သည်၊ သို့ရှိရာ ထိုသူပြုမူခဲ့သော ကောင်းမှုကုသိုလ် 'အမလ်' များကို အချို့တစ်ဝက်၊ အချို့ကရကြပြီး၊ အချို့ကို အချို့ကရကြမည်၊ အကယ်၍ ထိုရ,ရန်ရှိသောသူများကို ပေးယင်း မပြည့်စုံမီ ထိုသူ၏ ကောင်းမှုကုသိုလ် 'အမလ်' ကုန်ဆုံးသွားပါက ထိုရ, ရန်ရှိသူများ၏ ဂိုနာဟ် အကုသိုလ် အပြစ်များကိုယူ၍ ၎င်းသူအပေါ် တင်မည်၊ ပြီးနောက် ထိုသူ့ကို ဂျဟန္နမ်အပါယ်ငရဲဘုံသို့ လွှင့်ချကြမည် ဖြစ်သည်။

## သနားညှာတာခြင်း အကြောင်း

၄၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် လူတို့အား သနားညှာတာခြင်းမပြုလျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုသူ့အပေါ်သနားကရုဏာ သက်တော်မူမည် မဟုတ်ပေ။

## ကောင်းမှုညွှန်ကြား၍ မကောင်းမှုကို မြစ်တားရန်အကြောင်း

၄၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့အနက် တစ်ဦးတစ်ယောက်သည် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲ ဆန့်ကျင်သော အမှုကိစ္စကို မြင်တွေ့မူ ထိုသူ့ကို လက်ထိလက်ရောက် တားမြစ်ရမည်၊ အကယ်၍ ဤသို့တားနိုင်သော စွမ်းအားမရှိမူ နှုတ်လျှာဖြင့် တားမြစ်ရမည်၊ အကယ်၍နှုတ်လျှာဖြင့်လည်း မတားနိုင်မူ စိတ်ဖြင့် မကောင်းထင်ရမည်' ဤသို့ စိတ်ဖြင့် မကောင်းထင်ခြင်းသည် 'အီမာန်'၏အနိမ့်ဆုံးသောအဆင့်ပင် ဖြစ်သည်။

အို....အမျိုးသား,အမျိုးသမီးအပေါင်းတို့၊ သင်တို့သည်မိမိတို့၏ သား, သမီးများ၊ အခိုင်းအစေများကို တတ်နိုင်သည်ဖြစ်၍ 'နမာဇ်' မဖတ်က အတင်းအဖတ်ခိုင်းကြကုန်၊ အကယ်၍ ၎င်းတို့ထံတွင် စက္ကူ၊ မြေ၊ ကျွေနှင့် အဝတ်ဖြင့်ပြုလုပ်ထားသောသက်ရှိရုပ်ပုံများရှိသည်ကို တွေ့ရမူ ၎င်းအကျိုးမဲ့စာအုပ်များ ရှိနေပါက ထိုပစ္စည်းများကို စုတ်ဖြဲခွဲပစ်ရမည်၊ ဤသို့အကျိုးမရှိသောအရာများ၊ မီးပန်း၊ လေတံခွန်၊ ဒွေဝါလီမုန့်၊ကစားစရာများအတွက် အလျှင်း ငွေကြေးမပေးကြနှင့်။

## မွတ်စလင်မ်၏ အပြစ်ကို ဖုံးအုပ်ရန် အကြောင်း

၄၆။ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မိမိ ညီ, သား, အစ်ကို မွတ်စလင်မ်တစ်ဦး၏အပြစ်ကို ဖုံးအုပ်လျှင်အလ္လာဟ်အသျှင်မြတ်သည် ကေယာမတ် ကမ္ဘာ့တရားခွင်နေ့၌ ထိုသူ၏ အပြစ်များကို ဖုံးအုပ်တော် မူပေမည်၊ ၎င်းအကြင်သူသည် မွတ်စလင်မ်တစ်ဦး၏ အပြစ်ကို ဖော်ထုတ်လျှင်အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏အပြစ်များကိုဖော်ထုတ်တော်မူမည်ဖြစ်သည်၊တစ်ခါတစ်ရံ ၎င်းသူကိုအိမ်မှာ ထိုင်ယင်းပင် အရှက်တစ်ကွဲအကျိုးနည်း ဖြစ်စေတော်မူမည်။

## တစ်ဦးတစ်ယောက်၏ သေးသိမ်ခြင်းနှင့် ၎င်းဒုက္ခအပေါ် ပျော်ရွှင်ခြင်း အကြောင်း

၄၇။ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ မိမိ၏ ညီ, သား အစ်ကို မွတ်စလင်မ်တစ်ဦးတစ်ယောက် ဒုက္ခအပေါ် ပျော်ရွှင်မှု မပြနှင့်၊ အလ္လာဟ်အသျှင်မြတ် သည် ထိုဒုက္ခ ရောက်သူ အပေါ် သနားကရုဏာ သက်တော်မူမည် ဖြစ်သည်၊ ၎င်း သင့်အား ဒုက္ခတွေ့စေတော်မူပေမည်။

## ဂိုနာဟ်ပြစ်မှုအပေါ် ကဲ့ရဲ့ခြင်းအကြောင်း

၄၈။ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မွတ်စလင်မ် ညီ, သား, အစ်ကို တစ်ယောက်ကို 'ဂိုနာဟ်' တစ်ခုအပေါ်အရှက်ရအောင် ပြုလျှင် အရှက်ရအောင် ပြုသောသူသည် ထိုဂိုနာဟ်ကို မကျူးလွန်မချင်း သေမည် မဟုတ်ပေ။

ဆိုလိုသည်မှာ ကျူးလွန်ခဲ့သော ဂိုနာဟ် ပြစ်မှုမှ တောင်ဗဟ် ပြုပြီးသော့်လည်း ထို ဂိုနာဟ် အပေါ် အရှက်ရအောင်ပြုခြင်း မကောင်းဖြစ်လေသည်၊ ၎င်းအကယ်၍ ထိုကျူးလွန်သူက တောင်ဗဟ် မပြုသေးလျှင် ဆုံးမသောအဖြစ်နှင့် ပြောဆိုပိုင်လေသည်၊ သို့သော် မိမိကိုယ်ကို သန့်ရှင်းသည်ဟုထင်၍ ၎င်းထိုကျူးလွန်သူကို သေးသိမ်သွားစေရန် အတွက် ပြောခြင်းလည်း မကောင်းပင်ဖြစ်သည်။

## သေးငယ်သော ဂိုနာဟ် ကျူးလွန်ခြင်းအကြောင်း

၄၉။ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမြေးတော်သားတော်အား မိန့်တော် မူသည်၊ အို...အာအေရှဟ် သေးငယ်ပေါ့ပါးသော ဂိုနာဟ်ပြစ်မှုများမှလည်း မိမိကိုယ်ကို လွတ်ကင်းအောင်ပြုကုန် အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ် ဘက်တော်မှ လည်း မေးမြန်းစစ်ဆေးမည့်သူလည်း ရှိနေပေသည်။

ဆိုလိုသည်မှာ....ထို 'ဂိုနာဟ်' ပြစ်မှုကလေးကိုပင်သက်ဆိုင်ရာ 'ဖွရစ်ရှိတဟ်'က ရေး မှတ်တော်မူသည်၊ ထို့နောက် 'ကေယာမတ်' ကမ္ဘာ့တရားခွင်တွင် စာရင်းစစ်ဆေးခြင်း ခံရမည်၊ 'အသာဗ်' ပြစ်ဒဏ်အပေးခံရမည်ကို စိုးရိမ်ရပေသည်။

## မိဘကို ပျော်ရွှင်စွာထားရန် အကြောင်း

၅၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အလ္လာဟ်အသျှင်မြတ်၏ ကျေနပ်တော်မူခြင်းသည် မိဘ၏သဘောတူခြင်း အပေါ်တွင်ရှိသည်၊ ၎င်း အလ္လာဟ်အသျှင်မြတ် အမျက်တော် ရှခြင်းသည် မိဘ၏ စိတ်ဆိုးမှုအပေါ် တည်လေသည်။

## သားချင်းများအား မကောင်းဆက်ဆံခြင်း အကြောင်း

၅၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သောကြာနေ့ည(မြန်မာအခေါ် ကြာသပတေးနေ့ည)တွင် လူသားအားလုံး၏'အမလ်'နှင့် 'ဓံအေဗာဒတ်'များ အလ္လာဟ်အသျှင်မြတ် ရှုံးတော်သို့ တင်သွင်းကြရသည်၊အကြင်သူသည် ဆွေမျိုးသားချင်းများအား မကောင်းမှုဖြင့် ဆက်ဆံလျှင် ထိုသူ၏ မည်သည့်'အမလ်'ကောင်းမှုမှ နှစ်သက်စွာ လက်ခံတော်မမူပေ။

## ဖတဆိုးကလေးကို ကျွေးမွေးစောင့်ရှောက်ခြင်း အကြောင်း

၅၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ဖတဆိုးကလေး(ယတီမ်)၏ကုန်ကျစရိတ်ကို တာဝန်ယူ၍ထားလျှင် ထိုသူသည် ငါ ရစူလ်နှင့် 'ဂျန္နတ်' ၌ ဤသို့နီးကပ်စွာ နေရမည်။

ကိုယ်တော်က လက်ညှိုးနှင့် လက်ခလယ်ကိုထောင်၍ ကွာသည်ခန့် နီးကပ်မည့် ပုံသဏ္ဍာန်ကို ပြတော်မူလေသည်။

၅၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အလ္လာဟ်အသျှင်မြတ်အတွက် သက်သက် (ယတီမ်) ဖတဆိုးကလေး၏ခေါင်းကို ယုယစွာ ပွတ်သပ်လျှင် ထိုသူ၏လက်သည် ဆံပင်များပေါ်ရောက်သည်ခန့် ဆံပင်နှင့် အမျှကောင်းမှုကုသိုလ်များ ရလေသည်။

၎င်းအကြင်သူသည် ၎င်းထံတွင်နေသော (ယတီမ်) ဖတဆိုး မိန်းကလေး ၎င်းယောကျ်ားလေးအပေါ် ကရုဏာသည်ာတာမှုထားလျှင် ထိုသူသည်ငါ ရစူလ်နှင့် 'ဂျန္နတ်' တွင် လက်ညှိုးနှင့် လက်ခလယ် နီးကပ်သကဲ့သို့ အတူနေထိုင်ရမည်။

## အိမ်နီးချင်းအား ဒုက္ခပေးခြင်းအကြောင်း

၅၄။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မိမိ၏အိမ်နီးချင်းကို ဒုက္ခပေးလျှင် ထိုသူသည် ငါ ရစူလ်အား ဒုက္ခပေးသကဲ့သို့ ဖြစ်သည်၊ ၎င်းအကြင်သူသည် ငါ ရစူလ်အား ဒုက္ခပေးလျှင် ထိုသူသည် အလ္လာဟ်အသျှင်မြတ်ကို ဒုက္ခပေးသကဲ့သို့ ဖြစ်သည်။

ၐင်းအကြွင်သူသည် အိမ်နီးချင်းနှင့်ရန်ဖြစ်လျှင် ထိုသူသည် ငါရစူလ်နှင့် ရန်ဖြစ်သကဲ့သို့ဖြစ်သည်၊ ၐင်းအကြွင်သူသည် ငါရစူလ်နှင့်ရန်ဖြစ်လျှင် ထိုသူသည် အလ္လာဟ်အသျှင်မြတ်နှင့် ရန်ဖြစ်သကဲ့သို့ ဖြစ်သည်။

ဆိုလိုသည်မှာ.... အိမ်နီးချင်းအား မပြောပလောက်သော အကြောင်းမဲ့ ကိစ္စများဖြင့် ဒုက္ခပေးခြင်း၊ ရန်ဖြစ်ခြင်းတို့သည် မကောင်းဖြစ်ပေသည်။

## မွတ်စလင်မ်အား ကူညီလုပ်ကိုင်ပေးခြင်း အကြောင်း

၅၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊အကြွင်သူသည် မိမိညီသားအစ်ကို မွတ်စလင်မ်တစ်ဦး၏အလုပ်ကို ကူညီလုပ်ကိုင်ပေးလျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏အလုပ်ကို ကူညီတော်မူသည်။

## အရှက်မရှိခြင်းနှင့်, အရှက်ရှိခြင်း အကြောင်း

၅၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အရှက်ရှိခြင်းသည် အီမာန်၏ အချက်ပင်ဖြစ်သည်၊ ၐင်းအီမာန်သည် ဂျန္နတ်သို့ ရောက်စေသည်၊ အရှက်မရှိခြင်းသည် စာရိတ္တ အကျင့်ပျက်ပြားသောအချက်ဖြစ်သည်၊ ၐင်းစာရိတ္တ အကျင့်ပျက်ပြားခြင်းသည် 'ဂျဟန္နမ်'ငရဲသို့ ကျစေသည်။

သို့သော် ဘာသာရေးရာကိစ္စများ၌ လုံးဝ အရှက်ထားရန်မလို၊ ပမာဆိုသော် နေကာဟ် လက်ထပ်သောအခါနှင့် ခရီးသွားလာသောအခါ များသောအားဖြင့် အမျိုးသမီးများသည် ရှက်သည်ဆို၍ နမာဇ် မဖတ်ကြ၊ ဤသို့ အရှက်ထားခြင်းသည် အရှက်မရှိခြင်းထက် ပို၍ပင် ဆိုးလေသည်။

## စာရိတ္တကောင်းခြင်းနှင့်, မကောင်းခြင်း အကြောင်း

၅၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ စာရိတ္တကောင်းမွန်ခြင်းသည် ရေက ဆားခဲကို အရေပျော်စေသကဲ့သို့ 'ဂိုနာဟ်' အကုသိုလ်များကို အရေပျော်စေသည်၊ ၐင်းစာရိတ္တ မကောင်းခြင်းသည် 'ရှလကာ'က ပျားရည်ကို ဖျက်ဆီးသကဲ့သို့ 'အေဗာဒတ်' ကောင်းမှုများကို ပျက်စီးစေလေသည်။

၅၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ သင်တို့အနက် ငါရစူလ်အချစ်ဆုံး ၐင်း'အာခေရတ်'၌ ငါရစူလ်နှင့် နီးကပ်စွာ နေရမည့်သူသည် စာရိတ္တကောင်းမွန်သောသူဖြစ်သည်၊ ၐင်းသင်တို့အနက် ငါရစူလ် မနှစ်သက်ဆုံးသောသူ ၐင်း'အာခေရတ်'၌ငါရစူလ်နှင့်အဝေးကွာဆုံးသူသည်စာရိတ္တမကောင်းသောသူဖြစ်သည်၊

## ချီသာနူးညှံ့ခြင်း ခက်ထန်မာကျောခြင်း အကြောင်း

၅၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမှန်မုချ အလ္လာဟ်အသျှင်မြတ်သည် မဟာကရုဏာရှင် ဖြစ်တော်မူသည်၊ ၎င်းချီသာနူးညံ့ခြင်းကို နှစ်သက်တော်မူသည်၊ ၎င်းချီသာနူးညံ့ခြင်းအပေါ် မြောက်မြားစွာသော 'နေအ်မတ်' စည်းစိမ်တော်များ ပေးသနားတော်မူသည်၊ မာမြင်းခက်ထန်သူအား စည်းစိမ်များပေး သနားတော်မမူပေ။

၆၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ သည် ချီသာနူးညံ့ခြင်းမှ လက်မဲ့ဖြစ်လွတ်ကင်းနေလျှင် ထိုသူသည်ကောင်းမှု အပေါင်းမှ လက်မဲ့ဖြစ်သူ ဖြစ်ပေမည်။

## တစ်ဦးတစ်ယောက်၏ အိမ်တွင်းသို့ ချောင်းကြည့်ခြင်း အကြောင်း

၆၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အိမ်ရှင်၏ ခွင့်ပြုချက်မရဘဲ မည်သူ၏ အိမ်တွင်းသို့မဆို မကြည့်နှင့်၊ အကယ်၍ကြည့်ခဲ့လျှင်အိမ်တွင်းသို့ ခွင့်မပြုဘဲ ဝင်ရောက်သည့်ပမာ ဖြစ်သည်။

အချို့အမျိုးသမီးများသည် သတို့သားနှင့် သတို့သမီးတို့ကို ချောင်းမြောင်း၍ ကြည့်ကြသည်၊ ဤသို့ကြည့်ခြင်းသည် အလွန်အရုက်ကင်းမဲ့သော အလုပ်ဖြစ်သည်၊ အမှန်မှာ ချောင်းကြည့်ခြင်းနှင့် တံခါးဖွင့် ဝင်သွားခြင်းမှာ ခြားနားမှုမရှိပေ၊ ဤသို့ပြုခြင်း သည် 'ဂိုနာဟ်' အပြစ်အလွန်ကြီးလေသည်။

## စကားပြောနေသူထံ သွားထိုင်ခြင်း အကြောင်း

၆၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊အကြင်သူသည် လူတို့ စကားပြောနေကြသည့်ဘက်သို့ နားစွင့်လျှင် ၎င်းသူတို့က မနှစ်သက်ကြပါမူ ထိုနားစွင့်သူသည် 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ ၎င်းသူ၏ နားနှစ်ဘက်ထဲသို့ ခဲပူရေ အလောင်းခံရမည်။

## ဒေါသ အကြောင်း

၆၃။ ကျွန်တော်များအား 'ဂျန္နတ်'သို့ ဝင်ရောက်နိုင်သော 'အမလ်' တစ်ခုအမိန့် ရှိတော်မူပါဟု တစ်ဦးသော ဆွဟာဗဟ်ပုဂ္ဂိုလ်က ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော် အား မေးလျှောက်ရာ ဒေါသမဖြစ်နှင့် သင်၏အတွက် 'ဂျန္နတ်' အသင့်ဖြစ်လေပြီဟု မိန့်တော်မူလေ၏။

## မခေါ်မပြောဘဲ နေခြင်း အကြောင်း

၆၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မိမိ၏ ညီသားအစ်ကို မွတ်စ်လင်မ်တစ်ယောက်အား မွတ်စလင်မ်တစ်ဦးသည်(၃)ရက်ထက်ပို၍

မခေါ်မပြောဘဲ စိတ်ဆိုးနေခြင်း၊ 'ဟလာလ်' မဖြစ်, မနေရ၊ ၎င်းအကြင်သူသည် (၃) ရက်ထက်ပို၍ မခေါ်မပြောဘဲနေကာ ထိုအဖြစ်၌ သေဆုံးသွားပါက ထိုသူသည် ဂျဟန္နမ်အပါယ်ငရဲသို့ကျမည်။ (ထိုဖြစ်မှုအတွက် ကျခံရပြီးနောက် လွတ်မြောက်မည်။)

## တစ်ဦးတစ်ယောက်ကို အီမာန်မရှိဟု ပြောခြင်းနှင့် ကျိန်ဆဲခြင်း အကြောင်း

၆၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မိမိ၏ ညီသား,အစ်ကို မွတ်စလင်မ်တစ်ဦးတစ်ယောက် အို 'ကာဖွင်ရ်'ဟု ခေါ်လိုက်လျှင် ပမာဆိုသော်....ဆိုခေါ်သူက ထိုသူ့ကို သတ်လိုက်သကဲ့သို့ 'ဂိုနာဟ်' အပြစ်ကြီးလေသည်။

၆၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အရာ တစ်ခုခုအပေါ် 'လအ်နတ်' ကျိန်ဆဲလျှင် ပထမ ကျိန်ဆဲမှုသည် မိုးကောင်းကင်သို့ သွားလေသည်၊ မိုးကောင်းကင်၏ တံခါးများ ပိတ်ထားကြသဖြင့် ထိုကျိန်ဆဲမှုသည် ပထဝီမြေပြင်ဘက်သို့ ပြန်လာသည်၊ ပထဝီမြေကလည်း လမ်းပိတ်လိုက်သဖြင့် လက်ဝဲ လက်ယာ လှည့်ပတ်မငြိမ်မသက်ဖြစ်နေသည်၊ နေရန်နေရာမရှိတော့လေရာ ကျိန်ဆဲခံရသူ ထံသို့ ရောက်လေသည်၊ အကယ်၍ ထိုသူသည် ကျိန်ဆဲခြင်းခံထိုက်သူဖြစ်နေက ကောင်း ပေစွ၊ ကျိန်ဆဲခြင်း ခံထိုက်သူမဟုတ်ခဲ့သော် ထိုကျိန်ဆဲမှုသည် ကျိန်ဆဲသူထံ ပြန်ရောက် ပေသည်။

၆၇။ အချို့အမျိုးသား, အမျိုးသမီးများသည် အားလုံးအပေါ် အသျှင်က ရိုက်ပါစေ၊ 'လအ်နတ်' ပြုပါစေဟု ပြောလေ့ ပြောထရှိကြသည်၊ တစ်ဦးတစ်ယောက် အား လွတ်ခနဲ 'အီမာန်' မရှိသူ ဘာသာမဲ့ဟု ပြောတတ်ကြသည်၊ ဤသို့ပြောခြင်းသည် လူသားကိုဖြစ်စေ၊ တိရစ္ဆာန်ကိုဖြစ်စေ၊ အခြားအရာပစ္စည်းများကိုဖြစ်စေ အပြစ်ဂိုနာဟ် အလွန်ကြီးလေသည်။

## မွတ်စလင်မ် တစ်ဦးတစ်ယောက်အား ခြောက်လှန့်ခြင်း အကြောင်း

၆၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မွတ်စလင်မ် တစ်ဦးတစ်ယောက်သည် အခြား မွတ်စလင်မ် တစ်ဦးတစ်ယောက်ကို ခြောက်လှန့်ခြင်း 'ဟလာလ်'မဖြစ်၊ မပြုပိုင်ပေ။

၆၉။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မွတ်စလင်မ် တစ်ဦးတစ်ယောက်ကို သက်သက်မဲ့ ၎င်းသူကြောက်လန့်သွားလောက်အောင် မျက်လုံးပြူး၍ ကြည့်လျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုကြောက်လန့်စေသူအား 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ ကြောက်လန့်စေတော်မူမည်။

သို့သော် အကယ်၍ မှုခင်းယှဉ်းချတ်ချော်မှုကြောင့် ခြိမ်းခြောက်ရန် လိုအပ်ခဲ့လျှင် ပိုင်လေသည်။

## မွတ်စလင်မ်၏ တောင်းပန်ချက်ကို လက်ခံရန် အကြောင်း

၇၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မိမိညီသားအစ်ကို မွတ်စလင်မ်တစ်ယောက် ရှေ့မှောက်တွင် အကြောင်းပြတောင်းပန်လျှင် ၎င်းထိုသူက တောင်းပန်မှုကိုလက်မခံပါက ဤကဲ့သို့ လက်မခံသူသည် ၎ါရစူလ်၏ထံတော်၌ 'ကောဝ်သရ်' ရေသောက်ရန် လာရောက်ရမည်မဟုတ်။

ဆိုလိုသည်မှာ သင်နှင့် ပတ်သက်၍ အပြစ်တစ်စုံတစ်ရာပြုလျှင် ၎င်းထိုသူက နောင်တရ၍ တောင်းပန်လာသော် သင်သည် ၎င်းသူအား ခွင့်လွှတ်ကျေနပ်လိုက်ရမည်။

## ကုန်းချောခြင်း အကြောင်း

၇၁။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ကုန်းချောသူသည် ဂျန္နတ်ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ရမည်မဟုတ်။

## နောက်ကွယ် အတင်းပြောခြင်း အကြောင်း

၇၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မိမိ ညီ, သား, အစ်ကို မွတ်စလင်မ်တစ်ယောက်၏ အသားကိုစားလျှင် (ဝါ) နောက်ကွယ် အတင်းပြောလျှင် 'ကေယာမတ်' ကမ္ဘာ့တရားခွင်၌ အလ္လာဟ်အသျှင်မြတ်သည် အသေကောင်အသားကို ထိုသူ့ရှေ့၌ ယူလာစေတော်မူမည်၊ သင်သည် လူရှင်ကိုစားသကဲ့သို့ ဤအသေကောင်ကိုလည်း စားကုန်ဟု မိန့်တော်မူမည်၊ သို့ရှိရာ ထိုသူသည် မတတ်သာသည့် အဆုံး နှာခေါင်းရှုံ့၍ ဆူညံအော်ဟစ်၍ မစားချင်ဘဲလျက် စားရပေတော့မည်။

## တစ်ဦးတစ်ယောက်အား စွပ်စွဲခြင်း အကြောင်း

၇၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် မွတ်စလင်မ် တစ်ဦးတစ်ယောက်ကို ၎င်းတွင် မရှိဘဲလျက် စွပ်စွဲပြောဆိုခြင်းပြုလျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုစွပ်စွဲသူကို မိမိပြောဆို စွပ်စွဲမိခဲ့သည်ကို ရုပ်သိမ်းခြင်းနှင့် တောင်းပန်ဖို့ အမှားဝန်ခံခြင်း မပြုသရွေ့ ကာလပတ်လုံး 'ဂျဟန္နမ်'အပါယ်ငရဲလားသူများ၏ သွေးပုပ်,ပြည်ပုပ်များ စုစည်းရာနေရာတွင် နေထိုင်စေမည်ဖြစ်သည်၊ (ထိုပြစ်မှုအတွက် ကျခံပြီးမှ လွတ်မြောက်မည်။)

## စကားနည်းခြင်း အကြောင်း

၇၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ဆိတ်ဆိတ်နေလျှင် များစွာသောဒုက္ခများမှ လွတ်ကင်းနေမည်ဖြစ်သည်။

၇၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အလ္လာဟ်အသျှင်မြတ်အား 'သစ်က်ရ်' တည်သခြင်းအပြင် အခြားစကားများ, များစွာမပြောနှင့် အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ် 'သစ်က်ရ်' တော်၏အပြင် အခြားသော အကြောင်းများ, များစွာပြောဆိုခြင်းသည် စိတ်ကိုခက်ထန် မာမြင်းစေလေသည်၊ ၎င်းလူတို့အနက် အလ္လာဟ်အသျှင်မြတ်နှင့် အဝေးကွာဆုံးသောသူသည် စိတ်ခက်ထန် မာမြင်းသောသူ ဖြစ်သည်။

## မိမိကိုယ်ကို အားလုံးထက် နိမ့်ကျသည်ဟုယူဆရန် အကြောင်း

၇၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်ကျိုးယိုနိမ့်ချလျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏ အဆင့်အတန်းကို တိုးမြှင့်ပေးသနားတော်မူသည်၊

၎င်းအကြင်သူသည် 'ကြွား၀' ဘဝင်မြင့်လျှင် အလ္လာဟ်အသျှင်မြတ်သည် ထိုသူ၏ လည်တိုင်ကို ချိုးနှိမ်တော်မူသည်။ (ဆိုလိုသည်မှာ....သေးသိမ်အောင် ပြုတော်မူသည်။)

## မိမိကိုယ်ကို အခြားသူများထက်ဂုဏ်ရှိသည်ဟုယူဆခြင်း အကြောင်း

၇၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူ၏ စိတ်တွင် မုံညှင်းစေ့ခန့်မျှ မော်ကြွားခြင်းရှိလျှင် ထိုသူသည် 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းသို့ ဝင်ရမည်မဟုတ်ပေ။

## အမှန်ပြောခြင်းနှင့် မုသားပြောခြင်း အကြောင်း

၇၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့ အမှန်စကားကိုသာလျှင် ပြောဆိုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် အမှန်ပြောဆိုခြင်းသည် ကောင်းမှု၏ လမ်းကိုပြလေသည်၊ ၎င်းအမှန်နှင့် ကောင်းမှု နှစ်ရပ်စလုံးသည် ဂျန္နတ်သို့ ရောက်စေလေသည်၊ ၎င်းမုသားစကားမှ ရှောင်ကြဉ်ကြကုန်၊ အဘယ့်ကြောင့် ဆိုသော် မုသားပြောဆိုခြင်းသည် မကောင်းသောလမ်းကို ပြလေသည်၊ ၎င်းမုသားနှင့် မကောင်းခြင်းသည် ဂျဟန္နမ်ငရဲသို့ ကျစေလေသည်။

## အသီးသီးအား မျက်နှာလိုက်၍ စကားနှစ်ခွ ပြောခြင်း အကြောင်း

၇၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ပါးစပ်နှစ်ခုရှိလျှင် ထိုသူသည် 'ကေယာမတ်' နေ့၌ မီးလျှံ၏ လျှာနှစ်ခု ရှိပေမည်။

ပါးစပ် နှစ်ခုဟု မိန့်ခြင်းမှာ မျက်နှာလိုက်၍ ဟိုလူတစ်မျိုး၊ ဤလူတစ်မျိုးစကားနှစ်ခွပြောသူကို ဆိုလိုခြင်း ဖြစ်ပေသည်။

## အလ္လာဟ်အသျှင်မြတ်အပြင် အခြားအရာများဖြင့် 'ကဆမ်' ကျိန်ဆိုခြင်း အကြောင်း

၈၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊အကြင်သူသည် အလ္လာဟ်အသျှင်မြတ်အပြင် အခြားအရာများဖြင့် 'ကဆမ်' ကျိန်ဆိုခြင်းပြုလျှင်ထိုသူသည် 'ကွဖ်ရ်'အပြစ်ထိုက်သူဖြစ်သည်၊ ၎င်း 'ရှစ်ရ်က်' ထိုက်သူဖြစ်သည်။

အချို့သူများသည် အလ္လာဟ်အသျှင်မြတ်အပြင် အခြားအရာများဖြင့် 'ကဆမ်' ကျိန်ဆိုသော အလေ့အထရှိကြလေသည်၊ သင့်အသက်၏ ကဆမ်၊ မိမိအရှု၏ ကဆမ်၊ မိမိကလေးများ၏ ကဆမ်၊ စသည် ကျိန်ဆိုလေ့ ရှိကြသည်၊ ဤသို့ကျိန်ဆိုမှုများ မပြုပိုင်ပေ၊ အလ္လာဟ်အသျှင်မြတ်အပြင် အခြားအရာများဖြင့် 'ကဆမ်' ကျိန်ဆိုမှု ပြုမိလျှင် ချက်ချင်း 'ကလေမဟ်' တော် ဖတ်ရမည်ဟု အခြား ဟဒီးသ်တော်တစ်ရပ်တွင် လာရှိလေသည်။

## မုသားပြောဆိုခြင်း ဖြစ်ပါက အီမာန်မရှိ ဖြစ်ပါစေဟု ကျိန်ဆိုခြင်း အကြောင်း

၈၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ကျွန်ုပ် အီမာန် မရှိဖြစ်ပါရစေဟု 'ကဆမ်' ကျိန်ဆိုခြင်းပြုမူ အကယ်၍ ထိုသူသည် လိမ်လည်၍ ကျိန်ဆိုခဲ့ခြင်း ဖြစ်ပါက ၎င်းဆိုသည့်အတိုင်း 'အီမာန်' မရှိဖြစ်မည်၊ အကယ်၍ အမှန်အတိုင်းဖြစ်၍ ကျိန်ဆိုခြင်းဖြစ်မူလည်း 'အီမာန်' ပြည့်စုံသောသူ မဖြစ်နိုင်ပေ။

ဤသို့ပင် 'ကလေမဟ်' မရပါစေနှင့်၊ 'ဂျဟန္နမ်' ငရဲကျပါစေဟူ၍လည်း စသည့် ကျိန်ဆိုမှုများ မပြုပိုင်ပေ၊ ဤသို့ ကျိန်ဆိုသော အလေ့အထများကို စွန့်လွှတ်ကြရမည်။

## လူတို့သွားလာရာတွင် ဒုက္ခဖြစ်စေမည့်လမ်းတွင် ကျနေသော ဆူးညှောင့်ခလုပ်တို့ကို ဖယ်ဖစ်ရန် အကြောင်း

၈၂။ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ လူတစ်ယောက်သည် လမ်းသွားနေရာ လမ်းတွင်ဆူးကိုင်းတစ်ခုကျနေသည်ကိုတွေ့ရသည်၊ ထိုသူကလမ်းမှ ထိုဆူးကိုင်းကို ဖယ်ရှားပစ်လိုက်သည်၊ အလ္လာဟ်အသျှင်မြတ်က ထိုသူ၏ပြုမူပုံကို ဂုဏ်ပေးတော်မူ၍ ထိုသူ၏ အပြစ်များကို လွှတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူလိုက်သည်။

ဤဟဒီးသ်တော်မြတ်အရ လူသွားလမ်းတွင် လူတို့ဒုက္ခရောက်မည့် ဆူးညှောင့်ခလုပ်များ စုပုံခြင်း, လွှင့်ပစ်ထားခြင်းများသည် အလွန်မကောင်းကြောင်း သိရလေသည်။

အချို့ အသိတရားမရှိသော အမျိုးသမီးများသည် အိမ်ဥပစာ၌ ခုံခင်း၍ ထိုင်ကြသည်၊ ထသွားသောအခါ ခုံကိုထားပစ်ခဲ့ကြသည်၊ တစ်ခါတစ်ရံ သွားလာသူများသည် ထိုခုံဖြင့် တိုက်မိ၍လဲကာ ပါးစပ်ပေါက်၊ လက်ကျိုးဖြစ်ကြရသည်၊ ဤသို့ပင် လမ်း၌ ပန်းကန်များ၊ ခုတင်ကျိုးများ၊ အသားချောင်းများ၊ ကျောက်ပြား၊ ဖန်ကွဲ, ပုလင်းကွဲများ ပစ်ခြင်းအားလုံးတို့သည် မကောင်းပင် ဖြစ်ပေသည်။

## ကတိနှင့် အပ်နှံမှုကို တည်စေရမည့် အကြောင်း

ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မုနာဖစ်က်၊ ဖွင်လ်အမလ်၏ အထိမ်းအမှတ် (၃) ခုရှိသည်၊ ကတိဖျက်ခြင်း၊ မုသားပြောခြင်း၊ အပ်နှံသော ပစ္စည်းပစ္စယကို ထိန်ချန်ခြင်း။ (ဘိုခါရီကျမ်း)

၈၃။ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အပ်နှံထားမှုကို ထိန်ချန်ခြင်းပြုလျှင် ထိုသူသည် အီမာန်ရှိသူမဟုတ်၊ ၎င်းအကြင်သူသည် ကတိမတည်လျှင် ထိုသူသည် ဘာသာမဲ့သူဖြစ်သည်။

## ပန်းခစ်၊ ဖွာလ်ဖွင့်သူ၊ လက်ကြည့်၍ ဗေဒင်ဟောသူထံ သွားခြင်း အကြောင်း

၈၄။ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် နောက်ကွယ်အကြောင်းပြောသူထံလာလျှင် ၎င်းတစ်စုံတစ်ရာမေးမြန်းလျှင် ၎င်းထိုစကားကို မှန်သည်ဟု ယူဆလျှင် ထိုသူ၏ ရက်ပေါင်း (၄၀) နမာဇ်သည် 'ကဘူလ်' မဖြစ်လက်ခံတော်မမူပေ။

ဤသို့ပင် အကယ်၍ တစ်ဦးတစ်ယောက်အား 'ဂျင်န်' စုံးပူးသည်ဟုဆင်လျှင်အချို့ အမျိုးသမီးများသည် ထို 'ဂျင်န်' အား ဤသို့အကြောင်းများ မေးကြသည်၊ ကျွန်မယောကျ်ား ဘယ်တော့ အလုပ်ရမည်နည်း၊ ကျွန်မသား ဘယ်တော့ရမည်နည်း၊ ဤသို့ပြုမူကြခြင်း 'ဂိုနာဟ်' ဖြစ်သောအချက်များ ဖြစ်ကြပေသည်။

## ခွေးမွေးခြင်းနှင့် သက်ရှိရုပ်ပုံထားခြင်း အကြောင်း

၈၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အိမ်၌ ခွေးသော် လည်းကောင်း၊ သက်ရှိရုပ်ပုံသော် လည်းကောင်းရှိလျှင် ထိုအိမ်၌ 'ဖွရစ်ရှိတာဟ်' များ မလာရောက်ကြပေ၊

ဆိုလိုသည်မှာ....'ရဟ်မတ်' တော်ပေးမည့်'ဖွရစ်ရှိတာဟ်' များ မလာရောက်ကြပေ၊ ကလေးများ ကစားစရာတို့တွင် ရုပ်ပုံများ ပါရှိပါက ဤသည်လည်း မပိုင်ပေ။

## မတတ်သာသည်မှတစ်ပါး မှောက်လျက် အိပ်ခြင်း၏ မကောင်းခြင်း အကြောင်း

၈၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် မှောက်လျက်အိပ်နေသူ တစ်ဦး အနီးမှ ဖြတ်သွားတော်မူရာ ကိုယ်တော်က ထိုသူကို ခြေဖြင့် ညွှန်ပြ၍ မိန့်တော်မူသည်မှာ ဤသို့အိပ်ခြင်းကို အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မမူပေ။

## နေပူတစ်ဝက်, အရိပ်တစ်ဝက် ထိုင်ခြင်း၊ လှဲခြင်း အကြောင်း

၈၇။ နေပူတစ်ဝက်, အရိပ်တစ်ဝက် ထိုင်ခြင်းကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တားမြစ်တော်မူလေသည်။

## ပ,သကိုးခြင်းနှင့် လာဘ်နိမိတ်ယူခြင်း အကြောင်း

၈၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ လာဘ်နိမိတ်ယူခြင်းသည် 'ရှစ်ရ်က်' ဖြစ်သည်။

၈၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အလ္လာဟ် အသျှင်မြတ်မှတစ်ပါး ပ,သကိုးခြင်းသည် 'ရှစ်ရ်က်' ဖြစ်သည်။

## လောကအတွက် လောဘမထားရန် အကြောင်း

၉၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ လောကကို ခင်တွယ် မက်မောထားခြင်းဖြင့် စိတ်ပျော်ရွှင်မှုရသည်၊ ၎င်းကိုယ်ကာယလည်း သက်သာ လေသည်။

၉၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကယ်၍ များစွာသော ဆိတ်များတွင် ကိုက်ဖြဲ စားသောက်မည့် သွေးသောက် ဝံပုလွေနှစ်ကောင် လွှတ်လိုက်ခြင်းဖြင့် ဆုံးရှုံးနစ်နာမှုဖြစ်သည်ထက် ပစ္စည်းကို လောဘထားခြင်းနှင့်နာမည် ကြီးလိုမှုဖြင့် ဘာသာ, သာသနာ 'ဒီန်' မှာ နစ်နာဆုံးရှုံးသည်က သာ၍ပိုလေသည်။

## သေခြင်းကို သတိရရန် ရက်ပိုင်းအတွက် ကြိုတင်စဉ်းစားခြင်း မပြုရန်နှင့် ကောင်းမှုပွားရန် အချိန်ရသည်ကို ရနိုင်ခဲ့မှုဟု အောက်မေ့ရန် အကြောင်း

၉၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ထိုအရာ (သေခြင်း) ကို မြားမြောင်းစွာ သတိရနေကုန်၊ ထိုသေခြင်းကို သတိရနေခြင်းဖြင့် စည်းစိမ် ခံစားမှုအားလုံးကို စွန့်ပစ်ချင်လာပေမည်။

၉၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့ အပေါ် နံနက်အချိန်ရောက်လာလျှင် ညနေအတွက် စဉ်းစားတွေးတောခြင်း မပြုနှင့် ၎င်းသင်တို့အပေါ် ညနေအချိန်ရောက်လာလျှင် နံနက်အတွက် စဉ်းစား တွေးတော ခြင်းမပြုနှင့်၊ ၎င်းမကျန်းမမာ မဖြစ်မီ မိမိကျန်းမာနေမှုကို အကျိုးရှိစေရန်အသုံးချကုန် ၎င်းမသေမီ အလျင် အသက်ရှင်နေမှုဖြင့် အကျိုးဖြစ်ထွန်းအောင်ပြုကုန်။

ဆိုလိုသည်မှာ ကျန်းမာခြင်းနှင့် အသက်ရှင်နေခြင်းကို ရနိုင်ခဲ့မှုဟု မှတ်ထင်ကုန်၊ ထိုကျန်းမာခြင်းနှင့် အသက်ရှင်နေစဉ်တွင် ကောင်းမှုကုသိုလ်များ ပွားများဆောက်တည် ကုန်၊ မကျန်းမာသောအခါနှင့် သေဆုံးသွားသောအခါ ကောင်းမှုကုသိုလ်ဆောက်တည် နိုင်မည်မဟုတ်တော့ပေ။

## ဘာသာ ဒုက္ခရောက်သောအခါ သည်းခံရန် အကြောင်း

၉၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မွတ်စလင်မ် တစ်ဦးတစ်ယောက်သည်ပူပင်သောကဒုက္ခနှင့်ရောဂါအနာတရဖြစ်လျှင်အကြောင်းတစ်ခုခု ကိုစဉ်းစား၍ အနည်းငယ်မျှအချိန် သောကရောက်သော်လည်း ထိုအဖြစ်အားလုံးတွင် အလ္လာဟ်အသျှင်မြတ်က ထိုသူ၏ 'ဂိုနာဟ်စွဂီရဟ်'များကို လွှတ်ငြိမ်းချမ်းသာခွင့်ပေးတော် မူသည်။

## ရောဂါသည်ကို မေးမြန်းခြင်း အကြောင်း

၉၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မွတ်စလင်မ်တစ်ဦးသည် အခြားမွတ်စလင်မ်တစ်ဦးအား မမာမကျန်းဖြစ်၍ နံနက်အချိန်တွင် သွားရောက် မေးမြန်းလျှင် ညနေအချိန်ထိ ထိုမေးမြန်းသူအား 'ဖွရစ်ရှိတဟ်' ပေါင်းခုနစ်သောင်း (၇၀၀၀၀)က 'ဒိုအာ' တောင်းပေးကြသည်၊ အကယ်၍ ညနေတွင် သွားရောက်မေးလျှင် နံနက်အထိ 'ဖွရစ်ရှိတဟ်' ခုနစ်သောင်း (၇၀၀၀၀) က ထိုသူ့အား 'ဒိုအာ' တောင်းပေးကြသည်။

## သေသူကို ရေချိုးပေးခြင်း၊ ကဖွာန် ဝတ်ပေးခြင်းနှင့် အိမ်သူ့ အိမ်သားများကို စိတ်ပြေစေရန် အားပေးခြင်း အကြောင်း

၉၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် သေသူကို 'ဂွတ်စ်လ်' ရေချိုးပေးလျှင် ထိုသူသည် မိခင်ဝမ်းတွင်းမှ မွေးလာစကလေးကဲ့သို့ ဂိုနာဟ်များမှ လွတ်ကင်းလေသည်၊ ၎င်းအကြင်သူသည် သေသူကို 'ကဖွာန်'အဝတ် ဝတ်ပေးလျှင် အလ္လာဟ်အသျှင်မြတ်သည် ၎င်းသူအား 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းမှ ဝတ်စုံကို ဝတ်ပေးတော်မူမည်၊ ၎င်းအကြင်သူသည် စိတ်ဒုက္ခရောက်သူကိုဖြေဖျော်လျှင် အလ္လာဟ်အသျှင်မြတ်သည် ၎င်းသူအား သူတော်ကောင်းအဝတ်ကို ဆင်မြန်း ပေးတော်မူမည် ၎င်းထိုသူ၏ 'ရှုဟ်' ဝိညာဉ်အပေါ် ရဟ်မတ်တော် ပို့ပေးတော်မူမည်၊၎င်းအကြင်သူသည် စိတ်ဒုက္ခရောက်သူကို စိတ်ပြေအောင်ပြုလျှင် အလ္လာဟ်အသျှင်မြတ်သည် တစ်လောကလုံးရှိ ရှိရှိသမျှထက် သာပိုအဖိုးထိုက်တန်သော 'ဂျန္နတ်' ဥယျာဉ်ဘုံနန်း၏ ဝတ်စုံများအနက် ဝတ်စုံနှစ်စုံကို ဝတ်ဆင်ပေးတော်မူမည်။

## အော်ဟစ်၍ ဖွဲ့နွဲ့၍ငိုခြင်း အကြောင်း

၉၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က ဖွဲ့နွဲ့ပြောဆို၍ ငိုသော သူမအပေါ် ၎င်းနားထောင်ရာတွင်ပါသူမအပေါ် 'လအ်နတ်' ကျိန်ဆိုတော်မူသည်။

အို အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်အသျှင်မြတ်အတွက် ဖွဲ့နွဲ့ငိုယိုခြင်းများကို စွန့်လွှတ်ကြကုန်လော့။

## 'ယတီမ်' ဖတဆိုးကလေး၏ပစ္စည်းကို စားခြင်း အကြောင်း

အလ္လာဟ်အသျှင်မြတ်က 'ကုရ်အာန်' ကျမ်းတော်မြတ်တွင် မိန့်တော်မူထားသည်၊ (စလာတအ်ကို့လူ၊မာလလ်ယတီမေ ၊) ဆိုလိုသည်မှာ....သင်တို့အပေါ် 'ယတီမ်' များ၏ ပစ္စည်းစားခြင်း 'ဟရာမ်'ဖြစ်သည်၊ သို့သော်ကောင်းသောနည်းလမ်းနှင့်ကားသုံးပိုင်သည်။

အကယ်၍ ယတီမ်ကို အုပ်ထိန်းသူသည် ဆင်းရဲနွမ်းပါးလျှင် ကြွေးသဘော အသုံး လိုသည့်ခန့် ယူသုံးနိုင်သည်၊ ဆင်းရဲ၍ စားရမဲ့, သောက်ရမဲ့ ဖြစ်နေပါက ယတီမ်များကို အုပ်ထိန်းစောင့်ရှောက်ရန် ခဲယဉ်းမည် အတွက်ကြောင့် ဖြစ်သည်၊ လက်ဝယ် ငွေရှိလာ သောအခါ ပေးဆပ်ရမည်။

၉၈။ ရစူလွှလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊အချို့သူတို့သည် 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ ထိုသူတို့၏ပါးစပ်မှ မီးလျှံများထွက်လျက်နှင့် ထကြ ရမည်၊ တစ်ပါးသောပုဂ္ဂိုလ်က ထိုသူတို့သည် မည်သို့သောသူများပါနည်းဟုမေးလျှောက် လေ၏၊ ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့မသိကြဘိသလော၊ အလ္လာဟ်အသျှင်မြတ် သည် ကုရ်အာန်ကျမ်းတော်၌ မိန့်မြွက်ထားတော်မူသည်၊ အကြင်သူတို့သည် 'ယတီမ်' ဖတဆိုး ကလေးများ၏ပစ္စည်းကို မတရားသဖြင့် စားသုံးကြလျှင် ထိုသူတို့သည် မိမိတို့၏ ဝမ်းဗိုက်ကို မီးခဲများ ဖြည့်ကြခြင်းပင် ဖြစ်သည်။

မတရားသဖြင့်ဟု မိန့်ခြင်းမှာ ယတီမ်များ၏ပစ္စည်းမှဝင်ရောက်စားသောက်ခြင်းကို ဆိုလိုသည်၊ 'ရှရီအတ်' တရားတော်မြတ်အရ မည်သို့မျှ စားသောက်ခြင်း မပိုင်ပေ။

အို....အမျိုးသမီးအပေါင်းတို့.... မကောင်းသော ဓလေ့တစ်ခုရှိလေသည်၊ ခင်ပွန်း သည်, သည် ကလေးငယ်များကို ထားခဲ့၍ သေဆုံးသွားသော် ဇနီးသည် မုဆိုးမသည် လင်ယောကျ်ား၏ ပစ္စည်းအားလုံးကို သိမ်းပိုက်ထားလိုက်သည်၊ ထိုပစ္စည်းဖြင့် ဧည့်သည် များကို ကျွေးမွေးသည်၊ ဗလီဝတ်ကျောင်းတော်အတွက် မီးထွန်းရန် ဆီ, စသည်တို့အတွက် သုံးသည်၊ နမာဇီများ စသည်ကိုကျွေးသည်။

အမှန်မှာ ထိုပစ္စည်းများတွင် ယတီမ်တို့ပိုင်ဆိုင်မှုရှိသည်၊သုံးစွဲကျွေးမွေးမှုအားလုံး ကို စပ်တူကျွေးသည်ဟု သဘောထားသည်၊ ၎င်းနေ့စဉ်အသုံးစရိတ် ထိုကလေးများ၏ နေကာဟ်လက်ထပ်မှုများတွင်မိမိအလိုရှိသည့်အတိုင်းစိတ်တိုင်းကျသုံးစွဲလေသည်'ရှရီအတ်' တရားတော်မြတ်က မည်သို့ပြဌာန်းထားသည်ကို မကြည့်ကြပေ။

ဤသို့ စပ်တူပိုင်ပစ္စည်းကို သုံးစွဲခြင်းသည် 'ဂိုနာဟ်' အပြစ်အလွန်ကြီးလေသည်၊ ထိုကလေးများ၏ ဝေစုကို ခွဲခြားထားရမည်၊ ၎င်းထိုဝေစုမှ ထိုကလေးများအတွက် လိုမှ သာလျှင် သုံးစွဲရမည်၊ အကယ်၍ ဧည့်သည်ကို ကျွေးမွေးရန်နှင့် အလှူအတန်း လုပ်လိုမူ မိမိဝေစုထဲမှ ပြုလုပ်ရမည်၊ ထိုသို့ လှူတန်းခြင်းသည်လည်း 'ရှရီအတ်' တရားတော်နှင့်ကွဲလွဲ ခြင်းမဖြစ်စေရ၊ အကယ်၍ တရားတော်နှင့်ကွဲလွဲသော အလှူအတန်းပြုလျှင် မိမိပိုင်ပစ္စည်း နှင့်လည်း မပိုင်ပေ။

ဤတင်ပြပါ အချက်များကို ကောင်းစွာမှတ်သားထားကြကုန်၊ ဂရုမစိုက်ဘဲယတီမ် များ၏ပစ္စည်းကို သုံးစွဲပါက သေသေချာချာ သင်တို့၏မျက်လုံး ပွင့်လာပေမည်၊ (နောင်တ, ရလာမည်။)

## 'ကေယာမတ်'နေ့၏ စာရင်းအင်း အကြောင်း

၉၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ (၄) ခုသောအချက်ကို မေးမြန်းစစ်ဆေးခြင်းမပြုမီ မည်သူမျှမိမိတို့ နေရာမှ လှုပ်ရှားရမည် မဟုတ်ပေ။

(၁) အသက်ကို မည်သည့်အလုပ်လုပ်၍ ကုန်ဆုံးစေခဲ့သနည်း။

(၂) သိထားသော 'မတ်စ်အလဟ်' ဘာသာရေးဆိုင်ရာ အမိန့်ပညတ်များ အပေါ် မည်သို့မည်ပုံ လိုက်နာဆောင်ရွက် လုပ်ကိုင်ခဲ့သနည်း။

(၃) ရွှေ၊ ငွေ ပစ္စည်းကို မည်သို့ရှာဖွေ၍ မည်သို့သုံးစွဲခဲ့သနည်း။

(၄) မိမိကိုယ်ကာယကို မည်သည့်ကိစ္စဖြင့် လျော့စေခဲ့သနည်း။

ဆိုလိုသည်မှာ.... အလုပ်အကိုင် ဟူဟူသမျှကို 'ရှရီအတ်' တရားတော်မြတ်နှင့်အညီ ပြုမူခဲ့သလော၊ မိမိကိုယ်တိုင် နှစ်သက်ရာကို ပြုကျင့်ခဲ့သလောဟူ၍ ဖြစ်ပေသည်။

၁၀၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည် 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့၌ ပေးဆောင်ရန်ရှိသော တာဝန်အားလုံးကို ပေးဆောင်ကြရမည်၊ ဦးချိုပါသောဆိတ်ကို ဦးချိုမပါသောဆိတ်အတွက်ပင် အစားခံရမည်။

ဆိုလိုသည်မှာ.... ဦးချိုပါသောဆိတ်က မတရားခတ်ခဲ့သော် ထိုအတွက်ခတ်သော ဆိတ်က အစားခံရမည်။

## 'ဂျန္နတ်' နှင့် 'ဂျဟန္နမ်' ကို သတိရနေရန် အကြောင်း

၁၀၁။ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က 'ခွတ်ဗဟ်' ဖတ်ရာတွင်မိန့်တော်မူသည်၊ 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းနှင့် 'ဂျဟန္နမ်' အပါယ်ငရဲဘုံသည် လွန်စွာကြီးကျယ်သော အချက်များ ဖြစ်ပေသည်၊ ဤသည်ကို မေ့လျော့မနေကြနှင့် ကိုယ်တော်သည် ဤသို့ မိန့်ဆိုတော်မူပြီးနောက် များစွာငိုယိုတော်မူသည်၊မုတ်ဆိတ်တော်များပင်မျက်ရည်များဖြင့်စွတ်စိုသွားတော်မူသည်။

ကိုယ်တော်က ဆက်လက်၍ မိန့်တော်မူသည်မှာ.... ငါ့ရစူလ်၏ အသက်ကို ပိုင်ဆိုင်တော်မူသော အလ္လာဟ်အသျှင်မြတ်၏'ကဆမ်'နောင်အာခေရတ်၏အကြောင်းချင်းရာများကို ငါ့ရစူလ် သိသလောက် သင်တို့သိကြလျှင် ကြောက်လန့်ပြီးတောတွင်းသို့ ထွက်ခွာသွားကြပြီး ခေါင်းပေါ်တွင် မြေများဖြူးလွင့်ကြမည်ဖြစ်သည်။

အို....အမျိုးသား၊အမျိုးသမီးအပေါင်းတို့၊ဤတင်ပြချက်များသည် ဟဒီးသ်တော်ပေါင်း (၁၀၁) ပိုဒ်ဖြစ်သည်၊ ဤကျမ်းစာ၌ မြောက်မြားစွာသော နေရာများ ဟဒီးသ်တော်များ ပါရှိပေသေးသည်၊ ကျွန်ုပ်တို့၏ ရစူလ် ( ဆွလလ္လာဟု ) ကိုတော်က မိန့်

တော်မူထားသည်၊ အကြင်သူသည် ဟဒီးသ်တော်ပေါင်း (၄၀) ကိုကျက်မှတ်၍ဂါရစူလ်၏ 'အွမ္မတ်' တပည့်သား မြေးများထံသို့ တစ်ဆင့်ပို့ချလျှင် ထိုသူသည်'ကေယာမတ်'ကမ္ဘာ့ တရားခွင်နေ့၌ 'အာလင်မ်'ဘာသာရေး ပညာရှင်များနှင့်အတူ ရှင်ပြန်ထရမည်။

သင်တို့လည်း ဇွဲလုံ့လပြု၍ ဤဟဒီးသ်တော်များကို အခြား သူများအားလည်း တစ်ဆင့်ပြောကြားကုန်၊ အင်န်ရှာအလ္လာဟ် 'ကေယာမတ်' နေ့၌သင်တို့လည်း အာလင်မ် ဘာသာရေး ပညာရှင်များနှင့်အတူ ရှင်ပြန်ထရပေမည်၊ ဤမျှကြီးမားသော စည်းစိမ် တော်ကို လွယ်လင့်တစ်ကူ ရယူနိုင်ကြပေသည်။

## 'ကေယာမတ်' နှင့် ၎င်း၏ နိမိတ်လက္ခဏာများအနက် အနည်းငယ်မျှ အကြောင်း

'ကေယာမတ်' ကမ္ဘာပျက်မည့် သေးငယ်သော နိမိတ်လက္ခဏာများ ရစူလ္လလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်၏ မိန့်ခွန်းတော် ဟဒီးသ်တော်၌ လာရှိသည့်မှာ....

လူတို့သည် သာသနာပိုင်ပစ္စည်းများကိုမိမိပိုင်ဟု မှတ်ထင်မြင်ယူဆကြမည်ဇကာတ် နှစ်စဉ်ဒါနကြေးပေးဆောင်ရသည်ကို အခွန်အကောက်ဟုမှတ်ထင်ကြမည်၊၎င်းသူတစ်ပါး အပ်နှံထားသောပစ္စည်းကို မိမိပိုင်ဟုထင်ကြမည်၊ ၎င်းလင်ယောကျ်ားသည် ဇနီးသည်၏ အန္တအတာခံမည်၊ မိခင်၏စကားကို ဆန့်ကျင်မည်၊ ၎င်းဖခင်ကို သူစိမ်းပမာ ဆက်ဆံပြီး မိတ်ဆွေကို အရင်းအချာပမာ မှတ်ထင်မည်၊ ဘာသာရေးပညာ'အင်လ်မ်' ကို လောကီ၏ စည်းပွားရှာရန်အတွက် သင်ယူကြမည်၊ ရပ်ရွာလူကြီးနှင့် တိုင်းပြည်အုပ်ချုပ်မှုများသည် မသင့်လျော်သူများလက်သို့ ကျရောက်မည်။ ဆိုလိုသည်မှာ.... အုပ်ချုပ်သူများသည် ထိုရာထူးနှင့် မထိုက်တန်သူ အကျင့်စာရိတ္တ မကောင်းသူ၊ လောဘကြီးသူ၊ ကိုယ်ကျိုး ရှာသူများဖြစ်ကြမည်။ ၎င်းသူတို့သည် မတရားသောလူကြီး၊ အရာရှိကြီးများကို ဒုက္ခ ပေးမည်ကို ကြောက်ရွံ့၍ အရိုအသေပေးကြမည်၊ အရက်သေစာကို အတည့်အလင်း သောက်သုံးကြမည်၊ သီချင်းသီဆိုကြသော၊ က,သော အမျိုးသမီးများ ပေါများလာ မည်၊ ဗုံ,တယော,တစ်ဖက်ဗုံ စသည်များပေါများလာမည်၊ လွန်လေပြီးသော သူတော် စင် များကို မကောင်းပြောဆို သမုတ်ကြမည်။

ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဤသို့သော အဖြစ် များ၌ ဤသို့ 'အသာဗ်'ပြစ်ဒဏ်များ ကျရောက်လာမည်ကို မျှော်လင့်နေကြကုန်၊ လေနီ ကြမ်းတိုက်မည်၊ အချို့သူများသည် မြေမြှိုခံကြရမည်၊ ၎င်းမိုးကောင်းကင်မှ ကျောက်ခဲ မိုးရွာမည်၊ ၎င်းရုပ်သင်းသဏ္ဍာန်များ ပြောင်းလဲသွားမည်၊လူသားပကတိက ဝက်, ခွေး ဖြစ်သွားမည်၊ ၎င်းများစွာသော ဘလာဒုက္ခများသည် ပုတီးကုန်းပြတ်၍ တစ်လုံးပြီး တစ်လုံးလွင့်ကျလာသကဲ့သို့ ဒုက္ခအမျိုးမျိုးများ တစ်ခုပြီးတစ်ခု ဆက်တိုက် ကျရောက် လာမည်။

ဤသို့သော နိမိတ်လက္ခဏာများလည်း လာရှိပေသည်၊ ဘာသာရေးပညာ တတ်ကျွမ်းမှု လျော့နည်းသွားမည်၊ မုသားစကားပြောဆိုခြင်းကို ပညာကြီးပမာ မှတ်ထင်ကြမည်၊ အပ်နှံထားသော ပစ္စည်းကို ဂရုတစ်စိုက် သိမ်းဆည်းထားလိုစိတ် ရှိကြမည်မဟုတ် အရှက်ဣန္ဒြေ ရှိကြမည်မဟုတ်၊ လေးဘက်လေးတန်တွင် 'ကာဖွင်ရ်' များက အားသာနေမည်၊ လိမ်လည်လှည့်ဖျားသော နည်းလမ်းများကို အသုံးပြုကြမည်၊ တင်ပြပါ နိမိတ်လက္ခဏာများဖြစ်ပေါ်လာပြီးနောက်တိုင်းပြည်နိုင်ငံတိုင်းတွင် 'နစ္စာရာ' တို့ကြီးစိုးလာမည်၊ ၎င်းထိုအချိန်၌ ရှာမ့်နိုင်ငံမှ အဘူစွဖ်ယာန်၏ အနွယ်မှသူသည်စိုင်ယာဖ်ဒ် များစွာကို သတ်ဖြတ်မည်၊ ၎င်းရှာမ်နှင့် အီဂျစ်နိုင်ငံတို့တွင်ထိုသူ၏အမိန့်သြဇာညောင်းလိမ့်မည်။

ထိုအချိန်၌ရှူမ်နိုင်ငံ၏ မွတ်စလင်မ် ဘုရင်သည် နစ္စာရာ အုပ်စုတစ်ခုနှင့် စစ်ဖြစ်မည်၊ ၎င်း နစ္စာရာ အုပ်စုတစ်စုနှင့် သင့်မြတ်၍ မဟာမိတ်ဖြစ်ကြမည်၊ ရန်သူ နစ္စာရာ တို့သည် 'ကတ်စ်တန်တနီယာ'မြို့ကို ချီတက်သိမ်းပိုက်အုပ်စိုးကြမည်၊ ထိုဘုရင်သည် မိမိတိုင်းပြည်မှ ထွက်ပြေးရ၍ ရှာမ်နိုင်ငံသို့ သွားရောက်နေထိုင်မည်၊ ၎င်းမဟာမိတ်ဖြစ်သော နစ္စာရာ အုပ်စုကို မိမိစစ်သည်တော်များနှင့် ပူးပေါင်းစေပြီး ရန်သူများနှင့် အကြီးအကျယ်စစ်ပွဲဆင်နွဲရာ မွတ်စလင်မ်များက အောင်ပွဲခံကြရမည်။

တစ်နေ့ ထိုင်ခနေကြယင်း မဟာမိတ်ဖြစ်သော နစ္စာရာ အုပ်စုမှ တစ်ယောက်က မွတ်စလင်မ် တစ်ယောက်ရှေ့တွင်'ကျွန်ုပ်တို့ လက်ဝါးကပ်၏'ဘရ်ကတ်'ဖြင့် စစ်အောင်နိုင်ခြင်းဖြစ်သည်ဟုပြောရာ မွတ်စလင်မ်ကမဟုတ်အစ္စလာမ်၏'ဘရ်ကတ်'ဖြင့် အောင်နိုင်ခြင်းဖြစ်သည်ဟုပြောဆိုမည်၊ဤသို့ပြောယင်း ငြင်းခုံမှုဖြစ်လာရာ ၎င်းတို့နှစ်ဦးသည် မိမိတို့ဘာသာတူများကို အော်ဟစ်ခေါ်ယူပေမည်၊ထိုသို့ခေါ်ယူခြင်းဖြင့် မဟာမိတ်အချင်းချင်း စစ်ဖြစ်ကြမည်၊ ထိုစစ်ပွဲ၌ မွတ်စလင်မ်ဘုရင် 'ရှဟီးဒ်'ကျဆုံးမည်၊ ၎င်းရှာမ်နိုင်ငံကိုလည်း နစ္စာရာတို့သည် သိမ်းပိုက် အုပ်စိုးကြပေမည်၊ မွတ်စလင်မ်တို့နှင့်မဟာမိတ်ဖြစ်နေသော နစ္စာရာတို့သည် ရန်သူ နစ္စာရာတို့နှင့် ပူးပေါင်းသွားကြမည်၊ ကျန်ရှိနေသော မွတ်စလင်မ်တို့သည် မဒီနာမြို့တော်သို့ သွားရောက်ကြမည်၊ ၎င်း'ခိုင်ဗရ်' အထိနစ္စာရာတို့သည် အုပ်စိုးကြလိမ့်မည်။

ထိုအချိန်၌ မွတ်စလင်မ်တို့သည် ကျရောက်နေသော ဒုက္ခများမှ လွတ်ကင်းစေရန် အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်ကို ရှာဖွေကြမည်၊ထိုအချိန်၌ အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် မဒီနာမြို့တော်၌ပင် ရှိနေမည်၊ တိုင်းပြည်အုပ်ချုပ်ရန် တာဝန်အာဏာပေးအပ်ကြမည်ကိုစိုး၍ မတ်က်ကဟ် မြို့တော်သို့ထွက်ခွာသွားတော်မူမည်၊ ထိုခေတ်အခါရှိ 'ဝလီ' များသည် 'အဗ်ဒါလ်' သူတော်စင်ကြီးများအဆင့် ရှိကြသည်၊ အားလုံးသည် အေမာမ်သခင်ကို လိုက်လံရှာဖွေနေကြမည်၊အချို့တို့သည်လည်းလိမ်လည်လှည့်ဖျား၍ အေမာမ်မဟ်ဒီဖြစ်ကြောင်း ကြွေးကြော်ကြမည်။

အချုပ်မှာ ... အေမာမ်မဟ်ဒီ(အလိုင်ဟာစ္စလာမ်)သခင်သည် မတ်က်ကဟ်မြို့တော်၌ ကအ်ဗဟ် ဗိမာန်တော်ကို ' တွဝါဖ် ' လှည့်နေမည်၊ ဟဂျရ်အတ်စ်ဝဒ် နှင့် မကာမေ့ အစ်ဗ်ရာဟီးမ်၏ အကြားအလယ်တွင် ရှိနေတော်မူမည်၊ အချို့ သူတော်စင်များသည် သခင့်ကို မှတ်မိကြ၍ အတင်းအဓမ္မ ခေါင်းဆောင်အဖြစ် တင်မြှောက်ခါ 'ဗိုင်အတ်'တပည့်ခံယူကြမည်၊ ထိုအချိန်၌ အထက်မိုးကောင်းကင်မှ အသံထွက်ပေါ်လာသည်ကို ထိုနေရာရှိ လူအားလုံး ကြားကြရမည်၊ အသံမှာ ဤပုဂ္ဂိုလ်သည် အလ္လာဟ်အသျှင်မြတ်၏ ခလီဖွဟ် သင့်တို့၏ ခေါင်းဆောင်ဖြစ်သည်ဟူ၍ ဖြစ်ပေမည်။

၄မ့် သခင်ပွင့်ပေါ်တော်မူသော အချိန်မှစ၍ ကြီးကျယ်သော နိမိတ်လက္ခဏာများ ပေါ်ပေါက်စပြုလေသည်၊ သခင့်ထံ 'ဗိုင်အတ်'တပည့်ခံယူကြသော သတင်းသည်ပြန့်နှံ့သွားလေရာ မဒီနာမြို့တော်၌ရှိနေကြသော မွတ်စလင်မ် စစ်သည်တော်များသည် မတ်က်ကဟ်မြို့တော်သို့ လာရောက်ကြမည်၊ ရှာမ်, အေရာက်, ယမန်,နိုင်ငံရှိ သူတော်စင်ကြီးများသည် သခင့်ထံ လာရောက် ခ,စားကြမည်၊ ထို့ပြင် အရဗ် စစ်သည်တော်မြောက်မြားစွာတို့လည်း စုရုံးလာရောက်ကြပေမည်။

ဤသတင်း ပြန့်နှံ့လာသည့်အတွက် ပုဂ္ဂိုလ်တစ်ဦးသည် ခိုရာစာန်မှ သခင့်အား ကူညီရန် စစ်တပ်ကြီးတစ်တပ်ဖြင့် လာရောက်မည်၊ စစ်ဦးဗိုလ်ချုပ်မှာ 'မန်စူရ်' အမည်ရှိသော ပုဂ္ဂိုလ်ဖြစ်မည်၊ လမ်းတွင် ဘာသာမဲ့များကိုသတ်ဖြတ်ရှင်းလင်းလာပေမည်၊အထက်တွင် တင်ပြခဲ့သော အာဘူစွဖ်ယာန်အနွယ်မှုစိုင်ယစ်ဒ် များကို သတ်ဖြတ်နေသူသည်အေမာမ်မဟ်ဒီ (အလိုင်ဟာစ္စလာမ်) သခင်လည်း 'စိုင်ယစ်ဒ်' ဖြစ်၍ သခင်နှင့် စစ်တိုက်ရန် စစ်တပ်တစ်တပ် စေလွှတ်မည်၊ထိုလွှတ်လိုက်သော စစ်တပ်ကြီးသည် မတ်က်ကဟ်နှင့် မဒီနာမြို့တော်ကြားသို့ ရောက်လာရာ တောင်တစ်ခုဘေးတွင် စခမ်းချမည်၊ အားလုံးမြေမြှိုခြင်းခံကြရမည်၊လူနှစ်ယောက်သာလွတ်မည်၊ ထိုလွတ်သူနှစ်ယောက်အနက် တစ်ယောက်ကအေမာမ်သခင်ကို အကြောင်းကြားမည်၊ တစ်ယောက်က ထိုအာဘူစွဖ်ယာန်၏အနွယ်ကိုအကြောင်းကြားပေမည်။

နစ္စာရာတို့သည် လေးဘက်လေးတန်မှ စစ်သားများစုဆောင်း၍ မွတ်စလင်မ်တို့နှင့် စစ်တိုက်ရန် ပြင်ဆင်ကြမည်၊ ထိုစစ်တပ်တွင် ထိုနေ့၌ အလံပေါင်း (၈၀) ရှိမည်၊ အလံတစ်ခုအောက်တွင် စစ်သား (၁၂၀၀၀) ရှိမည်၊စုစုပေါင်း ရန်သူစစ်သား(၉၆၀၀၀၀) ကိုးသိန်း,ခြောက်သောင်း ရှိလေသည်။

အုမ်မေ့ စလ်မဟ် (ရသွေ့) သခင်မက ဆင့်ပြန်ခဲ့သည်၊ ကျွန်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် မိန့်သည်ကိုကြားခဲ့သည်၊ အေမာမ်မဟ်ဒီသည် ဖါရဇူလ်အနွယ် သမီး ဖွာတော်မဟ်၏ သား,မြေးများမှ ဖြစ်သည်။

(အဘူဒါဝူးဒ်ကျမ်း၊ မတ်ရှိကာတ်ကျမ်း စာမျက်နှာ ၄၇၀)

အချို့ ဟဒီးသ်တော်များ၌ လာသည်မှာ.... အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် အချို့အချက်အလက်များတွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့် တူညီမည်၊ ဆိုလိုသည်မှာ...အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်၏နာမတော်သည် အဟ်မဒ်ဖြစ်၍ ဖခမည်းတော်၏အမည်မှာအဗ်ဒွလ္လာဟ်ဖြစ်မည်၊ သခင်၏ နာမတော်သည် အဟ်မဒ်ဗင်န်အဗ်ဒွလ္လာဟ် ဖြစ်မည်၊ ဖခမည်းတော်၏ နာမတော်သည် အဗ်ဒွလ္လာဟ်၊ ဗင်န်အဗ်ဒွလ်မွတ်တွလစ်ဗ် ဖြစ်မည်။

အဘူစအီးဒ်ခွဒ်ရီ (ရဇ္ဇ) သခင်က ဆင့်ပြန်ခဲ့သည်၊ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အေမာမ်မဟ်ဒီသည် ငါ့ရစူလ်၏အနွယ်မှ ဖြစ်သည်၊ လင်း၍ဝင်းကျယ်ပြန့်သော မဟာနဖူးရှိ၍ နှာတန်သွယ်မည်၊ ဒွန္နယာလောကကို တရားမျှတစွာ အုပ်ချုပ်မည်။

အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် မတ်က်ကာဟ်မြို့တော်မှ မဒီနာမြို့တော်သို့ ကြွလာတော်မူမည်၊မဒီနာမြို့တော်တွင်ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ 'ရောင်သွာ' တော်ကို 'ဇေယာရတ်' ဖူးမြော်ပြီး ရှာမ်နိုင်ငံသို့ ကြွသွားတော်မူမည်။

ဒမစ်ရှ်က်- ဒေမစ်ရှ်က် နှစ်မျိုးစလုံးခေါ်နိုင်သည်၊ ရှာမ် (ဆီးရီးယား) နိုင်ငံရှိ မြို့တစ်မြို့အမည်နာမ ဖြစ်သည်၊ ထိုမြို့ကို 'ဒင်မ်ရှာဂ်ဗင်ကန်အာန်' က တည်ခဲ့သည်၊ ထို့ကြောင့် ၎င်းပုဂ္ဂိုလ်၏ အမည်ကိုအစွဲပြုပြီး 'ဒမစ်ရှ်က်'ဟု ခေါ်ကြလေသည်၊ ထိုမြို့အနီး ပတ်ဝန်းကျင်တွင် နစွာရာတို့နှင့် တိုက်ပွဲများဖြစ်ပွားမည်။

အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် ဒမစ်ရှ်က် မြို့သို့မရောက်မီ နစွာရာတို့နှင့် စစ်ပွဲကြီးဖြစ်ပေမည်၊ အေမာမ်သခင်၏ စစ်သည်တော်များသည် အုပ်စု (၃) စု ကွဲသွားမည်၊ တစ်စုမှာ စစ်မြေပြင်မှ ထွက်ပြေးကြမည်၊ တစ်စုမှာ 'ရှဟီးဒ်' သာသနာ့အာဇာနည်အဖြစ်နှင့် ကျဆုံးသွားကြမည်၊ ကျန်တစ်စုက စစ်အောင်မြင်မည်။

ဖြစ်ပျက်ပုံမှာ....အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်)သခင်သည် တပ်မကြီးမှအချို့ကို ခေါ်ဆောင်၍ နစွာရာတို့အား ထိုးစစ်ဆင်မည်၊ ထိုပုဂ္ဂိုလ်များကစစ်မနိုင်ဘဲ နောက်မဆုတ်ဟု 'ကဆမ်' ကျိန်ဆိုကာ တိုက်ကြမည်၊ အားလုံး 'ရှဟီးဒ်'ဖြစ်, ကျဆုံး၍ စစ်သားအနည်းငယ်ဖြင့် အေမာမ်သခင်သည် တပ်မကြီးသို့ ပြန်လာတော်မူမည်၊ ဒုတိယနေ့တွင် မနိုင်ဘဲမပြန်ဟု 'ကဆမ်' ကျိန်ဆိုခါ တိုက်ကြမည်၊ သို့သော် အားလုံး 'ရှဟီးဒ်' ဖြစ်, ကျဆုံး၍ အေမာမ်သခင်သည်စစ်သားအနည်းငယ်ဖြင့် ပြန်လာမည်၊တတိယနေ့လည်းဤသို့ပင် ကျဆုံးကြမည်၊ စတုတ္ထနေ့တွင် ကျန်ရှိနေသော စစ်သည်တော် အနည်းငယ်ဖြင့် ထိုးစစ်ဆင်တိုက်ခိုက်ရာ အလ္လာဟ်အသျှင်မြတ်က စစ်အောင်နိုင်မှုကို ပေးသနားတော်မူပေမည်၊ 'ကာဖွင်ရ်'များ၏ စိတ်နှလုံးတွင် စစ်ရှုံးမှုကြောင့် တိုင်းပြည်အုပ်ချုပ်ချင်စိတ် ပျပျောက်သွားပေမည်။

အေမာမ်သခင်သည် စစ်နိုင်ပြီဖြစ်၍ တိုင်းပြည်ကို အုပ်ချုပ်ရန် စီမံခန့်ခွဲတော်မူမည်၊ ၎င်းနေရာအနှံ့အပြား စစ်သည်တော်များကို စေလွှတ်တော်မူမည်၊ အားလုံးသော ကိစ္စများကို စီမံတော်မူပြီးနောက် 'ကတ်စ်တန်တနီယဟ်' ကို တိုက်ရန်ကြွတော်မူမည်၊ ရှမ်နိုင်ငံ၏ မြစ်ရိုးသို့ ရောက်လေရာ ဘနူအစ်ဟာက် အနွယ်ဝင် စစ်သည်တော် (၇၀၀၀၀) ကိုလှေများဖြင့်ကူးကာ တိုက်ခိုက်ရန် စီမံတော်မူပေမည်။

အချို့ပုဂ္ဂိုလ်များ၏ အဆိုအရ ဘနူအစ်ဟာက်သည် ရှာမ်(ဆီးရီးယား)နိုင်ငံသားများ ဖြစ်ကြသည်၊ အစ်ဟာက် (အလိုင်ဟစ္စလာမ်) သခင်၏ အနွယ်များ ဖြစ်ကြသည်၊ ဟဒီးသ်တော်တွင်လာသည်၊ ဤသူရဲကောင်း (၇၀၀၀၀) တို့သည် 'ရှမ်' ပင်လယ်အနီးသို့ ရောက်ကြလေရာ လက်နက်များ၊ မြှားများဖြင့် 'ကာဖွင်ရ်' များနှင့် တိုက်ခိုက်ကြမည် မဟုတ်၊ သာမက 'အလ္လာဟုအတ့်က်ဗရ်၊ အလ္လာဟုအတ်က်ဗရ်' ဟု အော်ဟစ်ကြမည်၊ သို့ရှိရာ ဤ 'တပ်က်ဗီရ်' စာလုံးသည် အမြောက်ဆန်များကဲ့သို့ အသုံးဝင်ပေမည်၊ ဤသို့ 'တပ်က်ဗီရ်' ဆိုခြင်းဖြင့် မြို့ရိုးမှာ ထိခိုက်၍ ရှေ့ဘက်မှ မြို့ရိုးကြီးမှာ ပျက်စီး ပြိုကျသွားပေမည်။

ဤစစ်သည်တော်များသည် မြို့ရိုးရှေ့သို့ရောက်ကြလေရာ၊ (အလ္လာဟု၊ အတ်က်, ဗရ်၊အလ္လာဟုအတ်က်ဗရ်) ဟု အော်ဟစ်ဆိုကြမည်၊ထိုသို့'တပ်က်ဗီရ်'ဆိုခြင်း၏ 'ဘရ်ကတ်' ဖြင့်မြို့ရိုးရှေ့ဘက်ပိုင်းပြိုကျခါ မွတ်စလင်မ်တို့သည် တိုက်ခိုက်၍မြို့တွင်းသို့ ဝင်ရောက်ကြပြီး 'ကာဖွင်ရ်''များကို သတ်ဖြတ်ကြမည်၊တရားမျှတစွာ တိုင်းပြည်ကို စီမံအုပ်ချုပ်ကြမည်၊ ဤစစ် အောင်မြင်ခြင်းသည် အေမာမ်သခင်အား တပည့်ခံယူကြပြီးနောက် (၆) နှစ် သို့မဟုတ် (၇) နှစ်တွင် ဖြစ်မည်။

အေမာမ်မဟ်ဒီ(အလိုင်ဟစ္စလာမ်)သခင်သည် အုပ်ချုပ်မှုများကို စီမံခန့်ခွဲရာတွင် လုံးပမ်းနေတော်မူစဉ် ရှာမ်နိုင်ငံတွင် ဒဂ္ဂျာလ် ပေါ်ပေါက်နေပြီ၊ ကိုယ်တော်၏ဆွေမျိုးများကို နှိပ်စက်နေပြီ ဤနေရာတွင် ထိုင်နေရန်မသင့်ဟူသောကောလာဟလ သတင်းများ ပြန့်နှံ့လာမည်၊ ဤသတင်းအရ အေမာမ်သခင်သည် ရှာမ်နိုင်ငံသို့ ခရီးဆက်တော်မူမည်၊ အဖြစ်သနစ်ကို စုံစမ်းရန် မြင်းစီးသူရဲကောင်း (၅) ဦး၊ သို့မဟုတ် (၉) ဦး ရှေ့တော်ပြေး စေလွှတ်မည်၊ထိုပုဂ္ဂိုလ်များအနက် တစ်ပါးကဒဂ္ဂျာလ် မပေါ်သေးကြောင်း သတင်းမှာ မဟုတ်မှန်ကြောင်း ပြောဆိုလျှောက်ထားမည်၊အေမာမ်သခင်သည် စိတ်အေးလက်အေးဖြင့် လျှင်မြန်စွာ ရှာမ်နိုင်ငံသို့မသွားတော့ဘဲ လမ်းတွင်ရှိသော မြို့ရွာများကို ကောင်းမွန်တိုးတက်စေရန်စီမံ၍ တစ်ဖြည်းဖြည်း သွားတော်မူမည်၊ရှာမ်နိုင်ငံသို့ ရောက်သောအခါ ရက်အနည်းငယ်မျှအကြာတွင် ဒဂ္ဂျာလ်လည်းပေါ်ပေါက်လာပေမည်။

ဒဂ္ဂျာလ်သည်ယဟူဒီ (ဂျူး) လူမျိုးမှ ဖြစ်လေသည်၊ ပထမဦးစွာ ရှာမ်နှင့် အေရာက်နိုင်ငံမှထွက်ပေါ်လာမည်၊ မိမိကိုယ်ကိုနဗီရစူလ်တမန်တော်ဟု ကြွေးကြော်ပေမည်၊

ထို့နောက် အတ်စ်ဖွဟာန်မြို့သို့ ရောက်လာပေမည်၊ ထိုနယ်မှ ယဟူဒီ (၇၀၀၀၀)တို့သည် ၎င်းနှင့်အတူ လိုက်ပါကြမည်၊ ၎င်းမိမိကိုယ်ကို အလ္လာဟ်အသျှင်ဟု ကြွေးကြော်မည်၊ ဤသို့ပင် တိုင်းနိုင်ငံများတွင် လှည့်လည်ပြီး ယမန်နိုင်ငံ နယ်စပ်သို့ ရောက်လာမည်၊ နေရာဒေသများမှ 'ကာဖွင်ရိ' တို့သည် ၎င်းနှင့်အတူ လိုက်ပါလာကြမည်၊ နောက်ဆုံး မတ်က်ကာဟ်မြို့တော်အနီးသို့ စခန်းချမည်၊ သို့သော်'ဖွရစ်ရှိတဟ်'ကောင်းကင်တမန်များက စောင့်ကြပ် နေကြသဖြင့် ဒဂ်ျဂျာလ်သည် မြို့တွင်းသို့ ဝင်ရောက်နိုင်မည် မဟုတ်ပေ၊ ထို့နောက် မဒီနာမြို့တော်သို့သွားမည်၊ မဒီနာမြို့တော်ကိုလည်း 'ဖွရစ်ရှိတဟ်' များက စောင့်ကြပ်နေသဖြင့် မြို့တွင်းသို့ ဝင်ရောက်နိုင်မည် မဟုတ်ပေ။

သို့သော် မဒီနာမြို့တော်တွင် (၃) ကြိမ် မြေလျှောင်လှုပ်မည်၊ အီမာန်လျော့နည်းသူများသည် မြေလျှောင်လှုပ်သည်ကို ကြောက်ရွံ့၍ မဒီနာမြို့တော်မှ အပြင်သို့ထွက်သွားကြမည်၊ ၎င်းတို့သည် ဒဂ်ျဂျာလ်၏ ကျော့ကွင်း၌ မိကြပေမည်။

ဒဂ်ျဂျာလ်သည် ယဟူဒီ လူမျိုးများမှ ဖြစ်မည်၊ ၎င်း၏တပည့်များက 'မစီးဟ်'ဟု ခေါ်ကြမည်၊ ဝဲဘက်မျက်လုံးသည် စူထွက်နေမည်၊ ဆံပင်မှာ ကောက်နေမည်၊ ကြီးသော မြည်းတစ်ကောင်ကို စီးနင်းမည်၊ ပထမဦးစွာ အီရာက် နှင့် ရှာမ်နိုင်ငံကြားမှ ထွက်ပေါ် လာမည်။

ထိုအချိန်၌ မဒီနာမြို့တော်မှ သူတော်စင်တစ်ပါးသည် ဒဂ်ျဂျာလ်နှင့် ကောင်းစွာ စကားစစ်ထိုးမည်၊ ဒဂ်ျဂျာလ်သည် ထိုသူတော်စင်ကိုသတ်မည်၊ ပြီးနောက် အော်ဟစ်၍ ကျွန်ုပ်သည် ခိုဒါအသျှင်ဖြစ်ကြောင်း ယုံကြည်ပါပြီလောဟု မေးမည်၊ သူတော်စင်က မို၍ပင် သင်သည် ဒဂ်ျဂျာလ် လူယုတ်မာဖြစ်ကြောင်း သိသာလာသည်ဟု မိန့်တော်မူမည်၊ ထိုအခါ သူတော်စင်ကိုသတ်ရန် ကြိုးစားလေရာ မည်သို့မျှ သတ်နိုင်မည် မဟုတ်ပေ။

ဒဂ်ျဂျာလ်သည် ရှာမ်နိုင်ငံသို့ ထွက်သွားပေမည်၊ ဒမစ်ရှ်က်မြို့အနီးသို့ ရောက်လေရာ အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် ဒမစ်ရှ်က်မြို့သို့ ရောက်နှင့်နေပြီးစစ်တိုက်ရန် တန်ဆာပလာများကို ပြင်ဆင်နေမည်ဖြစ်သည်၊ အတ်စ်ရ်နမာဇ်အချိန် ရောက်လာသော အခါ 'မုအဇ်သင်န်' က 'အသာန်' ဆိုမည်၊ လူတို့က 'နမာဇ်' ဝတ်ပြုရန် ပြင်ဆင် ကြမည်။

ထိုအချိန်၌ ရုတ်တရက်အီစာ(အလိုင်ဟစ္စလာမ်)သခင်သည် 'ဖွရစ်ရှိတဟ်' နှစ်ပါး (ဂျစ်ဗ်ရာအီလ်နှင့် မီကာအီလ်) သခင်နှစ်ပါး၏ ပခုံးများတွင်လက်တင်၍မိုးကောင်းကင်မှ ဆင်းသက်လာသည်ကို တွေ့ကြရမည်၊အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် ဒမစ်ရှ်က်မြို့၏ ဂျာမေ့အ်မတ်စ်ဂျစ်ဒ်၏ အရှေ့ဘက် 'မေနာရ'ပေါ်တွင် ဆင်းသက်လာပြီး လှေခါးယူခဲ့ ကြရန်မိန့်ပြီး လှေခါးဖြင့် အောက်သို့ ဆင်းလာတော်မူမည်။

အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် စစ်တိုက်ရန် စီစဉ်မှု အားလုံးကို အီစာ (အလိုင်ဟစ္စလာမ်) သခင်အား အပ်နှင်းလိုတော်မူရာ အီစာ (အလိုင်ဟစ္စလာမ်) သခင်က ကျွန်တော်သည် ဒဂ်ျဂျာလ်ကို သတ်ရန် လာခြင်း ဖြစ်သည်၊ စစ်ပြင်ဆင်မှုကို ခင်ဗျားဘဲ တာဝန်ယူပါဟု မိန့်မည်ဖြစ်သည်။

အချုပ်မှာ... ညကုန်လွန်၍ နံနက်မိုးသောက် လင်းသောအခါ အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင်သည် စစ်တိုက်ရန် ပြင်ဆင်တော်မူမည်၊ အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် မြင်းတစ်ကောင် လှံတစ်ချောင်း တောင်းယူတော်မူ၍ ဒဂ်ျဂျာလ်ကို လိုက်တော်မူမည်၊ မွတ်စလင်မ်စစ်သည်တော်များသည် ဒဂ်ျဂျာလ်၏စစ်တပ်ကိုတိုက်ကြရာအလွန်ပြင်းထန်သောစစ်ပွဲကြီးတစ်ရပ်ဖြစ်ပေမည်၊ အီစာ (အလိုင်ဟစ္စလာမ်) သခင်၏နှုတ်တော်မှ ထွက်သောလေသည် မျက်စိထိစ်ဆုံးထိ ရောက်ပေသည်၊ ၎င်းလေထိသော 'ကာဖွင်ရ်' သည် ချက်ချင်း သေဆုံးသွားမည်၊ ဒဂ်ျဂျာလ်သည် အီစာ (အလိုင်ဟစ္စလာမ်) သခင်ကို မြင်၍ ထွက်ပြေးမည်၊ သခင်သည် ၎င်းအား မျက်ချေမပြတ် လိုက်တော်မူမည်၊ 'လွှဒ်' အမည်ရှိသောနေရာသို့ ရောက်လေရာ လှံစွပ်ဖြင့် ဒဂ်ျဂျာလ်ကို အဆုံးစီရင်တော်မူမည်၊ မွတ်စလင်မ်စစ်သည်တော်များသည် ဒဂ်ျဂျာလ်၏ စစ်သားများကို သုတ်သင်ကြမည်။

ထို့နောက် အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် မြို့များတွင် လှည့်လည်တော်မူမည်၊ ဒဂ်ျဂျာလ်၏ နှိပ်စက်ညှဉ်းပန်းခြင်း ခံရသူများကို နှစ်သိမ့်စေတော်မူမည်၊ အလ္လာဟ်အသျှင်မြတ် အလိုတော်ဖြင့် ထိုအခါ၌ 'ကာဖွင်ရ်' တစ်ယောက်မျှ ရှိတော့မည် မဟုတ်၊ ထို့နောက် အေမာမ်မဟ်ဒီ (အလိုင်ဟစ္စလာမ်) သခင် ကွယ်လွန်တော်မူမည်၊ စီမံအုပ်ချုပ်မှု အားလုံးကို အီစာ (အလိုင်ဟစ္စလာမ်) သခင်က တာဝန်ယူဆောင်ရွက်တော်မူမည်။

ထို့နောက် ယာဂျူးဂျ်၊ မာဂျူးဂျ် ထွက်ပေါ်လာမည်၊ ထိုသူတို့ နေထိုင်ရာဒေသသည် မြောက်ဘက် လူတို့နေထိုင်ရာဒေသ ကုန်ဆုံးပြီးနောက် (၇) နိုင်ငံထက်ပို၍ ဝေးလံသော နေရာဖြစ်သည်၊ ထိုဒေသရှိ မြစ်ပင်လယ်သည် အေးလွန်းသဖြင့် ခဲနေကာ လှေသင်းဘောများပင်မသွားလာနိုင်ပေ၊ အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် အလ္လာဟ်အသျှင်မြတ် အမိန့်တော်အရ မွတ်စလင်မ်များကို 'တူရ်' တောင်ပေါ်သို့ ခေါ်သွားတော်မူမည်၊ ယာဂျူးဂျ်၊ မာဂျူးဂျ်တို့သည် လူတို့အား သတ်ဖြတ် လုယက်ကြမည်၊ နောက်ဆုံးတွင် အလ္လာဟ်အသျှင်မြတ်က ထိုယာဂျူးဂျ်၊ မာဂျူးဂျ်တို့ကို သေစေတော်မူမည်၊ ထိုအခါ အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် တောင်ပေါ်မှ ဆင်းလာတော်မူမည်။

နှစ်ပေါင်း (၄၀) ဇနပြီးနောက် အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် 'ဝဖွာတ်' ကွယ်လွန်တော်မူမည်၊ ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်၏ 'ရောင်သွာ' တော်၌ သင်္ဂြိုဟ်တော်မူမည်၊ သခင်၏နေရာတွင် 'ကဟ်တွာန်' အနွယ်မှ ယမန်နိုင်ငံသား

'ဂျဟ်ဂျ၁ဟ်'သခင်သည် ဆက်ခံတော်မူမည်၊ သခင်သည် တရားမျှတစွာ တိုင်းပြည်ကို အုပ်ချုပ်မင်းပြုတော်မူမည်၊ သခင်၏နောက် ရာထူးဆက်ခံသော ပုဂ္ဂိုလ်များစွာ ရှိမည်၊ ထို့နောက်တစ်ဖြည်းဖြည်း ကောင်းမှုတရားမျှတမှုများ လျော့နည်းသွားကာ၊ မကောင်းမှု မတရားမှုများ တိုးပွားလာပေမည်။

ထိုအချိန်၌ မိုးကောင်းကင်တွင် မီးခိုးလုံးများဖြစ်ပေါ်၍ တစ်လောကလုံး ပြန့်နှံ့အုံ့ဆိုင်းသွားမည်၊ ထိုမီးခိုးများဖြင့် လူတို့သည် နေမထိထိုင်မသာ ဖြစ်ကြမည်၊ မွတ်စလင်မ်တို့သည် မူးဝေခြင်းနှင့်နှာစီးခြင်းလောက်သာဖြစ်ကြမည်၊ သို့သော် မိုနာဖစ်က်နှင့် ကာဖွင်ရ်များသည် သတိလစ်ဟင်း မေ့မျောသွားကြမည်၊ အချို့သည် ၁-ရက်၊ အချို့သည်-၂-ရက်၊ ၃-ရက် သတိလစ်နေကြမည်၊ ဤမီးခိုးများသည် ရက်ပေါင်း(၄၀) တိတိ ရှိနေပြီးမှ ယခင်အတိုင်း ရှင်းလင်းသွားမည်၊ ထိုအချိန်သည် (အီဒွသ်သူ့ဟာ) အစ်ကြီးလအတွင်းတွင်ဖြစ်မည်၊ သင်လ်ဟဂျ်(၁၀)ရက်လွန်ပြီးနောက် ရုတ်တရက် ညတာ ရှည်လျားသွားသဖြင့် ခရီးသည်များသည် ထိပ်လန့်သွားကြမည်၊ ငင်း ကလေးများသည် အိပ်နေယင်း ပျင်းရိလာကြမည်၊ ခြေလေးချောင်း တိရစ္ဆာန်များသည် တောတောင် စားကျက်သို့ထွက်လိုကြ၍ အော်ဟစ်နေကြမည်၊ နေကား ထွက်ပြူလာမည်မဟုတ်ပေ၊ လူအပေါင်းတို့သည် ထိပ်လန့်တကြား မချိမဆန့် ဖြစ်နေကြမည်၊ ထိုညသည် (၃)ညမျှ ရှည်လျားပြီးရာ သူရိယနေမင်းသည် နေကြတ်သကဲ့သို့ အရောင်ဖြော့ဖြော့ဖြင့် အနောက်မှ ထွက်ပြူလာမည်၊ ထိုအချိန်၌ မည်သူ၏'အီမာန်'ယူခြင်းနှင့် 'တောင်ဗဟ်'ပြု အပြစ် ဝန်ခံခြင်းကို လက်ခံတော်မူမည်မဟုတ်ပေ၊ သူရိယ နေမင်းသည် မွန်းမတည့်မီ အခန့် လောက် မြင့်လာလေရာ၊ အလ္လာဟ်အသျှင်မြတ်အလိုတော်ဖြင့် အနောက်ဘက်သို့ပြန်လှည့် သွားမည်၊ ထုံးစံအတိုင်း နေဝင်သွားမည်၊ ထိုနောက် ခါတိုင်းကဲ့သို့ အရှေ့မှလင်းဝင်း တောက်ပစွာ ထွက်ပြူမည်။

အနောက်မှ နေထွက်ပြီးနောက် မကြာမီ မတ်က်ကဟ်မြို့တော်အနီးရှိ 'စွဖွာ'မည် သော တောင်သည် လျှင်လှုပ်၍ ပြိုကွဲကာ ထိုအတွင်းမှ ထူးဆန်းအံ့ဖွယ်ကောင်းသော သတ္တဝါကြီးထွက်လာပြီး လူတို့နှင့် စကားပြောမည်။

ကျမ်းစာများ၌ ရေးသားကြသည်မှာ.... ထိုသတ္တဝါကြီးသည် ဂိုက်ပေါင်း-၆၀ ရှည်လျားမည်၊ ခြေလေးချောင်းရှိမည်၊ တစ်ကိုယ်လုံးတွင် အဝါရောင်အမွေးများရှိမည်၊ လက်မောင်းနှစ်ဘက်ရှိမည်၊ လျှင်မြန်မှုတွင် ထိုသတ္တဝါကြီးကဲ့သို့ မည်သည့်ငှက်မှ သွားနိုင်မည်မဟုတ်၊ မျက်နှာသည် လူကဲ့သို့ဖြစ်မည်၊ သို့သော် မျက်နှာသည် လင်းဝင်းတောက် ပနေမည်၊ ခေါင်းနှင့် ဦးချိုသည် တောနွားကဲ့သို့ ရှိမည်၊ နားနှစ်ဘက်သည် ဆင်၏ နားရွက်ကဲ့သို့ရှိမည်၊ အရောင်အဆင်းသည် ကျားသစ်ကဲ့သို့ရှိမည်၊ လည်တိုင်နှင့်ခြေများ သည် ကုလားအုတ်ကဲ့သို့ဖြစ်မည်၊ ရင်သည် ကျားကဲ့သို့ဖြစ်မည်၊ အမြီးသည် 'ဒွန်ဗါ'

သိုးကဲ့သို့ဖြစ်မည်၊ အချုပ်မှာ....ကာဖွင်ရ်များအပေါ် 'အသာဗ်'ပြစ်ဒဏ် အတည်ဖြစ်ပြီး တောင်ဗဟ်အမှားဝန်ခံသောအချိန်ကုန်ဆုံးသွားလေရာ၊ ဤ'ဒါဗတွလ်အရ်သွ''အမည်ရှိ သတ္တဝါကြီးသည် စွဖွာတောင်မှ ထွက်လာပေမည်။

(မူသွေ့ ဟွလ်ကုရ်အာန် စာမျက်နှာ-၄၀၃)

ထိုသတ္တဝါကြီးသည် လျှင်မြန်ဖြတ်လပ်စွာဖြင့် တစ်လောကလုံးသို့ လှည့်လည် လှည့် ပတ်နေပေမည်၊ ထိုသတ္တဝါကြီးက 'အီမာန်'ရှိသူများ၏နဖူးတွင် မူစာ(အလိုင်ဟစ္စလာမ်) သခင်၏ 'အစွာ'တောင်ဝှေးတော်ဖြင့် အမှတ်အသားပြုမည်၊ ထိုသို့ အမှတ်အသားပြု ခြင်းဖြင့် ထိုအပြုခံရသူ၏ မျက်နှာသည် လင်းဝင်းသွားပေမည်၊ ၎င်း 'အီမာန်'မရှိသူ များ၏ နှာခေါင်းနှင့်လည်ဂုတ်တွင် စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင်၏ လက်စွပ်ဖြင့် တံဆိပ်မည်း ခပ်နှိပ်သွားမည်၊ ထိုသို့တံဆိပ်ခပ်နှိပ်ခြင်းဖြင့် မျက်နှာတပြင်လုံး မည်းနက် သွားမည်၊ ဤသို့'အီမာန်'ရှိသူနှင့်မရှိသူကိုခွဲခြားပြီး ထိုသတ္တဝါကြီးသည် ပျောက်ကွယ် သွားပေမည်။

ထိုနောက် တောင်ဘက်မှ အေးမြသောလေအေးကလေး တိုက်ခတ်လာမည်၊ထိုလေ သင့်ခြင်းဖြင့် အီမာန်ရှိသူအားလုံး ဂျိုင်းမှ အဖုအလုံးထွက်လာမည်၊ ထိုအဖုအလုံးဖြင့် အားလုံး သေသွားကြမည်၊ ထိုသို့ မွတ်စလင်မ်အားလုံး သေဆုံးသွားကြသောအခါ 'ဟဗ်ရှိ''ကာဖွင်ရ်များသည် တစ်လောကလုံးကို အုပ်စိုးလာကြမည်၊ ထိုကာဖွင်ရ်တို့သည် 'ကာအ်ဗဟ်' ဗိမာန်တော်ကို 'ရှဟီးဒ်' ဖျက်ဆီးပစ်ကြမည်၊ ဟဂ်ျလည်း ပိတ်သွားမည်၊ ကုရ်အာန်ကျမ်းတော်မြတ်သည် လူတို့၏စိတ်နှင့် စာရွက်များမှ ကွယ်ပျောက်သွားမည်၊ ၎င်းပြင် အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ခြင်း နှင့် လူအချင်းချင်း ထားရှိရသော ဟိရိညြာတပ္ပလည်း ဆိတ်သုဉ်းသွားပေမည်၊ (အလ္လာဟ်-အလ္လာဟ်)ဟု တ,သသူများရှိကြ တော့မည် မဟုတ်ပေ။

ထိုအခါ၌ ရှာမ်နိုင်ငံတွင် ပစ္စည်းများပေါများမည်၊ လူတို့သည် ကုလားအုတ်နှင့် တစ်သွယ်၊ ခြေလျင် တစ်မျိုး ရှာမ်နိုင်ငံသို့ သွားရောက်ကြမည်၊ ကျန်ရှိနေသူများအား မီးလျှံကြီးတစ်ခုက ပတ်ပတ်လည်ဝိုင်း၍ အားလုံးကို ရှာမ်နိုင်ငံသို့ ရောက်စေမည်၊ အ ကြောင်းရင်း'ဟစ်ကမတ်'မှာ ကေယာမတ်နေ့၌ လူအားလုံး ထိုနိုင်ငံတွင် ရှိနေရမည်ဖြစ် သည်၊လူအားလုံးရှာမ်နိုင်ငံသို့ရောက်ကြလေရာ၊ထိုမီးလျှံကြီးသည်ပျောက်ကွယ်သွားမည်၊ ထိုအခါ၌ လောကသည် အလွန်တိုးတက်နေမည်၊ ၃-နှစ် ၄-နှစ် ဤသို့နေကြရပြီးနောက် ရုတ်တရက် မုဟာရ်ရမ်လ (၁၀)ရက် သောကြာနေ့ နံနက်အချိန်တွင် လူတို့သည် မိမိတို့ လုပ်ငန်းခွင်တွင် ရှိနေကြစဉ် 'စူရ်' တံပိုး မှုတ်မည်။

عَنْ اَبِىْ هُرَيْرَةَ رض قَالَ قَالَ رَسُوْلُ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ
وَذَكَرَ الصُّوْرَ فَقَالَ اَبُوْ هُرَيْرَةَ رض يَا رَسُوْلَ اللّٰهِ وَمَا الصُّوْرُ قَالَ
قَرْنٌ قَالَ كَيْفَ هُوَ قَالَ قَرْنٌ عَظِيْمٌ يُنْفَخُ فِيْهِ

ဤဟဒီးသ်တော်မြတ်အရသိရသည်မှာ ...'စူရ်'တံပိုးသည် ဦးချိုကဲ့သို့ အခေါင်းပါသော အရာတစ်ခုဖြစ်သည်၊ သို့သော် အလွန်ကြီးမားလေသည်၊ အချို့ဟဒီးသ်တော်များတွင် လာရှိသည်မှာ.... အလ္လာဟ်အသျှင်မြတ်က 'စူရ်'ကို ဖြူဖွေးသော ပုလဲဖြင့် ဖန်ဆင်းထားတော်မူသည်၊ 'စူရ်'၏အရှည်သည် ပထဝီမြေမှ ပထမမိုးကောင်းကင်ထိမြင့်မားသည်၊ အကျယ်မှာ . အရှေ့နေထွက်ရာက အနောက်နေဝင်ရာထိကျယ်ဝန်းသည်၊ စူရ်၏အတွင်း၌ တစ်လောကလုံးရှိ 'ရူးဟ်'ဝိညာဉ်များနှင့် အညီအမျှ အပေါက်များရှိလေသည်၊ ဒုတိယတဖန် ထိုစူရ်ကိုမှုတ်လေရာ၊ ထိုအပေါက်များမှ ရူးဟ်ဝိညာဉ်များသည် အသင့်ပြင်ထားသော ကိုယ်ကာယများထဲသို့ ဝင်ရောက်လာမည်၊ မိမိတို့ မြှုပ်နှံရာ 'ကဗရ်' များမှ လူသားနှင့် အဟိတ်တိရစ္ဆာန် 'မခ်လူးကဲ'အားလုံးသည် အသက်ရှင်၍ ကဗရ်တွင်းများမှ ထွက်လာကြမည်။

အချို့ ဟဒီးသ်တော်များ၌ လာသည်မှာ.... ပထမဦးစွာ ကုလားအုတ် အတွက် သောက်ရေကန်ကို မြေကြန်နေသူက အလျင်ကြားရမည်၊ စူရ်သံကို ကြား၍ ၎င်းသည် ပထမဦးစွာ သေပေမည်၊ ထို့နောက် မြေပေါ်ရှိလူအားလုံး သေကုန်ကြမည်ဖြစ်ပေသည်။

စူရ်တံပိုးသံသည် ပထမဖြည်းညှင်းစွာ ထွက်ပေါ်လာကာ တစ်ဖြည်းဖြည်းပြင်းထန်စွာ မြည်ဟီးလာပေမည်၊ ထိုကြောက်ဖွယ်ကောင်းသော အသံကြောင့် အားလုံး သေကုန်ကြမည်၊ မိုးနှင့်မြေသည်ကွဲသွားပြီး တစ်လောကလုံးပျက်စီးသွားမည်၊ သူရိယနေမင်း အနောက်မှထွက်ခြင်းနှင့် စူရ်တံပိုးမှုတ်သည့်ကာလမှာ နှစ်ပေါင်း(၁၂၀) ကွာမည် ဖြစ်သည်၊ ယခုဤအဖြစ်အပျက်မှစပြီး 'ကေယာမတ်'နေ့ စလေတော့သည်။

## ကေယာမတ်နေ့၏ သီးခြားသော အကြောင်း

'ကေယာမတ်'ဖြစ်မည့် ပထမ အထိမ်းအမှတ်မှာ.... လူတို့သည် ၃-၄-နှစ် တရားတော်ကို မေ့လျော့၍ နေကြမည်၊ လောကီ၏ စည်းစိမ် ပစ္စည်းပစ္စယများ၊ ကာမဂုဏ်ကျူးလွန်မှုများ မြောက်မြားစွာဖြစ်ပေါ်လာမည်၊ 'အာရှူရဟ်'ရက် သောကြာနေ့ နံနက်အချိန်တွင် လူတို့သည် မိမိတို့အလုပ်၌ မေ့လျော်နေကြစဉ် ရုတ်တရက် သေးငယ်

သော ရှည်လျားသည့် အသံတစ်သံကို ကြားကြရမည်၊ ဤသည်ပင် 'စူရ်'ဖြစ်ပေသည်၊ ရှိရှိသမျှသော လူအားလုံးတို့သည် အသံကြားရာ၌ တစ်မျိုးတည်းကြားကြရမည်၊ အားလုံးသည် အသံအဘယ်နေရာမှလာသည်ဟုတွေးကာ အံ့အားသင့်နေကြမည်၊ အသံသည် တစ်ဖြည်းဖြည်း မိုးထစ်ချုန်းသည်ထက် ပို၍ပြင်းထန်လာပေမည်၊ လူတို့သည် အသံကြောင့် မချိမဆန့် ဖြစ်နေကြမည်၊ ပြင်းထန်စွာ မြည်ဟီးလာလေလေ လူတို့သည် ကြောက်လန့်၍ သေကုန်ကြမည်၊ တစ်လောကလုံးသည် ဤ'စူရ်'တံပိုးသံဖြင့် ပျက်စီးသွားပေမည်။

'စူရ်'တံပိုးမှုတ်သံဖြင့် တစ်လောကလုံး 'ဖနာ'ဖြစ်၊ ပျက်စီးသွားလေရာ၊ နှစ်ပေါင်း (၄၀)တိတိ လူသူလေးပါးကင်းရှင်း၍ ခြောက်သွေ့ ဆိတ်ငြိမ်နေပေမည်၊ ထို့နောက် အလ္လာဟ်အသျှင်မြတ်အမိန့်တော်ဖြင့် တဖန် 'စူရ်'မှုတ်ပေမည်၊ ထိုသို့မှုတ်ခြင်းဖြင့် မိုးနှင့်မြေသည် နဂိုအတိုင်း ပြန်ဖြစ်လာပေမည်၊ သေဆုံးသူများသည် 'ကဗရ်'သင်္ချိုင်းများမှ ရှင်ပြန်ထွက်လာကြမည်၊ 'ကေယာမတ်'ကမ္ဘာ့တရားခွင်ဆီသို့ စုရုံးစေတော်မူမည်၊ ၎င်းသူရိယနေမင်းသည် အလွန်နိမ့်ကပ်လာမည်။

နေသည် နိမ့်ကပ်လာမည်ဟုဆိုခြင်းမှာ... ပထဝီမြေနှင့် ၁-မိုင်ခန့် အဝေးမှ နေထွက်မည်၊ သို့မဟုတ် 'စွရ်မာ'တန်ပမာ နေသည်နိမ့်ကပ်လာမည်ဖြစ်သည်ဟူ၍ ဟဒီးသ်တော်များ၌ လာရှိသည်။

ထိုသို့ နေပူရှိန်ပြင်းလွန်းသည့်အတွက် လူတို့၏ဦးနှောက်ပင် အရည်ပျော်ပေမည်၊ လူတို့သည် မိမိတို့ ကျူးလွန်ခဲ့သည့် 'ဂိုနာဟ်'နှင့်အမျှ ချွေးများထွက်ကြပေမည်၊ ၎င်းလူအသီးသီးတို့သည် 'ကေယာမတ်'ကွင်းပြင်၌ ငတ်မွတ်ဆာလောင်လျက် စိတ်ရှုပ်ထွေးကာ ရှိနေကြမည်၊ ကောင်းသောသူများသည် ထိုပုဂ္ဂိုလ်များ ရပ်နေသည့် နေရာ၏ မြေကို 'မိုင်ဒဟ်' မုန့်ညက်ပြုပေးတော်မူမည်၊ အဆာပြေလည်စေရန် ဤမုန့်ညက်ကို စားကြရမည်၊ ရေငတ်မှုအတွက် ရေသောက်ရန် 'ကောင်သရ်' ကန်တော်သို့ သွားကြရမည်။

عَنِ بْنِ عَبَّاسٍ رض قَالَ اَلْكَوْثَرُ نَهْرٌ فِى الْجَنَّةِ حَافَتَاهُ مِنْ
ذَهَبٍ وَفِضَّةٍ يَجْرِىْ عَلَى الْيَاقُوْتِ وَالدُّرِّ مَاءُهُ اَبْيَضُ مِنَ
الثَّلْجِ وَاَحْلٰى مِنَ الْعَسَلِ (ابن جرير)

အှစ်ဗ်နို အဗ်ဗါးစ်(ရသွေ)သခင် မိန့်တော်မူသည်၊ 'ကောင်သရ်'သည် ဂျန္နတ်တွင်ရှိသော မြောင်းတစ်ခုဖြစ်သည်၊ ရွှေငွေနှင့် ပြုလုပ်ထားသည်၊ ပုလဲနှင့် ကျောက်နီအပေါ်တွင် စီးတွေနေသည်၊ ထိုရေတော်သည် မိုးသီးထက်ဖြူသည်၊ ပျားရည်ထက်ပို၍ ချိုမြသည်။

၅။ လူတို့ 'ကေယာမတ်' ကွင်းပြင်၌ ရပ်လျက်နှင့် ဒုက္ခရောက်နေကြရသောအခါ အားလုံးသည် တိုင်ပင်၍ ကောင်းမှုမကောင်းမှု စာရင်းအင်းများကို အမြန်ဆုံး စစ်ဆေးပေးတော်မူရန် အပြောခိုင်းရန်အတွက် ပထမဦးစွာ အာဒမ်(အလိုင်ဟစ်စလာမ်)သခင့်ထံ သွားကြမည်၊ လျှောက်ထားပေးရန် လက်မခံသဖြင့် အခြားသော နဗီရစူလ် (အလိုင်ဟေ ဟစ်စလာမ်) သခင်များထံ အဆင့်ကဲဆင့်ကဲ သွားကြမည်၊ ၎င်းသခင်ကြီးများကလည်း 'ရှဖ်ဖာအတ်' ပြုပေးရန် တာဝန်မယူကြပေ။

နောက်ဆုံး ကျွန်ုပ်တို့၏ ရစူလ် မုဟမ္မဒ် (ဆွလ်လလ္လာဟု) ကိုယ်တော်ထံ လာရောက်ကြ၍ လျှောက်ထားအသနားခံပေးရန် တောင်းဆိုကြမည်၊ ကိုယ်တော်သခင်က အလ္လာဟ် အသျှင်မြတ် အမိန့်တော်အရ လက်ခံတော်မူ၍ 'မကာမေ မဟ်မူးဒ်' မည်တွင်သောနေရာတွင် ကြွသွားတော်မူပြီး 'ရှဖာအတ်' အပြစ်များမှ ချွတ်ကယ်ပေးတော်မူရန် တောင်းဆို အသနားခံ ပေးတော်မူမည်၊ ထိုအခါ အလ္လာဟ် အသျှင်မြတ်က မိန့်တော်မူမည်မှာ.... ငါအသျှင်မြတ်က သင့်တောင်းပန်မှုကို လက်ခံတော်မူပြီး ယခုပင်မြေပြင်၌ 'တဂျလ်လီ' ပြုတော်မူ၍ စာရင်းအင်းများကို စစ်ဆေးတော်မူမည်။

ကေယာမတ်ကွင်းပြင်၌ လူသားနှင့်ဂျင်န်များ ရှိနေကြသော အရည်အတွက်ထက် 'ဖွရစ်ရှ်တဟ်' ကောင်းကင်တမန်များသည် နှစ်ဆပို၍ မိုးကောင်းကင်မှ ဆင်းသက်လာကြမည်၊ ၎င်းလူသားဟူသမျှသည် တစ်ယောက်လျှင် ခြေနှစ်လှမ်းစာမျှပင် နေရာရရှိကြမည်၊ ဤထက်ပို၍ နေရာမရှိပေ။

ပထမဦးစွာ မိုးကောင်းကင်မှ 'ဖွရစ်ရှ်တဟ်' များနှင့် မြောက်မြားစွာ ဆင်းသက်လာကြမည်၊ လူသားများကို လေးဘက်လေးတန်မှ ဝိုင်းထားကြမည်၊ ထို့နောက် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ 'အရ်ရှ်' တော် ကြွမြန်းဆင်းသက်လာမည်၊ ထိုအရ်ရှ်တော်ပေါ်၌ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ 'တဂျလ်လီ' တော် ရှိမည်။

၎င်း အကောင်းအဆိုး စာရင်းစစ်ဆေးရန် စတင်တော်မူမည်၊ အကောင်းအဆိုး စာရင်းစာရွက်များသည် အီမာန် ရှိသူများ၏ လက်ယာလက်နှင့် အီမာန် မရှိသူများ၏ လက်ဝဲလက်တွင် အလိုအလျောက်ရောက်လာပေမည်၊ အမှုလ်စစ်ဆေးသော ချိန်ခွင်လည်း အသင့်ရောက်လာမည်၊ ထိုချိန်ခွင်ဖြင့် အားလုံး၏အကောင်းအဆိုးများ သိလာရပေမည်၊ ၎င်းလူတို့အား 'ပွလ်စွေရာတ်' တံတားပေါ်သို့ လျှောက်ကြရန် မိန့်တော်မူမည်၊ အကြင်သူ၏ ကောင်းမှုများသည် ချိန်တွယ်ရာ၌ သာပိုလျှင် ထိုပုဂ္ဂိုလ်သည် လျှပ်တပြက်ဖြင့် တံတားကို ကျော်လွှား၍ ဂျန္နတ် ဥယျာဉ်ဘုံနန်းသို့ ရောက်သွားမည်၊ ၎င်း အကြင်သူ၏ မကောင်းမှု 'ဂိုနာဟ်' သည် ချိန်တွယ်ရာ၌ များနေလျှင် အလ္လာဟ်အသျှင်မြတ်ကလည်း ခွင့်လွှတ်ချမ်းသာ မပေးတော်မူပါက ထိုသူသည် တံတားမှလိမ့်ကျ၍ ဂျဟန္နမ် အပါယ်ငရဲသို့ရောက်သွားပေမည်၊ ၎င်းအကြင်သူ၏ ကောင်းမှုအမှုလ်နှင့် မကောင်းမှုဂိုနာဟ်သည် အညီအမျှ ဖြစ်နေလျှင်၊ ထိုသူသည် ဂျန္နတ်နှင့်ဂျဟန္နမ်၏ အကြားအလည်ရှိ 'အအ်ရာဖ်' မည်သောနေရာ၌ နေရစ်ရမည်။

ထို့နောက် ကျွန်ုပ်တို့၏ရစူလ် မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်နှင့် အခြားသော နဗီရစူလ်များ၊ ၎င်းအာလင်မ်၊ ၀လီ၊ ရှဟီးဒ်၊ ဟာဖွိဇ်နှင့် ကောင်းသော ပုဂ္ဂိုလ်များသည် ဂုနာဟ်အတွက် ပြစ်ဒဏ်ခံနေကြရသူများကို အသီးသီး လွတ်ငြိမ်း ချမ်းသာခွင့် ပေးရန် 'ရှဖွာအတ်' တောင်းပန်ပေးကြမည်၊ ထိုပုဂ္ဂိုလ်များ၏ 'ရှဖွာအတ်' တောင်းပန်ပေးမှုကို လက်ခံတော်မူမည်၊ ၎င်းအကြင်သူ၏စိတ်၌ အနည်းငယ်မျှပင် အီမာန်ယုံကြည်ချက်ရှိနေလျှင်ထိုသူ့ကို ဂျဟန္နမ်မှထုတ်၍ ဂျန္နတ်သို့ ပို့ဆောင်တော်မူမည်၊ ဤသို့ပင် 'အအ်ရာဖ်'၌ နေရသူများလည်း နောက်ဆုံး ဂျန္နတ်သို့၀င်ရောက်ကြရမည်၊ ကာဖွင်ရ်နှင့် မွရှ်ရစ်က်များ သာလျှင် ဂျဟန္နမ်၌ နေရစ်ခဲ့ကြရမည်၊ ဤသို့သော သူများသည် ဘယ်သော အခါမှ ဂျဟန္နမ်မှ ထွက်ကြရမည် မဟုတ်ပေ။

သို့ရှိရာ ဂျန္နတီနှင့် ဂျဟန္နမီတို့သည် မိမိတို့ နေထိုင်ရမည့်နေရာသို့ ရောက်ရှိသွားကြပြီဖြစ်ရာ၊ ထိုအခါ၌ အလ္လာဟ်အသျှင်မြတ်သည် ဂျန္နတ် နှင့် ဂျဟန္နမ်၏ ကြားတွင် (မောင်တ်) အသေကိုသိုးထီးသဏ္ဍာန်ပြုတော်မူပြီး ဂျန္နတီနှင့်ဂျဟန္နမီတို့ကိုပြသပြီး 'သဗဟ်' သတ်ဖြတ်ပစ်တော်မူမည်၊ ၎င်းဂျန္နတီ တို့သည် ဂျန္နတ်၌၊ ဂျဟန္နမီ တို့သည် ဂျဟန္နမ်၌ အမြဲ နေထိုင်ကြရမည်၊ မည်သူမျှ ဘယ်သောအခါမှ သေကြတော့မည်မဟုတ်ဟု မိန့်တော်မူပေမည်၊ ထိုအခါ၌ဂျန္နတီများသည် လွန်စွာ၀မ်းမြောက်ပျော်ရွှင် ကြ၍ ဂျဟန္နမီများသည် အတိုင်းထက်အလွန် ၀မ်းနည်း ပူဆွေးကြမည် ဖြစ်လေသည်။

## ဂျန္နတ်၏စည်းစိမ်များ နှင့် ဂျဟန္နမ်၏ ဒုက္ခများ အကြောင်း

ဂျန္နတ်သည် သက်သာ သာယာမှုနှင့် စည်းစိမ်အပြည့်အ၀ရှိသောနေရာကို ခေါ် ဆိုလေသည်၊ ရစ်းမြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ 'ဖွာဒ်လ်'နှင့် 'ရဟ်မတ်' တော် သက်ရောက်သည့်နေရာဟုလည်း ခေါ်သည်၊ ထိုဌာန၌ မြူမှုံခန့်မျှပင် ဒုက္ခသုက္ခ မရှိပေ။

ဟဒီးသ်တော်တွင်လာရှိသည်၊ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'ဂျန္နတ်'တွင် အနည်းငယ်မျှ သော နေရာကလေးတစ်ခုသည် တစ်လောကလုံး၊ ၎င်းထိုလောက၏ စည်းစိမ်အားလုံးနှင့် ဘဏ္ဍာတော်အားလုံးတို့ထက် သာပိုမြင့်မားလေသည်၊ အကယ်၍ သင်တို့အလိုရှိကြလျှင် ဤအာယတ်တော်ကို ဖတ်ရှုတ်ကြကုန်။

فَمَنْ زُحْزِحَ عَنِ النَّارِ وَأُدْخِلَ الْجَنَّةَ فَقَدْ فَازَ وَمَا الْحَيٰوةُ
الدُّنْيَا إِلَّا مَتَاعُ الْغُرُوْرِ

အဓိပ္ပါယ်...။ သို့ရှိရာ အကြင်သူသည် ဂျဟန္နမ်အပေါ်ယ်ငရဲမီးဘေးမှ လွတ်ကင်းမှု ရလျှင်၊ ၎င်းဂျန္နတ်သို့အသွင်းခံရပါက ထိုသူသည် အောင်မြင်ထမြောက်သူပင် ဖြစ်ချေသည်၊ မမြဲသော ဒွန္နယာလောက၏ ရှင်နေခြင်းသည် လိမ်လည် လှည့်ဖြားရာ စုစည်းသော နေရာ ဖြစ်ပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ ငါအသျှင်မြတ်က မိမိ၏ကောင်းသောသူများအတွက် ဤသို့သော စည်းစိမ်များ အသင့်ပြင်ဆင်ထားသည်၊ ထိုစည်းစိမ်များကို မည်သည့်မျက်စိကမှ မမြင်ဘူးကြ၊ မည်သည့်နားကမှမကြားဘူးကြ၊ ၎င်းမည်သူ၏စိတ်၌မှ ဤသို့သောစည်းစိမ်များ ကို စိတ်ကူးမိမည် မဟုတ်ပေ။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'ဂျန္နတ်' ဥယျာဉ်ဘုံနန်း၏အဆောက်အအုံများသည် ရွှေအုတ်တစ်ချပ်ငွေအုတ်တစ်ချပ်စီကာ၎င်းတို့ကြားတွင် အင်္ဂတေသဘော့ ကတိုးအစစ်ဖြင့် ဆောက်လုပ်ထားသည်၊ ၎င်းဂျန္နတ်ရှိ ကျောက်စရစ်များသည် ပုလဲနှင့် ကျောက်နီရတနာများဖြစ်ကြသည်၊ ၎င်းဂျန္နတ်၏မြေသည် ကုံကုမံဖြစ်သည်၊ အကြင်သူသည် ဂျန္နတ်သို့ဝင်ရလျှင်၊ ချမ်းမြေ့ပျော်ရွှင်စွာ နေရမည်၊ ဒုက္ခသုက္ခကိုတွေ့ရမည်မဟုတ်၊ အမြဲထာဝရထိုဂျန္နတ်၌ပင်နေရမည်၊ ဘယ်သောအခါမှသေမည်မဟုတ်၊ ထိုသူတို့၏အဝတ်များမှာညစ်ပေမည်မဟုတ်၊ ထိုသူတို့၏ပျို့ရွယ်ခြင်းလည်း ကုန်ဆုံးမည်မဟုတ်၊ ထာဝရနုပျို၍နေမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်ရှိ ဥယျာဉ် နှစ်ခုမှာကား အားလုံးသောအသုံးအဆောင်သည် ငွေသားချည့်ဖြစ်သည်၊ ၎င်းဥယျာဉ်နှစ်ခုမှာကား အားလုံးအသုံးအဆောင်သည် ရွှေချည့်ဖြစ်သည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်တွင် အထက်အောက်အထပ်ပေါင်း(၁၀၀)ရှိသည်၊တစ်ထပ်နှင့်တစ်ထပ်သည်မိုးနှင့်မြေဝေးလံသည်ခန့် ဝေးသည်၊ ဆိုလိုသည်မှာ... ခြေလျင်ခရီး နှစ်ပေါင်း(၅၀၀)ခန့်ဝေးသည်၊ ၎င်းအားလုံး ထက် အမြင့်ဆုံး အထပ်သည် 'ဖွင်ရ်ဒေါင်စ်'ဖြစ်သည်၊ ထို'ဖွင်ရ်ဒေါင်စ်'မှ နို့ပျားရည် 'ရှရာဗ်တိုဟူရ်'နှင့် ရေမြောင်းများ ထွက်လေသည်၊ ထိုဖွင်ရ်ဒေါင်စ်အထက်တွင် 'အရ်ရှ်' တော်ရှိသည်၊ သင်တို့သည်အလ္လာဟ်အသျှင်မြတ်ထံတော်တွင် ဂျန္နတ်တောင်းသော၊ဆုပန်သောအခါ 'ဖွင်ရ်ဒေါင်စ်'ကို တောင်းကြကုန်။ ကိုယ်တော်က ဆက်လက်၍ မိန့်တော်မူသည်မှာ...ဂျန္နတ်၏အထပ်ပေါင်း(၁၀၀)အနက် တစ်ထပ်သည် တစ်လောကလုံးရှိသူများ ချောင်ချောင်ချိချိနှင့် နေနိုင်လောက်အောင် ကျယ်ဝန်းလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်တွင် ရှိသော သစ်ပင်အားလုံးတို့၏ အကိုင်းများသည် ရွှေသားအတိဖြင့် ပြုလုပ်ထားတော်မူသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်သို့ ပထမဦးစွာ ဝင်ရောက်ကြရမည့်သူများ၏ မျက်နှာသည် လပြည့်လကဲ့သို့ လင်းဝင်းနေမည်၊ ၎င်းတို့

ပြီးနောက် ဝင်ရမည့်သူများ၏မျက်နှာသည် လင်းဝင်းသော နက္ခတ်ပမာရှိမည်၊ ထိုဂျန္နတ်တွင် ကျင်ကြီးကျင်ငယ်စွန့်ရန်မလို၊ တံထွေးထွေးရန်နှင့် နှပ်ညှစ်ရန်မလိုအပ်ပေ၊ ဘီးများသည် ရွှေအတိ ဖြစ်မည်၊ ချွေးသည် ကတ္တူရီနံ့ ကဲ့သို့ မွှေးကြိုင်သော အနံ့ ထွက်မည်၊ ထိုအခါ ဆဟာဗဟ်တစ်ပါးက ဤသို့ဆိုလျှင် စားသောက်သောအရာများ အဘယ်သို့ဖြစ်မည်နည်းဟုမေးလျှောက်ရာ၊ ကတ္တူရီကဲ့သို့မွှေးကြိုင်သောအနံ့ဖြင့် လေချဉ်တက်မည်၊ ထိုသို့လေချဉ်တက်ခြင်းဖြင့် စားသောက်ထားမှုများ ပပျောက်သွားမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်၌ အနိမ့်ဆုံးအဆင့်ရရှိသူအား အလ္လာဟ်အသျှင်မြတ်က မေးတော်မူမည်၊ အကယ်၍ သင့်ကို လောကရှိ ဘုရင်တစ်ပါးကဲ့သို့ တိုင်းပြည်တစ်ပြည်နှင့်အမျှပေးလျှင် သင်ကျေနပ်ပါမည်လော.... ၎င်းသူက အို ...မွေးမြူဖန်ဆင်းတော်မူသောအသျှင်၊ ကျွန်တော်မျိုးသဘောတူပါသည်ဟု လျှောက်ထားမည်၊ သင့်ကို တိုင်းပြည် (၅)ပြည်စာခန့် ပေးတော်မူသည်ဟု မိန့်ရာ၊ ကျေနပ်ပါပြီဟု လျှောက်ပေမည်၊ ထို့နောက် အလ္လာဟ်အသျှင်မြတ်မိန့်တော်မူသည်မှာ- သင့်ကို လောက၏ တိုင်းပြည်(၁၀)ပြည်စာခန့် ပေးတော်မူသည်၊ ထို့ပြင် သင်အလိုရှိသောအရာများ၊ ၎င်းသင်၏မျက်စိဖြင့် အေးမြစေသော အရသာရှိသော အရာများကိုပါ ရရှိမည်၊ 'ရေဝါယတ်' အဆိုတစ်ရပ်တွင် လောက(၁၀)ဆနှင့် အညီအမျှ ရရှိမည်ဟု လာရှိပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ဂျန္နတ်သို့ ရောက်ရှိနေကြသောသူများအား 'သင်တို့ပျော်ရွှင်ကြပါ၏လော'ဟု မေးတော်မူမည်၊ ထိုသူများက 'ကျွန်ုပ်တော်တို့ မပျော်စရာဟူ၍ မရှိပါ' မည်သည့်မက်ခ်လူးက်ကိုမှ မပေးသေးသော စည်းစိမ်များကို ပေးသနားထားပါသည်ဟု လျှောက်ကြမည်၊' ငါအသျှင်သည် ဤစည်းစိမ်များထက်သာသည်ကို ပေးသနားတော်မူမည်ဟုမိန့်ရာ၊ ဤမျှကြီးမားသောစည်းစိမ်များထက် ကြီးကျယ်သောအရာ ရှိပါသေးသလားဟု မေးလျှောက်ကြမည်၊ ထိုစည်းစိမ်ကား ငါအသျှင် သင်တို့မှ အမြဲထာဝရနှစ်သက် ပျော်ရွှင်နေတော်မူမည်၊ ဘယ်သောအခါမှ မနှစ်သက်ခြင်း ဖြစ်မည်မဟုတ်ဟု မိန့်တော်မူပေမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျန္နတ်သို့ ဝင်ရမည့်သူများသည် ဂျန္နတ်သို့ရောက်ကြလေရာ၊ သင်တို့နောက်ထပ် အဘယ်အရာများ အလိုရှိကြသေးသနည်း၊ ငါအသျှင် ပေးတော်မူမည်ဟုမိန့်ရာ၊ ကျွန်တော်မျိုးများ၏ မျက်နှာကို လင်းဝင်းအောင်ပြုပေးတော်မူပြီး၊ ကျွန်တော်မျိုးများကို ဂျန္နတ်သို့ ဝင်ရောက်စေတော်မူသည်၊ ၎င်းကျွန်တော်မျိုးများကို ဂျဟန္နမ်အပါယ်ငရဲမီးဘေးမှ ချမ်းသာပေးတော်မူခဲ့သည်၊ လိုအပ်ချက်များမရှိတော့ပါဟုလျှောက်ကြပေမည်၊ ထိုအခါ အလ္လာဟ်အသျှင်မြတ်သည် 'ပရ်ဒဟ်'အကာအကွယ်ကိုဖွင့်တော်မူ၍ 'ဒီဒါရ်'ပြတော်မူမည်၊ အလ္လာဟ်အသျှင်မြတ်ကို 'ဒီဒါရ်' ဖူးမြော်ရခြင်းထက် ကောင်းသောစည်းစိမ်မှာ မရှိတော့ပေ။

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်…

وَقُوْدُهَا النَّاسُ وَالْحِجَارَةُ

ဂျဟန္နမ်၏လောင်စာသည် လူသားနှင့်ကျောက်ခဲများဖြစ်ကြသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဂျဟန္နမ် အပေါ်ယံ ရေကို နှစ်ပေါင်း(၁၀၀၀) မီးရှို့ရာ၊ အရောင်သည် နီရဲသွားသည်၊ ထို့နောက် နှစ်ပေါင်း(၁၀၀၀)မီးရှို့ပြန်ရာ ဖြူ၍သွားသည်၊ ထို့နောက်နှစ်ပေါင်း(၁၀၀၀)မီးရှို့ပြန်ရာ မည်းနက်၍သွားသည်၊ ယခုဂျဟန္နမ်သည် အပူရှိန်ပြင်းလွန်းပြီး လုံးဝ မည်းနက်နေပြီ ဖြစ်သည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့ သုံးစွဲနေကြသောမီးထက် ဂျဟန္နမ်၏မီးသည် အဆပေါင်း(၇၀) ပို၍ပြင်းထန်သည်၊ သင်တို့သုံးစွဲသည့် မီးက အဆပေါင်း(၇၀) အပူရှိန် လျော့နည်းသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကယ်၍ ကြီးကျယ်လေးလံသော ကျောက်ခဲတစ်ခဲကို ဂျဟန္နမ် နခမ်းမှ ချလိုက်လျှင် ထိုကျောက်ခဲသည် နှစ်ပေါင်း(၇၀)တိတိ ကျနေပြီးမှ ဂျဟန္နမ်အောက်ဆုံးသို့ ရောက်ရှိသွားမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျဟန္နမ်ကို ဇရဲသားများထံ အသင့် ယူလာကြမည်၊ ထိုဂျဟန္နမ်တွင် ဇက်ကြိုး(၇၀)ရှိသည်၊ တစ်ကြိုးလျှင် ဖွရစ်ရှ်တတ်ပေါင်း(၇၀)က ကိုင်၍ဆွဲယူလာကြသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့် တော်မူသည်၊ ဂျဟန္နမ်တွင် လူတစ်ယောက်ကို အပေါ့ဆုံး 'အသာဗ' ပြစ်ဒဏ်ပေးတော်မူမည်၊ ထိုသူ၏ခြေ၌ မီးဖိနပ် နှစ်ဘက်ဝင်ရှိမည်၊ သို့သော်လည်း ထိုသူ၏ ဦးနှောက်သည် အိုးကဲ့သို့ ပွက်ကျက်နေမည်၊ ၎င်းက ကျွန်ုပ်ထက်သာပို၍ အသာဗပြစ်ဒဏ်ခံရသူ မည်သူမျှမရှိဟု မှတ်ထင်နေမည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျဟန္နမ်၌ ကုလားအုတ်ကဲ့သို့ ကြီးသောမြွေများရှိသည်၊ အကယ်၍ တစ်ခါပေါက်လိုက်လျှင် နှစ်ပေါင်း(၄၀) တိတိ အဆိပ်တက်နေမည်၊ ၎င်း ကင်းသည် ချဉ်းပေါင်းကား တုပ်ထားသော လားကဲ့သို့ ကြီးမည်၊ အကယ်၍ ကင်းကထိုးမူ ရက်ပေါင်း(၄၀)တိတိ အဆိပ်တက်နေမည်။

တစ်ခါက ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် နမာဇ်စတ်ပြုပြီးနောက် 'မင်နဗရ်' ပေါ်သို့တက်လာတော်မူပြီး မိန့်သည်မှာ… ငါရစူလ်သည် ယနေ့နမာဇ်ဖတ်ရာ၌ ဂျန္နတ်နှင့်ဂျဟန္နမ်ကို မူရင်းအတိုင်း မြင်တော်မူသည်၊ ယနေ့ထိ ငါရစူလ်သည် ဂျန္နတ်ထက်ကောင်းသောအရာကို မမြင်ဘူးခဲ့၊ ၎င်းဂျဟန္နမ်ထက် ပို၍ ဒုက္ခရောက်မည့်အရာကို မမြင်ဘူးခဲ့ပေ။

# ဤအချက်များ မပါရှိက
## အီမာန် လျော့နည်းခြင်း အကြောင်း

ကလေမဟ်တွ ိုင်ယေဗဟ်သည်။ လာအေလာဟ၊ အစ်လလ္လာဟို၊ မုဟမ္မဒွရ်ရစူလွလ္လာဟေ၊ ဖြစ်သည်။

لَا اِلٰهَ اِلَّا اللّٰهُ مُحَمَّدٌ رَّسُوْلُ اللّٰهِ

ဤကလေမဟ်တော်၏ ထွတ်မြတ်ခြင်းများသည် ဟဒီးသ်တော်များ၌ မြောက်မြားစွာ လာရှိပေသည်။

၁။ အဘူဟုရိုင်ရဟ် (ရသွေ)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်‘ဗန္ဒဟ်’လူသားသည် ကလေမဟ်၊ (လာအေလာဟ၊အစ်လလ္လာဟို၊မုဟမ္မဒွရ်၊ရစူလွလ္လာဟ်)ကို စိတ်ရောကိုယ်ပါ တစ်စိတ်တစ်လက်ဖြင့်ဖတ်လျှင် ထိုကလေမဟ်တော်၏‘ဘရ္ကတ်’ဖြင့် မိုးကောင်းကင်၏ တံခါးများ ပွင့်သွားလေသည်၊ ကလေမဟ်တော်သည် မိုးများကိုဖေါက်ထွင်း၍ ကြီးကျယ်သော‘အရ်ရှ်’တော်အနီးသို့ ရောက်သွားလေသည်၊ ဤအဆင့်ရရှိရန်မှာ ကလေမဟ်တော်ဖတ်သူသည် ဂိုနာဟ်ကြီးများကို မကျူးလွန်မှသာ ဖြစ်သည်။

(တင်ရ်မေသီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၉၇။)

၂။ အဘ္ဒဒရ်ဒါအ်(ရသွေ)သခင်ကဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ- အကြင်‘ဗန္ဒဟ်’လူသားသည်ကလေမဟ်တွ ိုင်ယေဗဟ်၊ (လာအေလာဟ၊အစ်လလ္လာဟို၊မုဟမ္မဒွရ်၊ရစူလွလ္လာဟ်) ကို နေ့စဉ် အကြိမ်(၁၀၀)ဖတ်လျှင် ထိုသူ့ကို အလ္လာဟ်အသျှင်မြတ်က ‘ကေယာမတ်’နေ့တွင် လပြည့်လကဲ့သို့ မျက်နှာလင်းဝင်းသူအဖြစ် နှင့် ရှင်ပြန်ထစေတော်မူမည်၊ ထိုသူက ကလေမဟ်တော် ဖတ်သောနေ့တွင် အခြားသူက ကောင်းမှု‘အမလ်’ပြုပါက ထိုအမလ်သည် ကလေမဟ် ဖတ်သောအမလ်ထက် သာမြတ်ခြင်း၊ သာပိုနှစ်သက် လက်ခံခြင်း မရှိပေ၊ သို့သော် အခြားသူကထိုနေ့တွင် ကလေမဟ်တော်(၁၀၀)ဖတ်သည်၊ ၎င်းထို့ထက်ပို၍ဖတ်ပါက ၎င်းသူသာပို၍အကျိုးထူးရရှိပေမည်။ (တရ်ဂီးဗ်-တရ်ဟီးဗ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၉၇)

၃။ အဘူဟုရိုင်ရဟ်(ရသွေ)သခင်ကဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အရ်ရှ်တော်၏ ရှေ့တွင် ‘နူရ်’ အတိဖြစ်သော တိုင်တစ်တိုင်ရှိသည်၊ ထိုတိုင်ကို အလ္လာဟ်အသျှင်မြတ်က မိမိ၏‘ကုဒ်ရတ်’တော်ဖြင့် ဖြစ်စေတော်မူသည်၊ ထိုတိုင်ကိုပိုင်သူ၊ ဖန်ဆင်းသူသည် အလ္လာဟ်အသျှင်မြတ်သာလျှင် ဖြစ်သည်။

သို့ရှိရာ လူသားသည် 'ကလေမဟ်'တော်ကိုဖတ်ရွတ်လျှင် ထိုတိုင်သည် တုန်လှုပ်သွားလေသည်၊ အလ္လာဟ်အသျှင်မြတ်က ငြိမ်သက်ရန် မိန့်တော်မူရာ ထိုတိုင်က 'ကျွန်တော်မျိုး မငြိမ်သက်နိုင်သေးပါ၊ ကလေမဟ်ဖတ်သူကို ကိုယ်တော်အသျှင်က ယခုတိုင် ချမ်းသာ မပေးသေးပါ' ဟု လျှောက်ပေမည်၊ သင် 'ရှဖ္ဖာအတ်' ပြုသူ၊ ကလေမဟ် ဖတ်သူအား ငါအသျှင်မြတ်က အမှန်မုချ ချမ်းသာပေးတော်မူလိုက်ပြီဟု မိန့်တော်မူသော အခါကျမှ တိုင်သည်ငြိမ်သက်သွားလေသည်။ (တရ်ဂီးဗ်-တရ်ဟီးဗ်ကျမ်း အတွဲ၂၊ စာမျက်နှာ-၁၇၈)

ဟဒီးသ်တော်တွင် လာရှိသည်၊ ရစူလွ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အီမာန်နှင့် ပတ်သက်၍ အချက်ပေါင်း(၇၀)ကျော်ရှိသည်၊ အားလုံးထက် အမြင့်ဆုံး အချက်သည် (လာအေလာဟ၊ အစ်လလ္လာဟ်) ဖြစ်သည်၊ အားလုံးထက် အနိမ့်ဆုံး အချက်သည် လမ်းတွင် ဆူး,တုတ်,ခဲ စသည်များ ကျနေသည့် အတွက် လူတို့ သွားလာရာတွင် ဒုက္ခဖြစ်မည်ကို ဖယ်ရှားပေးခြင်း ဖြစ်သည်၊ အရှက်လွန်ခြေလည်း အီမာန်၏ အချက်များအနက် ကြီးသောအချက်တစ်ရပ် ဖြစ်သည်။

ဤဟဒီးသ်တော်မြတ်အရ သိရသည်မှာ.... အီမာန်နှင့် ပတ်သက်၍ ဤမျှ အချက်များရှိပေရာ ထိုအချက်အားလုံးကို လိုက်နာကျင့်သုံးပါမှ ပြည့်စုံသော မွတ်စ်လင်မ် ဖြစ်ပေမည်၊ ၎င်းအကြောင်းသူတွင် အချို့တစ်ဝက်ရှိပြီး၊ အချို့တစ်ဝက်မရှိမူ ထိုသူသည် မပြည့်စုံသော မွတ်စလင်မ်ဖြစ်သည်၊ ပြည့်စုံသော မွတ်စလင်မ်ဖြစ်ရမည်ဟု လူတိုင်း သိကြသည်၊ ထို့ကြောင့် လူတိုင်း ဤတင်ပြမည့် အချက်များကို စိတ်တွင်း၌ ကိန်းအောင်းနေစေပြီး၊ မည်သည့်အချက်မှ လက်လွတ်မသွားစေရန် ဂရုစိုက်ကြရမည်၊ ထို့ကြောင့် ကျွန်ုပ် အားလုံးသော အချက်များကို တင်ပြမည်၊ ထိုအချက်များသည်(၇၇)ချက် ရှိသည်။

စိတ်နှင့် ပတ်သက်သော အချက်(၃၀)ကား....

၁။ အလ္လာဟ်အသျှင်မြတ်အပေါ် 'အီမာန်' သက်ဝင် ယုံကြည်ရမည်။

၂။ အားလုံးသော အရာများသည် ယခင်က မရှိကြ၊ အလ္လာဟ်အသျှင်မြတ်က ဖန်ဆင်း ပြုပြင်တော်မူ၍ ပေါ်ပေါက်လာကြသည်ဟု 'အကီဒဟ်' ယုံကြည်ချက် ထားရမည်။

၃။ ဖွ်ရစ်ရှ်တဟ်များ ရှိသည်ဟု ယုံကြည်သက်ဝင်ရမည်။

၄။ အလ္လာဟ်အသျှင်မြတ်က နဗီ ရစူလ် (အလိုင်ဟေ့ မွတ်စလာမ်) သခင်များ အပေါ် ချပေးတော်မူသော ကျမ်းစာတော်များသည် အားလုံး အမှန်ချည့် ဖြစ်သည် ဟု ယုံကြည်ရမည်၊ သို့သော် ယခုမူကား ကုရ်အာန်ကျမ်းတော်မြတ်အပြင် အခြား ကျမ်းစာများအပေါ် လိုက်နာ ကျင့်သုံးခြင်း မပြုကြရ၊

၅။ အားလုံးသော နဗီ ရစူလ်များသည် အမှန်ချည့် ဖြစ် တော်မူကြ သည် ဟု ယုံကြည်ရမည်၊ သို့သော် ယခုသော်ကား ရစူလွ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ လမ်းစဉ်တော်အပေါ်၌သာ လိုက်နာကျင့်သုံးကြရမည်။

၆။ ဖြစ်ပျက်မည့်ကိစ္စအဝဝကို အလ္လာဟ်အသျှင်မြတ်သည် ယခင်ကတည်းက သိထားတော်မူသည်၊ အလ္လာဟ်အသျှင်မြတ် အလိုတော် ရှိတော်မူသည့် အတိုင်းသာ ဖြစ်ပျက်သည်ဟု ယုံကြည်ရမည်။

၇။ 'ကေယာမတ်' သည် အမှန်တစ်ကယ်ဖြစ်မည် ဟူ၍ ယုံကြည်ရမည်။

၈။ 'ဂျန္နတ်' တစ်ကယ်ရှိသည်ဟု ယုံကြည်ရမည်။

၉။ 'ဂျဟန္နမ်' တစ်ကယ်ရှိသည်ဟု ယုံကြည်ရမည်။

၁၀။ အလ္လာဟ်အသျှင်မြတ်ကို ချစ်ခင်မှုထားရမည်။

၁၁။ ရစူလလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား ချစ်ခင်မှုထားရမည်။

၁၂။ တစ်ဦးတစ်ယောက်အား ချစ်ခင်ခြင်းနှင့်မုန်းတီးခြင်းကို အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်ဖြစ်စေရမည်။

၁၃။ အလုပ်ဟူသမျှ၏ 'နီယတ်' ကို ဘာသာရေးအတွက်သာ ဖြစ်ရမည်။

၁၄။ 'ဂိုနာဟ်' အကုသိုလ် မကောင်းမှု ကျူးလွန်မိခဲ့သည်ကို နောင်တ သံဝေဂ တရား ကျရမည်။

၁၅။ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ရမည်။

၁၆။ အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်' မဟာ ကရုဏာတော်ကို မက်ထားနေရမည်။

၁၇။ အရှက်ရှိသူ ဖြစ်ရမည်။

၁၈။ စည်းစိမ်ရရာကို ကျေးဇူးတင်နေရမည်။

၁၉။ ပေးထားသော ကတိကို တည်ကြည်ရမည်။

၂၀။ သည်းခံခြင်းတရားကို လက်ကိုင်ပြုရမည်။

၂၁။ မိမိကိုယ်ကို အခြားသူများထက် နိမ့်ကျသည်ဟု ယူဆရမည်။

၂၂။ 'မခ်လူးက်' အဖန်ဆင်းခံများအပေါ် သနားညှာတာရမည်။

၂၃။ အလ္လာဟ်အသျှင်မြတ်ဘက်တော်မှ လာသော ကိစ္စအဝဝအပေါ် သဘောတူ ကျေနပ်မှု ရှိရမည်။

၂၄။ အလ္လာဟ်အသျှင်မြတ်အပေါ် ယုံပုံကိုးစားရမည်။

၂၅။ မိမိ၏ ကောင်းခြင်းတစ်ခုအပေါ် ကြွားဝါဂုဏ်ဖော်ခြင်း မပြုနှင့်။

၂၆။ မည်သူ့ကိုမျှ မလိုမုန်းထားခြင်း မပြုရ။

၂၇။ မည်သူ့ကိုမျှ မနာလို 'ဟစဒ်' မထားရ။

၂၈။ ဒေါသကို ချုပ်တီးရမည်။

၂၉။ မည်သူ၏အတွက်မှ မကောင်း အလိုမရှိထားရ။

၃၀။ ဒွန္နယာလောကကို ချစ်ခင်စွဲလန်းခြင်း မထားရ။

နှုတ်လျှာနှင့် ပတ်သက်သော အချက်(၇)ချက်ကား....

၃၁။ နှုတ်လျှာဖြင့် 'ကလေမဟ်'တော်ကို ဖတ်ရွတ်နေရမည်။
၃၂။ ကုရ်အာန်ကျမ်းတော်ကို ဖတ်ရွတ်သရဇ္ဈာယ်ရမည်။
၃၃။ 'အလ်မ်' ဘာသာရေးပညာကို သင်ယူရမည်။
၃၄။ 'အလ်မ်' ဘာသာရေးပညာကို တဆင့်သင်ပြပေးရမည်။
၃၅။ 'ဒိုအာ' ဆုမွန်များ တောင်းဆိုရမည်။
၃၆။ အလ္လာဟ်အသျှင်မြတ်အား 'သစ်က်ရ်' တ,သ ရမည်။
၃၇။ အလဟာဿ အကျိုးမရှိသောစကား နှင့် 'ဂိုနာဟ်' ဖြစ်သည့် စကားများ ဥပမာ.... မုသား၊ နောက်ကွယ်အတင်း-ဆဲရေးတိုင်းထွာခြင်း၊ ကျိန်ဆဲခြင်း၊ သီချင်းနားထောင်ခြင်းများမှ ရှောင်ကြဉ်ရမည်။

တစ်ကိုယ်လုံးနှင့် ပတ်သက်သော အချက်(၄၀)ကား....

၃၈။ 'ဝိုသူ'ပြုခြင်း၊ 'ဂွတ်စ်လ်'ပြုခြင်း၊ အဝတ်များကို သန့်ပြန့်စွာထားရမည်။
၃၉။ 'နမာဇ်'ကို ဂရုတစိုက် ဝတ်ပြုရမည်။
၄၀။ 'ဇကာတ်'၊ 'ဆွဒကဟ်-ဖွစ်တ်ရ်' ပေးရမည်။
၄၁။ 'ရိုဇဟ်' ဥပုသ် စောင့်ထိန်းရမည်။
၄၂။ 'ဟဂ်ျ' ပြုမူဆောင်ရွက်ရမည်။
၄၃။ 'အဲအ်တေကာဖ်' ထိုင်ရမည်။
၄၄။ ဘာသာရေး မလွတ်လပ်သောနေရာမှ ထွက်ခွါသွားရမည်။
၄၅။ အလ္လာဟ်အသျှင်မြတ်အတွက် ကိုးထားသည်ကို ပြည့်စုံအောင်ပြုရမည်။
၄၆။ 'ဂိုနာဟ်' မဖြစ်သော ကျိန်ဆိုထားမှုကို ပြည့်စုံစွာ လိုက်နာရမည်။
၄၇။ ပျက်သွားသော'ကဆမ်'အတွက် 'ကဖ်ဖွာရဟ်' ဒဏ်ပေးဆောင်ရမည်။
၄၈။ ကိုယ်ကာယ ဖုံးအုပ်ရန် 'ဖွရ်သ်' ဖြစ်သည့်ခန္ဓာ ဖုံးအုပ်ရမည်။
၄၉။ 'ကုရ်ဘာနီ' ပြုရမည်။
၅၀။ သေသူကို ကဖွာန်ထုတ်၍ သင်္ဂြိုဟ်ရမည်။
၅၁။ ကြွေးငွေချေးထားလျှင် ပြန်ဆပ်ရမည်။
၅၂။ အပေးအယူပြုရာ၌ 'ရှရီအတ်'တရားတော်နှင့် ကွဲလွဲသော အမှုကိစ္စများကို ရှောင်ကြဉ်ရမည်။
၅၃။ သက်သေခံရာ၌ မှန်ကန်မှုကို မဖုံးကွယ်ရ။
၅၄။ စိတ်အလိုရှိလာသောအခါ 'နေကာဟ်'ပြု, လက်ထပ်ရမည်။
၅၅။ မိမိအုပ်ချုပ်မှုအတွင်း၌ရှိသူများအတွက်ထိုသူ၏တာဝန်ကိုကျေပွန်စေရမည်၊
၅၆။ မိဘနှစ်ပါးကို သက်သာပျော်ရွှင်စွာ ထားရမည်။
၅၇။ သားသမီးများကို ကျွေးမွေး စောင့်ရှောက်ရမည်။

၅၈။ သားချင်းဆွေမျိုးများနှင့် ရိုင်းပြစွာ ဆက်ဆံမှု မပြုရ။
၅၉။ ဆရာသခင်၏ အနှ`အတာ ခံရမည်။
၆၀။ တရားမျှတမှုကို လက်ကိုင်ပြုရမည်။
၆၁။ မွတ်စလင်မ်ဂျမာအတ်အနက် ခွဲထွက်၍ နည်းလမ်းတစ်ခုကိုတစ်သီးတစ်ခြား မပြုလုပ်နှင့်။
၆၂။ အုပ်ချုပ်သူ၏ အမိန့်စကားကို နာခံရမည်၊ သို့သော် 'ရှရီအတ်'တရားတော် နှင့် ကွဲလွဲသော ကိစ္စတွင် မနာခံရ။
၆၃။ ရန်ဖြစ်သူများကို ကြားဝင်၍ စေ့စပ်ပေးကုန်။
၆၄။ ကောင်းသော အလုပ်ကို ဝင်ရောက် ကူညီပေးကုန်။
၆၅။ ကောင်းမှုကို ညွှန်ကြား၍၊ မကောင်းမှုကို တားမြစ်ရမည်။
၆၆။ အကယ်၍ တိုင်းပြည် အုပ်ချုပ်နိုင်သူဖြစ်ပါက 'ရှရီအတ်'တရားတော်နှင့် အညီ ပြစ်ဒဏ်ပေးကုန်။
၆၇။ အကယ်၍ အချိန်ရှိလျှင် (ဝါ) ဖြစ်နိုင်လျှင် သာသနာ့ ရန်သူများနှင့် တိုက်ခိုက်ကုန်။
၆၈။ အပ်နှံသော ပစ္စည်းကို ပြန်ပေးကုန်။
၆၉။ လိုအပ်သောသူကို ချေးကုန်။
၇၀။ အိမ်နီးချင်းကိုကောင်းစွာဆက်ဆံကုန်။
၇၁။ ပစ္စည်းကို သန့်သန့်ရှင်းရှင်း ရှာဖွေကုန်။
၇၂။ သုံးစွဲမှုကို 'ရှရီအတ်'နှင့် အညီ သုံးကုန်။
၇၃။ စလာမ်ပေး, နှုတ်ခွန်းဆက်သည်ကို ပြန်လည် နှုတ်ခွန်းဆက်ကုန်။
၇၄။ အကယ်၍ တစ်ဦးတစ်ယောက်သည် ချီ၍ (အလ်ဟမ်ဒို၊လစ်လ္လာဟ်)ဟု ဆိုလျှင်၊ ကြားသူက (ယရ်ဟမိုကလ္လာဟ်) ဆိုကုန်။
၇၅။ မည်သူ့ကိုမှ မတရားသဖြင့် ဒုက္ခမပေးနှင့်။
၇၆။ 'ရှရီအတ်' တရားတော်မြတ် နှင့် ကွဲလွဲ ဆန့်ကျင်သော ပြပွဲ ပြိုင်ပွဲ များမှ ရှောင်ကြဉ်ကုန်။
၇၇။ လမ်း၌ကျနေသော မြေစိုင်ခဲ၊ကျောက်ခဲ၊ ဆူး၊ သစ်သားများ ဖယ်ပစ်ကုန်။

တင်ပြပါအချက်များ၏ အကျိုးကျေးဇူးများကို တစ်သီးတစ်ခြားစီ အကျယ်တဝင့် သိလိုပါက (ဖွ`ရှုအ္ဗလ်အီမာန်ကျမ်းနှင့် တပ်က်မီလွှလ်အီမာန်ကျမ်း) ကို ဖတ်ရှုကြကုန်။

# မိမိကိုယ်နှင့် အခြားသူများကို ပျက်စီးစေခြင်း အကြောင်း

*အထက်*တွင် ကောင်းမှု ကိစ္စများ နှင့် မကောင်းသော လုပ်ငန်းများ၊ ကုသိုလ် 'သဝါဗ်'နှင့် 'အသာဗ်'ပြစ်ဒဏ်များ အကြောင်းများကို တင်ပြခဲ့လေသည်၊ ဤသည်၌ အချက်နှစ်ရပ်မှာ အဓိကအချက်ဖြစ်သည်။

ပထမ အချက်မှာ.... မိမိ၏ စိတ်နှလုံး ဖြစ်သည်၊ အချိန်တိုင်းတွင် ရင်ခွင်၌ရှိပြီး၊ အမျိုးမျိုးသော ကိစ္စများကို စဉ်းစားအကြံထုတ်သည်၊ ကောင်းမှုများအတွက် ဆင်ချေထုတ်သည်၊ ၎င်းမကောင်းမှုများအတွက် လိုအပ်ချက်များကို ပြောပြသည်၊ 'အသာဗ်' ဖြစ်ဒဏ်ရဲဖြင့်ခြောက်လှန့်ရာ၊ အလ္လာဟ်အသျှင်မြတ်သည် (ဂဖ္ဖူရွှရ်ရဟီးမ်)မဟာကရုဏာတော်ရှင်ဖြစ်ကြောင်း သတိရစေသည်၊ အပေါ်မှ ရှိုင်တွာန်မိစ္ဆာက ထိုစိတ်ကိုအားပေးအားမြှောက် ပြုလေသည်။

ဒုတိယ အချက်မှာ.... နီးစပ်ရာသူများနှင့် ပတ်သက်၍ဖြစ်လေသည်၊ နီးစပ်သော ဆွေမျိုးများ၊ သားချင်းသင်္ဂဟများနှင့် ရွာသား-အရပ်သားများ ဖြစ်ကြသည်၊ အချို့သော 'ဂိုနာဟ်'အကုသိုလ်များသည် ၎င်းတို့နှင့်ထိုင်၍ မကောင်းသောအလေ့ အပြုအမူများ ကျူးလွန်ချင်လာပေသည်၊ ၎င်း အချို့သော 'ဂိုနာဟ်'များသည် ထိုသူတို့အား ထောက်ထားမှုအတွက် ဖြစ်ရပေသည်၊ ၎င်းအချို့သော 'ဂိုနာဟ်'များသည် ထိုသူတို့ထံ ဂုဏ်မငယ်စေရန်အတွက်ဖြစ်ရသည်၊ ၎င်းအချို့သော'ဂိုနာဟ်'သည် ၎င်းတို့က ဆက်ဆံမှု မကောင်းသောကြောင့် ကျူးလွန်မိရပေသည်၊ အချိန် အချို့သည် ထိုမကောင်းစွာ ဆက်ဆံမှုကိုစဉ်းစား၍ကုန်ရသည်၊ အချိန်အချို့သည် ထိုသူတို့အား နောက်ကွယ်အတင်းပြော၍ ၎င်းလက်စားချေရန် စဉ်းစားခြင်း၌ ကုန်လွန်လေသည်၊ ဤသို့ဖြင့် အမျိုးမျိုးသော 'ဂိုနာဟ်'များ ပေါ်ပေါက်လာရလေသည်။

အချုပ်မှာ.... မကောင်းမှု 'ဂိုနာဟ်' အားလုံးသည် 'နဖ်စ်' စိတ် အလိုလိုက်မှုနှင့် လူတို့အား ဆက်ဆံမှုကောင်းရန်အတွက်ဟု အကြောင်းပြသောကြောင့် ပေါ်ပေါက်လာရခြင်းဖြစ်ပေသည်၊ ထို့ကြောင့် ဤမကောင်းသောအချက်များမှ ရှောင်ရှားရန် အချက်နှစ်ချက်မှာ အရေးကြီးပေသည်။

ပထမအချက်မှာ.... မိမိနဖ်စ်စိတ်ကို နှိမ်ရမည်၊ တစ်ခါတစ်ရံ စိတ်ကို ဖျောင်းဖျ၍၊ တစ်ခါတစ်ရံ ငေါက်ငမ်း၍ သာသနာတော်လမ်းစဉ်သို့ရောက်အောင် ပြုမူရမည်။

ဒုတိယမှာ.... လူအားလုံးနှင့် သွားလာဆက်ဆံခြင်းမပြုနှင့်၊ ၎င်းတို့က ခပ်ခွာခွာနေသဖြင့် အကောင်းပြောမည်, မကောင်းပြောမည်ကို ဂရုမစိုက်နှင့်၊ ထို့ကြောင့် ဤအရေးကြီးသော အချက်နှစ်ရပ်ကို တစ်သီးတစ်ခြားစီ ရေးပြမည်။

## မိမိ၏ 'နဖ်စ်' စိတ် နှင့် ဆက်ဆံရန် အကြောင်း

'နဖ်စ်'သည် (၃)မျိုး ရှိသည်။ (၁)နဖ်စ်အမ္မာရဟ်၊ (၂)နဖ်စ်လောင်ဝါမဟ်၊ (၃)နဖ်စ်မွှဘွ ိမအင်နဟ်။ အစိပ္ပါယ်မှာ.... နဖ်စ်သည် တစ်မျိုးတည်း ဖြစ်သော်လည်း လက္ခဏာမှာ (၃)မျိုး ပြား၏။

နဖ်စ်အမ္မာရဟ်သည် အချိန်ဟူသရွေ့ ဂိုနာဟ်များနှင့် မကောင်းသော လမ်းသို့ လိုက်ရန် ညွှတ်ကိုင်းနေပေသည်။

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ....

قَدْ أَفْلَحَ مَنْ زَكّٰهَا وَقَدْ خَابَ مَنْ دَسّٰهَا

အဓိပ္ပါယ် .. အကြင်သူသည် အသက် (စိတ်)ကို မကောင်းမှုများမှ တားဆီး၍ ကောင်းမှုများဘက်သို့ ရောက်အောင်ပြုလျှင် ထိုသူသည် မုချ အောင်မြင် ထမြောက်သူဖြစ်သည်၊ ၎င်းမကောင်းမှုများဖြင့် နှစ်မြုပ်စေသူသည် အလိုမပြည့်သူဖြစ်သည်။

ဤတင်ပြချက်အရ နှစ်ပိုင်းကွဲပြား၍သွားသည်၊ တစ်ဦးမှာ အလ္လာဟ်အသျှင်မြတ် လမ်းတော်ကိုလိုက်သူ၊ အခြားတစ်ဦးမှာ နဖ်စ်အမ္မာရဟ်နောက်လိုက်သူဖြစ်သည်၊ နှစ်ဦး၏ ပမာ ဤသို့ရှိသည်။

တစ်ဦးသည် နေ့ရောညပါ တစ်စိတ်တစ်လက်ဖြင့် ဂရုတစ်စိုက် နမာဇ်ဖတ်သည်၊ ကုရ်အာန်ကျမ်းတော်သရဇ္ဈာယ်သည်၊ အလ္လာဟ်အသျှင်မြတ်ကို သတိရခြင်း၌ မွေ့လျော်၍ နေသည်၊ ဤသို့သောသူသည် 'နဖ်စ်'ကိုသန့်ရှင်းအောင်ပြုသူများ၌ ပါဝင်လေသည်၊ ၎င်း 'နဖ်စ်မွတ္တ မအင်နဟ်'နှင့် ထိုက်သက်သူဟု ခေါ်ဆိုရပေမည်။

အခြားတစ်ဦးသည် နေ့-ည 'ဂိုနာဟ်'များ၌ နစ်မွန်းနေသည်၊ ၎င်းမကောင်းသော လမ်းတွင်လျှောက်နေသည်၊ ဤသို့သောသူသည် 'နဖ်စ်အမ္မာရဟ်'နောက် လိုက်သူဖြစ်သည်။

'နဖ်စ်လောင်ဝါမဟ်'သည် မိမိကိုယ်ကို ဂိုနာဟ် ကျူးလွန်မိသည့်အတွက် ပြစ်တင် ရှုတ်ချသူဖြစ်သည်၊ ဆုံးမရန်မှာ- အို....'နဖ်စ်'၊ သင်သည် အဘယ့်ကြောင့် ဂိုနာဟ် ကျူးလွန်သနည်း၊ သတိထားကုန်၊ နောက်နောင် ဂိုနာဟ်ကဗီရဟ် ဖြစ်စေ၊ စွဂီရဟ် ဖြစ်စေ မကျူးလွန်နှင့်၊ အလျှင်း စိတ်ကူးပင် မထည့်နှင့်။

'နဖ်စ်'ကို ထိန်းသိမ်းရန်မှာ.... 'မို့ဂျာဟဒဟ်'ပြုရမည်၊ (ဝ၊) ကောင်းမှုကုသိုလ် အတွက် အားထုတ်၍ အပြစ်များမှရှောင်ကြဉ်နိုင်ရန် အားထုတ်ရမည်၊ အဘယ့်ကြောင့် ဆိုသော် မို့ဂျာဟဒဟ်မပြုဘဲ မည်သူမျှ မအောင်မြင်နိုင်ပေ၊ မောင်လာနာရူမီ (ရဟမ တွလ္လာဟ်) သခင်က မိန့်တော်မူသည်။

نفس نتوان کشت الاظل پیر سایۂ ان نفس کش را سخت گیر

ပြည့်စုံသောသူတော်ကောင်း၏ အရိပ်အောက်တွင်နေပြီး တပည့်ခံ၍နေလျှင် နဖ်စ် ကို နိုင်နင်းမည်ဖြစ်ပေသည်၊ ထို့ကြောင့် အို....မေ့လျော့နေသူ ထိုနဖ်စ်ကိုနိုင်နင်းရန်နှင့် ထိုနဖ်စ်ကို ပြုပြင်ပေးသူ၏အရိပ်ကို စွဲမြဲစွာ ကိုင်တွယ်ထားကုန်။

နဖ်စ်ကို သူတော်စင်များ၊ 'ရှိုင်ခ်'သခင်များက ဆက်ဆံသကဲ့သို့ ဆက်ဆံကုန်။ ထို့ကြောင့် 'ရှိုင်ခ်' သခင်၏ တပည့်ခံနေရန်မှာ အရေးကြီးသည်၊ သို့ရှိရာ ပြည့်စုံသော

ရှိုင်ခ် ဆရာထံနေ၍ မိမိ၏ ရောင်းဝယ်မှုနှင့် ဆန္ဒများကို အပ်နှင်းပြီး ဆရာအမိန့်ပေးသည့် အတိုင်း လိုက်နာပြုမူပါမူ အလ္လာဟ်အာရှင်မြတ်၏ အလိုတော်ဖြင့် ဆောလျင်စွာ နဖ်စ်ကို အောင်နိုင်မည် ဖြစ်ပေသည်။

နံနက်အချိန်, ၎င်းညနေအချိန်နှင့် အိပ်ခါနီးအချိန်တွင်ဂရုတစ်စိုက် အနည်းငယ်မျှ အချိန်သတ်မှတ်ထားကုန်၊ ထိုအချိန်၌ တစ်ကိုယ်တည်းထိုင်၍ မိမိစိတ်တွင်းမှ တတ်နိုင်သည်ခန့် အခြားသော အကြောင်းကိစ္စများကို ထုတ်ပယ်ပြီး မိမိစိတ်ကို ဤသို့ပြောဆိုရမည်။

အို...နဖ်စ် သင်သည် လောက၌ ကုန်သည်တစ်ဦးပမာဖြစ်သည်၊ အရင်းအနှီးသည် သင်၏ အသက်ဖြစ်သည် အမြတ်အစွန်းမှာ ထာဝရ ကောင်းစားနေမှု (ဝါ) နောင်အာခေရတ်တွင် အပြစ်ငရဲ 'အဇာဗ်' မှ လွတ်ကင်းမှု ဖြစ်သည်၊ ဤစည်းစိမ်ကို ရရှိလျှင် ကုန်ရောင်းကုန်ဝယ်ပြုရာ၌ အမြတ်အစွန်း ပေါ်သည်ပင်ဖြစ်သည်၊ ၎င်းအကယ်၍ အသက်ကို အကျိုးမဲ့ကုန်လွန်စေ၍ ကောင်းမှုကုသိုလ် ပွားများခြင်းမပြုလျှင် အရင်းလည်း ဆုံး၍ အမြတ်လည်း မပေါ်ပေ၊၎င်းဤအရင်းအနှီးသည် စက္ကန့်တိုင်းသာမက အသက်တစ်ရှူပင် အလွန် အဖိုးထိုက်တန်လှသည်၊ ဘဏ္ဍာတော်တစ်ခုသည် မည်မျှပင် အဖိုးထိုက်တန်သော်လည်း ဤအသက်နှင့် အညီအမျှမဖြစ်နိုင် နှိုင်းယှဉ်၍မရပေ၊ အဘယ့်ကြောင့် ဆိုသော် ဘဏ္ဍာသည် အကယ်၍ ကုန်ခန်းသွားပါက ကြိုးစားမှုဖြင့် အခြားဘဏ္ဍာတစ်ခု ရရှိနိုင်လေသည်၊ အသက်သည် ကုန်လွန်သွားသော တစ်စက္ကန့်ပင် ပြန်မရနိုင် တစ်ဖန်အသက်ရှင်လာမှုလည်း မဖြစ်နိုင်ပေ။

ဤအသက်ဖြင့် ကြီးကျယ်သော စည်းစိမ် ရှာဖွေနိုင်သည် (ဝါ)အမြဲထာဝရ ဂျန္နတ် ဥယျာဉ်ဘုံနန်းတွင် နေရပြီး၊အလ္လာဟ်အာရှင်မြတ်အား 'ဒီဒါရ်' ဖူးတွေ့ရသည့်ဖြင့် ချစ်ခင်နှစ်သက်မှုလည်း ခံရမည်ဖြစ်သည်၊ ဤမျှ ကြီးမားသော စည်းစိမ်တော်ကို မည်သည့် ဘဏ္ဍာတော်ဖြင့်လည်း မဝယ်ယူနိုင်ပေ၊ ထို့ကြောင့်ကောင်းမှု ရှာဖွေပွားများခြင်းသည် အလွန်အဖိုးထိုက်တန်သော ရတနာဖြစ်ပေသည်။

အို....နဖ်စ်၊ အလ္လာဟ်အာရှင်မြတ်၏ မဟာကျေးဇူးတော်ကိုသိကုန်၊ ယခုသင်မသေသေး၊ အလ္လာဟ်အာရှင်မြတ်က ယနေ့သင့်ကို အသက်နှင့်ပင် ထားတော်မူသေးသည်၊ အကယ်၍ သင်သေဆုံးသွားပါက တစ်ရက်လောက် ပြန်ရှင်လျှင် အဘယ်မျှ ကောင်းမည်နည်းဟု စိတ်ရောကိုယ်ပါ လိုလားတောင့်တမည်ဖြစ်သည်၊ထိုရသောတစ်ရက်တွင် ဂိုနာဟ် အပေါင်းမှ စိတ်ရောကိုယ်ပါ 'တောင်ဗဟ်' ပြု, အမှားဝန်ခံ၍ ထိုသို့သော 'ဂိုနာဟ်' များ အနီးသို့ပင် နောက်နောင် မချဉ်းကပ်တော့ပါ၊ တစ်နေ့လုံး အလ္လာဟ်အာရှင်မြတ်၏အမိန့်တော်ကိုနာခံ၍ 'အမလ်' အေဗာဒတ် ဆောက်တည်နေပါမည်ဟု အလ္လာဟ်အာရှင်မြတ်အား ဝန်ခံကတိ ပေးချင်လာပေမည်။

သို့ရှိရာ သေခါနီးတွင် ဤသို့ စိတ်ကူးလိုလားမှု ရှိပါက ယခုကျန်ုပ်သေခါနီးပြီဟု မှတ်ထင်ကုန် ကျွန်ုပ်က ရက်ပိုတောင်းသဖြင့် အလ္လာဟ်အာရှင်မြတ်က ရက်ပိုပေးထား

သည်ဟု ယူဆကာနှင့်၊ ဤနေ့ ကုန်ဆုံးသွားပါက နောက်နေ့နေရမည်၊ မနေရမည်ကို မသိဟု အောက်မေ့ကာနှင့်၊ သို့ရှိရာ ထိုနေ့ကို ထိုသို့ပင်ယူဆ၍ ကုန်လွန်စေရမည်၊ (ဝ1) နောက်ဆုံး နေရသည့်နေ့ဟု ယူဆကာ ‘ဂိုနာဟ်’အားလုံးကိုတစ်စိတ်တစ်လက် ‘တောင်ဗဟ်’ပြု၊ အမှား ဝန်ခံရမည်၊ ၎င်းထိုနေ့၌ ‘ဂိုနာဟ်’ အကြီး၊ အသေးကို လုံးဝမပြုမူနှင့် တစ်နေ့လုံး အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့၍ စိတ်စိုက်၍ ကုန်စေရမည်၊ ၎င်းအလ္လာဟ်အသျှင် မြတ်၏ မည်သည့်အမိန့်ကိုမျှ လိုက်နာမှုတွင် ပျက်ကွက်ခြင်း မဖြစ်စေနှင့် ဤသို့ပင် နောက်နေ့ကိုလည်း ရှင်နေရန် နောက်ဆုံးနေ့ ဖြစ်သည်ဟူ၍ စဉ်းစားယူဆကာ ကောင်းမှု များပွားစေ၍ မကောင်းမှုများမှ ရှောင်ကြဉ်ရမည်။

အို...နဖ်စ်၊ အလ္လာဟ်အသျှင်မြတ်သည် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည် ဟူ၍ မှတ်ထင်ခြင်းမပြုနှင့် အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အသျှင်မြတ်က လွတ်ငြိမ်း ချမ်းသာခွင့် ပေးတော်မူမည် ဖြစ်ဒဏ်ပေးတော်မူမည်မဟုတ်ဟု မည်သို့သိသနည်း။အကယ်၍ အပြစ်ဒဏ် ပေးတော်မူလိုက်လျှင်သင်အဘယ်သို့ ပြုမည်နည်း၊ ထိုအခါ သင်သည် နောင်တ သံဝေဂတရား ရရှိပေမည်၊ ၎င်းအကယ်၍ လွတ်ငြိမ်းချမ်းသာခွင့်ရသည့် ဆိုစေကာမူ ကောင်းမှုပြုသူများ ရရှိသည့် အဆင့်အတန်းကို သင်ရရှိမည် မဟုတ်ပေ၊ သို့ရှိရာ သင်သည် အခြားသူ စည်းစိမ် ရရှိကာ သင့်မှာ မရသည်ကို မြင်တွေ့ရမူ သင်သည် အဘယ်မျှ ဝမ်းနည်း ပူဆွေးခြင်း ဖြစ်မည်နည်း။

ဤသို့ဆိုလျှင် ကျွန်ုပ် မည်သို့ ပြုမူကြိုးစားရမည်နည်းဟု နဖ်စ်ကမေးလျှင် ဤသို့ ဖြေကာနှင့်၊ သင်သေဆုံးလျှင် ခွဲခွာရမည့်လောကနှင့် မကောင်းသောအလေ့များကို ယခု ကတည်းက စွန့်လွှတ်ကာနှင့်၊ ၎င်းသင့်အတွက် လိုအပ်သောအချက် (ဝ1) အလ္လာဟ်အသျှင် မြတ်နှင့် ထိုအသျှင် သဘောတူသောလမ်းစဉ်ကို ယခုကတည်းက လက်ကိုင်ပြုကာနှင့်၊ ၎င်း ထိုအသျှင်ကို သတိရလျက် အမိန့်နာခံခြင်းပြုကာနှင့်၊ မကောင်းသော အလေ့များ အကြောင်းနှင့်၎င်းတို့ကို ရှောင်ရှားရန်နည်းလမ်းများနှင့် အလ္လာဟ်အသျှင်မြတ်သဘောတူ စေမည့် နည်းလမ်းများအကြောင်းကို အကျယ်တစ်ဝင့် ရေးခဲ့ပေပြီ၊ ထို့အတိုင်း ကြိုးစား ဆောက်တည်ခြင်းဖြင့် စိတ်မှမကောင်းမှုများ ထွက်ခွာသွားကာ ကောင်းမှု ‘အမလ်’ များ စွဲငြိသွားပေမည်။

၎င်း မိမိ နဖ်စ်ကို ပြောကာနှင့်၊ အို စိတ်၊ သင်သည် ရောဂါသည်ပမာ ဖြစ်သည်၊ ရောဂါသည်သည် မသင့်လျော်သော အနေအထိုင်၊ အသွားအလာ၊ အစားအသောက် များမှ ရှောင်ကြဉ်ရလေသည် ၎င်း ‘ဂိုနာဟ်’ ကျူးလွန်ခြင်းသည် မရှောင်ကြဉ်ခြင်း ဖြစ်သည်၊ ထို့ကြောင့်‘ဂိုနာဟ်’အကုသိုလ်များမှ ရှောင်ရန်အရေးကြီးလှပေသည်၊ ဤသို့ ရာသက်ပန်‘ဂိုနာဟ်’များမှရှောင်ရန် အလ္လာဟ်အသျှင်မြတ်က ဖြဋ္ဌာန်းထားတော်မူသည်။

စဉ်းစားရန်အချက်မှာ.... အကယ်၍ လောကရှိ အောက်တန်းအကျဆုံး ဆေး ဆရာတစ်ယောက်က ရောဂါဖြင်းသူအား မည်သည့် အရသာရှိသောအစာကို မစားနှင့် စားခဲ့သော် ရောဂါတိုးမည်၊ သင့်မှာ ဝေဒနာပို၍ ခံစားရမည်၊ ၎င်းမည်သည့် ခါးသော

အရသာမရှိသော ဆေးကိုနေ့စဉ်စားပါက ရောဂါသက်သာမည်၊ ဒုက္ခရောက်မည်မဟုတ်ဟု ပြောပါက မိမိအသက်ကို ချစ်မြတ်နိုးသည် ဖြစ်ရကား ဆေးဆရာ၏ ပြောဆိုချက်အရ အရသာရှိသော တားမြစ်သည့် အစားအသောက် တစ်သက်လုံးစွန့်ပယ်၍ ညွှန်ကြားသော ခါးသည့်ဆေးကို နေ့စဉ် သောက်သုံးပေမည်။

'ဂိုနာဟ်အကုသိုလ်သည်အလွန်အရသာရှိပြီး 'အမလ်' ကောင်းမှုကုသိုလ်သည် မနှစ်သက်ဖွယ်ဖြစ်သည်၊ သို့သော် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ထိုအရသာရှိသောအရာများကို ဆုံးရှုံးနစ်နာစေသည်ဟုမိန့်ပြီး ထိုမနှစ်သက်ကြသော အရာများကို အကျိုးကျေးဇူးရှိသည်ဟု မိန့်ထားသည်၊ နစ်နာဆုံးရှုံးမှုနှင့် အကျိုးကျေးဇူး မှာကား 'ဂျဟန္နမ်' နှင့် 'ဂျန္နတ်' ဖြစ်သည်။

အို.... နဖ်စ်၊ အံ့ဩဖွယ်ရာ, ဝမ်းနည်းဖွယ်ရာ ဖြစ်သည်၊ အသက်ကို ချစ်ခင်ပြီး အညံ့စား ဆေးဆရာ၏ ပြောဆိုချက်ကို ယုံကြည်ကာ လိုက်နာသည်၊ ၎င်းမိမိအိမာန်ကို ချစ်ခင်စွာဖြင့် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်များအပေါ် စိတ်မစိုက် 'ဂိုနာဟ်' အကုသိုလ်များကို စွန့်လွှတ်ရန် မကြိုးစား၊ ကောင်းမှုကုသိုလ် 'အမလ်' များဆောက်တည်ရန် စိတ်ပါဝင်စားခြင်းမရှိမှု သင်သည် အဘယ်သို့သော မှတ်စလင်မ် ဖြစ်ဘိသနည်း၊ (တောင်ဗဟ်-တောင်ဗဟ်) အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကို အညံ့စားဆေးဆရာ၏ စကားလောက်မျှ တန်ဖိုးမထားပေ၊ ၎င်းအဘယ်မျှ ဉာဏ်မရှိခြင်းဖြစ်သနည်း၊ အမြဲထာဝရ 'ဂျန္နတ်' တွင် စည်းစိမ်သုခဖြင့် နေထိုင်ရမည်ကို လောက၏ ရက်အနည်းငယ် စည်းစိမ်လောက်မျှ တန်ဖိုးမထားပေ၊ ၎င်း 'ဂျဟန္နမ်' ၏ ရှည်လျားပြင်းပြသော ငရဲဒုက္ခကို ဒွန္နယာလောက၏ အနည်းငယ်သောဒုက္ခမျှ ရှောင်ကြဉ်သည့်နှယ်ပင် လွတ်ကင်းအောင် မကြိုးစားပေ။

၎င်း နဖ်စ် စိတ်အား ဤသို့ပြောကုန်၊ အို.... စိတ်၊ ဒွန္နယာလောကသည် ခရီးသွားလာရသောနေရာဖြစ်သည်၊ ခရီးသွားရာ၌ သက်သာမှုနှင့် စည်းစိမ်အလျဉ်းမရနိုင်ပေ၊ ဒုက္ခအမျိုးမျိုးကို ခံရသည်ပင်ဖြစ်သည်၊ သို့သော် ခရီးသည်,သည် ခရီး၏ဒုက္ခကို ခံရခြင်းမှာ အိမ်ရောက်လျှင် သက်သာမှုရရှိရန် အတွက်ဖြစ်သည်၊ အကယ်၍ ခရီး၏ဒုက္ခမခံချင်ဘဲ ဇရပ်တစ်ခုတွင် တည်းခို၍ ထိုဇရပ်ကို မိမိအိမ်သဘောပြု၍ သက်သာမှု အသုံးအဆောင် အားလုံးကိုစုရုံးထား၍နေလိုက်လျှင် တစ်သက်လုံးမိမိ၏အိမ်သို့ရောက်တော့မည် မဟုတ်ပေ၊ ဤသို့ပင် လောကတွင် နေသရွေ့ ကြိုးပမ်းဒုက္ခခံရန်ထိုက်သည်၊ အေဗာဒတ်ခံ,ဝပ်မှု ပြုရာတွင် ကြိုးပမ်းမှုရှိသည်၊ 'ဂိုနာဟ်' အကုသိုလ်များကို ရှောင်ခြင်းမှာလည်း ဒုက္ခရှိလေသည်၊ ထို့ပြင် အမျိုးမျိုးသောဒုက္ခများ ရှိလေသည်။

သို့သော် နောဝ် အာခေရတ်သည် ကျွန်ုပ်တို့၏ အိမ်ဖြစ်သည်၊ ထိုဌာနသို့ရောက်သောအခါ ဒုက္ခအားလုံး ပ,ပျောက်သွားလေသည်၊ လောက၏ ဒုက္ခပင်ပန်းမှုကို ခံကြရန်ထိုက်သည်၊ အကယ်၍ လောကတွင် သက်သာမှုကို ရှာဖွေနေမှု အဓိက အိမ်သို့ရောက်သောအခါ သက်သာမှုစည်းစိမ် ရရန်ခဲယဉ်းသည်၊ သို့ရှိရာ ဤအသိကို ရင်ဝယ်ပိုက်၍

လောက၏ သာယာမှုနှင့် အရသာကို လိုဘရမ္မက် မထားရန် ထိုက်သည်၊ ၎င်းနောင် အာခေရတ် ဖြောင့်ဖြူးမှန်ကန်စေရန်အတွက် အမျိုးမျိုးသော ကြိုးပမ်းမှုကို ပျော်ရွှင်ဝမ်းမြောက်စွာ ခံယူကြရန်ထိုက်သည်။

အချုပ်မှာ ဤ,ဤသောအကြောင်းများကို 'နဖ်စ်'စိတ်အားပြောပြ၍ ထို'နဖ်စ်'ကို လမ်းမှန်သို့ ရောက်စေရမည်၊ နေ့စဉ် ဤသို့ပင် ဆုံးမနေရမည်၊ သတိပြုရန် အချက်မှာ အကယ်၍ သင်သည် ဤသို့ မိမိကိုယ်ကို ကောင်းမွန်စေရန်နှင့် ဖြောင့်ဖြူးသောလမ်းသို့ ရောက်အောင် မကြိုးစားလျှင် သင်ကောင်းမွန်စေရန်အတွက် မည်သူကလာ၍ ပြုပေးမည်နည်း၊ ကျွန်ုပ်သည် ဤမျှရေးပြခဲ့ပေပြီ၊ ယခု သင်၏အလုပ်ဖြစ်၍ သင်သာလျှင်မိမိလုပ်ရပ်ကို သိ၍ ကြိုးစားမှုကို ပြုလေလော့။

## အခြားသောသူများနှင့် ဆက်ဆံရန်အကြောင်း

လူအတန်းအစားသည် သုံးမျိုး, သုံးစား ရှိသည်။

(၁) မိတ်ဆွေနှင့် ဆွေမျိုးတော်စပ်သူများ။
(၂) သိကျွမ်းရုံပင် ရှိသူများ။
(၃) သိကျွမ်းမှုပင် မရှိသူများ။

အသီးသီးတို့နှင့် ဆက်ဆံမှုမှာ တစ်မျိုးစီဖြစ်ပေသည်၊ သို့ရှိရာ သိကျွမ်းမှုပင် မရှိသူများနှင့် တွေ့ရန် အတူထိုင်ရန်ဖြစ်ခဲ့မူ သတိထားရမည်မှာ ထိုသူတို့က ဟိုဟိုသည်သည် စကားများ၊ သတင်းများ ပြောကြလျှင် ထိုသူတို့ဘက်သို့ နားမစိုက်နှင့်၊ ထိုသူတို့က အကျိုးမရှိသော စကားများကို ပြောဆိုကြလျှင် နားမကြားသူပမာနေကုန်၊ ထိုသူတို့နှင့် များစွာ မတွေ့ဆုံနှင့်၊ ထိုသူတို့ထံမှ တစ်စုံတစ်ရာ မက်မထားနှင့် တောင်းဆိုမှုလည်း မပြုနှင့် ၎င်းအကယ်၍ ထိုသူတို့မှ 'ရှရီအတ်' တရားတော်နှင့်ဆန့်ကျင်ကွဲလွဲမှု ပြုသည်, ပြောသည်ကို တွေ့ရမူ ဆုံးမခြင်းကို နာခံမည်ဟုထင်ပါက ချိုသာနူးညံ့စွာ ပြောဆိုဆုံးမရမည်။

မိတ်ဆွေနှင့် ရင်းနှီးသူများ၊ ထိုသူတို့နှင့်ပတ်သက်၍ သတိထားရန် အချက်မှာ လူတိုင်းနှင့်မိတ်ဆွေ ၎င်းရင်းနှီးစွာ ဆက်ဆံမှုမပြုနှင့်၊ အဘယ့်ကြောင့်ဆိုသော် လူတိုင်းသည် ရင်းနှီးစွာ ဆက်ဆံထိုက်သူများ မဟုတ်ကြပေ၊ သို့သော်တင်ပြမည့် (၅) ချက်သော အချက်နှင့် ကိုက်ညီသူအား မိတ်ဆွေအဖြစ် ရင်းနှီးစွာ ဆက်ဆံလျှင် ကိစ္စမရှိပေ၊

ပထမအချက်။

ထိုသူသည် ဉာဏ်ရှိသူဖြစ်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဉာဏ်မရှိသူ လူအနှင့် ပထမသော်ကား မိတ်ဆွေအဖြစ် ရင်းနှီးစွာဆက်ဆံရန် မဖြစ်နိုင်ပေ၊ ဒုတိယမှာ တစ်ခါ တစ်ရံ သင့်ကို အကျိုးဖြစ်ထွန်းရန် ကြိုးစားသည်၊ သို့သော်လည်း မိုက်မဲအသိမရှိမှုကြောင့်

ပြောင်းပြန်ဒုက္ခရောက်ရပေသည်၊ ဥပမာ- လူဆောင်ရယ်ာက်က ဝက်ဝံမွေးထားသည်၊ တစ်ခါက ထိုသူသည်အိပ်နေရာ ယင်ကောင်တစ်ကောင်သည် ၎င်းသူ၏မျက်နှာပေါ်သို့ လာ၍ လာနားသည်၊ ထိုဝက်ဝံသည် ၎င်းသည်ကိုမြင်၍ ဒေါသဖြစ်လာသည်၊ ယင်ကောင်ကို သတ်ရန် ကျောက်ခဲကြီးတစ်ခုကိုယူလာသည်၊ ယင်ကောင်ကိုချိန်၍ထိုသူ၏မျက်နှာပေါ်သို့ပစ်ပေါက်လိုက်သည်၊ ယင်ကောင်မှာကားပျံသွားသည်၊ ထိုသူ၏ခေါင်းမှာ စိစိညက်ကြေသွားသည်။

ဒုတိယအချက်....

ထိုသူ၏ အကျင့်စာရိတ္တနှင့် သဘောကောင်းရမည်၊ မိမိ အကျိုးအတွက် လာ၍ မိတ်ဖွဲ့သူမဖြစ်စေရ၊ ဒေါသကို မထိန်းသိမ်းနိုင်သူ မဖြစ်စေရ၊ အနည်းငယ်မျှအကြောင်းအချက်ဖြင့် ကြက်တူရွေးကဲ့သို့ မျက်လုံးပြောင်းသူ မဖြစ်စေရ။

တတိယအချက်....

ဘာသာရေး လိုက်စားဆောက်တည်ခြင်းသည် ကြီးမားသောစည်းစိမ်တစ်ရပ် ဖြစ်သည်၊ ဤသည်ကို ဆောလျင်စွာ ရယူနိုင်ရန် ကြိုးစားကြရမည်၊ ဟဒီးသ်တော်တွင် လာသည်၊ (အင်နလ္လာဟ၊ ယို ဟစ်ဗုလ်၊ အဗ်ဒတ်တကိယလ်၊ ဂနိယလ် ခဖိယ။) အမှန်ပင် အ်လ္လာဟ်အသျှင်မြတ်သည် ဤသို့သော ဗန္ဒဟ် ကို အချစ်ထားတော်မူသည်၊ အကြင်သူသည် အပြစ်ရှောင်ကြဉ်သူ၊ ဘာသာရေးလိုက်စားသူ၊ တောင်းရမ်းခြင်းကို ဂရုမစိုက်သူ၊ လူထုအရှုမှ ရှောင်ဖယ်နေသူ။ ဤဟဒီးသ်တော်ကိုဧအ်မာမ်မုတ်စလင်မ်သခင်က ရေဝါယတ်ပြုခဲ့သည်။ (တာရ်ဂီးဗ်-တာရ်ဟီးဗ်ကျမ်း အတွဲ-၃။ စာမျက်နှာ-၁၉၁)

ထိုသူသည် ဘာသာရေးရာ လိုက်နာဆောက်တည်သူ ဖြစ်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဘာသာရေးရာကို မလိုက်စားသူဖြစ်လျှင်၊ ထိုသူသည် အလ္လာဟ်အသျှင်မြတ်၏ တာဝန်ကို မထမ်းဆောင်သူဖြစ်ပေရာ၊ ထိုသို့သောသူမှ ကတိတည်မည်ကို မယုံကြည်နိုင်ပေ။

ဒုတိယမကောင်းသောအချက်မှာ... သင်သည် ၎င်းသူကို မကြာခဏ ဂိုနာဟ် အကူသို့လို့ ကျူးလွန်သည်ကိုတွေ့ရလျှင်၊ မိတ်ဆွေဖြစ်ခြင်းကြောင့် ချိုသာနူးညံ့စွာ ဆက်ဆံနေလျှင် သင်သည် ထိုသူကျူးလွန်သော ဂိုနာဟ်ကို ရှုံရှာ မုန်းတီးမည် မဟုတ်ပေ။

တတိယမကောင်းသောအချက်မှာ... ထိုသူ၏ စာရိတ္တ အကျင့် မကောင်းမှုသည် သင့်၌လည်း စွဲကပ်လာမည်၊ ထိုသူ ကျူးလွန်သော ဂိုနာဟ်ကို သင့်လည်း ကျူးလွန်လာပေမည်။

မကောင်းသော အကျင့်စာရိတ္တသည် ကူးစက်လွယ်လေသည်၊ ဟဒီးသ်တော်တွင် လာရှိသည်...

لَا تُصَاحِبْ اَنْتَ اِلَّا مُؤْمِنًا وَلَا يَاْكُلْ مَعَكَ اِلَّا تَقِيٌّ

အဓိပ္ပါယ်... အီမာန်ပြည့်စုံသူနှင့် ဓုပါဂ်းသင်း ဆက်ဆံကုန်၊ အပြစ် ရှောင်ကြဉ်သူများမှတစ်ပါး မည်သူနှင့်မျှ ထမင်းလက်ဆုံ မစားနှင့်။

မောင်လာနာရူမီ (အလိုင်ဟစ်ရ်ရဟ်မဟ်) သခင်က မိန့်တော်မူသည်....

زین سبب فرمود احمد مجتبی    لا تصاحب انت الا مؤمنا
صحبت فاسق ترا فاسق کند    صحبت عاشق ترا عاشق کند

အဓိပ္ပါယ်... ထို့ကြောင့် နဗီရစူလ် အဖြစ် ရွေးကောက်ခြင်း ခံရတော်မူသော အဟ်မဒ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'မုအ်မင်န်'မှတစ်ပါး မည်သူနှင့်မှ ပေါင်းသင်းဆက်ဆံခြင်း မပြုနှင့်၊ 'ဖွာစစ်က်' လူဆိုးနှင့် ပေါင်းသင်းလျှင် သင် ဖွာစစ်က် ဖြစ်သွားပေမည်၊ အလ္လာဟ်အသျှင်မြတ်ကို ချစ်ခင်သူနှင့်ပေါင်းလျှင် သင်သည် အလ္လာဟ် အသျှင်မြတ်ကို ချစ်ခင်လာပေမည်။

စတုတ္ထအချက်....

ထိုသူသည် လောကကိုခင်တွယ် လောဘထားသူ မဖြစ်စေရ၊ အဘယ့်ကြောင့် ဆိုသော်.... အလိုလောဘရှိသူ၏ အနီးတွင် ထိုင်ခြင်းဖြင့် အမှန်ပင် လောဘကို မက်မောသော စိတ် တိုးတက်လာမည် ဖြစ်ပေသည်၊ အချိန်ဟူသရွေ့ ဘယက်တန်ဆာ၊ အဝတ်အစား၊ အိမ်ထောင်မှုပရိဘောဂ စသည်များကို မက်မောပြောဆိုလုပ်ကိုင်နေလျှင်၊ သင့်သည်လည်း မက်မောခင်တွယ်မှု ဖြစ်လာပေမည်၊ အကြင်သူသည် လောက၏ အလိုလောဘ မရှိလျှင် ထူသော အဝတ်ကို ဝတ်၍ အညံ့စား အစားအသောက်ကို စားသုံးပေမည်၊ ၎င်းအချိန် ဟူသရွေ့ ဒွန္နယာ လောက၏ မတည်မြဲခြင်းကို ပြောဆိုနေမည်၊ ထိုသို့သောသူ၏ အနီး အပါး၌ထိုင်ခြင်းဖြင့် ရှိနေသောအလိုလောဘပင် စိတ်တွင်းမှ ပပျောက်သွားပေမည်။

ပဉ္စမအချက်....

ထိုသူသည် မုသားပြောဆိုသော အလေ့အကျင့်ရှိသူ မဖြစ်စေရ၊ အဘယ့်ကြောင့် ဆိုသော်.... မုသားစကားပြောသူသည် ယုံကြည်ရန်ထိုက်သူမဟုတ်ပေ၊ ထိုသူ၏ စကားကို အမှန်ထင်ပြီး မှားသွားသည်လည်း ရှိပေမည်။

ဤတွင်ပြပါအချက်(၅)ချက်ကို မိတ်ဆွေအဖြစ် မဆက်ဆံမီ စူးစမ်းခြင်းပြုရမည်၊ တစ်ဦးသောသူတွင် တင်ပြပါ(၅)ချက်နှင့်ကိုက်ညီနေကြောင်းတွေ့ရသဖြင့် မိတ်ဆွေအဖြစ် ဆက်ဆံလိုက်လျှင်၊ ယခုထိုသူ့အတွက် လုပ်ဆောင်ပေးရမည့် တာဝန်ကို ကျေပွန်ကုန်၊ ထိုတာဝန်များမှာ ဤသို့တည်း။

တတ်နိုင်သည်ခန့် ထိုသူ၏ လိုအပ်ချက်များကို ကူညီ လုပ်ပေးကုန်၊ အကယ်၍ အလ္လာဟ်အသျှင်မြတ်က သင့်အား ငွေကြေးချောင်လည်စွာ ပေးထားတော်မူလျှင် ထိုသူ့

အားကူညီကုန်၊ ထိုသူ၏အတွင်းစကားများကို မည်သူ့ကိုမျှမပြောနှင့်၊ တစ်ဦးတစ်ယောက်က ၎င်းအား မကောင်းပြောလျှင်၊ သင်က ပြန်၍ပြောပြခြင်းမပြုနှင့်၊ ထိုသူပြောစကားကို နားစိုက်၍နားထောင်ကုန်၊ အကယ်၍ထိုစကားများတွင် မှားယွင်းချက်များတွေ့မူ ချိုသာနူးညံ့စွာ အကောင်းအလိုထား၍ နှစ်ကိုယ်ကြား ဆုံးမကုန်၊ အကယ်၍ ထိုသူ့မှ ချွတ်ချော်မှုဖြစ်လာလျှင်၊ သင်ကခွင့်လွှတ်ကုန်၊ ထိုသူ့အတွက် အကောင်းဖြစ်စေရန် အလ္လာဟ်အသျှင်မြတ်ထံ ဒိုအာပြုကုန်။

သိကျွမ်းရုံပင်ရှိသူများနှင့် ပတ်သက်၍ ဂရုစိုက်ရန် အလွန် အရေးကြီးပေသည်၊ အဘယ့်ကြောင့်ဆိုသော် မိတ်ဆွေသည် သင်၏ ကောင်းရာ ကောင်းကြောင်းကို အလိုထားပေမည်၊ အကျွမ်းတဝင် မရှိသူသည် သင့်အတွက် ကောင်းခြင်း မဖြစ်သော်လည်း မကောင်းခြင်းလည်း ရှိမည်မဟုတ်ပေ။

မိတ်ဆွေလည်းမဟုတ်၊ လုံးဝမသိသူလည်း မဟုတ်ဘဲ အလည်အလတ် လူများဖြင့် မကောင်းခြင်းနှင့် ဒုက္ခများရောက်တတ်ပေသည်၊ နှုတ်လျှာဖြင့် မိတ်ဆွေပါဟု ပြောကာ အကောင်းအလိုထားသည့် အမူအရာ ပြသည်၊ ၎င်းအတွက် ဖျက်ဆီး နှောင့်ယှက်သည်၊ ၎င်း 'ဟာစဒ်' မနာလိုဝန်တိုသည်၊ အချိန်ဟူသရွေ့ အပြစ်ရှာသည်၊ ၎င်း နာမည်ဖျက်ရန် အကြံထုတ်နေသည်၊ ထို့ကြောင့် ဖြစ်နိုင်သရွေ့ မည်သူနှင့်မျှ သိကျွမ်းအောင် မပြုနှင့်၊ ၎င်း ထိုသူတို့၏ မကောင်းသော အနေအထိုင်ကိုကြည့်၍ တတ်မက်ခြင်းမပြုနှင့်၊ အဘယ့်ကြောင့်ဆိုသော် ထိုသူမှ သင့်မှာ ပို၍ ဒုက္ခရောက်လာမူ၊ သင် သည်းခံနိုင်မည်မဟုတ်ပေ၊ ထိုအတွက် ဒွန္နယာ-အာခေရတ် နှစ်ဌာနစလုံး ဆုံးရှုံးမှုဖြစ်ရမည်၊ ထို့ကြောင့် ဒုက္ခပေးလျှင် ခွင့်လွှတ်ခြင်းက ပို၍ကောင်းသည်။

အကယ်၍တစ်ဦးတစ်ယောက်က သင့်ကို ဂုဏ်သရေမြှင့်မှားအောင်ပြုလျှင်၊ ပြုစုလျှင် ချီးမွမ်းလျှင်၊ ချစ်ခင်ကြောင်းပြလျှင် သင်အလိမ်မခံနှင့်၊ မယုံမှားနှင့်၊ အဘယ့်ကြောင့်ဆိုသော် အတွင်းအပြင် တစ်မျိုးတည်းရှိသူမှာ အလွန်နည်းလေသည်၊ ထိုကဲ့သို့သူများမှ စိတ်ထားဖြူစင်စွာ ဆက်ဆံသည်ဟု ယုံကြည်ရန် ခဲယဉ်းသည်၊ စိတ်ထားဖြူစင်စွာဖြင့် ဆက်ဆံလိမ့်မည်ဟု ထိုသို့သောသူများမှ အလျှင်း မက်မထားနှင့်။

တစ်ဦးတစ်ယောက်က 'ဂီဗဟ်' နောက်ကွယ် အတင်းပြောသည်ကိုကြား၍ ဒေါသ မဖြစ်နှင့်၊ ကျွန်ုပ်အား ဤသို့ပြောရကောင်းလားဟု အံ့သြခြင်းလည်းမဖြစ်နှင့်၊ ကျွန်ုပ်ကို မပြောသင့်၊ ကျေးဇူးကိုမထောက်၊ ကျွန်ုပ်၏ ကြီးခြင်းနှင့် ဂုဏ်ကိုမထောက်ဟုပင် မထင်မှတ်နှင့်၊ အကယ်၍ တရားသဖြင့်ကြည့်မူ သင်လည်း ရှေ့နောက် ညီညွတ်အောင်နေနိုင်မည်မဟုတ်ပေ၊ ရှေ့တွင်တစ်မျိုး၊ နောက်တွင်တစ်မျိုးလည်းဖြစ်နိုင်သည်၊ ထို ဘလာ ဒုက္ခ၌ ကိုယ်တိုင် နစ်မွန်းနေလျှင် အခြားသူများကို အဘယ့်ကြောင့် ကဲ့ရဲ့မည်နည်း၊ အတွင်းအပြင်တစ်မျိုးတည်းဖြစ်စေရန်ကြိုးစားလျှင် (အင်န်ရှာအလ္လာဟ်) ဤရောဂါမှ ပျောက်ကင်းသွားမည်။

အချုပ်မှာ....မည်သူ့ထံမှ မည်သည့်ကောင်းကျိုးအတွက်မှ မက်မထားနှင့်၊ အကျိုးဖြစ်ထွန်းမည်မထင်မှတ်နှင့်။ မည်သူ၏အရှဉ် ဂုဏ်မြင့်မားရန်နှင့် ချစ်ခင်စိတ်ပေါ်ပေါက်လာရန် မက်မထားနှင့်။

မည်သူ့ထံကမှ မည်သည့်မက်မှ မထားတော့မူ၊ သင့်အား မည်သို့ဆက်ဆံကြစေကာမူ သင်သည် အနည်းငယ်မျှပင် ပူဆွေးတော့မည် မဟုတ်ပေ၊ ကိုယ်တိုင်မူကား တတ်နိုင်သည်ခန့် အားလုံးကို အကျိုးဖြစ်ထွန်းစေကုန်၊ အကယ်၍ တစ်ဦးတစ်ယောက်အတွက် အကျိုးဖြစ်ထွန်းမည့် ကိစ္စကို သိလျှင် ၎င်းသူ နာခံမည်ဆိုပါက ပြောပြကုန်၊ သို့တည်းမဟုတ်က ဆိတ်ဆိတ်နေကုန်၊ တစ်ဦးဦးမှ အကျိုးဖြစ်ထွန်းလာလျှင် အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်ကုန်၊ ၎င်းထိုသူ့အတွက် ဒိုအာပြုပေးကုန်။

၎င်းအကယ်၍ တစ်ဦးဦးမှဆုံးရှုံးမှု၊ ၎င်းဒုက္ခရောက်မှု၊ ကျွန်ုပ်ကိုနာဖုံ့ကျူးလွန်မိသည့်အတွက် ပြစ်ဒဏ်ခံရသည်ဟု ယူဆကုန်၊ အလ္လာဟ်အသျှင်မြတ်ထံ 'တောင်ဗဟ်'ပြု၊ အမှားဝန်ခံကုန်၊ ဒုက္ခပေးသူကို မကျေနပ်ခြင်း၊ ၎င်းအမျက်ထားခြင်းမပြုနှင့်၊ အချုပ်မှာ.... မခ်လူးက် လူသားတို့၏ ကောင်းမှု မကောင်းမှုများကို မကြည့်နှင့်၊ သာမက အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်မြတ်ထံမှ မက်ထားနေကုန်၊ ထိုအသျှင့်ထံတော်၌သာ တောင်းဆိုကုန်၊ ၎င်းထိုအသျှင်မြတ်၏အမိန့်တော်များကိုနာခံ၍ အမြဲထာဝရ သတိရနေကုန်။

အလ္လာဟ်အသျှင်မြတ်သည် သင်တို့အား အမြဲထာဝရ သတိရနေနိုင်သောစွမ်းအားပေးတော်မူပါစေသတည်း။

وَاذْكُرُوا اللّٰهَ كَثِيْرًا لَّعَلَّكُمْ تُفْلِحُوْنَ

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်၊ (ဝသ်ကို ရှလ္လာဟ၊ ကသီရန်၊ လအလ်လကွန်မ်၊ တွဖ်လေ်ဟူးန်။) အို.... အီမာန်သက်ဝင် ယုံကြည်သူအပေါင်းတို့၊ သင်တို့သည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ကို များမြောင်စွာ သတိရကြကုန်၊ သို့မှသာ သင်တို့ အောင်မြင်ထမြောက်သူများ ဖြစ်ကြမည်။

ဟဒီးသ်တော်တွင် လာသည်မှာ

اُذْكُرُوا اللّٰهَ حَتّٰى يُقَالَ اِنَّهٗ مَجْنُوْنٌ

လူတို့က သူရူးဟု ထင်လောက်အောင် အလ္လာဟ်အသျှင်မြတ်အား 'သစ်ကရ်' ပြု, တ,သကုန်။

'အစ်မေ့သာတ်'ကို နှုတ်လျှာဖြင့် သစ်ကိရ်ပြုရန်မှာ.... စိတ်ရောက်ကိုယ်ပါ တစ်သိန်း နှစ်သောင်းငါးထောင်(၁၂၅၀၀၀)နေ့စဉ်ဖတ်ရွတ်ရမည်၊ အကယ်၍ ဤမျှခန့် မဖတ်နိုင်လျှင် နှုတ်လျှာဖြင့်ဖတ်ရန် အနိမ့်ဆုံးအဆင့်ဖြစ်သော နှစ်သောင်းလေးထောင်(၂၄၀၀၀) နေ့စဉ်ဖတ်ရမည်၊ဟစ်က်မတ်လိုရင်းအချက်မှာ-လူသားသည်တစ်နေ့တစ်ညတွင် နှစ်သောင်း လေးထောင် အသက်ရှူလေသည်၊ သို့ရှိရာ အသက်တစ်ခါရှူတွင် သစ်ကိရ်တော် တစ်ခုကျတ့ သရာ ရောက်သွားပေမည်၊ ၎င်း(အတ်သာကေ့ရီနလ္လာဟ၊ကသီရန်၊ဝပ်သာကေ့ရာတ်) တွင် ပါဝင်သွားပေမည်။

အကယ်၍ ဤသည်လည်း မတတ်နိုင်လျှင် အနည်းဆုံး နေ့စဉ် အကြိမ်ပေါင်း သောင်းနှစ်ထောင် (၁၂၀၀၀) ဖတ်ရမည်၊ ဤသို့ သစ်ကိရ်ပြုခြင်းဖြင့်အကျိုးကျေးဇူးမှာ နှုတ်လျှာဖြင့် သစ်ကိရ်တော်ပြုရာ၌ အကျိုးကျေးဇူးမှာ နှုတ်လျှာနှင့် သစ်ကိရ်ပြုနေခြင်းဖြင့် စိတ်တွင်းမှ သစ်ကိရ်ပြုခြင်းဘက်သို့ ကူးပြောင်းလာပေမည်၊ သို့ရှိရာ နှုတ်လျှာရော စိတ်ပါ သစ်ကိရ်ပြုလာလျှင် သစ်ကိရ်လမ်းစဉ်ပြည့်စုံမှန်ကန်သွားပေမည်၊ ဤနည်းလမ်းသည် များသောအားဖြင့် လုပ်ရပ်နည်းများတွင် ပါဝင်လေသည်။

(သွေယာအွလ်ကို့လူဗ်ကျမ်း စာမျက်နှာ-၂၁)

ဤတွင်၍ကား ဘဟစ်ရှ်တီ ဇေဝရ်ကျမ်း
သတ္တမတွဲ ပြီး၏။

မုဟမ္မဒ် မူစာ [မင်္ဂါဇောရီ]

ပထမ နောက်ဆက်တွဲ

# ဘဟစ်ရှ်တီ ဂျောင်ဟရ်ကျမ်း

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ نَحْمَدُهٗ وَنُصَلِّيْ عَلٰى رَسُوْلِهِ الْكَرِيْمِ

## စိတ်စင်ကြယ်စေရန် နှင့် အတွင်းကောင်းမွန်စေရန် လိုအပ်ခြင်း အကြောင်း

عَنْ اَبِيْ هُرَيْرَةَ رض قَالَ قَالَ رَسُوْلُ اللّٰهِ صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ
اِنَّ اللّٰهَ لَا يَنْظُرُ اِلٰى اَجْسَامِكُمْ وَلَا اِلٰى صُوَرِكُمْ وَلٰكِنْ
يَنْظُرُ اِلٰى قُلُوْبِكُمْ (رواه مسلم)

အဘူဟုရိုင်ရဟ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အမှန်ပင်အလ္လာဟ်အသျှင်မြတ်သည် ရှုကြည့်တော်မမူ၊ ဆိုလိုသည်မှာ... ဂရုစိုက်တော်မမူ၊ သင်တို့၏ ကိုယ်ကာယများဘက်သို့ ၎င်းရှုကြည့်တော်မမူ၊ သင်တို့၏ ရုပ်ဆင်းသဏ္ဍာန်များကို (ပြင်ပ'အမလ်'များကို၊ ပြင်ပကိုယ်ကာယဖြင့် ပြုမူရလေ့ရာစိတ်စွဲလန်းမှုမရှိပါက 'ကဘူလ်'မဖြစ်ဆိုသော် စိတ်ဖြင့်ပြုရသော 'အမလ်'များလည်း 'ကဘူလ်'ဖြစ်မည်မဟုတ် ဟူ၍ မသင်မှတ်နှင့်၊ ထို့ပြင် ပြင်ပအမလ်များ 'ကဘူလ်' ဖြစ်ရန်နည်းလမ်းမရှိဟုမယူနှင့်၊ ထို့ကြောင့် မိန့်တော်မူသည်၊)သို့သော် သင်တို့၏စိတ်များကို ကြည့်တော်မူသည်၊ ဆိုလိုသည်မှာ... မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ပြင်ပ၌ပင် ကောင်းစေသော'အမလ်'များကို 'အစ်ခ်လာ်းစ်' နှင့် စိတ်စိုက်ခြင်းမရှိပါက 'ကဘူလ်' ပြု၍ လက်ခံတော်မမူပေ။

ဥပမာ....တစ်ဦးသောသူသည် 'အေဗါဒတ်'ပြုသည်၊ ၎င်းအမြင် ပြင်ပမှာ အေဗါဒတ်၌ မွေ့လျော်နေသည်၊ သို့သော် စိတ်မပါ ဟိုဟိုသည်သည်ရောက်နေသည်၊ အလ္လာဟ်အသျှင်မြတ်ရှေ့တော်သို့ ရပ်နေသော်လည်း အခြားအလုပ် လုပ်နေသည့်ပမာ ခြားနားခြင်း မရှိလျှင်၊ ဤသို့သော 'အမလ်-အေဗါဒတ်'များသည် 'ကဘူလ်' မဖြစ်ပေ။

ပြင်ပအမလ်များကို လုံးဝဂရုမစိုက်ဟူ၍ကား မဟုတ်ပေသာမက ဂရုပြုရလေသည်၊ သို့သော် ထိုပြင်ပအမလ်သည် အစ်ခ်လာ်းစ် နှင့် စိတ်အာရုံစူးစိုက်မှုရှိရပေသည်၊ ဤသို့စိတ်အာရုံ စူးစိုက်ရမည် ဟူ၍ ကုရ်အာန် ကျမ်းတော် နှင့် ဟဒီးသ်တော်မြတ်က ပြဋ္ဌာန်းထားလေသည်။

အဘယ့်ကြောင့်ဆိုသော်.... သီးခြား၍ စိတ်ကို အလ္လာဟ်အသျှင်မြတ်က ရှုကြည့်တော်မူလေသည်၊ သမားတော်တို့၏အဆိုအရ စိတ်သည် ကိုယ်ကာယ၏ ဘုရင်ဖြစ်သည်၊ ဤသို့ပင် 'ရှုဟာနီ'အတွင်းစိတ်ဓါတ်ပွင့်လင်းရာ၌လည်း 'မလေ့ကွလ်ဂျဝါရစ်ဟ်' ဂုဏ်ထူးဝိသေသဖြင့် ချီးကျူးခြင်း ခံရလေသည်၊ စိတ်ထား မှန်ကန် ဖြောင့်မတ်ခြင်း မရှိလျှင်၊ လွတ်ကင်းရာ လွတ်ကင်းကြောင်း နှင့် ကောင်းကျိုး မဖြစ်နိုင်ပေ။

ဥပမာ....တစ်ဦးတစ်ယောက်သည် ပြင်ပအနေဖြင့် ကျွန်တော် မွတ်စလင်မ်ပါဟု ပြောဆိုနေပြီး စိတ်ကမပါလျှင် အလ္လာဟ်အသျှင်မြတ်ထံတော်တွင် ထိုသူ၏ မွတ်စလင်မ်ဖြစ်ခြင်းသည် မည်သို့မှ အရာမရောက်ပေ၊ ဤနည်းအတိုင်း မှတ်ယူကြရမည်။

ဤသို့ပင် အကြင်သူသည် ဂုဏ်ဖေါ်ကြွားဝါရန်အတွက် ၎င်းအခြားသော မလိုလားအပ်သောကိစ္စဖြင့် 'နမာဇ်-ဆွဒကဟ်'စသည့် အေဗါဒတ်များပြုလျှင် ထိုပြုမူချက်များသည် မည်သို့မှ အရာမရောက်ပေ၊ သို့ရှိရာ သိရသည်မှာ- နောင်အာခေရတ် ကောင်းစားမှုနှင့် အလ္လာဟ်အသျှင်မြတ် နှစ်သက် သဘောတူတော်မူစေရန် အဓိက အချက်မှာ .... စိတ်ထားဖြူစင်ကောင်းမွန်မှုပင်ဖြစ်သည်၊ လူတို့က ဤသည်ကို အလွန်ပေါ့လျော့နေကြ

သည်၊ ပြင်ပအမလ်များကို အနည်းအကျဉ်းပြုကြသည်၊ 'အင်လ်မ်'ပညာလည်း ရှာဖွေကြသည်၊ သို့သော် အတွင်းစိတ်ဓါတ် ကောင်းမွန်စေရန် ပြုပြင်မှုကိုကား ဂရုမစိုက်ကြ၊ ပမာဆိုသော်- အတွင်းစိတ်ဓါတ်ပြုပြင်ကောင်းမွန်စေခြင်းသည် ရေယာနှင့်ဟာစဒ် မနာလိုမှု စသည်များ ကောင်းမွန်စေရန်အတွက်ဖြစ်သည်၊ ဤသည်တို့ကို ထိန်းသိမ်းနေရန်မလိုဟု ယူဆကြသည်။

ပြင်ပ'အမလ်'ကိုသာလျှင် ပြုသင့်ပြုထိုက်သည်ဟု ယူကြသည်၊ ဤအချက်နှင့်ပင် နောင်အာခေရတ် အတွက် လုံလောက်သည်ဟု ထင်ကြသည်၊ အမှန်မှာ အဓိကအချက်သည် စိတ်ကောင်းမွန်ဖြူစင်ရန်ပင် ဖြစ်သည်၊ တင်ပြပါ ဟာဒီးသ်တော်နှင့်ပင် ပေါ်လွင်လေသည်၊ ပြင်ပ အမလ်များသည် စိတ်ထားဖြူစင်ရန်အတွက် လမ်းကြောင်းဖြစ်သည်၊ အတွင်းနှင့်အပြင်သည် ဆက်စပ်မှုရှိသဖြင့် ပြင်ပ ကောင်းမွန်ခြင်း မရှိပါက အတွင်းစိတ်ဓါတ်လည်း မကောင်းမွန်နိုင်ပေ၊ ပြင်ပ အမလ်ကို အမြဲထာဝရ ပြုမူနေခြင်း မရှိပါက အတွင်းစိတ်ဓါတ်လည်း အမြဲမကောင်းမွန်နိုင်ပေ၊ အတွင်းစိတ်ဓါတ်သည် အမြဲကောင်းမွန်သွားလျှင် ပြင်ပအမလ်များလည်း ကောင်းမွန်စွာ ပြုမူနိုင်ပေမည်။

ဤနေရာတွင် ပြင်ပအမလ်များကို အတွင်းစိတ်ဓါတ် ကောင်းမွန်ဖြူစင်လာသည် အထိသာပြုမူ၍ရမည်ဟု အသိတရားခေါင်းပါးသူများ မယူကြလေနှင့်သာမက ယူဆလျှင် 'ကွဖ်ရ်' ဖြစ်သည်၊ အမှန်မှာ အတွင်းစိတ်ဓါတ် ဖြူစင် ကောင်းမွန်သွားလျှင် အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်မြတ်၏အမိန့်တော်များကို နာခံလိုက်နာမှု၌ မွေ့လျော်နေပေမည်၊ ဤသည်ပင် 'စိတ်ထား ကောင်းမွန် ဖြူစင်ခြင်း၏ အထိမ်းအမှတ် ဖြစ်ပေသည်၊ စိတ်ထားကောင်းမွန်ခြင်း၏ အဓိကအချက်မှာ အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်များကို နာခံလိုက်နာနေရမည်၊ ကျေးဇူးတင်နေရမည်၊ ကျေးဇူးကမ်းခြင်း၊ အမိန့်ဖီဆန်ခြင်းများ မပြုရ။

နမာဇ်၊ ရိုဇဟ် စသည်များသည် အမိန့်နာခံခြင်း၌ ပါဝင်သည်မှာ ထင်ရှားပေသည်၊ ဤအမိန့်နာခံမှုကိုလွှတ်၍ နမာဇ် ရိုဇဟ် မစောင့်ဘဲ နေပါမူ အတွင်းစိတ်ဓါတ် အဘယ်သို့ ကောင်းမွန်မှန်ကန်မည်နည်း၊ အကယ်၍ နမာဇ် ရိုဇဟ်မစောင့်ဘဲ စိတ်ထား ဖြူစင်ကောင်းမွန်နိုင်မူ 'ဝလီ'သူတော်စင်များနှင့် နဗီရစူလ်များသည် နေ့-ည အလ္လာဟ် အသျှင်မြတ် အမိန့်တော်ကိုနာခံ၍ အေဗါဒတ်ပြုနေရန် မလိုပေ ၊(နအူသု ဗိ ၊ဗစ်လ္လာဟ်) ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အတွင်းစိတ်ဓါတ်ထက် သာပို ဖြူစင် ကောင်းမွန်၍ ပြင်ပအမလ်လုပ်ရန် မလိုဟု မည်သည့် အသိတရားခေါင်းပါးသူက ဆိုနိုင်အံ့နည်း။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အပြည့်စုံဆုံး၊ ရှင်းနဗီရစူလ်များ အနက် အမြတ်ဆုံးဖြစ်တော်မူပါလျက် ကွယ်လွန်ဝဖွာတ်ဖြစ်တော်မူသည့်တိုင် ပြင်ပအမလ် များ ဆောက်တည်လွန်းအားကြီးသည်ကို မြင်ရသူများကပင် ကိုယ်တော်အား သနားကြလေသည်၊ ကိုယ်တော် အေဗါဒတ်ပြုပုံများသည် ဟာဒီးသ်ကျမ်းများ၌ ထင်ရှားလုံလောက်စွာ ပါရှိလေသည်။

ကောင်းစွာမှတ်သားကြရန်ထိုက်သည်၊ ပြင်ပ'အမလ်'များ ဥပမာ....ရိုဇဟ်၊ နမာဇ် စသည်များပြုမူဆောက်တည်ရန်နှင့်နားလည်ရန်အရေးကြီး'ဝါဂျစ်ဗ်'ဖြစ်သကဲ့သို့၊အတွင်း 'အမလ်' ဥပမာ- ရိုဇဟ်၊နမာဇ်စသည်များကို 'ရေယာ'ပကာသန ကြွားဝါဂုဏ်ဖော်ခြင်း များမှ ထိန်းသိမ်းခြင်း၊ မနာလိုဝန်တိုဒေါသဖြစ်ခြင်း စသည်များမှ စိတ်ကို သန့်ရှင်းစွာ ထားရန်များကို နားလည်ရန်လည်း 'ဝါဂျစ်ဗ်' အရေးကြီးပေသည်။

အချို့အမလ်များသည် စိတ်ဖြင့်သာသက်ဆိုင်လေသည်၊ ဥပမာ- ဂိုနာဟ်အကုသိုလ် ကျူးလွန်ရန် ဆန္ဒထားခြင်း၊ ရန်ညိုးထားခြင်းနှင့် 'ဟစဒ်' မနာလိုဝန်တိုမှုထားခြင်း၊ ၎င်းစိတ်၌ တစ်စိတ်တစ်လက်'အစ်ခ်လားစ်''စိတ်ထားဖြူစင်မှုထားခြင်း၊ အချို့ အချက် များတွင် စိတ်နှင့်ကိုယ်ကာယ ရောနှော၍ပါရှိသည်၊ ဥပမာ- နမာဇ်၊ ရိုဇဟ်၊ ဟဂျ်၊ ဆွဒကဟ် စသည်များ ဖြစ်ပေသည်။

တင်ပြပါ အချက်များကို အေမာမ်ဂဇာလီ (ရဟမတွလ္လာဟ်) သခင်က အတိ အလင်း ဖေါ်ပြခဲ့သည်၊ ၎င်းကို အစ်ဗ်နို့အာဗေ့ဒီန်ရှာမီ (ရဟမတွလ္လာဟ်) သခင်က ထောက်ခံခဲ့သည်။

ဟဒီးသ်တော်တွင်လာသည်၊ စိတ်တွင်း၌ ဒွိဟဖြစ်သောအချက်များနှင့် ကင်းစင် ကာ အပြစ်ရှောင်ကြဉ်စွာဖြင့် ဝတ်ပြုသော နမာဇ် ၂-ရကအတ်သည်၊ ဒွိဟမကင်းသော သူ၏ နမာဇ်ပေါင်း တစ်ထောင်ထက် သာမြတ်ပေသည်။ (ဂျာမေ့အွတ်စွဂီးရ်ကျမ်း)

ဤသို့သာမြတ်ခြင်းမှာ စိတ်ထားဖြူစင်ခြင်း နှင့် အတွင်းစိတ်ဓါတ် ကောင်းမွန် ခြင်းမရှိပါက မရနိုင်သည်မှာ ထင်ရှားလေသည်၊ အကြင်သူတို့သည် အတွင်း စိတ်ဓါတ် ကောင်းမွန်ခြင်းမရှိလျှင် ထိုသူသည် ဝါဂျစ်ဗ်များကို ကောင်းစွာမပြုနိုင်ပေ၊ ၎င်း'ဟရာမ်' လုပ်ငန်းများကိုလည်း ရှောင်ကြဉ်နိုင်မည် မဟုတ်ပေ၊ သို့ရှိရာ (မွရှိတဗဟာတ်) ဒွိဟ ဖြစ်သော အလုပ်များမှ ဤသို့ သာမြတ်ခြင်းရအောင် အဘယ်မှာလျှင် ရှောင်နိုင်တော့ မည်နည်း။

တတ်ကဝါ အပြစ်ရှောင်ခြင်းနှင့် အတွင်းစိတ်ဓါတ် ကောင်းမွန် ဖြူစင်စွာဖြင့် မည်သည့်အမလ်ကို ပြုမူစေကာမူ အနည်းငယ်ဖြစ်သော်လည်း စနစ်ကျ၍ 'ကဘူလ်'ဖြစ်ပေ သည်၊ ထို့ကြောင့် မွတ်စလင်မ်တို့သည် အတွင်း-အပြင်ကို ပြည့်စုံစွာ ကောင်းမွန်စေရန် ပြုပြင်ကြရမည်၊ ဤသည်ပင် လွတ်ငြိမ်း ချမ်းသာမှု ရရန် အချက်ပင် ဖြစ်သည်၊ ပြင်ပ အမလ်များကို အတွင်းစိတ်ဓါတ်မဖြူစင်ဘဲ လွတ်ငြိမ်းချမ်းသာမှုရရန် လုံလောက်သည်ဟု မယူဆနှင့်။

သိမှတ်ကြရန်မှာ.... အကယ်၍ လူတစ်ယောက်သည် များစွာသော နမာဇ်များကို ဖတ်သည်၊ နိယတ် ဆန္ဒမှာ လူတို့က ကျွန်ုပ်ကို လူကြီးလူကောင်းဟု ထင်ကြစေရန်နှင့် ချီးကျူးကြစေရန်ဖြစ်မူ ထိုသူသည် အသာဗ်ပြစ်ဒဏ်ရေမှ လွတ်ကင်းမည်လော၊ မလွတ် ကင်းနိုင်ပေ၊ အမှန်မှာ နမာဇ်သည်ကား တိကျစွာ တစ်စိတ်တစ်လက်ဖြင့် အလ္လာဟ်အသျှင် မြတ်အတွက် သက်သက်ဖတ်ပါမူ အခြားသော အပြစ်ဂိုနာဟ်များမှ လွတ်ငြိမ်းချမ်းသာမှု

ရရှိသည်၊ ၎င်းကုသိုလ်'သဝါဗ်'လည်းရလေသည်၊ သို့သော် ဝမ်းနည်းဖွယ်ကောင်းသည်မှာ ထိုသူသည် 'ရေယာ' ပကာသန ကြွားဝါဂုဏ်ဖေါ်လိုသောရောဂါကြောင့် ထိုနမာဇ်ကို ဖျက်ဆီးပစ်သည်၊ ထိုကဲ့သို့သူများသည် မိမိတို့ရောဂါများကို ကုသကြရန်ထိုက်လေသည်၊ မကုပါက (မပြုပြင်ပါက) မကြာမီ ပျက်စီးခြင်းဖြစ်ကြမည်၊ အဘယ့်ကြောင့်ဆိုသော် ရောဂါကတိုး၍ကုသခြင်းမပြုလျှင် နောက်ဆုံး ပျက်စီးမည်မှာ ထင်ရှားလေသည်။

အို... မွတ်စလင်မ် ညီနောင်အပေါင်းတို့၊ အကယ်၍ သင်တို့သည် ရောဂါဖြစ်၍ သင်တို့၏ ကိုယ်ကာယသည် ရောဂါအန္တရာယ်ဖြစ်နေမှု စွမ်းနိုင်ပါလျက် ဆေးဝါး မကုသဘဲ ရောဂါဖြစ်သည်ကို အသက်ဆုံးပါးသည့်တိုင် ကျေနပ်နှစ်သိမ့်နေကြမည်လော့၊ အလျင်း ကျေနပ်မနေနိုင်ကြမည်မဟုတ်ပေ၊ အမှန်မှာ ဤရောဂါသည် လောက၌ ရက်အနည်းငယ် ကိုယ်ခန္ဓာတွင် ခံရသော ဒုက္ခမျှသာဖြစ်သည်၊ သို့ရှိရာ ဤမျှဒုက္ခကလေးကိုပင် မခံနိုင်မှု၊ စိတ်တွင်းရောဂါ ထိုရောဂါဖြင့် အမြဲထာဝရ နေထိုင်ရမည့် နောင်အာခိရတ် အတွက် ရောဂါဖြစ်နေမည်ကို ခံနေခြင်းမှာ အသိတရားခေါင်းပါးရာကျလေသည်၊ ထို့ကြောင့် လူတိုင်းသည် ကိုယ်ကာယနှင့် စိတ်အတွင်းအပြင်ကို ကောင်းမွန်စေရန် ပြုပြင်ရန် ထိုက်လေသည်၊ ခေါင်းအေးအေးထား၍စဉ်းစားကာ ဒွန္နယာ-အာခိရတ် ကောင်းစားမှုသည် အဓိကအချက်ဟု အောက်မေ့ပြီး ပြုမူဆောက်တည်ကြရမည်။

အူရ်ဒူ ကဗျာတစ်ပုဒ်မှာ....

'ဒီန်'၏ ကြိုးစားမှုမပါသော ဒွန္နယာသည် အချည်းနှီးဖြစ်သည်၊ အာခိရတ်၏ အတွက် တစ်စုံတစ်ရာမထားဘဲ ဒွန္နယာ အတွက်သာ ထားနေကြသလော့၊ (ဤသို့ပြုရန် အလျှင်းမသင့်။)

ဟဒီးသ်တော်တွင် လာသည်....

عَنِ النُّعْمَانِ بْنِ بَشِيْرٍ رض مَرْفُوْعًا فِيْ حَدِيْثٍ طَوِيْلٍ اَلَا وَاِنَّ فِي الْجَسَدِ مُضْغَةً اِذَا صَلَحَتْ صَلَحَ الْجَسَدُ كُلُّهٗ وَاِذَا فَسَدَتْ فَسَدَ الْجَسَدُ كُلُّهٗ اَلَا وَهِيَ الْقَلْبُ (متفق عليه)

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဤအကြောင်းကို သတိထားကြကုန်၊ ကိုယ်ကာယ၌ အသားတုံးတစ်ခုရှိသည်၊ ထိုအသားတုံးသည် ကောင်း နေလျှင် တစ်ကိုယ်လုံး ကျန်းမာနေမည်၊ ၎င်း ထိုအသားတုံးသည် ပျက်စီးနေပါက တစ်ကိုယ်လုံး ပျက်စီး ချို့ယွင်းသွားမည်၊ သိထားကြကုန်၊ ထိုအသားတုံးသည် စိတ် ဖြစ်သည်။ (ဘိုခါရီနှင့်မွတ်စလင်မ်ကျမ်း)

ဟဒီးသ်တော်၌ အလိုမှာ.... စိတ်ထား ဖြူစင် ကောင်းမွန်၍ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို လိုက်နာဆောက်တည်နေမှသာ အဆစ်အပိုင်းများသည် ကောင်းမွန်နေမည်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် စိတ်သည် ကိုယ်ကာယ၏ ဘုရင်တစ်ဆူ ဖြစ်သည်၊ တိုင်းသူပြည်သားများ ကောင်းမွန်ရေးသည် ဘုရင်၏ ကောင်းမွန်မှုအပေါ်တွင် မူတည်လေသည်။ သို့ရှိရာ စိတ်သည်ကောင်းမွန်ဖြူစင်နေမှသာ ကိုယ်ကာယသည် ကောင်းမှုများကို ပွားပေမည်၊ ထို့ကြောင့် စိတ်ထားကောင်းရန် ကြိုးစားခြင်းသည် အလ္လာဟ်အသျှင်မြတ်၏အမိန့်တော်များကို နာခံရန် ဝါဂျစ်ဗ်ဖြစ်သကဲ့သို့ ဝါဂျစ်ဗ်ဖြစ်လေသည်၊ ထိုအမိန့်နာခံခြင်းသည် စိတ်သက်သက်နှင့်ဖြစ်စေ၊ စိတ်နှင့် ကိုယ်ကာယ ရောစပ်၍ဖြစ်စေ အတူတူဖြစ်သည်၊ စိတ်ကောင်းမှသာလျှင် အမိန့်နာခံမှုသည် တိကျ၍ 'ကဘူလ်' ဖြစ်ပေသည်၊ ထို့ကြောင့် စိတ်ကို ပြုပြင်ခြင်းသည် 'ဝါဂျစ်ဗ်' ဖြစ်လေ၏၊ ကောင်းစွာ မှတ်သားထားကြကုန်။

'ရှရီအတ်' တရားတော်မြတ်က လူသားသည် အဆာလွန်ကာ ထိုအဖြစ်၌ နမာဇ်ဖတ်ပါက စိတ်ရှုပ်မှုဖြစ်သော် ထိုအဖြစ်၌ နမာဇ်ဖတ်ခြင်း မတ်ကရူးဟ်ဖြစ်သည်သဒ်မကပထမ ထမင်းစားရမည်၊ ပြီးမှ နမာဇ်ဖတ်ရမည်၊ သို့သော် နမာဇ်အချိန်ကား ကုန်လွန်သွားလောက်အောင် မဖြစ်စေရ။

'ဟစ်ကမတ်' ခေါ်မှာ အဓိကအချက်သည် 'အေဗါဒတ်' ပြုရာ၌ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ ရှေ့တော်မှောက်သို့ ခ,စား၍ အမိန့်နာခံခြင်းကိုပြရန် ဖြစ်သည်၊ ဤသို့ စိတ်အတွင်းအပြင် ထိုအသျှင်အား ခ,ဝပ်ရာ၌ မေ့လျော့၍ နေရမည်၊ အလ္လာဟ်အသျှင်မြတ် အပြင် အခြား အရာ ကိစ္စများဘက်သို့ တတ်နိုင်သည်ခန့် စိတ်ကူး မရောက်စေရ၊ ငင်းဆာမွတ်နေပါက ပြင်ပကိုယ်ကာယသည် နမာဇ်၌ရှိ နေသော်လည်း စိတ်သည် ဆာလောင်မှုကြောင့် ရှုပ်ထွေးနေပေမည်၊ စိတ်သည် ထမင်းစားရန် အတွက် နမာဇ်အမြန်ပြီးသွားရန် စိုတ်စောနေပေမည်၊ သို့ရှိရာ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ရှေ့မှောက်သို့ ခ,စားသင့်သလို မခ,စားနိုင်ဘဲ ပေါ့လျော့မှုကြီး ဖြစ်လာပေမည်၊ ထို့ကြောင့် ထိုအဖြစ်နှင့် နမာဇ်ဖတ်ခြင်းကို မတ်ကရူးဟ် ဟု မိန့်ထားလေသည်။

ထို့ကြောင့် အလ္လာဟ် အသျှင်မြတ်သည် စိတ်ကိုသာ ရှုကြည့် (လိုလား)တော်မူကြောင်း သိရလေသည်၊ 'ရှရီအတ်' တရားတော်မြတ်က စိတ်ကို ကောင်းမွန်ဖြူစင်စေရန် ပြုပြင်မှုများကို ပြဋ္ဌာန်းထားတော်မူလေသည်၊ သူတော်စင်ကြီးများသည် စိတ်ကိုပြုပြင်ရန် အတွက် နှစ်ပေါင်း များစွာ မို့ဂျာဟဒတ်နှင့် ရေယာသွာတ်များ ပြုတော်မူခဲ့ကြသည်၊ ဤကျမ်းငယ်၌ ရှည်လျားမည်စိုး၍ ဤမျှသာ ရေးသားခြင်းဖြစ်သည်၊ ဤအကြောင်းနှင့် ပတ်သက်၍ ကျမ်းပေါင်း များစွာ ရှိသည်၊ အကယ်၍ ထိုကျမ်းမှ ကောက်နုတ်ချက်ပင် ရေးပါမူ ကျမ်းကြီးတစ်စောင်ဖြစ်သွားပေမည်၊ တင်ပြပါ ဟဒီးသ်တော်ဖြင့် စိတ်ထား ကောင်းမွန်ဖြူစင်ရန် သတိပေးချက်ပါရှိသည်၊ အေဗါဒတ် ကောင်းမွန်စေရန် အဓိက အချက်မှာ စိတ်အပေါ်၌သာလျှင် မူတည်လေသည်။

ဟဒီးသ်တော်တွင်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... တစ်ညလုံး စိတ်ဖြူစင်မှုမရှိဘဲ နမာဇ်ဖတ်ခြင်းထက် ကောင်းမွန်စွာ အလည်အလတ် နမာဇ် ၂-ရကာအတ် ဖတ်ခြင်းက ကောင်းလေသည်။

(အစ်ဗ်နို့ အဗစ်ဒ်ဒွန္နယာကျမ်း)

ဆိုလိုသည်မှာ....အကယ်၍ တစ်ဦးတစ်ယောက်သည် နမာဇ် ၂-ရကအတ် ဖတ်သည်၊ အလည်-အလတ်ဖြင့် ဖွရ်သွ်၊ ဝါဂျစ်ဗ်၊ စွန္နတ်များကို စိတ်စွဲ၍ဖတ်လျှင် 'ကေရာအတ်' သည် မရှည်လျားသော်လည်း ဤသို့သော နမာဇ် ၂-ရကအတ်သည် တစ်ညတာလုံး စိတ်မဖြူစင်ဘဲ နမာဇ်များ ဖတ်နေခြင်းထက် သာပိုမွန်မြတ်လေသည်။

ဤဟဒီးသ်တော်ဖြင့် စိတ်ထားဖြူစင် ကောင်းမွန်ရန် အရေးကြီးကြောင်း သိရလေသည်၊ အမှန်မှာ အလုပ်၏အဓိက အချက်ကို ကြည့်ရပြီး မည်မျှလုပ်သည်ကို ကြည့်ရသည်မဟုတ်ပေ၊ အလုပ်နည်းစေကာမူ တိကျ၍ ကောင်းမွန်ပါက အလ္လာဟ်အသျှင်မြတ်က နှစ်သက်'ကဘူလ်'ပြုတော်မူသည်၊ အကယ်၍ အလုပ်များစွာလုပ်ပြီး တိကျမှုမရှိ မသေသပ်ဘဲ ပေါ့လျော့စွာ ပြုလျှင် ထိုအလုပ်ကို နှစ်သက်တော်မမူပေ၊ ကောင်းစွာ မှတ်သားထားကြကုန်။

ما نصیحت بجائے خود کردیم ۞ روزگارے دریں بسر بردیم
گر نیاید بگوش رغبت کس ۞ بر رسولاں بلاغ باشد و بس

ကျွန်ုပ်သည် ဆုံးမသြဝါဒပြုယင်း အချိန်ကာလတစ်ခုကုန်လွန်စေခဲ့သည်၊ အကယ်၍ ဆုံးမမှုကို နှစ်သက်စွာ မည်သူမှ မနာခံကြသော်လည်း တရားမှန်ပို့သူများမှာ တရားပို့ရန် အဓိကပင် ဖြစ်သည်။

ဤတွင်၍ကား ပထမနောက်ဆက်တွဲပြီး၏။

## ဒုတိယ နောက် ဆက် တွဲ

# အမျိုးသမီးထုအား ဆုံးမခြင်း အကြောင်း

ရှစ်ရိက် ဖြစ်စေသောအကြောင်းစကားများအနီးသို့ပင် မချဉ်းကပ်နှင့်၊ သားသမီးရရန်နှင့် ရှင်နေရန်အတွက် ပသကိုးခြင်း၊ လာဘ်နိမိတ် ယူခြင်းများ မပြုနှင့်၊ 'ဖွာလ်' မဖွင့်နှင့်၊ ဝလီများအား ပသသော ဖွာတေဟာ်မပြုနှင့်၊ ရှုဗေ့ဘာရာအတ်၊ မို့ဟာရ်ရမ်၊ အရ်ဖွာဟ်၊ 'ဘရိကတ်'အတွက်နှင့် 'တေရဟ်တေဇီ' အတွက် 'ဂဟူန်ဂနေယာန်' မုန့်ချိုစသည်များ ဝေငှကျွေးခြင်း မပြုနှင့်။

'ရှရီအတ်' တရားတော်မြတ် အရ 'ပရ်ဒဟ်' လုံခြုံစွာ ကာကွယ်နေရမည့်သူများ ပီရ်ဆရာဖြစ်စေ၊ ဆွေမျိုးနီးစပ်သူများ၊ တစ်ဝမ်းကွဲများ၊ ခဲအို-မတ်များ၊ မွေးစားအစ်ကို

မွေးစားဖခင်တို့မှ ကောင်းစွာ လုံခြုံစွာ 'ပရ်ဒဟ်'ဖြင့် နေရမည်၊ တရားတော်နှင့်ဆန့်ကျင်သော အဝတ် အထည်များကို မဝတ်နှင့်၊ အမြိတ်ပါသော ဘောင်းဘီ၊ ဝမ်းဗိုက်၊ ကျော၊ လက်မောင်းများပေါ်သော အဝတ်ကိုမဝတ်ရ၊ ပါးသော ကိုယ်ကာယမြင်ရခြင်းနှင့် ဆံပင်ပေါ်သော အဝတ်များကို စွန့်လွှတ်ကြကုန်။

လက်ရှည် သော၊ အင်္ကျီမြိတ်ရှည်သော၊ ထူသော အဝတ်ကို ဝတ်ရမည်၊ ဤသို့ပင် ထူသောခေါင်းမြီးခြုံကိုခြုံရမည်၊ ခေါင်းပေါ်မှအဝတ်ကို ဟိုဟိုသည်သည် မရောက်ရန် ဂရုစိုက်ရမည်။ ဟုတ်ပါ၏၊ အကယ်၍ အိမ်တွင်း၌ အမျိုးသမီးများချည့်ရှိလျှင် အမေ၊ အဖေ၊ မောင်အရင်း စသည်များသာရှိပါက ခေါင်းပေါ် အဝတ်မတင်က ကိစ္စမရှိပေ။

မည်သူ့ကိုမျှ ခြောင်းမြောင်း၍မကြည့်နှင့်၊ 'ရှာဒီ'လက်ထပ်ပွဲ၊ 'မှုန်ဒန်'ခေါင်းရိတ်ပွဲ၊ 'ကျစ်လဟ်'ရက်လေးဆယ်ပွဲ၊ 'ချတီ' သားဖွားပြီး ၆-ရက်ပွဲ၊ 'ခတ္တနာ'၊ 'အကီကဟ်'၊ မန်ဂနီ၊ 'ကျီထိ' မင်္ဂလာဆောင် ၄-ရက်မြောက်ပွဲ စသည့်ဧည့်ခံပွဲများတွင် မသွားကြနှင့်၊ ဤသို့ပွဲများအတွက် မိမိအိမ်သို့လည်း ခေါ်ယူဧည့်ခံခြင်းမပြုနှင့်၊ မည်သည့်အလုပ်ကိုမဆို နာမည်ကြီးရန် အတွက် မပြုလုပ်နှင့်၊ ကြိုးနီဆဲခြင်း၊ ကဲ့ရဲ့ပြစ်တင်ခြင်းနှင့် နောက်ကွယ်အတင်း စကားများမှ နှုတ်လျှာကို ထိန်းသိမ်းကုန်၊ ငါးကြိမ် နမာဇ်ကို အချိန်ဦးတွင် ဖတ်ကုန်၊ စိတ်စိုက်၍ ဂရုတစ်စိုက်ဝတ်ပြုကုန်၊ 'ရှိကူအ်'ဦးညွှတ်ခြင်း နှင့် 'စစ်ဂျိဒဟ်'ဦးချခြင်းကို ကောင်းစွာ ပြုကုန်၊ မမှတာရာသီ ရပ်စဲသွားသောအခါ သန့်ရှင်းပြီး မည်သည့် နမာဇ်မှ 'ကဿာ' ဖြစ်မသွားစေရန် ဂရုစိုက်၍ ဖတ်ရမည်။

အကယ်၍ ရွှေဘယက်တန်ဆာ စသည်များရှိမူ တွက်ချက်၍ ထိုအတွက် 'ဇကာတ်' ငွေ ထုတ်ကုန်၊ ဤဘာဟစ်ရှိတီ ဇေဝရ်ကျမ်းကို ဖတ်ရှုတ်နေကုန်၊ သို့မဟုတ် နားထောင်နေကုန်၊ ထိုရေးသားချက်များကို လိုက်နာကျင့်သုံး ဆောက်တည်ကုန်၊ ခင်ပွန်းသည်၏ စကားကိုနာခံကုန်၊ ခင်ပွန်းသည်၏ပစ္စည်းကို ခင်ပွန်းသည်မသိအောင် ဖုံးအုပ်၍မသုံးစွဲနှင့်၊ သီချင်းတေးဂီတများကို ဘယ်သောအခါမှ နားမထောင်နှင့်၊ အကယ်၍ သင်မသည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဖတ်တတ်လျှင် နေ့စဉ်သရဇ္ဈာယ်ကုန်၊ ဖတ်ရှုရန် ကျမ်းစာအုပ်ကို ဝယ်ယူမည်ဆိုလျှင် ထိုကျမ်းကို ခိုင်မာသော အာလင်မ်အားပြသပြီး ဝယ်သင့်သည်ဟု ဆိုမှ ဝယ်ယူဖတ်ရှုကုန်၊ မဝယ်သင့်ဟု ဆိုလျှင် မဝယ်နှင့်၊ ထုံးစံ ပြုလုပ်ထားကြသည့် ကိစ္စများတွင် မုန့်ချို စသည်များဝေရာ၌ မသွားနှင့်၊ ဝေငှရာ၌လည်း ဝင်ရောက်ကူညီခြင်း မပြုနှင့်။

## သစ်ကိရ် ပြုသူများအား ဆုံးမခြင်း အကြောင်း

တင်ပြခဲ့သော ဆုံးမ ဩဝါဒများကို ဖတ်ရှု မှတ်သားကုန်၊ အကြောင်းကိစ္စဟူသမျှ၌ ရစူလွလ္လာဟ် (ဆွလလ္လာ့ဟု) ကိုယ်တော်၏ လမ်းစဉ်တော်အတိုင်း လိုက်နာရန် ဂရုစိုက်ကုန်၊ ထိုသို့လိုက်နာပါက စိတ်တွင် 'နူရ်' လင်းဝင်းခြင်းအတိ ရရှိမည်။

အကယ်၍တစ်ဦးတစ်ယောက်ကသင့်သဘောနှင့်ကွဲလွဲစွာပြုလျှင် 'စွဗရ်' သည်းခံကုန် လျှင်မြန်စွာ တစ်စုံတစ်ရာပြောဆိုခြင်း  နှင့် သီးခြား၍ ဒေါသဖြစ်နေသောအခါဆင်ခြင် ရမည်၊ ဘယ်သောအခါမှ မိမိကိုယ်ကို ပြည့်စုံသောသူဟု မယူဆနှင့် စကားကိုနှုတ်လျှာမှ မထွက်မီ အလျှင်ပြောသင့် မပြောသင့်ကို စဉ်းစားသုံးသပ်ကုန်၊ ကောင်းစွာသိပြီးနောက် ထိုစကားသည် မကောင်းမဖြစ်ဆိုပါက 'ဒွန္နယာ'နှင့် 'အာခေရတ်'အတွက်ပါ စဉ်းစားပြီး ပြောဆိုကုန်၊

မည်သည့် လူကြီး, လူကောင်းတစ်ယောက်ကိုမှ မကောင်းမပြောနှင့် ပြောကြသည် ကိုလည်း နားမထောင်နှင့် ဒရ်ဝေးရှ်သူတော်ကောင်းများ၏ လုပ်ငန်းစဉ်ကိုမသိဘဲ အပြစ် မတင်နှင့် မည်သည့် မွတ်စလင်မ်ကိုမှ 'ဂိုနာဟ်' အကုသိုလ်ကျူးလွန်သူ ၎င်းအဆင့်အတန်း နိမ့်သူဖြစ်ပါက ၎င်းသူကို သေးသိမ်သည်ဟု မယူဆနှင့် ပစ္စည်းပစ္စယကို လိုဘရမ္မက်မထား နှင့် တအ်ဝီးသ် လုပ်ငန်းစဉ် အထူးမွေ့လျော်ခြင်း မပြုနှင့် ဤသို့ပြုမူပါက လူသာမန်များ ဝိုင်းလာတတ်ကြသည်။

ဖြစ်နိုင်သည်ခန့် 'သစ်က်ရ်'ပြုသူများနှင့်အတူတစ်ကွထိုင်ကုန် ထိုသို့အတူထိုင်ခြင်းဖြင့် 'နူရ်' ၎င်းကိုယ်တိုင်လည်း 'သစ်က်ရ်' ပြုခြင်သော ဇွဲလုံ့လ ပေါ်ပေါက်လာပေမည်။

လောက၏ အလုပ်ကို များစွာမခဲ့နှင့်၊ မလိုအပ်ဘဲ ပစ္စည်းများကို မစုဆောင်းနှင့် တတ်နိုင်သည်ခန့် တစ်ကိုယ်တည်းနေကုန်၊ အကျိုးမဲ့ ၎င်းမလိုအပ်ဘဲ လူတို့နှင့်မတွေ့ဆုံနှင့် တွေ့ဆုံသောအခါ ရှင်ပြစွာတွေ့ဆုံကုန်၊ လိုအပ်သောကိစ္စပြီးသောအခါ ခွဲခွာသွားရမည်၊ သီးခြား၍ သိကျွမ်းသူများနှင့် ရှောင်ကြဉ်ကုန်၊ ၎င်းအလ္လာဟ်အသျှင်မြတ်၏ အချစ်တော် များ အတူနေနိုင်ရန် ကြိုးစားကုန်၊ ၎င်းသိကျွမ်းမှုမရှိသူများနှင့်သာ တွေ့ဆုံကုန်၊ ဤသို့ သောသူများနှင့် တွေ့ဆုံပါက ဆုံးရှုံးမှုနည်းလေသည်။

အကယ်၍ သင်၏ စိတ်၌ တစ်စုံတစ်ရာ ပေါ်ပေါက်လျှင် ၎င်းအံ့ဖွယ်ကိစ္စနှင့်တွေ့ကြုံ ပါက ဆရာကိုပြောပြကုန်၊ မိမိဆရာအားအခြား 'သစ်က်ရ်' တစ်မျိုးပြုချင်သည်ဟု မပြော နှင့်၊ 'သစ်က်ရ်'ပြုခြင်းဖြင့် အကျိုးပေါ်လာလျှင်ဆရာ်သခင်မှတစ်ပါး မည်သူ့ကိုမျှမပြော နှင့်၊ စကားကိုခဲ့ထွင်မပြောနှင့်၊ သင်သည် မိမိအမှားကိုသိပါက ချက်ချင်း ဝန်ခံသမှု ပြုကုန်၊ အဖြစ်ဟူသမျှတွင် အလ္လာဟ်အသျှင်မြတ်အား ယုံပုံအားထားကုန်၊ ထိုအသျှင်ထံ ၌သာ လိုအင်ဆန္ဒကို တောင်းဆိုကုန်၊ ၎င်းဘာသာ သာသနာရေးအပေါ် ခိုင်မြဲနေရန် အတွက် ဆရာအား 'ဒိုအာ' တောင်းပေးရန် လျှောက်ထားကုန်။

**ဤတွင်၍က 'ဘဟစ်ရှိတီဇေဝရ်' ကျမ်း သတ္တမတွဲ၏**

ဒုတိယ နောက်ဆက်တွဲ ပြီး၏။

**မုဟာမ္မဒ်မူစာ (မဇ္ဇာဟေရီ)**

# ဘဟာစ်ရှိတီဇော့ဂ်ရိကျမ်း

# အ၁ ၆ွမတွ




## ဖတ်ရှုတ်သူများ ဘာသာရေးခိုင်မြဲရေးကိုရှေ့ရှု၍ သူတော်စင်မများအကြောင်းကိုဆိုပေအံ့

ဤအကြောင်းကို မရေးမီ 'ဘရ်ကတ်' ယူသော သဘောဖြင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်၏ အကြောင်းကို အနည်းငယ် ရေးပြမည်၊ ဖတ်ရှုသူများသည် မိမိတို့ရစူလ်၊ ၎င်းရစူလ် ကိုယ်တော်၏ စာရိတ္တတော်များ အကြောင်းကို အနည်းငယ် သိစေရန် ရည်ရွယ်ရင်းပင် ဖြစ်သည်၊ ထိုသို့သိခွင့်ရသဖြင့် ရစူလ်ကိုယ်တော်ကို ချစ်ခင်လာမည်၊ ၎င်းလိုက်နာ, အမိန့်နာခံချင်စိတ်များ တစ်ဖွားဖွား ပေါ်ပေါက်လာပေမည်။

လူသား အပေါင်းသည် ကောင်းမှုကုသိုလ်၏ စည်းစိမ်ကို ရစူလ်ကိုယ်တော်၏ 'ဘရ်ကတ်' ဖြင့်ရရှိကြခြင်းဖြစ်ပေသည်၊ ပထမ အွမ္မတ်သား တို့၏ အမျိုးသမီးများသည် ရစူလ်ကိုယ်တော်၏ 'နူရ်' ဖြင့် ၎င်းကျွန်ုပ်တို့ အွမ္မတ်သားတို့၏ အမျိုးသမီးများသည် ရစူလ်ကိုယ်တော်၏ 'ရှရီအတ်' ဖြင့် ရရှိကြခြင်းဖြစ်ပေသည်၊ ထို့ကြောင့်ရစူလ်ကိုယ်တော်၏ အကြောင်းကိုရေးပြီး သူတော်စင်မများအကြောင်းကိုရေးမည်။

## ရစူလ်ကိုယ်တော်၏ မီးရှူးသန့်စင်တော်မူခြင်းနှင့် ဝဖွာတ် ကွယ်လွန်တော်မူခြင်း စသည့် အကြောင်း

ရစူလ်ကိုယ်တော်၏ ထင်ရှားသောနာမ်တော်သည်မုဟမ္မဒ်(ဆွလလ္လာဟု) ဖြစ်သည် ဖခမည်းတော်၏ နာမ်တော်သည် အဗ်ဒွလ္လာဟ်ဖြစ်သည်၊ ၎င်း၏အဘ အဗ်ဒွလ်မွတ်တလစ်ဗ်၊ ၎င်း၏အဘ ဟာရှင်မ်၊ ၎င်း၏အဘ အဗ်ဒေ့မနာဖ် ဖြစ်လေသည်၊ မယ်တော်၏ နာမ်တော်သည် အာမေ့နဟ်ဖြစ်သည်၊ ၎င်း၏အဘ ဝဟာဗ်၊ ၎င်း၏အဘ အဗ်ဒေ့မနာဖ်၊ ၎င်း၏အဘ ဇွဟ်ရဟ်ဖြစ်သည်၊ ဤအဗ်ဒေ့မနာဖ်သည်ဖခမည်းတော်ဘက်မှအဗ်ဒေ့မနာဖ် နှင့်မဆိုင် တစ်ခြားဖြစ်သည်။

ယမန်နိုင်ငံ၏ ဆိုးသွမ်းသောဘုရင်သည် ဆင်တပ်များဖြင့် 'ကအ်ဗဟ်' ဗိမာန်တော်ကို ဖြိုဖျက်ရန်လာသောနှစ် တနင်းလာနေ့ ရဗီအွလ်အောက်ဝလ်လတွင် မီးရှူးသန့်စင်ဖွားမြင်တော်မူလေသည်၊ ကိုယ်တော်၏ သက်တော် (၅) နှစ်၊ (၂) ရက် ရသောနေ့တွင် နို့ထိန်းတော် ဟလီမဟ်သခင်မက မယ်တော်၏လက်သို့ ပြန်လည် အပ်နှင်းခဲ့လေသည်၊ ကိုယ်တော်သည် (၆) နှစ်သားအရွယ်သို့ ရောက်လေရာမယ်တော်သည် အဘအန္ဒယ် ဘနီနဂ္ဂျာရ် အနွယ်တို့ထံ မဒီနာမြို့တော်သို့ သွားတော်မူသည်၊ တစ်လကြာ နေထိုင်ပြီး မတ်က်ကဟ်မြို့တော်သို့ပြန်အလာ 'အဗ်ဝါအ်' မည်သောနေရာရှိ မယ်တော်မှာ ကွယ်လွန်သွားတော်မူလေသည်၊ မယ်တော်နှင့်အတူအွမ်မေ့ အိုင်မန်လည်း ပါလာသည်၊ ထိုသခင်မက ကိုယ်တော့်ကို မက်ကဟ်မြို့တော်သို့ ခေါ်ဆောင်လာသည်။

ကိုယ်တော်၏ ဖခမည်းတော်သည် ကိုယ်တော် အမိဝမ်းတွင်း၌ ရှိစဉ်ကပင်ကွယ်လွန်သွားတော်မူလေသည်၊ ကိုယ်တော်အား ဘိုးတော် အဗ်ဒွလ်မွတ်တွလစ်ဗ်က ကျွေးမွေးစောင့်ရှောက်တော်မူလေသည်၊ ဘိုးတော်လည်း ကွယ်လွန်တော်မူလေရာ ဘကြီးတော် အဗူတွာလစ်ဗ်က အုပ်ထိန်းခဲ့သည်၊ ဘကြီးတော်သည် ရှာမ် (ဆီးရီးယား) နိုင်ငံသို့ ကုန်ရောင်းကုန်ဝယ် သွားရာတွင် ကိုယ်တော်အား ခေါ်ဆောင်သွားတော်မူသည်၊ လမ်းတွင် ဘိုဟိုင်ရဟ်အမည်ရှိ နစ္စာရာ ဘုန်းကြီးက ကိုယ်တော်ကိုမြင်၍ ဤကလေးကို စောင့်ရှောက်ပါ၊ ဤကလေးသည် နဗီရစူလ် ဖြစ်မည့်သူ ဖြစ်သည်ဟု ဘကြီးတော်အား အသိပေးလေသည် ၎င်းကိုယ်တော်ကို မတ်က်ကဟ်မြို့တော်သို့ ပြန်ပို့လိုက်တော်မူလေသည်။

ထို့နောက် ကိုယ်တော်သည် ကိုယ်တိုင်ပင် ခဒီဂျဟ်သခင်မ၏ ကုန်ပစ္စည်းများကို ယူ၍ ရောင်းချရန် ရှာမ်နိုင်ငံသို့ သွားတော်မူသည်၊ လမ်းတွင် နတ်စ်တူရာ ဘုန်းကြီးက ကိုယ်တော်သည် နဗီရစူလ်ဖြစ်မည့် ပုဂ္ဂိုလ်ဟူ၍ သက်သေခံလေသည် ကိုယ်တော်သည် မတ်က်ကဟ်မြို့တော်သို့ ပြန်ရောက်လာလေရာ ခဒီဂျဟ်သခင်မနှင့် 'နေကာဟ်' ပြု လက်ထပ်တော်မူသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ (ခိုင်ရို့နေစာအော့ဟာ၊ မရ်ယမ်၊ ဘင်န်တေ့အင်မ်ရာန၊ ဝခိုင်ရို့နေစာအော့ဟာ၊ ခဒီဂျတို၊ ဘင်န်တေ့ခို့ ဝိုင်လဒ်။) ထိုခေတ်ရှိ အမျိုးသမီးများအနက် အမြင့်မြတ်ဆုံးသည် အင်မ်ရာန်၏ သမီး မရ်ယမ် သခင်မဖြစ်သည်၊ ထို့ပြင် အမျိုးသမီးများအနက် အမြတ်ဆုံးသည် ခိုဝိုင်လဒ်၏ သမီး ခဒီဂျဟ်သခင်မဖြစ်သည်။

ထိုသို့ ထိမ်းမြားလက်ထပ်သောအခါ ကိုယ်တော်၏ သက်တော်သည် (၂၅) နှစ်ရှိပြီး ခဒီဂျဟ်သခင်မ၏ သက်တော်မှာ (၄၀) နှစ်ဖြစ်သည် ကိုယ်တော်သည် သက်တော် (၄၀) နှစ်တွင် နဗီအဖြစ်ကို လက်ခံရရှိတော်မူသည်၊ သက်တော် (၅၂) သို့မဟုတ် (၅၃) နှစ်တွင် 'မေ့အ်ရာဂျ်' ကောင်းကင်ဘုံနန်းသို့ ကြွသွားတော်မူသည်။

နဗီရစူလ်အဖြစ်၏ အုံဖွယ် ကြီးကျယ်သော အချက်များတွင် မေ့အ်ရာဂျ်လည်း ပါဝင်လေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် နိုးကြားတော်မူလျက် ရှိယင်းစဲ့ ကိုယ်ကာယတော်ဖြင့် မိုးကောင်းကင်သို့ ကြွသွားတော်မူသည်၊ မိုးအားလုံး 'ဂျန္နတ်' ဥယျာဉ်ဘုံ နန်းနှင့် အာလမေ့မလကူးတ်တို့ကို လှည့်လည်ကြည့်ရှုတော် မူခဲ့သည်၊ ဤသို့ သွားရောက်တော်မူခြင်းကို မေ့အ်ရာဂျ်ဟု ခေါ်လေသည်။

နဗီအဖြစ် လက်ခံ ရရှိတော်မူပြီးနောက် မတ်က်ကဟ် မြို့တော်တွင် (၁၃) နှစ် နေထိုင်တော်မူသည် 'ကာဖွင်ရ်' များက ဒုက္ခအမျိုးမျိုးပေးကြသဖြင့် အလ္လာဟ်အသျှင် မြတ်၏ အမိန့်တော်အရ မဒီနာမြို့တော်သို့ ဟစ်ဂျ်ရတ် ပြု၍ ကြွသွားတော်မူသည်၊ မဒီနာ မြို့တော်သို့ရောက်ပြီး ဒုတိယနှစ်တွင် ဘဒ်ရ်စစ်ပွဲ ဖြစ်လေသည်၊ ကြီးကျယ်သော စစ်ပွဲကြီး တစ်ရပ်ဖြစ်သည်၊ 'ဘဒ်ရ်ကွဖ်ရာ' ဟု မည်တွင်လေသည်၊ ထိုနောက် များစွာသောစစ်ပွဲများ ဖြစ်ပေသေးသည်၊ စစ်ပွဲ အကြီး၊ အသေးပေါင်း (၃၅)ပွဲ ဖြစ်ခဲ့သည်။

မြောက်သားတော်ပေါင်း (၁၁) ပါးရှိသည်၊ ကိုယ်တော် အသက်ထင်ရှားရှိတော် မူစဉ် (၂) ပါးမှာ ကွယ်လွန်တော်မူသည်၊ ခဒီဂျဟ် သခင်မနှင့် ခိုဇိုင်မဟ်၏သမီး ဇိုင်နဗ် သခင်မ ဖြစ်သည်၊ ဝဖွာတ်ဖြစ် ကွယ်လွန်တော်မူသောအခါ (၉) ပါး ထားခဲ့လေသည်၊ (၁) စောင်ဒဟ်သခင်မ၊ (၂) အာအေရှဟ်သခင်မ၊ (၃) ဟဖ်စွာဟ်သခင်မ၊ (၄) အွမ်မေ့စလ်မဟ်သခင်မ၊ (၅) ဂျဟ်ရှ်၏သမီး ဇိုင်နဗ်သခင်မ၊ (၆) အွမ်မေ့ဟဗီဗဟ် သခင်မ၊ (၇) ဂျူဝိုင်ရိယဟ်သခင်မ၊ (၈) မိုင်မူနဟ်သခင်မ၊ (၉) စွဖီယဟ်သခင်မ၊ (ရသွေ့ယလ္လာဟို့အန်ဟွန်မ်)။

ကိုယ်တော်တွင် သမီးတော် (၄) ပါးရှိသည်၊ အကြီးဆုံးမှာ (၁) ဇိုင်နဗ်သခင်မ၊ (၂) ရိုကီယဟ်သခင်မ၊ (၃) အွမ်မေ့ကွလ်သူမ်သခင်မနှင့် အထွေးဆုံး(၄) ဖွာတွေမဟ် သခင်မ၊ (ရသွေ့ယလ္လာဟို့အန်ဟွန်မ်) တို့ဖြစ်သည်၊ ဤသမီးတော် (၄) ပါးစလုံးကို ခဒီဂျဟ်(ရသွေ့) သခင်မနှင့် မွေးဖွားခဲ့ခြင်းဖြစ်သည်။

သားတော် (၃) ပါး၊ သို့မဟုတ် (၄) ပါး၊ သို့မဟုတ် (၅) ပါးရှိသည်၊ (၁) ကာဆင်မ်သခင်၊ (၂) အဗ်ဒွလ္လာဟ်သခင်၊ (၃) တွိုင်ယစ်ဗ်သခင်၊ (၄) တွာဟင်ရ် သခင်၊ ဤသားတော် (၄) ပါးသည် ခဒီဂျဟ် (ရသွေ့) သခင်မနှင့် မွေးဖွားခဲ့ခြင်းဖြစ် သည်၊သားတော် အစ်ဗ်ရာဟီးမ်သခင်ကို အစေခံမ မာရေယဟ်သခင်မနှင့် မွေးဖွားခဲ့သည်၊ ထိုသားငယ်သည် နို့စို့အရွယ်ကပင် မဒီနာမြို့တော်၌ ကွယ်လွန်သွားလေသည်။

ဤသို့ ရည်တွက်ခြင်း အားဖြင့် သားတော် (၅) ပါးဖြစ်ပေသည်၊ အချို့က အဗ်ဒွလ္လာဟ်၏ အမည်သည် တွိုင်ယစ်ဗ်ပင်ဖြစ်သည်ဟု ဆိုကြသည်၊ ဤသို့ဆိုလျှင် သားတော် (၄) ပါးသာဖြစ်သည်၊ ဧင်းအချို့က တွိုင်ယစ်ဗ်သည်ပင် အဗ်ဒွလ္လာဟ်၊ ၎င်းတွာဟင်ရ်လည်း ဖြစ်သည်ဟုဆိုကြသည်၊ ဤသို့ဆိုလျှင် သားတော် (၃) ပါးသာ ဖြစ်လေသည်၊

ကိုယ်တော်သည် နဗီဖြစ်ပြီးနောက် သားတော် အဗ်ဒွလ္လာဟ်သခင် မွေးဖွားတော်မူသည်၊ မတ်ကာဟ်မြို့တော်၌ပင် ကွယ်လွန်သွားလေသည်၊ ကျန်သားတော်များသည် ကိုယ်တော် နဗီမဖြစ်မီ မွေးဖွားကြ၍၊ နဗီမဖြစ်မီကပင် ကွယ်လွန်ကြလေသည်။

ကိုယ်တော်သည် မဒီနာ မြို့တော်သို့ ရောက်ပြီး၊ ၁၀-နှစ် နေထိုင်တော်မူသည်၊ ထိုနောက် စွဖွရ်လ ၂-ရက်၊ ဗုဒ္ဓဟူး နေ့တွင် မကျန်းမမာ ဖြစ်တော်မူသည်၊ ရဗီအွလ် အောင်ဝလ်လ ၁၂-ရက်၊ တနင်းလာနေ့ နံနက် အချိန်တွင် သက်တော် (၆၃)နှစ်၌ 'ဝဖွာတ်'ဖြစ်, ကွယ်လွန်တော်မူလေသည်၊ အင်္ဂါနေ့ မွန်းတည့်ပြီးနောက် မြှုပ်နှံသင်္ဂြိုဟ်တော်မူလေသည်၊ အချို့က အင်္ဂါနေ့ပင်ကုန်၍ ညအချိန်ရောက်လာသည်ဟု ဆိုကြသည်၊ ဤသို့ ကြန့်ကြာသွားရခြင်းမှာ ဆွဟာဗဟ် (ရသွေ့)သခင်များသည် ဝမ်းနည်းပူဆွေး ဒုက္ခရောက်နေကြရသောကြောင့် မြှုပ်နှံဖို့ပင် သတိမရနိုင်ဘဲ ကြောင်အမ်းအမ်း ဖြစ်နေကြပေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏သမီးတော်များမှ ဇိုင်နဗ်(ရသွေ့)သခင်မ မှ 'အလီ'မည်သော သားတော်တစ်ပါးနှင့် 'အို့မာမဟ်'မည်သော သမီးတော်တစ်ပါး ထွန်းကားခဲ့သည်၊ သို့သော်လည်း ထိုနှစ်ပါးစလုံးမှ ဆက်၍ မွေးဖွားခြင်းမရှိဘဲ အဆက်ပြတ်သွားခဲ့သည်၊ ၎င်း ရိုကီယဟ်(ရသွေ့)သခင်မမှ သားတော် အဗ်ဒွလ္လာဟ် မွေးဖွားခဲ့သည်၊ သို့သော် ၆-နှစ်သား အရွယ်တွင် ကွယ်လွန်သွားလေသည်၊ ၎င်း အွမ်မေ့ ကွလ်သူမ်(ရသွေ့)သခင်မမှ သားသမီးမထွန်းကားခဲ့၊ အထွေးဆုံးသမီးတော် ဖွာတွေမဟ် (ရသွေ့)သခင်မမှ ဟစံ နှင့် ဟွိုစိုင်န် သားတော်နှစ်ပါးထွန်းကားခဲ့သည်၊ ထိုသားတော်နှစ်ပါးမှ အဆက်အနွယ်များသည် ယခုတိုင် မြောက်မြားစွာ ပြန့်နှံ့သွားလေသည်။

# ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏

## အကျင့် စာရိတ္တတော်များ အကြောင်း

ကိုယ်တော်သည်အလွန်ရက်ရောတော်မူသည်၊တောင်းရမ်းသူကို မရှိ ၎င်းသွားပါဟု ဘယ်သောအခါမှ မပြောခဲ့၊ ရှိလျှင် ပေးတော်မူလိုက်သည်၊ မရှိလျှင် ချိုသာနူးညံ့စွာ နောက်တစ်ကြိမ်ပေးမည်ဟု ကတိတော်ပေးလေသည်၊ ကိုယ်တော်သည် ကတိကို အလွန် တည်ကြည်တော်မူသည်၊ စိတ်သဘောသည် အလွန် နူးညံ့၍ သနား ကြင်နာတတ်သည်၊ အကြောင်းကိစ္စ ဟူသမျှတွင် လွယ်ကူမှုကို ပြုတော်မူသည်၊ မိမိထံသို့ သွားလာသူများကို အလွန်ဂရုစိုက်လေသည်၊ မိမိဘက်မှ ၎င်းတို့ကို မည်သို့သော ဒုက္ခမှ မရောက်ရန် ဂရုပြုတော်မူသည်၊ အကယ်၍ ညအချိန်တွင် အပြင်သို့ သွားရန် ရှိမူ၊ ဖြည်းညှင်းစွာ ဖိနပ်စီးတော်မူသည်၊ တံခါးကို ဖြည်းဖြည်းဖွင့်၍ ခြေသံမကြားအောင် သွားတော်မူသည်၊ အကယ်၍ အိမ်တော်သို့ပြန်လာလျှင် အိမ်သူများအိပ်နေပါက အိပ်ရေးမပျက်ကြစေရန် လုပ်စရာရှိသည်များကို ဖြည်းညှင်းစွာ ပြုတော်မူသည်။

အမြဲထာဝရ အရှုကို မြေပေါ်သို့ ထားတော်မူသည်၊ လူအများနှင့်သွားလာသော အခါ အခြားသူများ၏နောက်မှ သွားတော်မူသည်၊ ရင်ဆိုင်တွေ့သူကို အလျင်ဦးအောင် စလာမ်ပေးနှုတ်ခွန်းဆက်တော်မူသည်၊ ထိုင်တော်မူသောအခါ အလွန်ကျိုးငယ် နှိမ့်ချစွာဖြင့် ထိုင်တော်မူသည်၊ ထမင်းစားသုံးတော်မူသောအခါ သူဆင်းရဲများကဲ့သို့ထိုင်၍ ဝမ်းဝအောင် စားတော်မမူပေ၊ 'ကျပါတီ'မုန့်ကောင်းကို ဘယ်သောအခါမှ စားတော်မမူပေ၊ လှပအောင်ပြုထားသော ပန်းကန်များဖြင့် ဘယ်သောအခါမှ စားတော်မမူပေ။

အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်ကို ကြောက်ရွံ့ကာ ပူဆွေး၍ နေတော်မူသည်၊ ထိုသို့ကြောက်ရွံ့စွာဖြင့် အချိန်တိုင်းစဉ်းစားတွေးတော၍ စိတ်အေးချမ်းမှုမရဘဲ သောက ရောက်နေတော်မူသည်၊ အများအားဖြင့် ဆိတ်ဆိတ်နေတော်မူသည်၊ လိုအပ်၍ အရေး မကြီးဘဲ စကားပြောဆိုတော်မမူပေ၊ မိန့်လျှင်လည်း နားထောင်သူပြတ်သားစွာနားလည် သွားအောင် ရှင်းရှင်းလင်းလင်း မိန့်ဆိုတော်မူလေသည်၊ ကိုယ်တော်သခင် မိန့်သော စကားသည် လိုအပ်သည်ထက်မရှည်၊ လိုအပ်သည်ထက်လျော့၍ နားမလည်လောက် အောင်လည်း တိုတောင်းခြင်း မရှိပေ၊ မိန့်ဆိုရာ၌သော်လည်းကောင်း၊ ဆက်ဆံရာ၌ သော်လည်းကောင်း မခြေမင်မရှိ ပြေပြစ်စွာ ပြောဆိုဆက်ဆံတော်မူသည်၊ မိမိထံလာသူ များကို ဂုဏ်ပျက်အောင်မပြု၊ သေးသိမ်မျက်နှာငယ်အောင်လည်း ပြုတော်မမူပေ၊ တစ်ဦး တစ်ယောက် ပြောနေသောစကားမပြတ်မီ ကြားဖြတ်၍ ပြောဆိုခြင်း မပြုပေ၊ သို့သော် အကယ်၍ 'ရှရီအတ်'တရားတော်မြတ်နှင့် ဆန့်ကျင်သော စကားကိုပြောလျှင်၊ မပြောရန် တားမြစ်တော်မူသည်၊ တားသည်ကို နားမထောင်ပါက ထိုနေရာမှ ထသွားတော်မူသည်။

အလ္လာဟ်အသျှင်မြတ်ပေးသနားတော်မူသော စည်းစိမ်တော်ကို အနည်းငယ်မျှပင် ဖြစ်စေ ကိုယ်တော်သည် အလွန်ကြီးကျယ်သောစည်းစိမ်ဟု ယူဆတော်မူသည်၊ ဤပစ္စည်း သည် အရသာမရှိ၊ နံစော်သည် ဟူ၍ပင် အပြစ်ရှာဖွေတော်မမူပေ၊ သို့ရာတွင် အကြင် ပစ္စည်းကို ကိုယ်တိုင်မနှစ်သက်လျှင် ထိုပစ္စည်းကို စားတော်မမူ၊ ချီးမွမ်းခြင်းလည်းမပြု၊ အပြစ်ရှာခြင်းလည်းမပြုပေ။

လောကီရေးရာနှင့် ပတ်သက်၍ မည်သို့သောအကြောင်းကိစ္စ ဖြစ်စေကာမူ၊ ကိုယ် တော်သည် ဒေါသဖြစ်တော်မမူပေ၊ ပမာဆိုသော်-တစ်ဦးတစ်ယောက်ဖြင့် ဒုက္ခရောက်လျှင် တစ်ဦးဦးဖြင့် ဆုံးရှုံးနစ်နာမှု ဖြစ်လျှင်လည်း ဒေါသဖြစ်တော်မမူပေ၊ အနတ်စ်(ရသွေ့) သခင်က- မိန့်တော်မူသည်၊ ကျွန်ုပ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံတွင် ၁၀-နှစ်တိုင်တိုင် ခစားနေခဲ့သည်၊ ထို၁၀-နှစ် အတွင်းတွင် ကျွန်ုပ် လုပ်ဆောင်ချက် များကိုအဘယ့်ကြောင့်ပြုသနည်း၊အဘယ့်ကြောင့်မပြုသနည်းဟူ၍ပင်မေးတော်မမူပေ။

အချို့ရေဝါယတ်များတွင် ဤသို့လည်း လာရှိသည်၊အနတ်စ် (ရသွေ့)သခင်က မိန့်တော်မူသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အချို့ အိမ်သူ အိမ်သား

များက ချို့ယွင်းမှုအပေါ် ကျွန်ုပ်အားဖြစ်တင်ကြလျှင် ကိုယ်တော်က ဖြစ်စာင်ခြင်းမပြုရန် တားတော်မူသည်၊ ဖြစ်ပျက်ခြင်းအပေါင်းသည် 'တတ်က်ဒီးရ်' အလ္လာဟ် အသျှင်မြတ် သတ်မှတ်ထားတော်မူသည့်အတိုင်း ဖြစ်ကြရသည်ဟု မိန့်တော်မူလေသည်။

(ကန်ဇုလ်အမ္မာလ်ကျမ်း)

သို့သော် အကယ်၍ ဘာသာ သာသနာရေးနှင့် ပတ်သက်၍ ဆန့်ကျင်မှုပြုလျှင် ကိုယ်တော်၏ ဒေါသတော်ကို မည်သူမျှ မခံနိုင်ကြပေ၊ မိမိကိစ္စ နှင့် ပတ်သက်၍ကား ဒေါသဖြစ်တော်မမူခဲ့ပေ၊ အကယ်၍ တစ်ဦးဦးအား စိတ်ဆိုးတော်မူလျှင် မျက်နှာတော် လွှဲလိုက်တော်မူသည်၊ နှုတ်လျှာဖြင့် ပြောဆို ငေါက်ငမ်းခြင်း ပြုတော်မမူပေ၊ ပျော်ရွှင် တော်မူလျှင် မျက်လွှာချတော်မူလေသည်၊ ကညာပျိုထက်ပင် ပို၍ ရှက်တတ်တော်မူသည်၊ ရယ်မောချင် အားကြီးလျှင် အနည်းငယ်ပင် ပြုံးတော်မူသည်၊ အသံထွက်အောင် ရယ် တော်မမူပေ။

အားလုံးနှင့်ရောနှော၍ နေထိုင်တော်မူသည်၊ ဂုဏ်တံခိုးကြီးစေကာမူ မည်သူနှင့်မှ ရှောင်ဖယ်၍နေတော်မမူ၊ သာမက တစ်ခါတစ်ရံ တစ်ဦးဦးအား ပျော်ရွှင်စေရန်အတွက် ရယ်မောစရာများပင် ပြောဆိုတော်မူလေသည်၊ ထိုသို့ ရယ်စရာစကားကို ဆိုရာ၌မှန်ကန် သည့် စကားကိုသာ မိန့်တော်မူသည်၊ 'နဖ်လ် နမာဇ်'များကို အဖတ်များသည့်အတွက် ခြေတော်ပင်ယောင်သွားတော်မူသည်၊ ကုရ်အာန်ကျမ်းတော်ဖတ်သောအခါနှင့် နားဆင် တော်မူသောအခါ အလ္လာဟ်အသျှင်မြတ်ကိုကြောက်ရွံ့ပြီး ငိုယိုတော်မူလေသည်၊ တပည့် သားမြေးများကို မိမိအားချီးမွမ်းခြင်းမပြုကြရန် မိန့်ဆိုတော်မူ၍ မိမိကိုယ်ကို နှိမ့်ချတော် မူသည်။

ဆင်းရဲသောအဘွားအိုတစ်ဦးတစ်ယောက်သည်ကိုယ်တော်နှင့်နှစ်ဦးချင်းပြောစရာ ရှိသည်ဟုဆိုပါက လမ်းဘေးတွင်ပင် ထိုင်၍ပြောရန် မိန့်တော်မူသည်၊ ထိုသူမ ထိုင်သော နေရာတွင်ပင် ကိုယ်တော်လည်း ထိုင်တော်မူ၍ ပြောဆိုချက်များကို ဂရုတစ်စိုက်နားဆင် တော်မူသည်၊ မကျန်းမမာဖြစ်သူသည် ပစ္စည်းကြွယ်ဝ ချမ်းသာသူဖြစ်စေ၊ ဆင်းရဲသူဖြစ် စေ ကိုယ်တော်သည် သွားရောက်မေးမြန်းတော်မူသည်၊ ဂျနာဇဟ်အသုဘရှိလျှင် ကိုယ် တော်သည် ကြွသွားတော်မူသည်၊ အခိုင်းအစေ ကျွန်အစေခံက ထမင်းစားဖိတ်စေ ကာမူ ကိုယ်တော်သည် ၎င်းသူကျေနပ်အောင် သွားရောက် စားသောက်တော်မူသည်၊ အကယ်၍ ဂျောင်(ဂျုံအညံ့စား) ၎င်းအရသာမရှိသော အဆီနှင့်ပင် ထမင်းစားဖိတ်ပါက ကိုယ်တော်သည် ငြင်းဆန်ခြင်း ပြုတော်မမူပေ။

နှုတ်လျှာဖြင့် အကျိုးမရှိသောစကားများကို ပြောဆိုတော်မမူပေ၊ အားလုံး စိတ် ကျေနပ်အောင် ဆက်ဆံတော်မူသည်၊ စိတ်မကောင်းဖြစ်သွားလောက်အောင် မည်သူနှင့်မှ ဆက်ဆံတော်မမူပေ၊ မတရားသူဆိုးသွမ်းသူများမှ ကိုယ်တိုင် လွတ်ကင်းအောင်နေတော် မူသည်၊ သို့သော် ထိုသူတို့နှင့်ကား ရယ်မော ပျော်ရွှင်စွာ ဆက်ဆံတော်မူသည်၊ ကိုယ်

တော်ထံ လာရောက်ကြသူများအနက် တစ်ဦးတစ်ယောက် မလာလျှင် မေးတော်မူသည်၊ အလုပ်ဟူသမျှကို စနစ်တစ်ကျပြုတော်မူသည်၊ စည်းမဲ့ကမ်းမဲ့ ပြုတော်မမူပေ၊ ထိုင်သောအခါနှင့် ထသောအခါ အလ္လာဟ်အသျှင်မြတ်ကို 'သစ်ကိရ်'ပြု တ,သတော်မူသည်။

လူတို့ထိုင်နေကြရာတွင် သွားတော်မူပါက နေရာလွတ်ရှိသည့်ဘေးတွင် ထိုင်တော်မူသည်၊ လူတို့ကို ဖယ်ရှားကျော်လွှား၍ နေရာကောင်းသို့ သွားရောက် ထိုင်တော်မူလေ့မရှိပေ၊မိန့်ဆိုနေတော်မူသောအခါ လူအများရှိကြလျှင်တစ်ဦးတည်းကြည့်၍မိန့်တော်မမူ၊ အားလုံးတစ်ဦးစီကြည့်၍မိန့်တော်မူလေ့ရှိပေသည်၊ အားလုံးနှင့်ဆက်ဆံရာတွင် အားလုံးကပင် ကျွန်ုပ်ကို ပို၍ဂရုစိုက်သည်ဟု အထင်ရောက်ကြလေသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည် လာရောက်ထိုင်လျှင်၊ ၎င်းစကားပြောလျှင် ကိုယ်တော်သည် ၎င်းသူကို အားနာ၍ ထိုင်နေတော်မူသည်၊ ထိုသူ့ထံပါးမှ ကိုယ်တော်သည် ထသွားတော်မူသည်၊ ကိုယ်တော်သည် လူအားလုံးနှင့် တစ်ပြေးတည်း ညီတူညီမျှ ဆက်ဆံတော်မူသည်။

အိမ်တော်တွင် ထိုင်သောအခါ "မှီအုံး,ခေါင်းအုံး,ဖြင့် မှီ၍ ထိုင်တော်မူသည်၊ များစွာသော အိမ်တွင်းလုပ်ငန်းများကို မိမိလက်တော်ဖြင့်ပြုလုပ်တော်မူသည်၊ မိမိအင်္ကျီအဝတ်များကို ကိုယ်တိုင်ဖွပ်လျှော်သည်၊ ဆိတ်နို့ကိုလည်း ကိုယ်တိုင် ညှစ်တော်မူသည်၊ အများအားဖြင့် မိမိ အလုပ်များကို ကိုယ်တိုင်ပင် ပြုလုပ်တော်မူလေသည်၊ မည်မျှပင်ဆိုးသွမ်းသူ ဖြစ်စေကာမူ လာရောက် တွေ့ဆုံလျှင် ကရုဏာသက်စွာဖြင့် ဆက်ဆံတော်မူသည်၊ ထိုသူစိတ်ထိခိုက်အောင် ပြုတော်မမူပေ၊ အချုပ်မှာ....ကိုယ်တော်သည် လူအားလုံးထက် ရည်မွန်ချိုသာသော ပုဂ္ဂိုလ်ဖြစ်လေသည်။

အကယ်၍ တစ်ဦးတစ်ယောက်မှ မနှစ်သက်သောအကြောင်း ဖြစ်ပေါ်လာမူ၊ မျက်နှာကြည့်၍ ပြောဆိုဝေါက်ငမ်းခြင်းပြုတော်မမူပေ၊စိတ်ထားပြင်းပြခြင်းမရှိ၊ မျက်နှာထားနှင့်လည်းမနေတတ်ပေ၊အချို့သူများသည် တစ်ဦးဦးအားကြိမ်းမောင်းရန်၊ကြောက်ရွံ့ရန်ပြုလိုမူ ဒေါသဖြစ်၍ မျက်နှာထား တင်းမာစွာ ပြောဆိုတတ်ကြလေသည်၊ ကိုယ်တော်သည် အော်ဟစ်၍ စကားပြောဆိုခြင်း မပြုပေ၊ တစ်ဦးတစ်ယောက်က ကိုယ်တော်အား မကောင်းပြုလျှင် ကိုယ်တော်သည် မကောင်းမှုဖြင့် တုံ့ပြန်ခြင်း ပြုတော်မမူပေ၊သာမကခွင့်လွှတ်တော်မူလေသည်၊ ဘယ်သောအခါမှ မိမိ၏လက်တော်ဖြင့် ကျွန်များ၊အစေခံများ အမျိုးသမီးများ သာမက တိရစ္ဆာန်များကိုပင် ရိုက်ပုတ်တော်မမူခဲ့ပေ၊ 'ရှရီအတ်'တရားတော်မြတ်အရ ပြစ်ဒဏ်ပေးရခြင်းမှာ တစ်ခြား ဖြစ်လေသည်၊ ကိုယ်တော်အား ဒုက္ခပေးလျှင် ထိုသူ့ကို အစားယူတော်မမူပေ။

အချိန်ဟူသမျှ ရွှင်ပြ၍နေတော်မူသည်၊ မျက်နှာထားနှင့် နေတော်မမူပေ၊ ပူဆွေးသောကရောက်ခြင်း မရှိဟူ၍မဟုတ် အထက်တွင်ပြဆိုခဲ့သည့်အတိုင်း အမြဲထာဝရ အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့ကာ ပူဆွေး၍နေတော်မူသည်၊ စိတ်နှလုံးသည် နူးညံ့ ပျော့ပျောင်းလေသည်၊ ပြောဆိုရာနှင့် ဆက်ဆံရာတွင် မာမြင်း ခက်ထန်ခြင်း မရှိ၊ မဆီမဆိုင်

စကားများကို ပြောဆိုခြင်းမရှိပေ၊ မည်သူ၏ အပြစ်ကိုမှ ဖော်ထုတ်ခြင်း ပြုတော်မမူ၊ မည်သည့်ပစ္စည်းကိုမျှ လုယူရန် တိုက်တွန်းတော်မမူ၊ မိမိကြီးခြင်းကို ကြွားဝါခြင်းနှင့် အကျိုးမဲ့ငြင်းခုံခြင်းများ ပြုတော်မမူပေ၊ အကျိုးမရှိသောစကားကို ပြောဆိုခြင်းမပြု မည်သူ၏ မကောင်းကိုမှမပြော မည်သူ၏အပြစ်ကိုမှ ရှာကြံခြင်းမပြု။

'သဝါဗ်' ကုသိုလ်ရသည့်စကားကိုသာ ပြောဆိုတော်မူသည်၊ ရပ်ဝေးမှခရီးသည် လာသောအခါ ၎င်း၏အပြောအဆို၊ အနေအထိုင် ရိုင်းစိုင်းနေလျှင် ကိုယ်တော်သည် ချိုသာစွာ ပြောဆိုဆုံးမတော်မူသည်၊ မည်သူ့ကိုမှ မိမိကို ချီးမွမ်းခွင့် ပေးတော်မမူပေ၊ ဟဒီးသ်တော်များ၌လည်း မိမိအား ချီးကျူးစကားများကို ရေးစေတော်မမူပေ။

ဤတင်ပြချက်များအတိုင်း လိုက်နာ ဆောင်ရွက် ကြပါလျှင် အလွန်လုံလောက်နေပေပြီ၊ ယခု အမျိုးသမီး သူတော်စင်မများအကြောင်းကို ရေးပြမည်။

## ဟောင်ဝါ [အလိုင်ဟတ်စလာမ်] သခင်မ အကြောင်း

ဤသခင်မသည် အာဒမ်(အလာနဗီယေ့နာ၊ဝအလိုင်ဟစ်စွလာတ်၊ဝတ်စ်စလာမ်) သခင်၏ မြောက်သားတော်ဖြစ်ပြီး လူသားအပေါင်း၏ မိခင်ဖြစ်တော်မူသည်၊ဟောင်ဝါ သခင်မကို အလ္လာဟ်အသျှင်မြတ်က မိမိ၏ဘုန်းဘံခိုးတော်ဖြင့် အာဒမ် (အလိုင်ဟစ္စလာမ်) သခင်၏ ဘယ်ဘက်နံရိုးတော်ဖြင့် ဖန်ဆင်းတော်မူလေသည်၊ ထိုသို့ ဖန်ဆင်းပြီးနောက် အာဒမ် အလိုင်ဟစ္စလာမ်) သခင်နှင့် နေကာဟ်ပြု လက်ထပ်ပေးတော်မူသည်၊ 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းတွင် နေထိုင်ရန် သတ်မှတ်ပေးတော်မူသည်၊ထို'ဂျန္နတ်'တွင် သစ်ပင်တစ်ပင် ရှိသည်၊ ထိုအသီးကို စားခြင်းမပြုရန် တားမြစ်တော်မူသည်။

မေ့မှား၍ ရှိုင်တွာန် မိစ္ဆာ၏ လှည့်ဖြားမှုဖြင့် ထိုအပင်မှအသီးကို စားတော်မူလိုက်သည်၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်က 'ဂျန္နတ်'မှ ဒွန္နယာ လောကသို့ ပို့လွှတ်တော်မူလိုက်သည်၊ ဒွန္နယာလောကသို့ ရောက်လာရ သခင်မသည် များစွာငိုကြွေးတော်မူသည်၊ အလ္လာဟ်အသျှင်မြတ်က သခင်မ၏အပြစ်ကို ခွင့်လွှတ်ချမ်းသာပေးတော်မူလိုက်သည်၊ ပထမက သခင်မသည် အာဒမ် (အလိုင်ဟစ္စလာမ်) သခင်နှင့် တစ်ကွဲတစ်ပြားစီ ဖြစ်နေသည်၊ ထို့နောက် အလ္လာဟ်အသျှင်မြတ်က နှစ်ပါးစလုံးကို ပြန်လည်၍ တွေ့ဆုံစေတော်မူ သည်၊ထိုဟောင်ဝါနှင့်အာဒမ် (အလိုင်ဟစ္စလာမ်) မှ များစွာသောသား၊ သမီးများ ပေါက်ဖွားလာရလေသည်။

**အကျိုးကျေးဇူး။** အို…အမျိုးသမီး အပေါင်းတို့၊ ဟောဝါသခင်မက မိမိ၏ အမှားကို ဝန်ခံ၍ 'တောင်ဗဟ်' ပြုတော်မူသည်၊ အချို့အမျိုးသမီးများသည် မိမိ၏ မှားယွင်းမှုကို ဖုံးကွယ်ကြသည်၊ မိမိအပေါ် အပြစ်တင် မခံကြပေ၊ ၎င်းအချို့တို့သည် 'ဂိုနာဟ်'များကို ရာသက်ပန်ပြုကြသည်၊ စွန့်လွှတ်ခြင်းမပြုကြ၊

သီးခြား၍‘ဂီဗတ်’ နောက်ကွယ်အတင်းနှင့် ပြုလုပ်ထားကြသော ထုံးစံများကို ကျူးလွန်နေကြသည်၊ စွန့်လွှတ်ခြင်း မပြုကြပေ၊ အို… အမျိုးသမီးတို့၊ ဤသို့ မကောင်းသော အကျင့် စာရိတ္တများကို စွန့်လွှတ်ကြ၍ ‘တောင်ဗဟ်’ပြု၊ အမှား ဝန်ခံကြကုန်။

## နူးဟ် (အလိုင်ဟစ္စလာမ်) သခင်၏ မိခင်အကြောင်း၊

နူးဟ် (အလိုင်ဟစ္စလာမ်) သခင်က မိမိအတွက်နှင့် မိခင်၏အတွက်ပါ‘ဒိုအာ’ဆုမွန် ပြုတော်မူသည်ဟု ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိပေသည်၊ နူးဟ် (အလိုင်ဟစ္စလာမ်) သခင်၏ မိဘနှစ်ပါးသည် မွတ်စလင်မ် ဖြစ်သည်ဟူ၍ ‘တဖ်စီးရ်’ များတွင် ရေးသား ပါရှိလေသည်။

**အကျိုးကျေးဇူး။** အိမာန်၏ ‘ဘရ်ကတ်’ သည် အလွန်ကြီးမားလေသည်၊ အိမာန် ရှိသည့်အတွက် ‘ပိုင်ဂမ်ဗရ်’ ကလည်း ‘ဒိုအာ’ဆုမွန် တောင်းဆိုပေးတော်မူလေ သည်၊ အို…အမျိုးသမီးအပေါင်းတို့၊ အိမာန် ယုံကြည် သက်ဝင်မှုကို မြဲခိုင်စွာ ထိန်းသိမ်းထားကြကုန်လော့။

## ဆာရဟ် (အလိုင်ဟတ်စလာမ်) သခင်မ အကြောင်း၊

ဤသခင်မသည် အစ်ဗ်ရာဟီးမ် (အလိုင်ဟစ္စလာမ်) သခင်၏ မြေးက်သားတော် ဖြစ်ပြီး အစ်ဟားက် (အလိုင်ဟစ္စလာမ်) သခင်၏ မယ်တော်ဖြစ်ပေသည်၊ သခင်မက ‘ဖွရစ်ရှိတဟ်’ ကောင်းကင်တမန်များကိုပြောဆိုခြင်းနှင့်‘ဖွရစ်ရှိတဟ်’ များကသခင်မသည် တစ်အိမ်သားလုံးအပေါ် အလ္လာဟ်အသျှင်မြတ်၏ ရဟ်မတ်တော်နှင့် ဘရ်ကတ်တော် ဖြစ် သည်ဟု ပြောဆိုကြကြောင်း ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိလေသည်၊ သခင်မ၏ သန့်ရှင်းမွန်မြတ်ခြင်းနှင့် ဒိုအာတောင်း၍ဆု ‘ကဘူလ်’ ဖြစ်သောအကြောင်း ဟဒီးသ်တော် မြတ်တွင် လာရှိသည်မှာ….

အစ်ဗ်ရာဟီးမ်(အလိုင်ဟစ္စလာမ်)သခင်သည် ရှာမ်နိုင်ငံသို့‘ဟစ်ဂျ်ရတ်’ပြု၊ ကြွသွား တော်မူရာ သခင်မလည်း အတူပါလေသည်၊ ယခု ‘ဗိုင်တွလ်မုကဒ်ဒတ်စ်’ရှိသော နေရာတွင် စခန်းချတော်မူသည်၊ ထိုဒေသတွင် မတရားသောဘုရင်တစ်ဦး အုပ်စိုးလေသည်၊ တစ်ဦး သောသူက ‘အလွန်ချောမောလှပသော အမျိုးသမီးတစ်ဦးသည် ဘုရင်အုပ်စိုးသောဒေသ အတွင်း၌ ရောက်ရှိနေပါသည်’ဟု ပြောလေသည်၊ ထိုအခါဘုရင်က အစ်ဗ်ရာဟီးမ်(အလိုင် ဟစ္စလာမ်) သခင်ကိုခေါ်၍ သင်နှင့်အတူပါသော အမျိုးသမီးသည် အသူပါနည်းဟု မေးလေ၏၊ သခင်က ‘ကျွန်ုပ်၏ဘာသာရေး နှမဖြစ်သည်’ဟု မိန့်လေ၏။

ဇနီးသည်ဖြစ်ကြောင်း မပြောသည်မှာ အမျိုးသမီး၏ ခင်ပွန်းဖြစ်ပါက ဘုရင်သည် ခင်ပွန်းဖြစ်သူကိုသတ်၍ သိမ်းပိုက်လေ့ရှိလေသည်၊ သခင်သည် ဘုရင်ထံမှ ပြန်လာရာ ဆာရဟ်သခင်မကို အကြောင်းစုံပြောပြလေ၏၊ သခင်က ‘ကျွန်ုပ်၏စကားကို မုသား မဖြစ်စေနှင့် သင်မသည် ကျွန်ုပ်၏ ဘာသာရေး နှမလည်းဖြစ်သည်’ ဟု မှာတမ်းလေ၏၊

ဘုရင်၏ အမှုထမ်းများသည် သခင်မကို အတင်းအဓမ္မ ခေါ်ဆောင်သွားကြသည်၊ သခင်မသည် ဘုရင်၏ မကောင်းသော အကျင့်ကိုသိကာ 'ဝိုသူ' ရေသန့်စင်ပြီး နမာဇ် ဖတ်တော်မူသည်၊ ၎င်းဤသို့ 'ဒိုအာ' ပြုတော်မူသည်၊ အို.... အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးမသည် ကိုယ်တော်အသျှင်၏ ရစူလ်အပေါ်'အီမာန်'ယူသူ၊ ၎င်းအမြဲထာဝရ မိမိ၏ ဂုဏ်သိက္ခာကို ထိန်းသိမ်းသူဖြစ်ပါက ဤ'ကာဖွင်ရ်'ဘုရင်မှ လွတ်ကင်းမှု ပေးသနား တော်မူပါ။

သခင်မသည် ဤသို့ 'ဒိုအာ' တောင်းပြီးရာ ဘုရင်သည် သခင်မအား ဘာလက်ကာ့ယ ပြုရန်လာပြီး လက်ဖြင့်ထိမည်ပြုရာတွင် ခြေ, လက်မှာ မလှုပ်ရှားနိုင်ဘဲသေသွားလေသည်၊ ကျွန်တော် လူကောင်းပကတိ ပြန်ဖြစ်လာစေရန်အလ္လာဟ်အသျှင်မြတ်ထံ 'ဒိုအာ'ပြုပေးပါ၊ ကျွန်တော် မည်သို့မှ သဘောမထားတော့ကြောင်း ကတိပြုပါသည်ဟုဘုရင်က တောင်းပန် လေ၏၊ သခင်မကလည်း ဘုရင် သေသွားလျှင် ငါသတ်သည်ဟု လူတို့က ပြောကြမည်ကို ထောက်ခါ ပြန်လည်ကောင်းမွန်သွားစေရန် 'ဒိုအာ' ပြုတော်မူ၏၊ ချက်ချင်းပင် ဘုရင် သည် ကောင်းမွန်ပကတိ ဖြစ်သွား၏။

ထို့နောက် ဘုရင်သည် အကြံဆိုးစိတ်ထားပြန်ရာသခင်မက'ဒိုအာ'ပြုတော်မူသဖြင့် ခြေ, လက်သေသွားပြန်သည်၊ ဘုရင်ကဝန်ချတောင်းပန်သဖြင့် သခင်မက'ဒိုအာ'ပြုပေးရာ ပကတိပြန်၍ ကောင်းသွားသည်၊ အချုပ်မှာ(၃)ကြိမ်တိတိ ဤသို့ကိစ္စ ဖြစ်ပွားလေသည်၊ ဘုရင်သည် ဒေါသဖြစ်၍ ဤသို့သော 'ဘလာ' ဒုက္ခကို အဘယ့်ကြောင့် ခေါ်လာကြ သနည်းဟု အမှုထမ်းများအားငေါက်ငမ်းကြိမ်းမောင်းပြီး ပြန်ပို့ပေးလိုက်ရန်ပြောလေ၏၊ ၎င်းဟာဂျေရဟ် သခင်မတစ်ပါးကို ဘုရင်သည် မတရားခေါ်ဆောင် ထားပေသေးသည်၊ ထိုသခင်မသည် ကွတ္တဗီ အနွယ်မှ ဖြစ်သည်၊ ဆာရဟ် သခင်မကဲ့သို့ပင် ဟာဂျေရဟ် သခင်မကို အလ္လာဟ်အသျှင်မြတ်က ဂုဏ်သရေကို ထိန်းသိမ်း ထားတော်မူလေသည်၊ ထိုဟာဂျေရဟ်သခင်မကို ဆာရဟ်သခင်မ အိမ်ဖော်အဖြစ်ထည့်ပေးလိုက်လေသည်။ ဤသို့ ဖြင့် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ဆာရဟ်သခင်မကို မှဲ့တစ်ပေါက် မစွန်း စေတော်မူဘဲ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) သခင့်ထံသို့ ပြန်ရောက်စေတော်မူလေ၏။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးအပေါင်းတို့၊ သန့်ရှင်းမွန်မြတ် အပြစ်ရှောင် ကြဉ်ခြင်းသည် အလွန်ကြီးမားသော 'ဘရ်ကတ်'မင်္ဂလာ ဖြစ်ပေသည်၊ ဤသို့သော သူမကို အလ္လာဟ်အသျှင်မြတ်က မည်သို့ ထိန်းသိမ်းသည်ကို သင်မတို့ ဖတ်ပြီးကြ လေပြီ၊ ဤအချက်ဖြင့် သိရသည်မှာ နမာဇ်သည် ဒုက္ခများကို ဖယ်ရှားပေးသည်၊ 'ဒိုအာ'တောင်းဆိုမှုလည်း 'ကဘူလ်' ဖြစ်သည်၊ သင်မတို့သည် စိတ်ရှုပ်ထွေးမှုနှင့် ဒုက္ခတစ်ခုခုရောက်လျှင် 'နဖိလ်' 'နမာဇ်' များဖတ်ပြီး အလ္လာဟ်အသျှင်မြတ် ထံတော်သို့ 'ဒိုအာ' ဆုမွန်များ တောင်းဆိုကြကုန်လော့။....

## ဟာဂျေရဟ် [အလိုင်ဟတ်စလာမ်] သခင်မ အကြောင်း

အဆက်တွင် ရေးသားခဲ့သော မတရားသည့်မင်းဆိုးသည် ဟာဂျေရဟ်သခင်မကို မတရားဖမ်းဆီးထားခဲ့သည်၊ ထိုသခင်မကို ဆာရဟ်သခင်မအား အိမ်ဖော်အဖြစ် ပေးလိုက်ရာ ဆာရဟ်သခင်မက ၎င်းသခင်မကို ခင်ပွန်းသည် အစ်ဗ်ရာဟီမ်(အလိုဟစ္စလာမ်) သခင်အားပေးလိုက်လေသည်၊ ထိုဟာဂျေရဟ်သခင်မနှင့် အစ်မာအီလ်(အလိုင်ဟစ္စလာမ်) ဖွားမြင်တော်မူလေသည်။

အစ်မာအီလ် (အလိုင်ဟစ္စလာမ်) သခင်သည် နို့စို့အရွယ် ရှိသေးသည်၊ အလ္လာဟ် အသျှင်မြတ်က ထိုသခင်၏ အဆက်အနွယ်တော်ဖြင့် မတ်က်ကဟ်မြို့တော်ကိုတည်ရန်လိုလားတော်မူလေသည်၊ ထိုအချိန်က မတ်က်ကဟ်မြို့တော်နေရာသည် တောခေါင်ခေါင်ဖြစ်သည်၊ 'ကအ်ဗဟ်' ဗိမာန်တော်ပင် ပြန်လည်မပြုပြင်ရသေးပေ၊ အလ္လာဟ်အသျှင်မြတ်က အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) သခင်အား သားငယ်နှင့် ဟာဂျေရဟ် သခင်မကိုထိုဒေသသို့ ထားခဲ့ရန်နှင့် ၎င်းတို့ကို ငါအသျှင်မြတ် စောင့်ရှောက်တော်မူမည်ဟု အမိန့်ပေးတော်မူလေသည်။

အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်အရ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သခင်သည်သားငယ် အစ်မာအီလ် (အလိုင်ဟစ္စလာမ်) နှင့် ဟာဂျေရဟ်သခင်မကို ခေါ်ဆောင်၍ ယခု မတ်က်ကဟ်မြို့တော်နေရာ တောခေါင်ခေါင်သို့ ရောက်လာလေသည်၊ သခင်နှင့်အတူ ဆိတ်ရေနှင့် လုပ်ထားသော ရေတစ်အိတ်နှင့် စွန်ပလွံသီးတစ်အိတ်ပင် ပါလာလေသည်၊သခင်သည် ထိုနေရာသို့ သားအမိတို့ကိုထားပြီး ပြန်လှည့်ထွက်တော်မူရာ ဟာဂျေရဟ် သခင်မသည် ကြင်ယာတော် အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သခင်နောက်သို့ ပြေးလိုက်ပြီး ကျွန်မတို့ကို တောခေါင်ခေါင်တွင်ထားခဲ့တော့မှာလားဟုမေးလေ၏၊ သခင်ကမည်သို့မျှ အဖြေပေးတော်မမူလေရာ ဟာဂျေရဟ်သခင်မက အလ္လာဟ်အသျှင်မြတ်က ဤသို့ပြုရန် အမိန့်ပေးတော်မူပါသလားဟု မေးလျှောက်လေ၏၊ ထိုအခါ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) သခင်က ဟုတ်မှန်ကြောင်းပြောပြ၏၊ ထိုအခါသခင်မက 'ဤသို့ဆိုလျှင် ပူပင်ရန်မရှိပါ၊ အလ္လာဟ်အသျှင်မြတ်သည် ကိုယ်တိုင်စောင့်ရှောက်တော်မူပါလိမ့်မည်'ဟု ဆိုပြီး သားငယ်အနီးသို့ သွားထိုင်လေသည်၊ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) သခင်သည် လာလမ်းအတိုင်း ပြန်ကြွသွားတော်မူလေ၏။

ဟာဂျေရဟ်သခင်မသည် စွန်ပလွံသီးများစားပြီး ရေသောက်၍ပင် နေတော်မူသည်၊ အစ်မာအီလ် (အလိုင်ဟစ္စလာမ်) ကို နို့တိုက်တော်မူ၍ သိပ်ထားသည်၊ ဤသို့ဖြင့် တစ်ဖြည်းဖြည်း ယူဆောင်လာသောရေ ကုန်ခန်းသွားလေရာ သားအမိနှစ်ပါးမှာ ရေငတ်မွတ်သောဒဏ်ကို ခံကြရလေ၏၊ သားငယ် အစ်မာအီလ်(အလိုင်ဟစ္စလာမ်)သခင်သည် ရေငတ်သောဒဏ်ကို မခံနိုင်သဖြင့် လူးလိမ့်နေလေ၏၊ မယ်တော် ဟာဂျေရဟ် သခင်မသည် သားငယ်၏အဖြစ်ကို မကြည့်နိုင်၍ ရေရှာဖွေရန် 'စွဖွာ' တောင်ပေါ်သို့

တက်ပြီး ဟိုဟို သည်သည် ကြည့်လေသည်၊ ရေကို မတွေ့ရလေရာ ထို 'စွဖွာ' တောင်မှ ဆင်း၍ 'မရ်ဝဟ်' တောင်ပေါ်သို့ တက်လေသည်၊ သားငယ်ထားခဲ့သော နေရာကိုလည်း လှမ်း၍လည်းကြည့်ရသေးသည်၊ ဤတောင်နှစ်ခုကြားတွင် ကျင်းပမာ မြေနိမ့်၍၊ သား ငယ်ကို မမြင်ရသဖြင့် ပြေး၍ မရ်ဝဟ်တောင်သို့ သွားတော်မူသည်၊ မရ်ဝဟ်တောင်ပေါ် မှလည်း ကြည့်ရာ ရေ၏နိမိတ်ကိုပင် မတွေ့ရချေ၊ မချိမဆန့်ဖြစ်လျက် မရ်ဝဟ်တောင်မှ စွဖွာတောင်ဘက်သို့ ပြေးသွားတော်မူပြန်သည်၊ ဤသို့ ရေရှာယင်း စွဖွာ နှင့် မရ်ဝဟ် တောင်ကို အကြိမ်များစွာ သွားလာနေတော်မူသည်၊ တောင်နှစ်ခုကြားရှိသော ကျင်း နေရာတွင် ထိုနေရာမှ သားငယ်ကိုမမြင်ရသဖြင့် ထိုနေရာရောက်သောအခါ ပြေး၍သွား တော်မူသည်။

(ဤသည်ကို အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူပြီး၊ ယခုတိုင် ဟာဂျီများကို ထိုစွဖွာနှင့်မရ်ဝဟ်တွင် (၇)ကြိမ် လှည့်ပတ်ကြရန်ပင် အမိန့်ပေးတော်မူသည်၊ ထိုတောင် နှစ်တောင်ကြားတွင် ကျင်းဖြစ်နေသော နေရာသည် ယခု မြေပြင် ဖြစ်၍ အညီဖြစ်နေ သော်လည်း ထိုနေရာတွင် ပြေးသွားကြရန် အမိန့်ပေးထားတော်မူလေသည်။)

အချုပ်မှာ-နောက်ဆုံးအခေါက်မရ်ဝဟ်တောင်ပေါ်သို့ရောက်လေရာ၊ ဟာဂျေရဟ် သခင်မသည် အသံတစ်သံကိုကြားရသဖြင့် အသံလာရာဘက်သို့ နားစွင့်နေတော်မူသည်၊ အသံရှင်ကိုကား မမြင်ရပေ၊ ဟာဂျေရဟ်သခင်မက 'အသံကိုကျွန်မကြားသည်၊ ကူညီသူ ရှိက ကူညီပါ' ဟု မိန့်လေ၏။

ထိုအခါ ယခု ဇမ်ဇမ် ရေတွင်းရှိသောနေရာ၌ ဖွရစ်ရှိတဟ် ပေါ်ပေါက်လာပြီး မြေကို အတောင်ဖြင့်ရိုက်လေရာ ထိုနေရာမှ ရေများ ပန်း၍ထွက်လာလေ၏၊ သခင်မက ထိုရေများကို လေးဘက်မှ မြေဖြင့် ဆီးတားတော်မူပြီး၊ ရေအိတ်တွင် ရေဖြည့်ယူ တော်မူသည်၊ ကိုယ်တိုင်သောက်၍ သားငယ်ကိုလည်း တိုက်ကျွေးတော်မူသည်၊ ထိုအခါ ဖွရစ်ရှိတဟ်က 'စိုးရိမ်ကြောင့်ကြခြင်း မရှိပါနှင့်၊ ဤနေရာတွင် အလ္လာဟ်အသျှင်မြတ်၏ အိမ်တော် (ဝါ) ကအ်ဗဟ် ဗိမာန်တော် ရှိသည်၊ ဤကလေးသည် ဖခင် အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)နှင့် အတူ ဤအိမ်တော်ကို ဆောက်တည်မည်၊ ၎င်းဤဒေသတွင် လူ စည်ကားလာမည်' ဟု ပြောဆိုလေ၏။

ပြောသည့်အတိုင်း ရက်မကြာမီ ဖြစ်ပေါ်လာလေ၏၊ ခရီးသည် အုပ်စုတစ်စုသည် ဤနေရာသို့ ရောက်လာလေရာ၊ ရေကိုမြင်တွေ့ကြရသဖြင့် စခန်းချ၍နေထိုင်ကြလေသည်၊ ၎င်းသားငယ် အစ်မာအီလ်(အလိုင်ဟစ္စလာမ်)သခင်သည် ကြီးပြင်းလာပြီး အိမ်ထောင်ပင် ပြုလေသည်၊ ထို့နောက် အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သခင်သည် အလ္လာဟ်အသျှင်မြတ် အမိန့်တော်အရ ကြွလာတော်မူသည်၊ သားအဖနှစ်ပါးသည် ကအ်ဗဟ် ဗိမာန်တော်ကို ဆောက်တည်ကြသည်၊ ဇမ်ဇမ်ရေသည် ရက်ကြာသောအခါ ဇောက်နက်သွားပြီး ရေတွင်း သဖွယ် ဖြစ်သွားလေသည်။

**အကျိုးကျေးဇူး။** ဟာဇရေရဟ် သခင်မသည် အလ္လာဟ်အသျှင်မြတ် အပေါ် ယုံပုံ ကိုးစားအားထားတော်မူလေသည်၊ တောတောင်၌နေရခြင်းမှာ အလ္လာဟ်အသျှင်မြတ်အမိန့်တော်အရဖြစ်ကြောင်း သိရသည်နှင့်တစ်ပြိုင်တည်းပူပင်သောက အားလုံး ကင်းစင်သွားလေသည်၊ ထိုသို့ ယုံပုံအားထားခြင်းဖြင့် မည်သို့ 'ဘရိကတ်'များ ရရှိသည်ကို သိပြီးကြရလေပြီ။

အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့သည် ဤသို့ပင် အလ္လာဟ်အသျှင်မြတ်ထံ တော်တွင် ယုံပုံအားထားကြရန် ထိုက်ပေသည်၊ အဝ်န်ရှာအလ္လာဟ် အလုပ်ကိစ္စအားလုံး ဖြောင့်ဖြူး လွယ်ကူသွားပေမည်။ ဟာဇရေရဟ်သခင်မသည် ရေအတွက် ပြေးလွှားသော် လည်း ထိုအမှုကိစ္စကို အလ္လာဟ်အသျှင်မြတ်က နှစ်သက်တော်မူပြီး ဟာဂျီများ အတွက် အေဗာဒတ် ခ,ဝပ်မှုတစ်ခု အဖြစ် သတ်မှတ်တော်မူလေသည်၊ နှစ်သက်ခြင်း ခံရသော 'ဗန္ဒဟ်' လူသား၏ လုပ်နည်းလုပ်ဟန်များကို နှစ်သက်ခြင်း ခံရပေသည်။

အို.... အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို လိုက်နာ ဆောင်ရွက်နိုင်အောင် ကြိုးစားကြကုန်၊ သို့မှသာ သင်မတို့လည်း အနှစ်သက်ခံ ရသူများ ဖြစ်ကြပေမည်၊ ထိုသို့ အားထားခြင်းပြုလျှင် သင်မတို့၏ လောကီရေးလည်း သာသနာရေး၌ ပါဝင်သွားပေမည်။

## အစ်မာအီလ် (အလိုင်ဟစ္စလာမ်) သခင်၏ ဒုတိယ မြောက်သားတော် အကြောင်း၊

'ကအ်ဗဟ်' ဗိမာန်တော်ကို မပြင်မီ အလျင်က အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်) သခင်သည် မတ်က်ကဟ် မြို့တော်သို့ ၂-ကြိမ် လာရောက်ခဲ့လေသည်၊ သို့သော်လည်း ကြာရှည်စွာဆိုင်းငံ့နေရန် အလ္လာဟ်အသျှင်မြတ်ဘက်တော်မှ အမိန့်မရရှိသဖြင့် ချက်ချင်း ပင် ပြန်ကြွသွားရတော်မူသောကြောင့် ၂-ကြိမ်စလုံးပင် အစ်မာအီလ် (အလိုင်ဟစ္စလာမ်) သခင်နှင့် မတွေ့ခဲ့ရပေ။

ပထမအကြိမ်လာသောအခါ အစ်မာအီလ်(အလိုင်ဟစ္စလာမ်)သခင်၏မြောက်သား တော်ကိုတွေ့ရသဖြင့် အနေအထိုင် မည်သို့နည်းဟု မေးတော်မူရာ၊ ဒုက္ခကြီးစွာရောက်ပါ သည်ဟုလျှောက်၏၊ ထိုအခါ အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သခင်က သင်မ၏ခင်ပွန်း လာလျှင် ကျွန်ုပ်က 'စလာမ်'ပေးကြောင်း ပြောကုန်၊ ရင်းမိမိ၏ အိမ်တံခါးဘောင်ကို လဲပစ်ရန်ပြောကုန် ဟု မိန့်ပြီး ပြန်သွားလေ၏။ သို့ရှိရာ အစ်မာအီလ်(အလိုင်ဟစ္စလာမ်) သခင်သည် အိမ်တော်သို့ ပြန်ရောက်လာရာ၊ အဖြစ်အပျက်များကို သိ၍ မိန့်သည်မှာ.... ထိုပုဂ္ဂိုလ်သည် ကျွန်ုပ်၏ ဖခမည်းတော်ဖြစ်သည်၊ တံခါးဘောင်သည် သင်မ ဖြစ်သည်၊

သင်မကို ကွာပစ်ရန် မိန့်သွားခြင်းဖြစ်သည်။ ထိုအခါ အစ်မာအီလ် (အလိုင်ဟစ္စလာမ်) သခင်သည် ထိုသူမကိုကွာရှင်း'တွလာက်'ပေးလိုက်ပြီး အခြားတစ်ယောက်နှင့်နေကာဟ်ပြု လက်ထပ်တော်မူလေ၏။

အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သခင်သည် ဒုတိယအကြိမ် မတ်က်ကဟ်မြို့တော်သို့ ကြွလာလေရာ၊ အစ်မာအီလ် (အလိုင်ဟစ္စလာမ်)သခင်၏ ဒုတိယ မြောက်သားတော်နှင့် တွေ့ရသည်၊ ၎င်းသခင်မက ဧည့်ဝတ်ကျေစွာပြုစုလေ၏၊ အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်) သခင်က 'အနေအထိုင်မည်သို့နည်း'ဟုမေးတော်မူရာ၊ သက်တောင့်သာယာစွာနေရသဖြင့် အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်ပါသည်ဟု လျှောက်လေ၏၊ သခင်က သခင်မ အတွက် ဒိုအာပြုပေးပြီး မိန့်သည်မှာ....သင်မခင်ပွန်းပြန်လာလျှင် ကျွန်ုပ်က 'စလာမ်' ပေးကြောင်းပြောကုန်၊ ၎င်းမိမိအိမ်၏ တံခါးဘောင်ကို မြဲမြိုင်စွာထားရန် ပြောကုန် ဟု မိန့်၍ ပြန်ကြွသွားတော်မူသည်။

ထို့နောက် အစ်မာအီလ်(အလိုင်ဟစ္စလာမ်)သခင်သည် အိမ်တော်သို့ ရောက်လာရာ၊ မြောက်သားတော်က အကြောင်းကိုပြောပြ၍ သိပြီး မိန့်သည်မှာ.... ထိုပုဂ္ဂိုလ်သည် ကျွန်ုပ်၏ ဖခမည်းတော်ဖြစ်သည်၊ သခင်မကို အမြဲပေါင်းသင်းကုန်ဟု မိန့်သွားခြင်း ဖြစ်သည်ဟု ပြောလေ၏။

**အကျိုးကျေးဇူး။** ကျေးဇူးမတင်ခြင်း၏အကျိုးသည် ပထမမြောက် သားတော်မှာ အဘယ်ဆုလာဘ်ရသနည်း၊ နဗီတစ်ပါးက စိတ်ဆိုးတော်မူသည်၊ အခြားနဗီတစ်ပါးက ကွာရှင်းပစ်ခဲ့သည်၊ ကျေးဇူးတင်ခြင်းနှင့် သည်းခံခြင်း အကျိုးကို ဒုတိယမြောက် သားတော်မှာ အဘယ်အရာရခဲ့သနည်း၊ နဗီတစ်ပါးက ဒိုအာဆုမွန် ပေးခဲ့သည်၊ အခြားနဗီတစ်ပါးက ရာသက်ပန် ပေါင်းခဲ့လေသည်။

အို....အမျိုးသမီးအပေါင်းတို့၊ ဘယ်သောအခါမှ ကျေးဇူးမကမ်းကြနှင့်၊ ရရာနှင့် တင်းတိမ်ပြီး သည်းခံကာ အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်၍ နေကြကုန်။

# နမ်ရူးဒ် ကာဖွင်ရ်ဘုရင်၏ သမီးတော် အကြောင်း

နမ်ရူးဒ်သည် မင်းဆိုး မင်းယုတ် ဘုရင်ဖြစ်သည်၊ ၎င်းက အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သခင်အား မီးပုံထဲတွင် ချခဲ့သည်၊ နမ်ရူးဒ်ဘုရင်၏သမီး 'ရအ်သွာ'သည် နန်းမြင့်မှ ထိုင်၍ကြည့်နေသည်၊ အစ်ဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သခင်အား မီးက မည်သို့မျှ စူးရှခြင်းမရှိသဖြင့် အကြောင်းကို အော်ဟစ်၍မေးလေသည်၊ သခင်က အလ္လာဟ်အသျှင်မြတ်က အီမာန်၏ဘရ်ကတ်ဖြင့် ကျွန်ုပ်ကို မီးလောင်ကျွမ်းမှုမှ လွတ်ကင်းစေတော်မူသည်ဟု မိန့်ရလေ၏၊ အကယ်၍ ခွင့်ပေးလျှင် မီးပုံထဲသို့ လာချင်ပါသည်ဟု လျှောက်လေ၏။

သခင်က- လာအေလာဟ၊အစ်လလ္လာဟို၊အစ်ဗ်ရာဟီမို့၊ခလီလွ္လလ္လာဟော့ ။ (အလ္လာဟ်အသျှင်မြတ်မှတစ်ပါး မည်သူမျှ ခ ဝပ်ကိုးကွယ်ခြင်းခံထိုက်သူမရှိ၊ အစ်ဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)သခင်သည် အလ္လာဟ်အသျှင်မြတ်၏ အချစ်တော်ဖြစ်သည်)ကို ရွတ်ဆို အီမာန်ယူ၍ မီးပုံထဲသို့ ဝင်ခဲ့ကုန်ဟု မိန့်လေ၏၊ ရအ်သွာသခင်မသည် ဤကလေမဟ်တော်ကို ဖတ်ရွတ်လျက် မီးပုံထဲကို မကြောက်မရွံ့ဆင်းသွားတော်မူသည်၊ မီးက သခင်မကို လုံးဝလောင်ကျွမ်းခြင်းမရှိပေ၊ ၎င်းထိုမီးပုံတွင်းမှ ထွက်လာပြီး ဖခင် နမ်ရူးဒ်ဘုရင့်ကို ဆိုပြောမြစ်တင်လေသည်၊ နမ်ရူးဒ်က သမီးအား အီမာန်ယူလိုက်သဖြင့် ဒုက္ခအမျိုးမျိုး ပေးလေသည်၊ သခင်မသည် ပေးသောဒုက္ခများကို ခံယူလျက် စွဲယူယုံကြည်လက်ခံထားသော အီမာန်ကို မဖျက်ပေ။

**အကျိုးကျေးဇူး။** စွဗ်ဟာနလ္လာဟ်၊ မည်မျှ ဇွဲသတ္တိကောင်းသော သခင်မ ဖြစ်ပေသနည်း၊ ဒုက္ခအမျိုးမျိုး ခံရသော်လည်း အီမာန်ကို မစွန့်လွှတ်ပေ၊ အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း ဒုက္ခရောက်သော၊ ဆင်းရဲသောအခါ ဇွဲသတ္တိကို မြဲခိုင်စွာထားကြကုန်၊ ဆံပင်တစ်ပင်မျှပင် ဘာသာ သာသနာတော်နှင့် ကွဲလွဲဆန့်ကျင်သော အလုပ်ကို မလုပ်ကြနှင့်။

# လူးတွ (အလိုင်ဟစ္စလာမ်) သခင်၏ သမီးတော်များ အကြောင်း

မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က လူးတွ (အလိုင်ဟစ္စလာမ်)သခင်ထံ ဖွရစ်ရှ်တဟ်စေလွှတ်တော်မူသည်၊ ဖွရစ်ရှ်တဟ်က သတင်းပို့သည်၊ ယခု သခင်၏စကားကို နားမထောင်ကြသောသူများအပေါ် အသာဗ်ပြစ်ဒဏ်ရောက်တော့မည်ဖြစ်သည်၊အလ္လာဟ်အသျှင်မြတ်က အီမာန်ယူကြသော မွတ်စလင်မ်များကို ညတွင်းချင်း ရွာမှခေါ်၍ ထွက်သွားကြရန် မိန့်တော်မူလိုက်သည်၊ ထိုမွတ်စလင်မ်များတွင် လူးတွ (အလိုင်ဟစ္စလာမ်) သခင်၏ သမီးတော်များလည်း ပါဝင်လေသည်၊ ထိုသမီးတော်များသည်လည်း အသာဗ်ပြစ်ဒဏ်မှ လွတ်ကင်းသွားကြလေသည်။

**အကျိုးကျေးဇူး။** အီမာန်သည် ကြီးကျယ်သော 'ဘရ်ကတ်'ဖြစ်သည်၊ လောကဌ် အလ္လာဟ်အသျှင်မြတ်၏ အမျက်တော် ကျရောက်ခြင်းမှလည်း အီမာန်က လွတ်ကင်းသွားစေသည်။ အို....အမျိုးသမီးတို့၊ အီမာန်ယုံကြည်ချက်ကို မြဲခိုင်စွာ စွဲကိုင်ထားကြကုန်လော့၊ အီမာန်မြဲခိုင်ခြင်းမှာလည်း အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကိုနာခံလိုက်န ကျင့်သုံး၍ ဂိုနာဟ်အပေါင်းမှ ရှောင်ကြဉ်မှသာ အီမာန်မြဲခိုင်မည် ဖြစ်လေသည်။

## အိုင်ယူးဗ် [အလိုင်ဟစ္စလာမ်] သခင်၏ မြော်က်သားတော် အကြောင်း

သခင်မနာမ်တော်သည် ရဟ်မတ်ဖြစ်သည်၊ အိုင်ယူးဗ်(အလိုင်ဟစ္စလာမ်)သခင်သည် တစ်ကိုယ်လုံး အနာများဖြင့် မမာမကျန်းဖြစ်နေရာ၊ အားလုံးကရှုံရှာ၍ အနီးသို့ပင် မလာရောက်ကြတော့ပေ၊ သခင်မသည် နေ့ညဲ- ကိုယ်ဖိရင်ဖိပြုစုသည်၊ ဒုက္ခအပေါင်းကိုခံခဲ့သည်၊ တစ်ခါကသခင်မသည် သခင်၏အနီးသို့လာရန် နောက်ကျခဲ့သဖြင့် သခင်ကဒေါသဖြစ်ကာ နေကောင်းပါက အချက်(၁၀၀)ရိုက်မည်ဟု 'ကဆမ်'ကျိန်တော်မူလေသည်။

အိုင်ယူးဗ်*(အလိုင်ဟစ္စလာမ်) သခင်သည် ကျန်းမာလာသော အခါ အချက် (၁၀၀)ရိုက်ရန် ဆန္ဒထားတော်မူသောအခါ၊ အတန်(၁၀၀)ပါသော တံမြက်စည်းဖြင့် တစ်ကြိမ်ရိုက်ကုန်ဟု အလ္လာဟ်အသျှင်မြတ်က မိန့်တော်မူလေ၏။

**အကျိုးကျေးဇူး။** သခင်မသည် မည်မျှ သည်းခံတော်မူသည်ကို အတုယူသင့်ကြသည်၊ ဤသို့မကျန်းမာသော အဖြစ်၌လည်း ကြင်ယာတော်ကို ပြုစုသည်၊ မမာမကျန်းဖြစ်၍ သခင်က 'ကဆမ်' ကျိန်ခြင်းကို ထောက်၍ သိရသည်မှာ နေမကောင်းသဖြင့် သခင်မှာ စိတ်တိုနေသည်၊ ထိုစိတ်တိုနေမှုကိုလည်းသခင်မက သည်းခံနေခဲ့သည်၊ ထိုသို့ သည်းခံခြင်း၊ ပြုစုခြင်းတို့၏ 'ဘရ်ကတ်'ဖြင့် အလ္လာဟ်အသျှင်မြတ်က တံမြက်စည်းတန်(၁၀၀)ပါသည်နှင့် တစ်ချက်သာ ရိုက်စေတော်မူသည်။

ထို့ကြောင့် သခင်မကို အလ္လာဟ်အသျှင်မြတ်က ချစ်ခင်နှစ်သက်တော်မူကြောင်း သိရလေသည်၊ အလ္လာဟ်အသျှင်မြတ်က 'ကဆမ်'ကျိန်ဆိုထား၍ ရိုက်ရန်ကိုလွယ်ကူအောင် ပြုပေးတော်မူသည်၊ ယခုခေတ်တွင်ဤသို့မဖြစ်နိုင်ပေ၊ တစ်ဦးတစ်ယောက်သည် 'ကဆမ်' ကျိန်ဆို၍ တံမြက်စည်းဖြင့်ရိုက်လျှင် မဖြစ်ပေ၊ သာမက ဤသို့သော 'ကဆမ်'ကို ဖျက်၍ 'ကဖ်ဖာရဟ်' ဒဏ်ကြေး ပေးရမည်။

အို .... အမျိုးသမီးအပေါင်းတို့၊ သင်မတို့သည် မိမိခင်ပွန်းသည်၏ အနှောင့်အတား ခံကြကုန်၊ အိမ်သူမကောင်း ပီသကြကုန်၊ ထိုခင်ပွန်းသည်၏ စိတ်တိုမှုကိုလည်း သည်းခံကုန်၊ သို့မှသာ သင်မတို့သည်လည်း အလ္လာဟ်အသျှင်မြတ်၏ အချစ်ခံရ သူမများ ဖြစ်ကြပေမည်။

## ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်၏ အခေါ် လိုင်ယာ အကြောင်း

သခင်မကြီး၏ အကြောင်းသည် ကုရ်အာန် ကျမ်းတော်မြတ်၌ လာရှိပေသည်၊ ယူစွဖ်(အလိုင်ဟစ္စလာမ်)သခင်သည် မစ်ရ်(အီဂျစ်)နိုင်ငံ၏ ဘုရင် ဖြစ်ပြီး မိုးခေါင်သဖြင့် ညီအစ်ကိုများသည် သခင့်ထံ လာရောက်ကြပြီး သီးနှံများဝယ်ယူကြသောအခါ ယူစွဖ် (အလိုင်ဟစ္စလာမ်)သခင်က မိမိ မည်သူမည်ဝါဖြစ်ကြောင်းကို သိစေတော်မူလေသည်။

ထိုအခါ မိမိ အင်္ကျီကို ဖခမည်းတော် ယအ်ကူးဗ် (အလိုင်ဟစ္စလာမ်) သခင်၏ မျက်နှာပေါ်သို့ အုပ်ရန် ပေးလိုက်တော်မူသည်၊ ၎င်းအားလုံးကို ခေါ်ခဲ့ရန် မိန့်လိုက်တော်မူလေ၏၊ ယအ်ကူးဗ်(အလိုင်ဟစ္စလာမ်)သခင်၏ မျက်စိသည် အလင်းရောင် ရရှိပြီး မိမိနေထိုင်ရာဒေသမှ မစ်ရ်(မစ်စွင်ရ်)နိုင်ငံသို့သွားတော်မူသည်၊ ယူစွဖ်(အလိုင်ဟစ္စလာမ်) သခင်က ဖခမည်းတော်နှင့်အဒေါ်ကိုအရိုအသေပေးသောသဘောဖြင့် ရာဇပလ္လင်ပေါ်သို့ ထိုင်စေတော်မူသည်၊ ဤသခင်နှစ်ပါးနှင့် ညီအစ်ကိုများသည် ယူစွဖ်(အလိုင်ဟစ္စလာမ်) သခင်အား အရိုအသေသဘော 'စစ်ဂျဒဟ်' ဦးချကြလေသည်။

ထိုခေတ်အခါက စလာမ်သဘော စစ်ဂျဒဟ်ဦးချခြင်းပိုင်ခဲ့သည်၊ ယခုသော်ကား စစ်ဂျဒဟ် ပြု၍ အရို အသေ ပေးခြင်းမျိုးမှာ မပိုင်တော့ပေ၊ အလ္လာဟ်အသျှင်မြတ်က ထိုအဒေါ်ကို အမိအရာမိန့်တော်မူထားသည်၊ သခင်၏မယ်တော်ရင်းမှာ ကွယ်လွန်သွားပြီး ဖြစ်ပေသည်၊ ယအ်ကူးဗ်(အလိုင်ဟစ္စလာမ်)သခင်က ထိုသခင်မနှင့် နေကာဟ်ပြု၍လက်ထပ် တော်မူသည်။

အချို့ကဆိုကြသည်၊ ဤသခင်မသည် မယ်တော်ပင်ဖြစ်သည်၊ 'ရာဟီလ်'အမည် ဖြစ်ပေသည်၊ ယူစွဖ်(အလိုင်ဟစ္စလာမ်)သခင်က 'ကျွန်တော် ငယ်စဉ်က အိပ်မက် အရ ဤသို့ဖြစ်လာသည်ဟု မိန့်လေ၏၊ အိပ်မက်မှာ- နေနှင့်လ၊ ၎င်းကြယ်တာယာ(၁၁)လုံးက ယူစွဖ်(အလိုင်ဟစ္စလာမ်)သခင်ကို 'စစ်ဂျဒဟ်' ဦးချကြလေသည်။

**အကျိုးကျေးဇူး။** နဗီက အရိုအသေပေးသောပုဂ္ဂိုလ်မသည် မည်မျှကြီးကျယ်သည်ကို စဉ်းစား၍ ကြည့်ကြကုန်လော့။

# မူစာ [အလိုင်ဟစ္စလာမ်] သခင်၏ မယ်တော် အကြောင်း။

မူစာ(အလိုင်ဟစ္စလာမ်)သခင်၏ မယ်တော်နာမတော်သည် 'ယူခါနိ်'ဖြစ်သည်၊ ဘိုးတော်၏ နာမတော်သည် 'လာဝါ' ဖြစ်သည်၊ ဖခမည်းတော်၏ နာမတော်သည် 'အင်မ်ရာန်' ဖြစ်သည်။ သက်တော် (၇၃) နှစ်တွင် ဟာရူန် (အလိုင်ဟစ္စလာမ်) သခင် မွေးဖွားတော်မူပြီး သက်တော် (၈၀) နှစ်တွင် မူစာ (အလိုင်ဟစ္စလာမ်)သခင် ဖွားမြင် တော်မူလေသည်။

ထိုအခါက ပညာရှိများကမိမိတို့အထင်ဖြင့် ဖွင်ရ်အောင်န်မင်းယုတ်ကို ဘနီအစ်ရာ- အီလ်အနွယ်မှ ကလေးတစ်ယောက်မွေးဖွားမည်၊ ထိုကလေးသည် ဘုရင်၏ထီးနန်းကိုပျက်စီး စေမည်ဟုခြောက်လှန့်ပြောဆိုကြလေသည်၊ ထို့ကြောင့် ဖွင်ရ်အောင်န်က ဘနီအစ်ရာအီလ် အနွယ်တို့တွင် သားယောကျ်ားကလေးမွေးဖွားပါက သတ်ပစ်ရန် အမိန့်ထုတ်လေသည်၊ ထို့အတွက် ထောင်ပေါင်းများစွာသော ကလေးများ အသတ်ခံခဲ့ရသည်။

ထိုသို့သော စိုးရိမ်ဖွယ် အချိန်ကာလတွင် မူစာ(အလိုင်ဟစ္စလာမ်)သခင် မွေးဖွား သန့်စင်လေသည်၊ ထိုအခါ အလ္လာဟ်အသျှင်မြတ်က မယ်တော်ကို 'အင်လိဟာမ်' ဖြင့် အသိပေးတော်မူသည်၊ သင်မသည် စိုးရိမ်ကြောင့်ကြမှုမထားဘဲ သားတော်ကို နို့တိုက် ကျွေးနေကုန်၊ သတ်ပစ်ကြမည်ဟု စိုးရိမ်မကင်း ဖြစ်လာပါက သားငယ်ကို သေတ္တာထဲ တွင် ထည့်၍ မြစ်တွင်မျှောပစ်ကုန်၊ ငါအသျှင် အလိုတော်ရှိတော်မူသည့်အတိုင်း သင်မ နှင့် ပြန်လည်တွေ့ဆုံစေမည်ဟုမိန့်တော်မူလေ၏၊ သို့ရှိရာ မယ်တော်သခင်မသည် အလ္လာဟ် အသျှင်မြတ်က အသိပေးသည့်အတိုင်း မကြောက်မရွံ့ပြုတော်မူသည်၊ ၎င်းအလ္လာဟ်အသျှင် မြတ်သည် မိမိကတိတော်ကို ပြည့်စုံအောင် ပြုတော်မူလေသည်။

**အကျိုးခံကျေးဇူး။** အို....အမျိုးသမီးအပေါင်းတို့၊ မယ်တော်သခင်မသည် အလ္လာဟ် အသျှင်မြတ်အပေါ် မည်သို့ ယုံကြည် အားထားသည်ကို ကြည့် ကြကုန်လော့၊ ထိုသို့ယုံကြည်အားထားမှုဖြင့် မည်သို့သော 'ဘရိကတ်' ကောင်းချီးများ ပေါ်ထွန်းလာသည်ကိုလည်း သိကြပြီးဖြစ်သည်။

# မူစာ (အလိုင်ဟစ္စလာမ်) သခင်၏ အစ်မတော် အကြောင်း

သခင်မ၏နာမ်တော်သည် အချို့အဆိုအရ 'မရ်ယမ်'ဖြစ်သည်၊ အချို့အဆိုအရ 'ကွလ်သူမ်'ဖြစ်လေသည်၊ မယ်တော်က မူစာ(အလိုင်ဟစ္စလာမ်)သခင်ကို သေတ္တာထဲသို့ ထည့်ပြီး မြစ်တွင်မျှောလိုက်ရာ၊ သင်မ မည်သို့မည်ပုံဖြစ်ပျက်သည်ကို လိုက်လံစူးစမ်းကုန်ဟု သမီးတော်အား မိန့်လေ၏။

အချုပ်မှာ.... သေတ္တာသည် မြောင်းထဲသို့ရောက်ပြီး ဖွင်ရ်အောင်န်၏ နန်းတော်သို့ ရောက်လာသည်၊ သေတ္တာကိုဖွင့်ကြည့်ကြရာ၊ အလွန်လှပချောမောသော ကလေးငယ်ကို တွေ့ကြရလေ၏၊ ဖွင်ရ်အောင်န်က သတ်ပစ်ရန် ကြံရွယ်သောအခါ၊ အသျှင်ကြောက်သော မိန်းမမြတ် ဖွင်ရ်အောင်၏ ဇနီးသည်က မသတ်ရန် တားမြစ်ပြီး ဇနီးမောင်နှံ နှစ်ဦး သဘောတူပြီး သားအဖြစ်မွေးစားကြ၏၊ သို့သော် မူစာ (အလိုင်ဟစ္စလာမ်) သခင်သည် မည်သည့်နို့ထိန်း၏ နို့ကိုမှ မစို့သဖြင့် အားလုံးအခက်ကြုံ အုံ့သြနေကြသည်။

အစ်မတော်သည် စုံစမ်းယင်း ထပ်ချပ်မကွာ လိုက်နေသည်ဖြစ်ရာ၊ ထိုနေရာသို့ ရောက်လာလေ၏၊ သခင်မက ကြင်နာယုယသော နို့သန့်ရှင်းသော သူမှတစ်ယောက်ကို သိပါသည်ဟုပြော၍ မယ်တော်၏လိပ်စာကို ပြောပြလိုက်လေ၏၊ ထိုအခါ မယ်တော်ကို ခေါ်ယူပြီး မူစာ(အလိုင်ဟစ္စလာမ်)သခင်အား နို့တိုက်စေလေ၏၊ ၎င်းအလ္လာဟ်အသျှင် မြတ်က သင်မနှင့် ပြန်လည်ဆုံတွေ့စေမည်ဟု ကတိတော်ပေးသည့်အတိုင်း ပြန်လည်တွေ့ဆုံ ရလေ၏။

**အကျိုးကျေးဇူး။** ဉာဏ်သည်ကား ကြီးမားသော အရာ ဖြစ်ပေသည်၊ ရန်သူများ မသိအောင် အသက်ဆံဖျား စူးစမ်း၍ မိခင်၏ ကောင်းကျိုးနှင့် အမိန့်နာခံခြင်းကို ပြုခဲ့လေသည်။ အို....အမျိုးသမီးအပေါင်းတို့၊ မိဘနှစ်ပါး၏အမိန့်ကို နာခံခြင်းနှင့် ဉာဏ်အမြော်အမြင်သည် ကြီးမားသော စည်းစိမ်ဖြစ်ပေသည်။

# မူစာ [အလိုင်ဟစ္စလာမ်] သခင်၏ မြောက်သားတော် အကြောင်း

သခင်မ၏ နာမံတော်သည် 'စွဖ္ဖူရာ' ဖြစ်သည်၊ ရှိုအိုင်ဗ် (အလိုင်ဟစ္စလာမ်)၏ သမီးကြီးဖြစ်သည်၊ 'ရှိုအိုင်ဗ်'အဘ 'မီကီလ်'အဘ ယဲရှိဂျရ်(အလိုင်ဟစ္စလာမ်)ဖြစ်သည်၊ စွရ်ယာနီ ဘာသာစကားတွင် သခင်၏ နာမံတော် 'ဘတရူန်'၊ ဘွဲ့တော် 'ခတွီဗ္ဗလ် အန်ဗေယာ' ဟူ၍ ပါရှိသည်၊ ရှိုအိုင်ဗ်(အလိုင်ဟစ္စလာမ်)သခင်သည် လူးတွ်(အလိုင် ဟစ္စလာမ်)သခင်၏ မြေးတော် ဖြစ်သည်၊ အဘယ့်ကြောင့် ဆိုသော် မယ်တော်သည် လူးတွ်(အလိုင်ဟစ္စလာမ်)၏ သမီးတော် 'ကမီလ်'သခင်မဖြစ်ပေသည်။

ရှိုအိုင်ဗ် (အလိုင်ဟစ္စလာမ်) သခင်သည် နမာဇ် များစွာ ဖတ်တော်မူသည်၊ ၎င်း မဒ်ယန်နယ်၏ နဗီဖြစ်တော်မူသည်၊ ထိုနယ်ကို 'အိုင်ကဟ်' ဟုလည်း ခေါ်ကြသည်၊ အိုင်ကဟ်၏ အဓိပ္ပါယ်သည် သစ်ပင်ထူထပ်သော တောဟုရသည်၊ ၎င်းတို့သည် မဒ်ယန် နယ်၏ တော၌ နေထိုင်ကြသည်၊ သခင်သည် မျက်မမြင်ဖြစ်တော်မူသည်။

မစ်ရ် မြို့တွင် မူစာ (အလိုင်ဟစ္စလာမ်) သခင်၏ လက်တော်ဖြင့် ဆန္ဒ မပါဘဲ ကာဖွင်ရ် တစ်ယောက်သည် လက်လွန်၍ သေဆုံးသွားလေသည်၊ ဖွင်ရ်အောင်န်သည် ဤသတင်းကို ကြားလေရာ၊ အမတ်ကြီးများနှင့်တိုင်ပင်ပြီး မူစာ(အလိုင်ဟစ္စလာမ်)သခင် ကို သတ်ရန် ဆုံးဖြတ်လေသည်။

မူစာ(အလိုင်ဟစ္စလာမ်)သခင်သည် သတ်မည် ဟူသော သတင်းကို ကြားသဖြင့် မဒ်ယန်မြို့သို့ တိမ်းရှောင် ထွက်သွားတော်မူသည်၊ မဒ်ယန်မြို့ ဆင်ခြေဖုံးသို့ ရောက်သော အခါ ဆိတ်ကျောင်းသမားများသည် ရေတွင်းမှ ရေများကိုင်၍ မိမိတို့ ဆိတ်များကို တိုက်နေပြီး အမျိုးသမီးနှစ်ယောက်သည် မိမိတို့ ဆိတ်များကို ရေတွင်းဘက်သို့ မသွား စေရန်တားဆီးနေကြသည်ကိုတွေ့တော်မူလေသည်၊ ထိုအမျိုးသမီးနှစ်ပါးအနက် တစ်ပါး မှာ မူစာ(အလိုင်ဟစ္စလာမ်)သခင်၏ မြောက်သားတော်ဖြစ်မည့် သခင်မနှင့် ခယ်မတော် ဖြစ်လေသည်။

မူစာ(အလိုင်ဟစ္စလာမ်)သခင်က ထိုသခင်မများထံ သွား၍ အကြောင်းကိုမေးရာ ကျွန်မတို့အိမ်မှာ အလုပ်လုပ်နိုင်သောယောကျ်ားမရှိသဖြင့် ကျွန်မတို့ကိုယ်တိုင် ဆိတ်များကို ကျောင်းနေရပါသည်၊ ကျွန်မတို့သည် အမျိုးသမီးများဖြစ်ကြသဖြင့် ၎င်းတို့ပြန်သွားကြ

မှသာ ကျွန်မတို့ဆိတ်များကို ရေတိုက်ကြပါသည်ဟုပြောလေ၏၊ မူစာ(အလိုင်ဟာစ္စလာမ်) သခင်သည် သနားကရုဏာ သက်လာတော်မူပြီး ကိုယ်တိုင်ရေငင်၍ ဆိတ်များကိုရေတိုက်ပေးတော်မူလိုက်လေသည်။

သခင်မနှစ်ပါးက ဖခည်းတော်အား အကျိုးအကြောင်းကိုပြောပြရာ ဖခင်က ထိုပုဂ္ဂိုလ်ကို ခေါ်လာခဲ့ရန် သမီးကြီးအား လွှတ်လိုက်လေ၏၊ သမီးကြီးသည် ရှက်သွေးဖြန်းလျက် မူစာ(အလိုင်ဟာစ္စလာမ်)သခင်ကို ယခုရောက် ခေါ်ငင်လေသည်၊ မူစာ(အလိုင်ဟာစ္စလာမ်) သခင်သည် သခင်မနှင့်အတူ လိုက်သွားပြီး ရှုံ့အိုင်ဗ် (အလိုင်ဟာစ္စလာမ်) သခင်နှင့် တွေ့လေသည်၊

ရှုံ့အိုင်ဗ် (အလိုင်ဟာစ္စလာမ်) သခင်က နှစ်သိမ့်စေတော်မူပြီး မိန့်သည့်မှာ.... သမီးနှစ်ယောက်အနက် တစ်ယောက်ကို သင်နှင့်ပေးစားလိုသည်၊ သို့သော် သင်သည် (၈)နှစ်၊ သို့မဟုတ် (၁၀) နှစ် ကျွန်ုပ်၏ ဆိတ်များကို ကြောင်းပေးရမည်၊ သခင်ကလက်ခံတော်မူ၍ သမီးကြီး စွဖ္ဖူရဟ် သခင်မနှင့် လက်ထပ်တော်မူလေသည်၊ သခင်သည် မြောက်သားတော်နှင့်အတူ မိမိနေရပ်ဒေသသို့ ပြန်လာတော်မူသည်၊ လမ်းတွင်အေးလွန်း၍ မီးလှုံရန် လိုအပ်လာသည်၊ 'တွာူရ်' တောင်ပေါ်တွင် မီးရောင်မြင်ရသဖြင့် သခင်သည် တောင်ပေါ်သို့ တက်သွားတော်မူသည်၊ ထိုအလင်းရောင်သည် မီးမဟုတ်ဘဲ အလ္လာဟ်အသျှင်မြတ်၏ 'နူရ်' တော်ဖြစ်ကြောင်း တွေ့နေရလေသည်၊ ထိုနေရာ၌ပင် သခင်သည် နဗီအဖြစ်ကို ရရှိတော်မူလေ၏။

**အကျိုးကျေးဇူး။** သခင်မသည်အိမ်တွင်း လုပ်ငန်းများကိုဂရုတစ်စိုက်ကျိုးစား၍ ပြုလုပ်တော်မူသည်၊ သူစိမ်း ယောကျ်ားနှင့် မတတ်သာ၍ စကားပြောရခြင်းပင်ရှက်၍နေတော်မူသည်၊ အို....အမျိုးသမီးအပေါင်းတို့၊သင်မတို့လည်း အိမ်တွင်းလုပ်ငန်းများကို ဂရုတစ်စိုက်ပြုလုပ်ကြကုန်၊ အသက်သာခိုခြင်း၊ ပျင်းရိခြင်းများ မပြုကြနှင့် ၎င်းအရှက်ဂုဏ်ကို အမြဲထိန်းသိမ်းဂရုပြုကုန်။

# မူစာ (အလိုင်ဟာစ္စလာမ်) သခင်၏ ခယ်မတော် အကြောင်း

သခင်မ၏ အကြောင်းသည် အထက်တွင် ပါခဲ့ပေပြီ၊ နာမံတော်သည် 'စဖွဲရာ' ဖြစ်သည်၊ (နာမည်အမှန်မှာ 'စွဖ္ဖူရာအို့' ဖြစ်သည်) သခင်မသည် အစ်မဖြစ်သူနှင့်အတူ အိမ်ရှိ လုပ်ငန်းများကို ကျိုးစား၍ ဂရုတစ်စိုက် လုပ်ဆောင်တော်မူသည်၊ ၎င်းဖခည်းတော် အမိန့်ကို နာခံသည်၊ ၎င်းဝတ်ကြီး, ဝတ်ငယ်မှူသော သခင်မဖြစ်ပေသည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်းမိဘကို ဝတ်ပြုကြ၍ အိမ်တွင်း လုပ်ငန်းများကို ဒုက္ခခံ ကြိုးစား၍ ပြုလုပ်ကြကုန်၊ သူဆင်းရဲများ ပြုလုပ်ကြသောအလုပ်ကို သေးသိမ်သည်ဟုမထင်မှတ်ကြနှင့် သင်မတို့သည် နဗီ၏ သမီးတော်များထက် အဆင့်အတန်း မြင့်မားကြသူများ မဟုတ်ကြပေ။

# အာစီယဟ် (ရသွေ့) သခင်မ အကြောင်း

ဖွင်ရ်အောင်န်သည် မစ်စွင်ရ်(အီဂျစ်ဗ်)နိုင်ငံ၏ဘုရင်ဖြစ်လေသည်၊ ၎င်းကမိမိကိုယ်ကို ခိုဒါအသျှင်ဟုပင် ကြွေးကြော်သည်၊ ခင်ပွန်းသည် ဆိုးယုတ်သော်လည်း ဇနီးသည်မှာ အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့သော ဝလီ သူတော်စင်မကြီးဖြစ်သည်၊ သခင်မအား ချီးကျူးထားသောအကြောင်း ကုရ်အာန် ကျမ်းတော်မြတ်၌ လာရှိသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ... ယောကျ်ားများ တွင် ပြည့်စုံသော သူတော်စင်များရှိခဲ့သည်၊ သို့သော် အမျိုးသမီးများတွင် မရ်ယမ်သခင်မ နှင့် အာစီယဟ် သခင်မနှစ်ပါးထက် ပြည့်စုံသော သူတော်စင်မများ မရှိခဲ့။

သခင်မသည် ဖွင်ရ်အောင်န် မင်းယုတ်မှ ငယ်စဉ်က မူစာ(အလိုင်ဟစ္စလာမ်)သခင်၏ အသက်ကို ကာကွယ်ခဲ့သည်၊ ထိုသို့ကာကွယ်ခဲ့ခြင်းအကြောင်း မူစာ (အလိုင်ဟစ္စလာမ်) သခင်၏ အစ်မတော်အကြောင်းတွင်လွန်ခဲ့ပေပြီ၊ တပ်က်ဒီးရ်က အီမာန်ယူရန် သတ်မှတ် ထားသဖြင့် မူစာ (အလိုင်ဟစ္စလာမ်) သခင် ငယ်စဉ်ကပင် သခင်မကြီးသည်သားရင်းပမာ ချစ်ခင်နေတော်မူသည်၊ မူစာ (အလိုင်ဟစ္စလာမ်) သခင်သည် နဗီဖြစ်တော်မူသောအခါ ဖွင်ရ်အောင်န်က အီမာန်မယူ၊ သခင်မကြီးက အီမာန်ယူခဲ့လေသည်၊ ဖွင်ရ်အောင်န်သည် သခင်မကြီး အီမာန်ယူကြောင်း သိသောအခါ သခင်မကြီးအား အမျိုးမျိုးသောဒုက္ခ များပေးလေသည်၊ သို့သော်လည်း သခင်မကြီးသည် ဒုက္ခကိုရွှင်ပြုံးစွာ ခံယူတော်မူပြီး အီမာန်ကို မစွန့်လွှတ်ပေ၊ ထိုအဖြစ်၌ပင် ကွယ်လွန်သွားတော်မူသည်။

**အကျိုးကျေးဇူး။** ခင်ပွန်းသည် ကာဖွင်ရ်က ဒုက္ခအမျိုးမျိုးပေးသည်၊ ခင်ပွန်း သည်နောက် ကို မလိုက်ဘဲ အီမာန်ယုံကြည်ချက်ကို စွဲမြဲစွာထား တော်မူသည်၊ ယခုသော်ကား ဒုက္ခအနည်းငယ် ရောက်စေကာမူလည်း 'ကွဖ်ရ်' ဖြစ်သည့် အသုံးအနှုန်းများကို ပြောဆိုကြလေသည်။

# ဖွင်ရ်အောင်န် သမီး၏ အထိန်းတော် အကြောင်း

ရောင်သွတွတ်စွဖွာကျမ်း၌ ရေးသားပါရှိသည်၊ ဖွင်ရ်အောင်န်မင်းယုတ်၏သမီးမှာ အထိန်းတော်တစ်ဦးရှိသည်၊ ထိုအထိန်းတော်သခင်မသည် ဖွင်ရ်အောင်န် သမီး၏ အလုပ် များကို လုပ်ပေးရသည်၊ ဆံပင်ရှင်း၊ အလှပြုပြင်ပေးရသည်၊ ထိုသခင်မသည် မူစာ(အလိုင် ဟစ္စလာမ်) သခင်အပေါ်၊ အီမာန်သက်ဝင်ယုံကြည်လေသည်၊ သို့သော် ဖွင်ရ်အောင်န်ကို ကြောက်၍ ဖော်ထုတ်ခြင်းမပြုပေ။

တစ်ခါကအထိန်းတော်သခင်မသည် ဆံပင်များ ရှင်းပေးနေစဉ်လက်မှ ဘီးလွတ်ကျ သွားသဖြင့် 'ဗစ်မစ်လ္လာဟ်' ဟုဆိုကာ ကောက်ယူတော်မူသည်၊ ဖွင်ရ်အောင်န် သမီးက နားမလည်၍ မည်သူ့နာမည်နည်းဟု မေးလေ၏၊ သခင်မက ဤနာမ်တော်သည် သင့်မ

ဖခင်ကို ဖန်ဆင်းသော ဘုရင်အဖြစ် ထီးနန်းပေးတော်မူသော အလ္လာဟ်အသျှင်မြတ်၏ နာမံတော်ဖြစ်သည်ဟု မိန့်လေ၏၊ ဖွင်ရိအောင်န်၏ သမီးသည် ကျွန်ုပ်ဖခင်ထက် ကြီးသူ ရှိသေးသလော့ဟုမေးကာ ဖခင်ထံပြေးသွား၍ အကျိုးအကြောင်းကို ပြောပြလေသည်။

ဖွင်ရိအောင်န်သည် ဒေါသဖြစ်ကာ သခင်မကိုခေါ်၍ ခြောက်လှန့်သည်၊ ကြိမ်းမောင်းသည်၊ သို့သော် သခင်မက ဇွဲသတ္တိဖြင့် ဖြစ်ချင်ရာဖြစ်ပါစေ ကျွန်မအီမာန်မဖျက်နိုင်ပါဟု မိန့်လေ၏၊ ဖွင်ရိအောင်န်သည် ပထမသခင်မ၏ လက်ခြေကို သံမှိုနှက်၍မီးခဲများ ပြာပုံများလောင်းသည်၊ ဤသို့ ဒုက္ခပေးသော်လည်း သခင်မသည် အီမာန်ကိုမဖျက်သဖြင့် ဖွင်ရိအောင်န်သည် သခင်မ၏ နို့စို့ရွယ် သားကလေးကိုယူ၍ မီးပုံထဲသို့ ပစ်ချလေသည်။

ထိုအခါ သားငယ်က မီးပုံထဲမှ အို မိခင် သည်းခံကုန်လော့၊အီမာန်ကို မဖျက်ပါနှင့်ဟု ပြောလေသည်၊ အချုပ်မှာ... သခင်မသည် စွဲယူယုံကြည်ထားသော အီမာန်ကို မဖျက်ဘဲ နေတော်မူသည်၊ နောက်ဆုံး သခင်မကိုလည်း ကျက်ကျက်ပူပြင်းနေသော မီးပုံထဲသို့ ပစ်ချကြလေ၏။

အမ္မပါရဟ်၊ စူရဟ်ဘွိရူးဂ်ျတွင် ခါအေ့ယူန်(မီးပုံကျွင်း)အကြောင်း၌ ဤသို့ပင် သခင်မတစ်ပါးနှင့် သားငယ်တို့ မီးပုံထဲ အချခံရကြောင်း လာရှိပေသည်။

**အကျိုးကျေးဇူး။** ထိုသခင်မများ၏ အီမာန် ယုံကြည်ချက်သည် မည်မျှခိုင်မာတည်မြဲသည်ကို အတုယူကြကုန်လော့၊အို....အမျိုးသမီးအပေါင်းတို့ အီမာန်သည် အလွန်ကြီးသော စည်းစိမ်ကြီးတစ်ရပ်ဖြစ်သည်၊ မိမိစိတ်ပျော်ရွှင်ရန်အတွက် ၎င်းအလိုလောဘ တစ်ခုခုအတွက်နှင့် ဒုက္ခသုက္ခကြောင့် မိမိတို့ အီမာန်နှင့် သာသနာကို ပျက်စီးအောင် မပြုကြနှင့်၊ အလ္လာဟ်အသျှင်မြတ်နှင့်ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ လမ်းစဉ်တော်နှင့် ကွဲလွဲဆန့်ကျင်သော မည်သည့်အလုပ်မှ မပြုလုပ်ကြနှင့်။

## မူစာ [အလိုင်ဟစ္စလာမ်] သခင်၏ စစ်သည်တော်များမှ

### အဘွားအိုတစ်ပါး အကြောင်း

ဖွင်ရိအောင်န် မင်းဆိုးမင်းယုတ်သည် မူစာ (အလိုင်ဟစ္စလာမ်) သခင်၏အမျိုးတူ အနွယ်များ ဖြစ်ကြသော 'ဘနီအစ္စရာအီလ်' တို့ကို အမျိုးမျိုးသော ဒုက္ခများပေး၍ ရိုက်ပုတ်ညှဉ်းပမ်း နှိပ်စက်ခြင်း ပြုလေသည် အလ္လာမဟ်အစ်ဗ်နို့ ကသီရ် သခင်၏ အဆိုအရ ဘနီအစ္စရာအီလ်တို့၏ ဦးရေသည် လူပေါင်းခြောက်သိန်း,သုံးသောင်း (၆၃၀၀၀၀) ရှိလေသည်။

ဖွင်ရိအောင်န်၏ ညှဉ်းပမ်းခြင်းများမှ လွတ်ကင်းရန် ဘနီအစ္စရာအီလ် တို့အား ခေါ်ဆောင်၍ ညအချိန် တိတ်တစ်ဆိတ် ထွက်သွားရန်အတွက် မူစာ(အလိုင်ဟစ္စလာမ်) သခင်အား အလ္လာဟ်အသျှင်မြတ်က အမိန့်ပေးတော်မူ၏၊ ဖွင်ရိအောင်န်သည် အဆောက်

အအုံကြီးတစ်ခု တည်ဆောက်ရာ အလ္လာဟ်အသျှင်မြတ် အလိုတော်ဖြင့်ထိုအဆောက်အုံ၏ နံရံများသည် ကွဲအက်ပြီး ပြိုကျသွားလေသည်၊ ထိုအတွက် ဖွင်ရ်အောင်နိသည် ဒေါသ ဖြစ်ပြီး ဘနီအစ်ရာအီလ်ထို့ကို ပို၍နှိပ်စက်ညှဉ်းပမ်းလေသည်။

မူစာ (အလိုင်ဟဲ့စွလာမ်) သခင်သည် အားလုံးကိုခေါ်ဆောင်၍ ထွက်သွားတော် မူသည်၊ 'နီလ်' မြစ်သို့ ရောက်သောအခါ လမ်းမှား၍ မည်သူမျှ လမ်းကို မတွေ့ကြပေ၊ သခင်သည် လမ်းမတွေ့သည့်အတွက် အံ့ဩရတော်မူပြီး မည်သူ လမ်းသိသနည်း သိလျှင် လာရောက် ပြောပြကုန်ဟု အော်ဟစ်၍ မိန့်တော်မူလေ၏၊ထိုအခါအဘွားအို တစ်ပါးသည် လာရောက်၍ လျှောက်သည်။

ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင် ကွယ်လွန်ခါနီးအချိန်တွင် သခင်က နောင်တော် များ, တူများကို မှာတမ်း 'ဝစွိယတ်' ပြုတော်မူခဲ့သည်၊ သင်တို့ မစ်စွင်ရ်နိုင်ငံကို စွန့်၍ ထွက်ခွာကြမည်ဖြစ်မူ ကျွန်ုပ်၏ အလောင်းရှိခဲ့သာ သေတ္တာကို ယူဆောင်၍ သွားကြကုန်၊ ထို့ကြောင့် သခင်သည် ထိုသေတ္တာကို ယူဆောင်ခြင်းမပြုပါက ထွက်ရပ်လမ်း တွေ့မည် မဟုတ်ပါဟု ဆိုလေ၏။

မူစာ (အလိုဟစ္စလာမ်) သခင်က ထိုသေတ္တာအဘယ်မှာနည်းဟုမေးရာ ထိုသေတ္တာ မြှုပ်နှံရာနေရာကိုလည်း အဘွားအိုမှတစ်ပါး မည်သူမှမသိကြပေ၊အဘွားအိုအားမေးရာ အဘွားအိုက ကတိတစ်ခုပေးမှသာ ပြောပြမည်ဟု ဆိုလေ၏၊ သခင်က မည်သို့ကတိပေးရ မည်နည်းဟု မေးတော်မူ၏၊ အဘွားအိုက ကျွန်မ အီမာန်ရှိလျက်နှင့်သေဆုံးရန်နှင့် ဂျန္နတ် တွင် သခင်နေထိုင်ရသောအဆင့်တွင် နေရာရရှိရန် ကတိပေးရမည်ဟု ဆိုလေ၏။

ထိုအခါမူစာ (အလိုင်ဟစ္စလာမ်) သည် ခေါင်းခဲသွားလျက် အို အလ္လာဟ်အသျှင် မြတ် ဤသို့ကတိသည်ကျွန်တော်မျိုး မစိုးပိုင်သောကိစ္စဖြစ်သည်ဟုအလ္လာဟ်အသျှင်မြတ်ထံ တိုင်တည်လေ၏၊အလ္လာဟ်အသျှင်မြတ်က အို မူစာ သင်မစိုးရိမ်လင့် ကတိပေးလိုက်ကုန်၊ သင်ပေးသောကတိကို ငါအသျှင် ပြည့်စုံအောင် ပြုတော်မူမည်ဟု မိန့်လေ၏၊ ထိုအခါကြမှ သခင်က ကတိတော်ပေးလိုက်ရာ အဘွားအိုက ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်၏ အလောင်းပါသော သေတ္တာသည် မြစ်လယ်တွင်မြှုပ်နှံထားသည်ဟု လျှောက်၏၊ထိုအခါ ထိုသေတ္တာကို တူးဖော်ယူကြသောအခါမှပင် သွားလိုသောလမ်းကို တွေ့ကြရလေ၏။

**အကျိုးကျေးဇူး။** အဘွားအိုသည် ကြီးကျယ်သောပုဂ္ဂိုလ်မကြီးဖြစ်သည်၊ ဒွန္နယာ လောကအတွက် ရွှေ,ငွေကို မတောင်းဘဲ နောင်အာခေရတ် ကောင်းစားရေးကိုပင် ရှေ့ရှုတောင်းဆိုလေ၏၊ အို....အမျိုးသမီး အပေါင်းတို့၊ သင်မ တို့သည်း ဒွန္နယာလောက၏ အလိုလောဘကို စွန့်လွှတ်ကြကုန်လော့၊ လောကစည်းစိမ် သည် အလ္လာဟ်အသျှင်မြတ် သတ်မှတ်ထားတော်မူသရွေ့သာ ရရှိကြမည်၊ ပို၍မရနိုင်ပေ၊ မိမိတို့၏ 'ဒီန်' သာသနာတော်ကို မြဲခိုင်ကောင်းမွန်အောင် ကြိုးစားကြကုန်လော့။

## ဟိုင်စူရ်၏ နှမ အကြောင်း

ကုရ်အာန်ကျမ်းတော်မြတ်၌မူစာ(အလိုင်ဟစ္စလာမ်)နှင့်ခသွင်ရ်(အလိုင်ဟစ္စလာမ်) သခင်အကြောင်း ပါရှိလေသည်၊ ခသွင်ရ်(အလိုင်ဟစ္စလာမ်)သခင်က အလ္လာဟ်အသျှင် မြတ်၏ အမိန့်တော်အရ ကလေးငယ်တစ်ယောက်ကို သတ်ပစ်တော်မူလေသည်၊ ဤကလေး က သတ်ပစ်လောက်အောင် အဘယ်အမှားကို ပြုသနည်း ဟု မူစာ(အလိုင်ဟစ္စလာမ်) သခင်က လန့်ဖြန့်၍ မေးတော်မူလေ၏။

ခသွင်ရ်(အလိုင်ဟစ္စလာမ်)သခင်က မိန့်သည်မှာ.... ဤကလေးသည် ကြီးပြင်းလာ သောအခါ ကာဖွင်ရ် ဖြစ်မည်၊ ထိုကလေး၏ မိဘသည် အီမာန်ရှိသူများ ဖြစ်ကြသည်၊ သားကိုချစ်ပြီး အီမာန်ပျက်မည်ကိုစိုးရသည်၊ ထို့ကြောင့် ၎င်းကလေးကိုသတ်ပစ်ခြင်းက ကောင်းသည်၊ ထိုသားအစား အလ္လာဟ်အသျှင်မြတ်က သမီးတစ်ဦး ပေးတော်မူပေမည်၊ ထိုသမီးသည် မကောင်းမှုများကိုရှောင်ကြဉ်၍ မိဘကို အကျိုးဖြစ်ထွန်းစေမည်။

အခြားကျမ်းများတွင် ရေးသားပါရှိသည်မှာ.....ထိုမိဘဖြင့် သမီးတစ်ပါး မွေးဖွား သည်၊ နဗီတစ်ပါးက ထိုသမီးတော်နှင့်'နေကာဟ်'ပြု လက်ထပ်သည်၊ နဗီပေါင်း(၇၀) ထိုသမီးတော်၏ အဆက်မှ ထွန်းကားလာခဲ့သည်၊ ထိုအသတ်ခံရသော ကလေး၏ အမည် သည် 'ဟိုင်စူရ်'ဖြစ်သည်၊ ဤသခင်မသည် ဟိုင်စူရ်၏ နှမဖြစ်သည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်က ထိုသခင်မသည် မကောင်းမှုများမှ သန့် ရှင်းမည်၊ မိဘနှစ်ပါးကို အကျိုးဖြစ်ထွန်းစေမည်ဟု မိန့်မြွက် ထားပါက ထိုသခင်မသည် မည်မျှကောင်းမွန်ပေမည်နည်း။ အို....အမျိုးသမီးအပေါင်း တို့၊ 'ဂိုနာဟ်'အကုသိုလ်များမှ သန့်ရှင်းစွာနေကြကုန်၊ မိဘနှစ်ပါးကိုစိတ်အေးချမ်းမှုပေး ကြကုန်၊ အလ္လာဟ်အသျှင်မြတ် ချီးကျူးလောက်အောင် အဆင့်သို့ ရောက်သော လုပ် ငန်းစဉ်သည် အဘယ်မျှ နှစ်မြို့ဖွယ် ကောင်းဘိသနည်း။ အို.... အမျိုးသမီးအပေါင်းတို့၊ ဤကိစ္စရပ်များ ရရှိရန် ကောင်းစွာ ကြိုးစားကြကုန်လော့။

## ဟိုင်စူရ်၏ မိခင် အကြောင်း

ဟိုင်စူရ်သည် အထက်တွင်တင်ပြခဲ့သော အသတ်ခံရသည့်ကလေးဖြစ်သည်၊ ၎င်း၏ မိဘနှစ်ပါးသည် အီမာန်ရှိသူများဖြစ်ကြောင်း ကုရ်အာန်ကျမ်းတော်မြတ်တွင်လာသည်ကို အထက်တွင် ရေးခဲ့ပေပြီ၊ အကြင်သူကို အလ္လာဟ်အသျှင်မြတ်က အီမာန်ရှိသူဟု မိန့်တော် မူလျှင် ထိုသူသည် ပေါ့ပျက်ပျက်အီမာန်ရှိသူမဟုတ်ဘဲ တိကျပြည့်စုံသော အီမာန်ရှိသူဖြစ် ပေမည်၊ ထို့ကြောင့်ဟိုင်စူရ်၏မိခင်သည် ကြီးကျယ်သောသူမဖြစ်ကြောင်း သိရလေသည်။

**အကျိုးကျေးဇူး။** အီမာန် ပြည့်စုံခိုင်မြဲခြင်းသည် အလ္လာဟ်အသျှင်မြတ်ကပင် ချီးကျူးလောက်အောင် ကြီးမားသောစည်းစိမ်ကြီးတစ်ရပ်ဖြစ်ပေသည်။ အို...အမျိုးသမီးအပေါင်းတို့၊ အီမာန်ပြည့်စုံမြဲခိုင်စွာထားကြကုန်၊ အီမာန်ပြည့်စုံမှုသည် 'ရှရီအတ်'တရားတော်မြတ်၏ အမိန့်များကို လိုက်နာ ဆောက်တည်ပြီး ဂိုနာဟ်အကုသိုလ်များမှ ရှောင်ကြဉ်မှသာ ရရှိမည်ဖြစ်ပေသည်။

## စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်၏ မယ်တော် အကြောင်း

အို အလ္လာဟ်အသျှင်မြတ်၊ ကိုယ်တော်အသျှင်က ကျွန်တော်မျိုး၏ မိဘနှစ်ပါး အပေါ် ဆုလာဘ်များ ပေးတော်မူသည်ဟူ၍ စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်က ဒိုအာ ပြုယင်း ထည့်သွင်းလျှောက်ကြောင်း ကုရ်အာန်ကျမ်းတော်မြတ်တွင် ပါရှိလေသည်၊ ထို့ကြောင့် သခင်၏ မယ်တော်သည် ကြီးကျယ်သော သူမြတ်မကြီးဖြစ်ကြောင်း သိရလေသည်၊ အဘယ့်ကြောင့်ဆိုသော် အကြီးဆုံးစည်းစိမ်သည် အီမာန်နှင့်သာသနာ ဖြစ်သည်။ အို..အမျိုးသမီးအပေါင်းတို့၊ အီမာန်ကို ကောင်းစွာ ဈန်းဆန်း ခိုင်မြဲအောင် ပြုကြကုန်လော့။

## ဗင်လ်ကီးစ် သခင်မ အကြောင်း

ဤသခင်မသည် 'စဗာ'နိုင်ငံ၏ ဘုရင်မဖြစ်သည်၊ ဟွဒ်ဟွဒ်ဘီး တောင်ဘိုငှက်က နေကိုကိုးကွယ်သော ဘုရင်မတစ်ပါး တွေ့ခဲ့ရသည်ဟု စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင်အားလျှောက်ထားလေ၏၊ သခင်က စာတစ်စောင်ရေး၍ ဟွဒ်ဟွဒ်အား ဘုရင်မထံသွား၍ ချခဲ့ရန်မိန့်လေ၏၊ စာတွင်- သင်တို့မွတ်စလင်မ်ဖြစ်ကြပြီး လာရောက်ခ,စားကြကုန် ဟူ၍ ပါရှိလေသည်။

ဘုရင်မသည် စာကို ဖတ်၍ မှူးကြီးမတ်ကြီးများ နှင့် တိုင်ပင် ဆွေးနွေးလေ၏၊ နောက်ဆုံး ကိုယ်တိုင်ဆုံးဖြတ်ချက်ချတော်မူ၏၊ ဘုရင့်ထံ လက်ဆောင်ပဏ္ဏာများပို့မည်၊ လက်ခံယူပါက လောကီကိုခင်တွယ်သောဘုရင်ဖြစ်သည်၊ လက်မခံပါက နဗီဖြစ်သည်ဟု ယူဆရမည်။

စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်ထံသို့ လက်ဆောင်များ ရောက်လာလေရာ သခင်က လက်ခံတော်မမူဘဲ ပြန်ပို့လိုက်တော်မူသည်၊ သင်တို့မွတ်စလင်မ်မဖြစ်ကြပါက စစ်တိုက်ရန် စစ်သားများ ပို့လွှတ်မည်ဟု မိန့်လေ၏။

ဘုရင်မသည် ဤအမိန့် စာချွန်လွှာကို ဖတ်ရှုပြီး နဗီဖြစ်ကြောင်း ယုံကြည်ကာ၊ မွတ်စလင်မ်ဖြစ်ရန်အတွက် မိမိတိုင်းပြည်မှ ထွက်ခွာလာတော်မူသည်၊ စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင်က ဘုရင်မ လာနေကြောင်းသိတော်မူပြီး 'မုအ်ဂျေဇဟ်'ကိုလည်း ပြသရန်

သဘောဖြင့် ဘုရင်မ၏ အဖိုးထိုက်တန်သော ရာဇပလ္လင်ကို ရှုံးတော်သို့ သွားရောက်ယူလာခဲ့စေသည်၊ ပုလဲရတနာများကိုဖြုတ်၍ တစ်မျိုးတစ်ဖုံ ပြောင်းသွားစေရန် ပြင်ဆင်တပ်ဆင်စေတော်မူသည်။

ဗင်လ်ကီးစ် ဘုရင်မသည် စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင့်ထံသို့ ရောက်လာလေရာ၊ ဉာဏ်စမ်းသော သဘောဖြင့် စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်က ဤရာဇပလ္လင်သည် အရှင့်မ၏ရာဇပလ္လင် မဟုတ်ပါသလောဟု မေးစေတော်မူ၏၊ ဘုရင်မက သေသေချာချာကြည့်ပြီး ဤသို့ပင်ဖြစ်သည်၊ အနည်းအကျဉ်းပြောင်းထားသည်ဟု ဖြေလေ၏၊ ဤသို့ ဖြေကြားခြင်းဖြင့် အသိဉာဏ်အမြော်အမြင်ရှိကြောင်း သိရလေသည်။

စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်က အလ္လာဟ်အသျှင်မြတ် ပေးသနားထားတော်မူသော စည်းစိမ်တော်သည် များစွာရှိကြောင်း ပြသရန်အတွက် ရေကန်ပြုလုပ်ပြီး ရေပေါ်တွင် ကြည်လင်တောက်ပသော မှန်ခင်းထားရန် အမိန့်ပေးတော်မူ၏၊ စိုလိုင်မာန် (အလိုင်ဟစ္စလာမ်) သခင်သည် တွေ့ဆုံရန် လာသူများကို ထိုရေကန်မှ ဖြတ်လာမှသာ ဖြစ်သော နေရာတွင် ထိုင်နေတော်မူသည်၊ ဗင်လ်ကီးစ် ဘုရင့်မအား တွေ့ဆုံရန် အတွက် လာရန် အမိန့်ပေးတော်မူ၏၊ ဘုရင်မသည်တွေ့ရန် လာလေရာ ရေကန်ကို တွေ့ရသည်၊ ရေထဲမှဆင်း၍ သွားရမည်ဟု ထင်ကာ၊ ဘောင်းဘီ (ထမီ)ကို မ,လေ၏၊ ချက်ချင်းပင် ဘောင်းဘီ မ,ရန်မလို၊ မှန်ခင်းထားသည်၊ ဤအတိုင်းပင်လာကုန်ဟု ပြောစေတော်မူ၏။

ဗင်လ်ကီးစ် ဘုရင်မသည် ရာဇပလ္လင် ယူထားသော 'မုအ်ဂျေဇဟ်'နှင့် ဤလက်ရာမြောက်ပုံကိုလည်းတွေ့နေရလေရာ၊ ဘုရင့်အတွက် လိုသည်ထက်ပို၍ စည်းစိမ်များရှိသည်၊ ကျွန်ုပ်ထံ ရှိသည်ထက်ပိုနေသည်၊ ပစ္စည်းမက်၍မဟုတ်ဟု တွေးတောတော်မူပြီး ချက်ချင်း 'ကလေမဟ်'တော် ဖတ်၍ မွတ်စလင်မ်ဖြစ်သွားလေ၏။

ထို့နောက် ဗင်လ်ကီးစ်ဘုရင်မကို စိုလိုင်မာန်(အလိုင်ဟစ္စလာမ်)သခင်က ကိုယ်တိုင် 'နေကာဟ်'ပြု လက်ထပ်တော်မူသည်ဟု အာလင်မ်အချို့က ဆိုကြသည်။၊ ၎င်းအချို့က ယမန်နိုင်ငံ၏ ဘုရင်နှင့် လက်ထပ်ပေးလိုက်သည်ဟု ဆိုကြလေသည်၊ မည်သို့ ဖြစ်သည်ကို အလ္လာဟ်အသျှင်မြတ်သာလျှင် သိတော်မူပေသည်။

**အကျိုးကျေးဇူး။** ကြွယ်ဝချမ်းသာသော ဘုရင်မတစ်ပါးဖြစ်သော်လည်း မှန်ကန်တိကျသော သာသနာတော်ကို သိသွားသောအခါ ချက်ချင်း လက်ခံယုံကြည်သည်၊ ငြင်းဆန်ဂုဏ်မောက်ခြင်းမပြု၊ ဘိုးဘထုံးစံကို လက်ကိုင်ပြုမနေဘဲ စွန့်လွှတ်ပစ်လိုက်လေသည်။ အို ... အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း ဤနည်းလမ်းကို ကျင့်သုံးကြကုန်၊ အစ္စလာမ် သာသနာတော်၏ အမိန့် ပညတ်ကို ကြားသိလျှင် အရှက်မထားနှင့်၊ မျိုးနွယ်၏ ထုံးစံနောက်သို့ မလိုက်နှင့်၊ ထိုသို့ တီထွင်ထားကြသော ထုံးစံများသည် သင်မတို့ အတွက် အသုံးဝင်မည် မဟုတ်၊ အစ္စလာမ် သာသနာတော်သာလျှင် အသုံးဝင်မည် ဖြစ်ပေသည်။

## ဘနီအစ္စရာအီလ် အနွယ်မှ အစေခံမ တစ်ယောက် အကြောင်း

ဟဒီးသ်တော်မြတ်တွင် ပုံပြင်တစ်ခု လာရှိသည်၊ ဘနီအစ္စရာအီလ် အနွယ်မှ အမျိုးသမီးတစ်ယောက်သည်မိမိရင်သွေးကိုနို့တိုက်နေလေသည်၊ထိုအခါ၌လူတစ်ယောက်သည် လှပတင့်တယ်သောအဝတ်အစားဖြင့် မြင်းစီး၍သွားသည်၊ အို...အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးမ၏ ကလေးကို ဤသို့ဂုဏ်သရေရှိသူအဖြစ် ပြုပေးတော်မူပါ...ဟု မိခင်က ဒိုအာပြုလေ၏၊ ကလေးသည် နို့စို့မှုကို လွှတ်၍ အို...အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးကို ဤသို့ပြုတော်မမူပါနှင့်... ဟုဆိုပြီး နို့ပြန်စို့လေသည်။

ထို့နောက် လူအချို့တို့သည် အစေခံမတစ်ယောက်ကို သေးသိမ်သောအဖြစ်နှင့် ဆွဲယူသွားကြသည်၊ အို..အလ္လာဟ်အသျှင်မြတ်၊ ကျွန်တော်မျိုးမ၏ ကလေးကို ဤသို့ ပြုတော်မမူပါနှင့်....ဟု မိခင်က ဒိုအာပြုလေသည်၊ ထိုအခါ ကလေးက အို...အလ္လာဟ် အသျှင်မြတ်၊ ကျွန်တော်မျိုးကို ဤသို့ ပြုပေးတော်မူပါ....ဟု ဆိုလေသည်။ မိခင်က အကြောင်းကိုမေးရာ၊ မြင်းစီးသွားသူသည် 'ဇွာလင်မ်' မတရားသူဖြစ်သည်၊ အစေခံမကို လူတို့က စာရိတ္တပျက်ပြားသူ၊ သူခိုး၊ သူဝှက်ဟု စွပ်စွဲကြသည်၊ ထိုသူမသည် ၎င်းတို့စွပ်စွဲခြင်းမှ လွတ်ကင်းသန့်ရှင်းသည်ဟု ကလေးက ပြောလေသည်။

**အကျိုးကျေးဇူး။** မြင်းစီးသွားသူသည် လူတို့ထံတွင် ဂုဏ်သရေရှိငြားသော်လည်း အလ္လာဟ်အသျှင်မြတ် ထံတော်တွင် လုံးဝ ဂုဏ်မရှိသူ ဖြစ်သည်၊ ၎င်းအစေခံမသည် လူတို့ထံ ဂုဏ်မရှိငြားသော်လည်း အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ဂုဏ်အလွန်ရှိသည်၊ လူတို့က မည်သို့ ထင်ကြစေကာမူ အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ဂုဏ်သရေရှိရန် အရေးကြီးပေသည်၊ အကယ်၍ အလ္လာဟ်အသျှင်မြတ်ထံတော်တွင် ဂုဏ်မရှိဘဲ လူတို့ထံဂုဏ်ရှိနေပါက ထိုဂုဏ်သည် အဘယ်အကျိုးရှိမည်နည်း။

နို့စို့ရွယ်ကလေးက အစေခံမ၏ သန့်ရှင်းမှန်မြတ်ခြင်းကို ပြောဆိုနေခြင်းမှာ ထိုသူမ၏ 'ကရာမတ်' ဖြစ်ပေသည်။ အို အမျိုးသမီးအပေါင်းတို့၊ အချို့အမျိုးသမီးတို့သည် သူဆင်းရဲများကို သေးသိမ်သည်ဟု မှတ်ထင်ယူဆကြသည်၊ အနည်းငယ်မျှ ဒွိဟ ဖြစ်လျှင် ပြစ်တင်သည်၊ ခိုးသည်ဟု စွပ်စွဲသည်၊ ဤသို့ အရမ်းစွပ်စွဲခြင်းသည် လွန်စွာ မကောင်းမသော အချက်ဖြစ်သည်၊ အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ၎င်းစွပ်စွဲခံရသူမသည် သင်မထက် ကောင်းနေပေမည်။

## ဘနီအစ္စရာအီလ် နွယ်မှ ဉာဏ်ရှိသော ဘာသာရေး လိုက်စားသည့် အမျိုးသမီး တစ်ဦး အကြောင်း

မုဟမ္မဒ်ဗင်န် ကာအဗ်သခင်က အကြောင်းပြုခဲ့သည်၊ ဘနီအစ္စရာအီလ် အနွယ်တွင် အာလင်မ်ပညာရှင် သူတော်ကောင်းတစ်ပါးရှိလေသည်၊ ထိုသခင်သည် မိမိ၏ဇနီးသည်ကို အလွန်ချစ်ခင်လေသည်၊ တစ်နေ့တွင် ထိုဇနီးသည် ကွယ်လွန်သေဆုံးသွားလေရာ၊ ထိုအာလင်မ်ကြီးသည် ပူဆွေးဝမ်းနည်းလျက် တံခါးပိတ်၍ မည်သူနှင့်မှအတွေ့မခံဘဲနေလေသည်၊

ဘာနီအစ္စရာအီလ် အနွယ်မှ အမျိုးသမီးတစ်ဦးသည် ဤသတင်းကို ကြားသိသော အခါ သခင့်ထံသို့ သွားလေသည်၊ အိမ်သို့ရောက်သောအခါ နှုတ်ထိုက် 'မတ်စ်အလဟ်' ဘာသာရေးပြဿနာတစ်ခုမေးရန်ရှိသည်ဟုအပြောခိုင်းပြီး တံခါးဝတွင်ထိုင်နေလေသည်၊ နောက်ဆုံး သခင်က အတွင်းသို့ ဝင်ခွင့် ပြုလိုက်လေသည်၊ ထိုအခါ သခင်မကြီးက ပြောသည်မှာ....

ကျွန်မသည် အိမ်နီးချင်းတစ်ဦးထံမှ ရွှေဘယက်တန်ဆာငှါးခဲ့သည်၊ ရက်အတန်ကြာ ဝတ်ပြီးသော အခါ ဘယက်တန်ဆာကို ပြန်ပို့ရန် အတောင်းခိုင်းသည်၊ ထိုရွှေများကို ကျွန်မပြန်ပေးရမည်လော့။ အာလင်မ်ကြီးက 'ပြန်ပေးရမည်' ဟု မိန့်လေ၏။ 'ထိုရွှေသည် ကျွန်မထံ ရက်အတန်ကြာရှိနေခဲ့သည်၊ အဘယ့်ကြောင့် ပြန်ပေးရမည်နည်း' ဟု စောဒက တက်ပြန်၏။ 'ရက်အတန်ကြာမတောင်းဘဲနေသည်မှာ ထိုပစ္စည်းရှင်၏ကျေးဇူးပင်ဖြစ်သည့် အတွက် သင်မကပျော်ရွှင်ဝမ်းမြောက်စွာ ပေးလိုက်ရန်ပင် ထိုက်သည်' ဟု အာလင်မ်ကြီးက မိန့်လေ၏။

ထိုအခါ သခင်မကြီးက ပြောသည်မှာ.... အလ္လာဟ်အသျှင်မြတ်သည် သခင့်အား ကောင်းအောင်ပြုတော်မူပါစေ၊ သခင်အဘယ့်ကြောင့် ပူဆွေးနေပါသနည်း၊ အလ္လာဟ် အသျှင်မြတ်က သခင်လိုအပ်သော အရာကို တောင်းသဖြင့် ပေးခဲ့သည်၊ ထိုအသျှင်သာ ပိုင်ဆိုင်သဖြင့်အလိုရှိတော်မူသောအခါပြန်ယူလိုက်သည်။ ဤစကားကိုကြား၍ အာလင်မ် ပညာရှင်ကြီးမှာ သတိတရားရပြီး များစွာ အကျိုးသက်ရောက်သွားလေသည်။

**အကျိုးကျေးဇူး။** ၂၊ အာလင်မ် ပညာရှင်ကြီးတစ်ပါးကို အသိဉာဏ် ပွင့်လင်းအောင် ပြုပေးသော အမျိုးသမီးကြီး ဖြစ်ပေသည်။ အို အမျိုးသမီး အပေါင်းတို့၊ သင်မတို့သည် ဒုက္ခတစ်ခုခုရောက်သောအခါ ကိုယ့်ကိုယ်ကိုလည်း ဆုံးမ ကုန်၊ အခြားသူများကိုလည်း ဆုံးမကြကုန်လော့။

# မရ်ယမ် (အလိုင်ဟတ်စလာမ်)သခင်မ၏ မယ်တော်

## အကြောင်း

ဟန်နဟ်သခင်မသည် အင်မ်ရာန်သခင်၏ မြောက်သားတော်ဖြစ်သည်၊ ဟန်နဟ် သခင်မမှာ ကိုယ်ဝန်ရှိလာသောအခါ လောက၏ အလုပ်ကို မခိုင်းဘဲ ဗလီဝတ်ကျောင်း တော်ကို ဝတ်ကြီး ဝတ်ငယ်ပြုရန် ပေးအပ်ပါမည်ဟု အလ္လာဟ်အသျှင်မြတ် ထံတော်တွင် ကိုးလေ၏၊ သခင်မက သားယောကျာ်းလေး မွေးဖွားမည်ဟုထင်ခဲ့သည်၊ အဘယ့်ကြောင့် ဆိုသော် သားယောကျာ်းသာလျှင် ဗလီဝတ်ကျောင်းတော်ကို စောင့်ရှောက်နိုင်လေသည်၊ ထိုခေတ်အခါက ဤသို့ ကိုးပိုင့်လေသည်။

ဟန်နဟ်သခင်မသည် မိန်းကလေးကို ဖွားလေသည်၊ ထိုအခါ ဝမ်းနည်းစွာဖြင့် အို.... အလ္လာဟ်အသျှင်မြတ်၊ ဤကလေးကား မိန်းကလေး ဖြစ်နေပါသည်ဟု လျှောက် လေ၏။ ငါအသျှင်မြတ်က ဤမိန်းကလေးကို လက်ခံတော်မူသည်၊ ဤမိန်းကလေးသည်

ယောကျ်ားလေးများထက်ကောင်းသည်ဟုမိန့်တော်မူလေ၏။ အချုပ်မှာ.... ထိုမိန်းကလေးကို 'မရ်ယမ်'ဟု အမည်မှည့်သည်၊ ထိုမိန်းကလေး နှင့် ၎င်းအဆက်ကို ရှိုင်တွာန်မိစ္ဆာမှ စောင့်ရှောက်တော်မူပါဟု ဒိုအာ ပြုလေ၏။

သို့ရှိရာ ရစ္စူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... ရှိုင်တွာန်မိစ္ဆာသည် ကလေးတိုင်းကို မွေးဖွားသောအခါ စ,လေသည်၊ သို့သော် မရ်ယမ်သခင်မနှင့် သားတော် အီစာ(အလိုင်ဟစ္စလာမ်)သခင်ကို မစ,နိုင်ပေ။

**အကျိုးကျေးဇူး။** ထိုပုဂ္ဂိုလ်များ၏ နိယတ်စိတ်သဘောထားသန့်ရှင်းမှု 'ဘရ်ကတ်' ဖြင့် အလ္လာဟ်အသျှင်မြတ်က သန့်ရှင်း မွန်မြတ်သော ကလေး ပေးတော်မူသည်၊ အလ္လာဟ်အသျှင်မြတ်သည် ထိုသခင်မ၏ ဒိုအာကို 'ကဘူလ်'ပြု, လက်ခံတော်မူသဖြင့် သခင်မကို နှစ်သက်တော်မူကြောင်း သိရလေသည်။ အို....အမျိုးသမီးအပေါင်းတို့၊ နိယတ်စိတ်ထားကောင်းခြင်းဖြင့် 'ဘရ်ကတ်'များ ဖြစ်သောကြောင့် အမြဲ ထာဝရ မိမိတို့၏နိယတ်စိတ်ထားကို ကောင်းမွန်ဖြူစင်စွာထားကြကုန်၊ ကောင်းမှုပြုလျှင် အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်ပြုကုန်၊ သို့မှသာ သင်မတို့သည် အလ္လာဟ်အသျှင်မြတ် ထံတော်၌ ဂုဏ်သရေရှိကြပေမည်။

# မရ်ယမ် (အလိုင်ဟတ်စလာမ်) သခင်မ အကြောင်း

မရ်ယမ်သခင်မမွေးဖွားခါနီးအကြောင်းကိုအထက်တွင်ရေးခဲ့ပေပြီ၊ မရ်ယမ်သခင်မကို မွေးဖွားပြီးသောအခါ မယ်တော်သည် ကိုးထားသည့်အတိုင်း 'ဗိုင်တွလ်မို့ကတ်ဒတ်စ်' ဗလီဝတ်ကျောင်းတော်သို့ ယူဆောင်သွားသည်၊ ဤကလေးသည် ကိုးထားသောကလေး ဖြစ်၍ လက်ခံယူကြပါဟု မယ်တော်ကပြောလေ၏၊ ဂုဏ်သရေရှိ သူတော်စင်အဆက်မှ ဖြစ်၍ အားလုံးက မွေးစားချင်ကြသည်၊ ထိုပုဂ္ဂိုလ်များ အနက် ဇကရိယာ (အလိုင်ဟစ္စလာမ်)သခင်လည်း ပါရှိလေသည်၊ ဇကရိယာ(အလိုင်ဟစ္စလာမ်)သခင်သည် မရ်ယမ်သခင်မ၏ ကြီးတော် ယောကျ်ား 'ခါလူ' တော်လေသည်၊ ထို့ကြောင့် သခင်မကို အုပ်ထိန်းရန် တာဝန် ပိုမို ရှိသော်လည်း အခြားသူများက မွေးစားလိုကြောင်း ငြင်းခုံ အတိုက်အခံ ပြုကြသည်၊ ဆုံးဖြတ်ချက်တွင်လည်း ဇကရိယာ(အလိုင်ဟစ္စလာမ်)သခင်က သာပို၍ မဲရလေသည်။

နောက်ဆုံး ဇကရိယာ (အလိုင်ဟစ္စလာမ်) သခင်က မရ်ယမ်သခင်မကို မွေးစားလေသည်၊ သခင်မသည် အခြားကလေးများထက် ထူးကြိုင်းမှုမြန်ဆန်လေသည်၊ အတန်ငယ်ကြာသောအခါ အပျိုအရွယ်မှာဖွံ့ထင်လာကြရလေသည်၊ သခင်မသည် မွေးကတည်းက 'ဝလီ'သူတော်စင်မဖြစ်သည်၊ ကုရ်အာန်ကျမ်းတော်မြတ်တွင် သခင်မကို 'ဝလီ'ဟုရေးသားထားတော်မူသည်၊ သခင်မ၏ 'ကရာမတ်'လည်း ပါရှိသည်၊ ရာသီမဟုတ်ဘဲ အသီးအနှံများသည် အကွယ်မှ သခင်မထံ စားသောက်ရန် ရောက်ရှိလာလေသည်၊ ဇကရိယာ

(အလိုင်ဟာစွလာမ်)သခင်က 'အဘယ်ကရသနည်း' ဟု မေးတော်မူရာ၊ 'အလ္လာဟ် အသျှင်မြတ်ထံတော်က ရသည်' ဟု ဖြေတော်မူပေသည်။

အချုပ်မှာ....မရ်ယမ်သခင်မနှင့်ပတ်သက်၍ အကြောင်းအချက်များသည် ထူးဆန်းအံ့ဖွယ်များပင် ဖြစ်ပေသည်၊ ပျိုရွယ်လာသောအခါ အလ္လာဟ်အသျှင်မြတ်အလိုတော်ဖြင့် ယောကျ်ားမပါဘဲ၊ အလိုအလျောက် ကိုယ်ဝန်ရှိလာသည်၊ ၎င်းအီစာ(အလိုင်ဟာစွလာမ်) သခင်ကို မွေးဖွားတော်မူလေသည် ၊ယဟူဒီများက ဖခင်မရှိဘဲ ကလေးဖွားသဖြင့်ပြစ်တင်စွပ်စွဲမှုများ ပြုကြသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က အီစာ (အလိုင်ဟာစွလာမ်)သခင့်အား မွေးစကတည်းက စကားပြောဆိုနိုင်သောစွမ်းအား ပေးတော်မူသည်၊ အီစာ(အလိုင်ဟာစွလာမ်)သခင်က ကောင်းမွန်သော စကားများကို မိန့်နေသဖြင့် အသိတရားရှိသူများက အလ္လာဟ်အသျှင်မြတ်၏'ကွဒ်ရတ်' တော်၏နမူနာတစ်ရပ်ဖြစ်သည်၊ ဖခင်မပါဘဲ မွေးဖွားစေသည်၊ သခင်မသည် သန့်ရှင်းမွန်မြတ်သူမဖြစ်သည်ဟု ယုံကြည်ကြလေ၏။

ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်က မရ်ယမ်သခင်မ၏ ကြီးကျယ်မွန်မြတ်ခြင်းကို မိန့်တော်မူသည်၊ အမျိုးသမီးများတွင်၊ မရ်ယမ်သခင်မ နှင့် အာစီယဟ် သခင်မနှစ်ပါးထက် ပြည့်စုံသော သူတော်စင်မများမရှိခဲ့ပေ၊ ဤအကြောင်းကို 'အာစီယဟ်'သခင်မအကြောင်းတွင်လည်း ရေးခဲ့ပေပြီ။

**အကျိုးကျေးဇူး။** မယ်တော်က သခင်မကို အလ္လာဟ်အသျှင်မြတ် နာမံတော်ဖြင့် လှူလိုက်၍မည်သို့ကြီးကျယ်သွားခဲ့ကြောင်း သိကြရပေပြီ၊၎င်းကိုယ်တိုင် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို လိုက်နာ ဆောက်တည်၍ နေသည်၊ ဤသို့လိုက်နာဆောက်တည်ခြင်းဖြင့် လူသားသည်'ဝလီ' သူတော်စင်ဖြစ်ပေသည်၊ ထိုလိုက်နာမှု၏'ဘရ်ကတ်'ဖြင့် အလ္လာဟ်အသျှင်မြတ်က လူတို့၏ မတရားစွပ်စွဲမှုမှ လွတ်ကင်းစေတော်မူလေသည်။ အို အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်များကို လိုက်နာဆောက်တည်ကြကုန်၊ ထိုသို့လိုက်နာပါက ဒုက္ခအပေါင်းမှ လွတ်ကင်းနေမည်၊ ၎င်းမိမိ၏ သားသမီးများကို ဘာသာ သာသနာရေး တတ်ကျွမ်း၍ လိုက်စားဆောက်တည်သူများဖြစ်စေကြကုန်၊ လောကကိုခင်တွယ်မက်မောသူများ မဖြစ်ကြစေနှင့်။

## ဇကရိယာ (အလိုင်ဟာစွလာမ်) သခင်၏
### မြောက်သားတော် အကြောင်း

သခင်မ၏ နာမံတော်သည် 'အီစာအ်' ဖြစ်သည်၊ ဤသခင်မသည် 'ဟန်နဟ်' သခင်မ၏အစ်မ၊ မရ်ယမ်သခင်မ၏အဒေါ်ဖြစ်ပေသည်၊ သခင်မနှင့်ပတ်သက်၍ အလ္လာဟ် အသျှင်မြတ်ကမိန့်သည်မှာ.... ငါအသျှင်မြတ်က ဇကရိယာ(အလိုင်ဟာစွလာမ်)သခင့်၏ မြောက်သားတော်ကို ပြုပြင်တော်မူလိုက်သည်၊ အာလင်မ်ပညာရှင်များက ထိုသခင်မ၏ စာရိတ္တများကို ပြုပြင်ပေးတော်မူသည်ဟု အဓိပ္ပါယ် ကောက်ယူကြသည်။

သခင်မသည် အသက်အရွယ်ကြီးသောအခါမှ ယဟ်ယာ(အလိုင်ဟာစ္စလာမ်)သခင် ဖွားမြင်တော်မူလေသည်၊ ယဟ်ယာ(အလိုင်ဟစ္စလာမ်)သခင်ကို ယူဟာနာဟုလည်း ခေါ်ကြသည်၊ သခင်သည် ရှိုးရှိုးပစ်နေထိုင်တော်မူသည်၊ လောကနှင့် လောက၏ပစ္စည်းစည်းစိမ်များသည် သခင်၏ထံတော်တွင် အသုံးမကျဖြစ်လေသည်။

အီစာ (အလိုင်ဟစ္စလာမ်) သခင်သည် ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်၏ ခါလာ၏မြေးဖြစ်သည်၊ မြေးသည် သားမမှာပင်ဖြစ်သည်၊ ထို့ကြောင့် ရစူလွလ္လာဟ် (ဆွလ္လလ္လာဟု)ကိုယ်တော်က တစ်ဦးနှင့်တစ်ဦး ခါလာ၏သားဟု မိန့်ဆိုတော်မူလေသည်။

**အကျိုးကျေးဇူး။** အကျင့်စာရိတ္တကောင်းမွန်ခြင်းသည် အလ္လာဟ်အသျှင်မြတ်ကပင် ချီးကျူးလောက်အောင် တန်ဘိုးရှိလေသည်။ အို...အမျိုးသမီး အပေါင်းတို့၊ စာရိတ္တများကိုပြုပြင်ကြကုန်၊ စာရိတ္တပြုပြင်ရန်အကြောင်းများကို ဤကျမ်းသတ္တမတွဲတွင်ရေးခဲ့ပေပြီ။ ပထမ အမှတ်သားတို့၏ အချို့သူတော်စင်မ (၂၅) ပါး အကြောင်းကိုရေးခဲ့ပြီ။ ယခုအမှတ်သားတို့၏ သူတော်စင်မ အချို့ တင်ပြမည်။

## ခဒီဂျဟ် [ရသွေ့] သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ်(ဆွလ္လလ္လာဟု)ကိုယ်တော်၏ အဦးဆုံး မြောက်သားတော်ဖြစ်သည်၊ သခင်မသည်အလွန်ကြီးကျယ်မွန်မြတ်တော်မူသည်၊တစ်ခါက ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်သည် ဂျစ်ဗ်ရာအီလ်(အလိုင်ဟစ္စလာမ်)သခင်က အလ္လာဟ်အသျှင်မြတ်က သင်မအား စလာမ်ပေး၊ နှုတ်ခွန်းဆက်တော်မူလိုက်ကြောဖ်း ပြောပြသည်ဟု ခဒီဂျဟ်သခင်မအား မိန့်တော်မူလေ၏၊ ၎င်းကိုယ်တော်က ဤသို့လည်း မိန့်တော်မူ၏၊ တစ်လောကလုံးရှိ အမျိုးသမီးများ အနက် အမြတ်ဆုံး အမျိုးသမီး (၄)ပါး ရှိသည်၊ (၁)မရ်ယမ်သခင်မ၊ (၂)ဖွင်ရ်အောင်န်၏ဇနီး အာစီယဟ်သခင်မ၊ (၃)ခဒီဂျဟ်သခင်မ၊ (၄) ဖွာတွေမဟ်သခင်မ။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ကာဖွင်ရ်များ၏ ဆက်ဆံမှုဖြင့် စိတ်ဒုက္ခရောက်တော်မူလျှင် ခဒီဂျဟ်(ရသွေ့)သခင်မအား ပြောပြတော်မူသည်၊ သခင်မသည် စိတ်ပြေအောင် ပြောဆိုသည်တွင် ကိုယ်တော်သည် စိတ်ပူပင်မှု ပပျောက်သွားရလေ၏၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည်ခဒီဂျဟ်သခင်မကို အလွန်ဂရုစိုက်တော်မူသည်၊ သခင်မ ကွယ်လွန်တော်မူပြီးနောက်လည်း ဆိတ် စသည်များ သဗ်ဟ်ပြုတော်မူသောအခါ သခင်မ၏ သူငယ်ချင်း မိတ်ဆွေများကို အသားပို့ပေးတော်မူသည်၊ ခဒီဂျဟ်(ရသွေ့) သခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အလျှင် အိမ်ထောင်ရှိခဲ့သည်၊ ထိုပထမ ခင်ပွန်းသည်၏ အမည်မှာ 'အဘူဟာလဟ်တမီမီ' ဖြစ်ပေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်နှင့် ရစူလ်ကိုယ်တော်၏ ထံတော်တွင် ဂုဏ်သရေရှိခြင်းမှာ အိမာန် ခိုင်မြဲပြည့်စုံခြင်းနှင့် အမိန့်နာခံလိုက်နာ

ဆောက်တည်သောကြောင့်ဖြစ်သည်၊ အို.... အမျိုးသမီး အပေါင်းတို့၊ သင်မတို့လည်း အီမာန် ခိုင်မြဲပြည့်စုံမှုနှင့် လိုက်နာဆောက်တည်မှုကို ကြိုးစားကြကုန်၊ ၎င်းခင်ပွန်းသည်၏ စိတ်ဒုက္ခရောက်မှုကို ပြေလည်အောင် ကြိုးစား ပြုမူခြင်းသည် ကောင်းသော အကျင့် ဖြစ်သည်။

ယခုမူကား အချို့အမျိုးသမီးများသည် တစ်ခါတစ်ရံ ပစ္စည်းအဝယ်ခိုင်း၍တစ်ခါ တစ်ရံ ငြင်းခုံ ရန်တွေ့၍ ခင်ပွန်းသည်အား စိတ်ရှင်လန်းနေသည်ကိုပင် စိတ်ညစ်ညူး အောင် ပြုကြလေသည်၊ ဤသို့ မကောင်းသောအကျင့်များကို စွန့်လွှတ်ကြကုန်။

# စောင်ဒဟ် (ရသွေ.) သခင်မ အကြောင်း

ဤသခင်မလည်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော် ဖြစ်သည်၊ သခင်မက မိမိထံ ညအိပ်ရန်အလှည့်ကို အာအေရှာ် (ရသွေ.) သခင်မအား ပေးအပ်ခဲ့သည်။

အာအေရှာ် (ရသွေ.) သခင်မက မိန့်သည်မှာ.... အမျိုးသမီးတစ်ဦးကို မြင်၍ ကျွန်မသည် ထိုသူမကဲ့သို့ ဖြစ်လိုသောဆန္ဒမရှိခဲ့ သို့သော် စောင်ဒဟ် (ရသွေ.) သခင်မကို မြင်ပြီး သခင်မကဲ့သို့ ဖြစ်ချင်စိတ် ကျွန်မမှာ ပေါ်ပေါက်မြဲဖြစ်သည်၊ သခင်မ၏ ပထမ ခင်ပွန်းသည်မှာ 'စပ်က်ရာန်ဗင်အမရ်' ဖြစ်သည်။

**အကျိုးကျေးဇူး။** စောင်ဒဟ်(ရသွေ.)သခင်သည် ဖွဲ့သတ္တိရှိစွာဖြင့် မိမိအလှည့် ကိုအာအေရှာ်သခင်မအားပေးသည်၊ယခုမူကားဤသို့မဟုတ် အကြောင်းမဲ့ မနာလိုပြီး ရန်တွေ့ကြသည်၊ ၎င်းအာအေရှာ် (ရသွေ.) သခင်မကလည်း စောင်ဒဟ်သခင်မကို ချီးကျူးလေသည်၊ ယခုခေတ်တွင်ကားတစ်ဦးကိုတစ်ဦးပြစ်တင်ကဲ့ရဲ့ ကြသည်၊ အို အမျိုးသမီးအပေါင်းတို့၊သင်မတို့လည်း ဤသို့ပင်ဖွဲ့သတ္တိ တရားမျှတမှုကို လက်ကိုင်ပြုကြရန် ထိုက်လေသည်။

# အာအေရှာ် (ရသွေ.) သခင်မ အကြောင်း

အာအေရှာ် (ရသွေ.) သခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အချစ်ဆုံး မြောက်သားတော်ဖြစ်သည်၊ အပျိုအဖြစ်ဖြင့် ကိုယ်တော်နှင့် အကြောင်းပါခဲ့ သည်၊သခင်မသည်'အာလင်မ်'ပညာရှင်မကြီးတစ်ပါးဖြစ်သည်ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ အကြီးဆုံး ဆွဟာဗဟ် (ရသွေ.) သခင်များပင် သခင်မထံလာ၍ 'မတ်စ် အလဟ်'များ မေးကြရသည်၊ တစ်ခါက ဆွဟာဗီ(ရသွေ.)သခင်တစ်ပါးက ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်အား မည်သူ့ကိုအချစ်ဆုံးပါနည်းဟု မေးလျှောက်ရာ အာအေ ရှာ်ကို ချစ်ခင်ဆုံးဖြစ်သည်ဟု မိန့်တော်မူ၏၊ ယောကျ်ားများတွင် မည်သူ့ကို အချစ်ဆုံး

ပါနည်းဟု မေးလျှောက်ရာ အာအေရှဟ်၏ ဖခင် (ဝါ) အဘူဘကရ် (ရသွေ့) သခင်ကို အချစ်ဆုံးဟု မိန့်တော်မူလေ၏၊ အာအေရှဟ် (ရသွေ့) သခင်မ၏ ကောင်းခြင်းများသည် မြောက်မြားစွာ လာရှိလေသည်။

**အကျိုးကျေးဇူး။** သခင်မထံ အာလင်မ် ပညာရှင်ကြီးများသည် ဒီန်သာသနာ၏ မတ်စ်အလဟ် အမိန့်စည်းမျဉ်းများကိုမေးကြသည်၊ ယခုသော်ကား၊ အချို့သည်အာလင်မ်များအားမေးရန် ၎င်းဘာသာရေးကျမ်းများဖတ်ရှုမှတ်သားရန်စိတ်စွဲမှုမရှိကြပေ၊ အို....အမျိုးသမီးအပေါင်းတို့၊ ဒီန်သာသနာတော်၏အင်လ်မ်ပညာကို စိတ်စွဲလန်းစွာဖြင့် အားကျိုးမာန်တက် သင်ယူကြကုန်။

# ဟဖ်စွာဟ် [ရသွေ့] သခင်မ အကြောင်း

ဟဖ်စွာဟ်(ရသွေ့)သခင်မသည်လည်း ရစူလ္လုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ ၎င်းအုမရ် (ရသွေ့) သခင်၏ သမီးတော်ဖြစ်သည်၊ ရစူလ် ကိုယ်တော်က သခင်မကို အကြောင်းတစ်ခုကြောင့် 'တွလာက်'(၁)ကြိမ် ပေးတော်မူလိုက် သည်၊ ထို့နောက် ဂျစ်ဗ်ရာအီလ် ကောင်းကင်တမန်တော်ကြီး၏ ရုပ်သိမ်းရန်လျှောက်ထား ချက်အရ ပြန်လည်ရုပ်သိမ်းတော်မူလိုက်သည်၊ ဂျစ်ဗ်ရာအီလ် (အလိုင်ဟစ္စလာမ်) သခင်က လျှောက်သည်မှာ ... ကိုယ်တော်သည် ဟဖ်စွာဟ် သခင်မကို ပြန်လည် ပေါင်းသင်းပါ၊ အဘယ့်ကြောင့်ဆိုသော် သခင်မသည် နေ့တွင်များစွာ ရိုဇဟ် ထားတော်မူသည်၊ ညများ တွင်မအိပ်ဘဲ'အေဗာဒတ်'များစွာပြုတော်မူသည်၊၎င်းသခင်မသည်ဂျန္နတ်ဥယျာဉ်ဘုံ နန်း၌ ကိုယ်တော်၏ မြောက်သားတော်ပင်ဖြစ်မည်။

ဟဖ်စွာဟ် (ရသွေ့) သခင်မသည် မိမိ၏အစ်ကို အဗ်ဒွလ္လာဟ်ဗင်န်အုမရ် (ရသွေ့) သခင်အား ဤပစ္စည်းများကို 'ခိုင်ရာတ်' လှူဒါန်းလိုက်ရန် မှာတမ်းတော်မူသည်၊ ၎င်း'ဝပ်က်ဖ်'ပြုထားသော မြေအတွက်လည်း စီမံရန်'ဝစ္စီယတ်'မှာတမ်းတော်မူသည်၊ သခင်မ၏ ပထမခင်ပွန်းသည်၏ နာမည်သည် ခနီးစ်ဗင်န်ဟုဒိသာဖွာဟ် ဖြစ်သည်။

**အကျိုးကျေးဇူး။** ဘာသာ, သာသနာရေးရာကိုလိုက်နာဆောက်တည်မှု၏'ဘရိကတ်' ဖြင့် အလ္လာဟ်အသျှင်မြတ်က သခင်မဘက်တော်မှ လိုက်တော်မူသည်၊ ရစူလ်ကိုယ်တော်အား မိမိ၏'တွလာက်'ကို ပြန်လည်ရုပ်သိမ်းပါဟု ဖွရစ်ရှ်တဟ် ကြီးများမှတစ်ဆင့် အမိန့်ပေးခဲ့ရသည်၊ သခင်မသည် အလ္လာဟ်အသျှင်မြတ် လမ်းတော် တွင် 'ခိုင်ရာတ်' လှူဒါန်းမှုကို ပြုတော်မူခဲ့သည်၊ ၎င်း မိမိပိုင်မြေကိုလည်း 'ဝပ်က်ဖ်' ပြုတော်မူသည်၊ အို အမျိုးသမီးအပေါင်းတို့၊ ဘာသာရေးလိုက်စား ဆောက်တည်မှုကို မြဲမြံစွာ စွဲကိုင်ကြကုန်၊ ၎င်းရွှေ,ငွေပစ္စည်းအား ခင်တွယ်ခြင်းနှင့် လောဘထားခြင်းကို စိတ်မှ ဖယ်ရှားပစ်ကြကုန်။

## ဒိုဂိုင်မဟိ၏သမီး ဇိုင်နဗ် [ရသွေ့] သခင်မ အကြောင်း

ဇိုင်နဗ် (ရသွေ့) သခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ သခင်မသည် အလွန်ရက်ရောပေးလှူတော်မူသဖြင့် သူဆင်းရဲများ၏ မိခင်ဟူ၍ပင် အမည်တွင်နေပေသည်၊ သခင်မ၏ ပထမခင်ပွန်းသည်မှာ အဗ်ဒွလ္လာဟ် ဗင်န်ဂျဟ်ရှ် ဖြစ်သည်။

**အကျိုးကျေးဇူး။** သူဆင်းရဲများအား ကူညီပေးကမ်းခြင်းသည် အလွန်ကြီးကျယ် မွန်မြတ်ပေသည်။

## အုမ်မေ့စလ်မဟ် [ရသွေ့] သခင်မ အကြောင်း

အုမ်မေ့စလ်မဟ် (ရသွေ့) သခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ အမျိုးသမီးတစ်ပါးကမိန့်သည်မှာ တစ်ခါကကျွန်မသည် အုမ်မေ့စလ်မဟ် (ရသွေ့) သခင်မထံတွင် ထိုင်ခဲ့သည်၊ များစွာသော သူဆင်းရဲမိန်းမ ယောကျ်ားများသည်တောင်းရမ်းရန်အတွက်သခင်မထံစုပြုံလာကြသည်၊ ကျွန်မက ရှောင်ထွက်သွားရန် လျှောက်ရာ ဤသို့ ရှောင်ထွက်သွားရန် တရားတော်က အမိန့်ပညတ် ပေးမထား၊ အို....ကလေးမအစ်လုံးကို စွန်ပလွံသီး တစ်လုံးခန့်ပင်ဖြစ်စေ၊ ဝေငှစွာပေးကုန်ဟု မိန့်တော်မူလေ၏၊ သခင်မ၏ ပထမခင်ပွန်းသည်မှာ အဘူစလ်မဟ် ဖြစ်သည်။

**အကျိုးကျေးဇူး။** သခင်မသည် သူဆင်းရဲ တောင့်တသူများ ဝိုင်းရံလာသည်ကို စိတ်ပျက်တော်မမူပေ၊ ယခုသော်ကား တောင်းရမ်းသူလာလျှင် ရှောင်နေသည်၊ ငင်းငေါက်ငမ်း လွှတ်ကြသည်၊ အို.... အမျိုးသမီးအပေါင်းတို့၊ ဤသို့ ရိုင်းပြစွာ ဆက်ဆံမှုများ မပြုကြနှင့်။

## ဂျဟ်ရှ်၏သမီး ဇိုင်နဗ် [ရသွေ့] သခင်မ အကြောင်း

ဇိုင်နဗ်(ရသွေ့)သခင်မလည်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ ဇိုင်ဒ်မည်သော ဆွဟာဗီတစ်ပါးကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သားအဖြစ်မွေးစားတော်မူသည်၊ပထမက သားအဖြစ်မွေးစားပိုင်လေသည်၊ ဇိုင်ဒ်(ရသွေ့)သခင်သည် လူပျိုဖြစ်လာသောအခါ ရစူလ် ကိုယ်တော်ကဇိုင်နဗ် (ရသွေ့) သခင်မအတွက် သခင်မ၏ အစ်ကိုအား ကြောင်းလမ်းတော်မူသည်၊ မောင်နှမနှစ်ပါးက ဇိုင်ဒ်(ရသွေ့)သခင်နှင့် အမျိုးအနွယ် ဂုဏ်အဆင့်အတန်းတွင်မတူ ၎င်းက နိမ့်ကျသည်ဟု ယူဆကြလေသည်၊ ထို့ကြောင့် လက်ထပ်ရန် မအောင်မြင်ဘဲ ဖင့်နွှဲနေခဲ့သည်၊

ထို့နောက် အလ္လာဟ်အသျှင်မြတ် ဘက်တော်မှ ရစူလ်ကိုယ်တော်၏စီမံခန့်ခွဲမှုပြုပြီး နောက် မွတ်စလင်မ်တို့သည် ဆင်ခြေ ဆင်လက် မပြုသင့်ကြဟူ၍ အာယတ်တော်မြတ် ကျရောက်လာလေသည်၊ထိုအခါ မောင်နှမနှစ်ပါးက ရစူလ်ကိုယ်တော်၏ကြောင်းလမ်းမှုကို လက်ခံလိုက်ကြ၍ 'နေကာဟ်' လက်ထပ်မှု ပြုပေးလိုက်သည်။

သို့သော် ဇနီးမောင်နှံ နှစ်ဦးတို့သည် မသင့်မမြတ်ဖြစ်ကြသည်၊ နောက်ဆုံးဇိုင်ဒ် (ရသွေ့) သခင်က 'တွလာက်' ကွာရှင်းရန်ပင် ဆန္ဒ ပြုလေတော့သည်၊ သခင်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံ လာရောက်၍တိုင်ပင်သည်၊ ရစူလ်ကိုယ်တော်က မကွာရန် တားမြစ်၍ ဆိုဆုံးမတော်မူသည်၊ ထိုသို့ ဖြန်ဖြေသော်လည်း 'တွလာက်' မပေးဘဲ နေမည်မဟုတ်ဟု ထင်တော်မူသည်။

ထိုအခါ ရစူလ် ကိုယ်တော်သည် အလွန် စဉ်းစားတော်မူသည်၊ ပထမမူကား မောင်နှံမ နှစ်ဦးသည် ဇိုင်ဒ်နှင့် လက်ထပ်နေကာဟ်ပြုရန် သဘောမတူကြ၊ ငါရစူလ် ပြောသဖြင့် လက်ခံကြခြင်းဖြစ်သည်၊ ယခု ဇိုင်ဒ်က ကွာရှင်းလိုက်လျှင်မောင်နှံမနှစ်ဦး၏ စိတ်မှာ ထိခိုက်သွားမည်၊ထို့ကြောင့် ၎င်းတို့၏ စိတ်ပျော်ရွှင်စေရန် မည်သို့ပြုရမည်နည်းဟု စဉ်းစားတော်မူသည်၊ ငါရစူလ်ကိုယ်တိုင် လက်ထပ်ယူလိုက်လျှင် ၎င်းတို့ စိတ်ပျော်သွားမည်၊အခြားနည်းလမ်း မရှိတော့ဟု ဆုံးဖြတ်တော်မူလိုက်သည်၊အီမာန်မဲ့သူများက သား၏ ဇနီး ချွေးမကို ယူသည်ဟု ကဲ့ရဲ့ကြမည်ကိုလည်း ကိုယ်တော်သည် စိုးရိမ်တော်မူသည်၊ သို့သော် မွေးစားသားသည် သားရင်း မဟုတ်သော်လည်း မသမာသူတို့၏ နှုတ်လျှာကို ပိတ်ချန်မှာ အလွန်ခဲယဉ်းသည်၊ အီမာန် မဲ့သူများသည် မပြောပလောက်သည်ကို ပုံကြီးချဲ့၍ ပြောဆိုတတ်ကြသည်။

ရစူလ်ကိုယ်တော်သည် ဤသို့စဉ်းစားတော်မူစဉ် ဇိုင်ဒ်(ရသွေ့)သခင်က'တွလာက်' ပေးကွာရှင်းလိုက်သည်၊ 'အစ်ဒ်ဒတ်' ရက် ကုန်ဆုံးသောအခါ ရစူလ်ကိုယ်တော်သည် ကြောင်းလမ်းရန် ဆုံးဖြတ်တော်မူပြီး ကြောင်းလမ်းတော်မူလိုက်လေသည်၊ ထိုအခါ ဇိုင်နဗ် (ရသွေ့) သခင်မက ကျွန်မသဘောနှင့် မဆုံးဖြတ်လို အလ္လာဟ်အသျှင်မြတ်အား တိုင်တည်မည်၊ အလ္လာဟ်အသျှင်မြတ်ကမိမိသဘောတော်အတိုင်း စီမံတော်မူပါလိမ့်မည်ဟု အဖြေပေးလေ၏၊ သခင်မသည် ဤသို့ ပြောတော်မူပြီး ဝိုသွူပြုကာ နမာဇ်ဖတ်တော်မူသည်၊ နမာဇ်ဖတ်ပြီး 'ဒိုအာ' ပြုတော်မူလေသည်၊ ၎င်းအလ္လာဟ်အသျှင်မြတ်က ရစူလ် ကိုယ်တော်အပေါ်တွင် ငါအသျှင်မြတ်က ထိုသူမနှင့် သင်ရစူလ်ကို နေကာဟ် ပြုပေးတော်မူသည်'ဟူသော အာယတ်တော်မြတ် ချပေးတော်မူသည်၊ ရစူလ်ကိုယ်တော်သည် ဇိုင်နဗ်(ရသွေ့)သခင်မထံ ကြွလာတော်မူပြီး အာယတ်တော်မြတ်ကို ဖတ်ပြတော်မူလေ၏။

ဇိုင်နဗ် (ရသွေ့) သခင်မသည် အခြားသော မြောက်သားတော်များ အပေါ် 'သင်မတို့ကို မိဘက နေကာဟ်ပြုပေးသည်၊ ကျွန်မကို အလ္လာဟ်အသျှင်မြတ်က နေကာဟ် ပြုပေးတော်မူသည်' ဟု ဂုဏ်ယူတော်မူလေ၏၊ အမျိုးသမီးများ ပရ်ဒဟ်' ဖြင့်လုံခြုံစွာ နေရန် အမိန့်တော်သည် ထိုနေကာဟ် လက်ထပ်ပွဲမှစ၍ ကျရောက်ခဲ့လေသည်၊ ဇိုင်နဗ် (ရသွေ့)သခင်မသည် 'စခီ' အလွန်ရက်ရောသော သခင်မဖြစ်သည်၊ လက်မှုပညာလည်း တတ်ကျွမ်းကာ ထိုလက်မှုပညာဖြင့် ရသောငွေများကို လှူဒါန်းတော်မူသည်။

တစ်ခါက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား မြောက်သားတော် အား လုံးက ကိုယ်တော်မရှိပြီးနောက် မည်သည့် မြောက်သားတော်သည် ဒွန္နယာကို စွန့်၍

ကိုယ်တော်နှင့် လာတွေ့မည်နည်းဟု မေးလျှောက်ကြရာ၊ ကိုယ်တော်က 'လက်အရှည်ဆုံး သူမသည် ငါရစူလ်နှင့်အဦးဆုံးတွေ့ရမည်'ဟု မိန့်တော်မူလေ၏။

အရဗီအသုံးမှာ လက်ရှည်ခြင်းသည် အလှူအတန်း ရက်ရောခြင်းကို ဆိုလိုသည်၊ သို့သော်လည်း မြောက်သားတော်များသည် ဤသုံးနှုန်းမှုကို နားမလည်ကြပေ၊ လက်တန် ရှည်မှုကို မိန့်သည် မှတ်၍ အားလုံးက မိမိတို့၏လက်ကို တိုင်းကြည့်ကြသည်၊ လက်တန် အရှည်ဆုံးသည် စောင်ဒဟ် (ရသွေ့) သခင်မ ဖြစ်ကြောင်း တွေ့ကြရသည်၊ သို့တစေ ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် 'ဝဖွာတ်'ဖြစ် ကွယ်လွန်တော်မူပြီးနောက်၊ ဇိုင်နဗ် (ရသွေ့)သခင်မသည်အဦးဆုံးကွယ်တော်မူသည်၊ ထိုအခါကျမှရစူလွှလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က အလှူအတန်းရက်ရောသူသည် ငါရစူလ်နှင့်အဦးဆုံးတွေ့ရမည်ဟုမိန့်ကြောင်း သိကြရလေသည်။

အချုပ်မှာ.... ဇိုင်နဗ် (ရသွေ့) သခင်မသည် အလှူအတန်း ရက်ရောကြောင်း အလ္လာဟ်နှင့်ရစူလ်ကပင် မှတ်တမ်းတင်ခြင်းခံရသော ပုဂ္ဂိုလ်မဖြစ်ပေသည်၊ အာအေရှာ် (ရသွေ့)သခင်မက မိန့်သည်မှာ.... ကျွန်မသည် ဇိုင်နဗ်(ရသွေ့)သခင်မထက် ကောင်းမွန် သော အမျိုးသမီးကို မမြင်တွေ့ဘူးခဲ့၊ ဘာသာ သာသနာရေးတွင် အလွန် ပြည့်စုံသည်၊ အလ္လာဟ်အသျှင်မြတ်ကို အလွန်ကြောက်ရွံ့သည်၊ မှန်သောစကားကိုသာဆိုသည်၊ သားချင်း ဆွေမျိုးများကို ကောင်းစွာ ဆက်ဆံသည်၊ အလှူအတန်းကို များစွာပြုသည်၊ လှူတန်းရန် အတွက်ပင် လက်မှုလုပ်ငန်းကို ကြိုးစား၍လုပ်တော်မူသည်၊ ရစူလွှလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်မှာ....ဇိုင်နဗ်(ရသွေ့)သခင်မသည် အလွန်ကျိုးငယ်နှိမ့်ချသူ၊ ရှင်းအလ္လာဟ်အသျှင်မြတ်ထံ ငိုယိုတောင်းဆိုသူမ ဖြစ်သည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့သည်အလှူရက်ရောခြင်း၏ ကြီးကျယ်ခြင်း၊ လက်မှုပညာ၏ ကောင်းခြင်းများနှင့် အလုပ် တိုင်းတွင် အလ္လာဟ်အသျှင်မြတ်ဘက်တော်သို့ လှည့်ခြင်းများကို ဖတ်ခဲ့ကြရပေပြီ၊ ဘယ် သောအခါမှ မိမိလက်ဖြင့် ပြုလုပ်ရသောအလုပ်ကို သေးသိမ်သည်ဟုမထင်မှတ်နှင့်၊ လက်မှု ပညာကို အပြစ်မဆိုကြနှင့်။

# အွမ်မေ့ဟာဗီဗဟ် [ရသွေ့] သခင်မ အကြောင်း

အွမ်မေ့ဟာဗီဗဟ် (ရသွေ့)သခင်မလည်း ရစူလွှလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မြောက်သားတော် ဖြစ်သည်၊ မတ်က်ကဟ် မြို့တော်တွင် ကာဖွင်ရ်များက မွတ်စလင်မ် များကို နှိပ်စက်ညှဉ်းပန်းလေရာ၊ မဒီနာမြို့တော်သို့ သွားရန်လည်း အမိန့်မကျရောက်သေး သဖြင့် များစွာသောမွတ်စလင်မ်တို့သည် 'ဟာဗ်ရှတ်'နိုင်ငံသို့ထွက်သွားကြလေသည်၊ ထိုနိုင်ငံ ၏ ဘုရင်ကို နဂျာရှီဟုခေါ်သည်၊ ဘုရင်သည် နစ္စရာနီဘာသာကို ကိုးကွယ်သူဖြစ်သည်၊

သို့သော် မွတ်စလင်မ်များ ထိုနိုင်ငံသို့ရောက်သွားလေရာ၊ ဘုရင်သည် မွတ်စလင်မ်တို့နှင့် တွေ့ဆုံမေးမြန်းပြီး၊ သဘာဝအကျဆုံး ဘာသာဖြစ်ကြောင်း တွေ့ရကာ မွတ်စလင်မ်ဖြစ်သွားလေ၏။

အချုပ်မှာ.... ဟဗ်ရှဟ်နိုင်ငံသို့ သွားရောက်ကြသော မွတ်စလင်မ်များတွင် အုမ်မေ့ ဟဗီဗဟ်(ရသွေ့)သခင်မလည်း ပါဝင်လေသည်၊ 'သခင်မသည် မုဆိုးမဖြစ်သွားလေရာ၊ နဂျာရှိဘုရင်က အဗ်ရဟာမည်သော အစေခံတစ်ယောက်ဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်အတွက် ကြောင်းလမ်းကြောင်း လာရောက်ပြောဆို စေ့စပ်သည်၊ သခင်မက သဘောတူလက်ခံတော်မူပြီး လာရောက်ပြောဆိုသော အဗ်ရဟာကို ဆုအဖြစ် ငွေလက်ကောက်နှစ်ပင်နှင့်လက်စွပ် ပေးတော်မူလိုက်လေသည်၊ သခင်မ၏ ပထမ ခင်ပွန်းသည်မှာ အိုဗိုင်ဒွလ္လာဟ်ဗင်န်ဂျဟ်ရှ် ဖြစ်သည်။

**အကျိုးကျေးဇူး။** ဘာသာ သာသနာတော်ကို ထိန်းသိမ်း ထားနိုင်ရန် အတွက် နေအိမ်ရှိပါလျက် ခြေသလုံးအိမ်တိုင်အဖြစ်ကို ခံယူတော်မူသည်၊ နောက်ဆုံး အလ္လာဟ်အသျှင်မြတ်က ထိုသခင်မဒုက္ခခံမှုအတွက် ချမ်းမြေ့ခြင်း ပေးသနားတော်မူသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်နှင့် 'နေကာဟ်'ပြုရပြီး ဂုဏ်သရေမြင့်မားသွားတော်မူသည်၊ ထိုသို့ နေကာဟ်ဖြစ်မြောက်ရန် ဘုရင်က စီမံခဲ့လေသည်၊ အို.... အမျိုးသမီးအပေါင်းတို့၊ ဘာသာသာသနာရေးအတွက် လုပ်ဆောင်ရန် ရှိလာမူ ဘယ်သောအခါမှ လောကီသာယာရေး၊ ရွှေ,ငွေ, ပစ္စည်းနှင့် အိမ်ယာအဆောက်အအုံကို ခင်တွယ်မှုလောဘမထားနှင့်၊အားလုံးသောအရာများသည် ဘာသာရေးနှင့်စာကြည့်ပါက အသုံးမဝင်သောအရာများ ဖြစ်ကြပေမည်။

# ဂျိုဝိုင်ရိယဟ် (ရသွေ့) သခင်မ အကြောင်း

ဂျိုဝိုင်ရိယဟ် (ရသွေ့) သခင်မလည်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ ဤသခင်မသည် 'ဘာနီမွတ်စ်တွလပ်က်' မည်သော စစ်ပွဲတွင် ကာဖွင်ရ်တို့၏ မြို့မှ သုံ့ပန်းအဖြစ် ပါလာတော်မူသည်၊ ၎င်းသာဗစ်တ်အစ်ဗ်နို့ကိုင်စ် (ရသွေ့)သခင်၊ သို့မဟုတ် သခင်၏ ညီဝမ်းကွဲလက်သို့ ဝေစုအဖြစ် ရောက်လာသည်။

သခင်မက 'ကျွန်မဤမျှငွေပေးပါမည်၊ ကျွန်မကို သူကောင်းပြုပါ'ဟု ပိုင်ရှင်အား ပြောရာ၊ ပိုင်ရှင်က သဘောတူလေသည်၊ သခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံ ငွေအကူအညီတောင်းရန် ရောက်လာသည်၊ ကိုယ်တော်က သခင်မ၏ဘာသာရေး လိုက်စားခြင်း နှင့် ဆင်းရဲမှုကို ထောက်၍ သနားကရုဏာသက်လာကာ 'ငွေအားလုံးကို ငါရစူလ်ပေးမည်၊ ၎င်းသခင်မနှင့်နေကာဟ်ပြုမည်'ဟုမိန့်တော်မူ၏၊ သခင်မက ဝမ်းမြောက်ပျော်ရွှင်စွာဖြင့် လက်ခံလေ၏။

**အချုပ်မှာ ....** ဂျို့ဝိုင်ရိယဟ်(ရသွေ့)သခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်နှင့် လက်ထပ်တော်မူလိုက်လေ၏၊ သခင်မ၏ သားချင်းများ အနွယ်တူများသည်အခြားသော မွတ်စလင်မ်တို့လက်တွင် ရှိနေရာ၊ အားလုံးက 'ယခု ထိုသူများသည် ရစူလ်ကိုယ်တော်၏ ယောက္ခမနွယ်များ ဖြစ်သွားကြ၍ ၎င်းတို့ကို ကျေးကျွန်အဖြစ် မထားသင့်၊ ရှိသေသမျှ ကင်းမဲ့ရာရောက်သည်'ဟု ဆုံးဖြတ်ကြကာ အားလုံးကို သူကောင်းပြု လိုက်ကြလေ၏။

'သားချင်းများကို ဤမျှအကျိုးသက်ရောက်စေသော အမျိုးသမီးကို ကျွန်မ မတွေ့ဘူးပါ'ဟု အာအေရှဟ်(ရသွေ့)သခင်မက မိန့်လေ၏၊ ဂျို့ဝိုင်ရိယဟ်(ရသွေ့)သခင်မ၏ ပထမ ခင်ပွန်းသည်မှာ 'မို့စာဖွစ်အ်ဗင်န်စွာဖ်ဝါန်' ဖြစ်သည်။

**အကျိုးကျေးဇူး။** ဘာသာရေး လိုက်စားဆောက်တည်ခြင်းသည် ကြီးကျယ်သော စည်းစိမ်ဖြစ်ပေသည်၊ ထိုဆောက်တည်ခြင်း၏အကျိုးဖြင့် ကျွန်ဖြစ်သော်လည်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မြောက်သားတော် ဖြစ်သွားလေသည်၊ အို....အမျိုးသမီးအပေါင်းတို့၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထက် ဂုဏ်သရေမြင့်မားသူကား မရှိပေ၊ ကိုယ်တော်သခင်က ကျေးကျွန် အမျိုးသမီးတစ်ပါးကို မြောက်သားတော်အဖြစ် တင်မြောက်တော်မူသည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည် အကြောင်းတစ်ခုဖြင့် နိမ့်ကျသောမိသားစုမှ နေကာဟ်ပြုလျှင်၊ ၎င်းရပ်ဝေးမှနေကာဟ်ပြု ခေါ်လာလျှင် သင်မတို့သည် ၎င်းအမျိုးအမီးကို သေးသိမ်သည်ဟု မထင်မှတ်ကြနှင့်၊ ဤသို့ယူဆခြင်းသည် ဂိုနာဟ် အပြစ်ကြီးပြီး၊ မကောင်းသော အချက်ဖြစ်သည်။

ဆွဟာဗဟ်(ရသွေ့)သခင်များသည်၊ သခင်မကိုဂုဏ်ပေးသည်သာမက သခင်မ၏ အနွယ်ကိုပင် ကျွန်ပြုထားပါက သခင်မမှာ ဂုဏ်ယယ်မည်ဟု ယူဆကာ သူကောင်းပြုကြလေသည်၊ ယခုခေတ်တွင်အချို့သည် ဘာသာရေး လိုက်စားဆောက်တည်စေကာမူလည်း ဤသို့သော နိမ့်ကြသည့်မိသားစုမှ အမျိုးသမီးကို ဂုဏ်မပေးကြ၊ နှိမ့်ချကြသည်၊ ထိုသို့ နှိမ့်ချကြလေရာ ထိုအမျိုးသမီး၏ သားချင်းများကို ဂုဏ်ပေးရန် ပို၍ပင် ဝေးလေသည်။

# မိုင်မူနဟ် (ရသွေ့) သခင်မ အကြောင်း

မိုင်မူနဟ် (ရသွေ့) သခင်မလည်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ ဟဒီးသ်ပါမောက္ခအာလင်မ်တစ်ပါးက ဤသို့မိန့်ခဲ့လေသည်၊ သခင်မက ကျွန်မ၏အသက်ကိုအပ်နှင်းပါသည်၊ (ဝါ)မဟ်ရ်မယူဘဲ နေကာဟ်ပြုရန်လက်ခံသဘောတူပါသည်ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား လျှောက်၏၊ ရစူလ် ကိုယ်တော်က လက်ခံတော်မူလိုက်လေသည်၊ ဤကဲ့သို့သော နေကာဟ်သည် ရစူလွလ္လာဟ် (ဆွလ်လ္လာဟု)ကိုယ်တော်၏ အတွက်သာ ပိုင်လေသည်။

တဖိစီးရိပါမောက္ခ အာလင်မ်တစ်ပါးက မိန့်သည်မှာ.... ဤသို့'နေကာဟ်'အတွက် 'အာယတ်'တော်ကျရောက်ခြင်းသည် ပထမ ထိုသခင်မအတွက် ကျရောက်ခြင်းဖြစ်သည်၊ မိုင်မူနဟ်(ရသွေ့)သခင်မ၏ ပထမခင်ပွန်းသည်မှာ ဟ္စိဝိုင်တွစ်ဗ် ဖြစ်သည်။

**အကျိုးကျေးဇူး။** ဘာသာ သာသနာရေးကို ချစ်မြတ်နိုးသော သခင်မဖြစ်သည်၊ ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ်ကြီးဝတ်ငယ် ပြုခြင်းကို 'အေဗါဒတ်'ဟု အောက်မေ့ကာ 'မဟ်ရိ'ခန်းဝင်ကြေးကိုပင် ဂရုမစိုက်ပေ၊ ထိုခေတ်အခါသမယက မဟ်ရိငွေကို လက်ငင်းရရှိကြသည်၊ ကျွန်ုပ်တို့ခေတ်ကဲ့သို့ 'ကေယာမတ်'နေ့မှယူပါ၊ သေမှယူပါ ဟူ၍ အကြွေးမဟုတ်ပေ။

အို...အမျိုးသမီးအပေါင်းတို့၊ 'ဒီန်'သာသနာရေးကို မူရင်း အဓိက စည်းစိမ်ဟု မှတ်ယူကြကုန်၊ ဒွန္နယာလောကကို ချစ်ခင်စွဲလန်းမှု မထားကြနှင့်၊ မိမိတို့၏ ရသမျှသော အချိန်ကို နောင်အာခေရတ်ကို စိတ်စွဲလန်းမှုဖြင့် ကုန်လွန်စေကြကုန်၊ နေ့-ည ဂိုနာဟ် ဖြစ်သော်၊ ငင်းသဝါဗ်ဖြစ်သော်၊ ငင်းပစ္စည်းရလျှင်ပြီးရောဟူ၍ ပျော်ရွှင်ခြင်းမပြုကြနှင့်၊ ပစ္စည်း မရလျှင် ပူပင်သောကနှင့် ညည်းညူခြင်းများ မပြုကြနှင့်၊ ပစ္စည်း ကြွယ်ဝသူ ကိုလည်း မနာလို 'ဟာစဒ်' မထားနှင့်။

## စွဖီယဟ် (ရသွေ့) သခင်မ အကြောင်း

စွဖီယဟ်(ရသွေ့)သခင်မလည်း ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မြောက်သားတော်ဖြစ်သည်၊ 'ခိုင်ဗရ်'မည်သောရွာကြီးတွင် ယဟူဒီတို့ဖြင့်စစ်ပွဲဖြစ်ရာ သခင်မသည် ထိုစစ်ပွဲ၌ သုံ့ပန်းအဖြစ် ပါလာသည်၊ ၎င်းဆွဟာဗီ တစ်ပါးက ဝေစု အဖြစ် ရရှိသည်၊ ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ထိုပုဂ္ဂိုလ်ထံမှ ဝယ်ယူပြီး သူကောင်းပြုကာ နေကာဟ် ပြု၍ လက်ထပ်တော်မူခြင်းဖြစ်သည်။

စွဖီယဟ်(ရသွေ့)သခင်မသည် ဟာရှုန်(အလိုင်ဟဲစွလာမ်)သခင်၏ အနွယ်မှ ဖြစ်သည်၊ အလွန်သည်းခံသော၊ ဉာဏ်အမြော်အမြင်ရှိသော၊ ကောင်းခြင်းလက္ခဏာများနှင့် ပြည့်စုံသောသခင်မဖြစ်သည်၊ တစ်ခါကသခင်မ၏ အစေခံ ကျွန်မက 'သခင်မသည် စနေနေ့ကိုမြတ်နိုးသည်၊ စနေနေ့သည် ယဟူဒီတို့ အရိုအသေထားသော နေ့ဖြစ်သည်။

ဆိုလိုသည်မှာ.... သခင်မသည် မွတ်စလင်မ်ဖြစ်ပါလျက် ယဟူဒီစိတ်ဓါတ် ရှိသေးသည်၊ မွတ်စလင်မ်အပြည့်အဝ မဖြစ်ဟူ၍ဖြစ်ပေသည်၊ ဒုတိယမှာ....သခင်မသည် ယဟူဒီများကို ပေးကမ်းသည်ဟု အုမရ်(ရသွေ့)သခင်အား ဂုံးတိုက်လေ၏။

အုမရ်(ရသွေ့)သခင်က စွဖီယဟ်(ရသွေ့)သခင်မအား မေးရာ၊ သခင်မက ဖြေသည်မှာ.... ပထမစကားသည် လုံးဝမှားသည်၊ မွတ်စလင်မ် ဖြစ်ကတည်းက အလ္လာဟ် အသျှင်မြတ်က သောကြာနေ့ကို အမြတ်ဆုံးပေးသနားတော်မူရာ၊ စနေနေ့ကိုစိတ်စွဲမှုပင်

မရှိပါ၊ ဒုတိယအချက်သည် မှန်ပါသည်၊ ယဟူဒီများသည် သားချင်းများဖြစ်ကြ၍ ပေး ကမ်းခြင်းဖြစ်သည်၊ သားချင်းများနှင့် ကောင်းစွာဆက်ဆံခြင်းသည် 'ရှရီအတ်' တရား တော်မြတ်နှင့် ကွဲလွဲဆန့်ကျင်မှုမရှိဟု မိန့်တော်မူလေ၏။

ထို့နောက် သခင်မသည် အစေခံမကို အဘယ်သူက ကုန်းချောခိုင်းသနည်းဟု မေးရာ၊ ရှိုင်တွာန်မိစ္ဆာက ခိုင်းသည်ဟုဖြေကြားလေသည်၊ ထိုအခါ သခင်မက အစေခံ ကျွန်မကို သူကောင်းပြုလိုက်လေသည်၊ စွဖီယဟ်(ရသွေ့)သခင်မ၏ ပထမ ခင်ပွန်းသည်မှာ 'ကနာနဟ်ဗင်န်အဗင်လ်ဟကီးက်' ဖြစ်သည်။

**အကျိုးကျေးဇူး။** အို.... အမျိုးသမီးတို့၊ သည်းခံခြင်းသည် ဤသည်ပင်ဖြစ်သည်၊ သင်မတို့လည်း အစေခံများ၏ အပြစ်များကို ခွင့်လွှတ်ကြကုန်၊ အကြောင်းကိစ္စတိုင်းတွင် အစားယူခြင်းသည် သတ္တိနည်းခြင်းဖြစ်သည်၊မှန်သောစကားကို မဖုံးကွယ်၊ အမှန်အတိုင်းပြောပြသည်၊ ယခု ခေတ်အခါ သမယတွင် အချို့တို့သည် မိမိ အပေါ် အပြစ်တင် မခံရအောင် လိမ်လည်လှည့်ဖြား ပြောဆိုလေ့ရှိကြသည်၊ စကား လှည့်ခြင်းသည် အလွန်မကောင်းသော ကိစ္စဖြစ်သည်။

# ဇိုင်နဗ် (ရသွေ့) သခင်မ အကြောင်း

ဇိုင်နဗ်(ရသွေ့)သခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ သမီးကြီး ဖြစ်သည်၊ သခင်မ၏မယ်တော်သည် ခဒီဂျဟ်(ရသွေ့)သခင်မကြီးဖြစ်သည်၊ သခင်မသည် ဟစ်ဂျရတ်မပြုမီ (၂၃) နှစ်တွင် မွေးဖွားတော်မူခဲ့သည်၊ ဉာဏ်အမြော်အမြင်ကြီးသော သခင်မဖြစ်သည်၊ သခင်မသည် ဟစ်ဂျရီ(၈)ခုနှစ်တွင်ကွယ်လွန်တော်မူသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်ဖြင့် ဇီးရွက်ရေဖြင့် 'ဂွတ်စ်လ်' ရေချိုးပေးခဲ့သည်၊ သခင်မ၏'ကဗရ်'သင်္ချိုင်းသည် 'ဂျန္နတွလ်ဗကီးအ်'တွင် ရှိလေသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် သမီးကြီးကို အလွန် ချစ်ခင်တော်မူ သည်၊ သခင်မသည် 'အဗွလ်အာစွ ဗင်န်ရဗီးအ်'နှင့် အိမ်ထောင်ကျခဲ့သည်၊ သခင်မသည် မွတ်စလင်မ်ဖြစ်ကာ၊ ခင်ပွန်းသည်က မွတ်စလင်မ်မဖြစ်သဖြင့် ဆက်ဆံမှု ဖြတ်တောက်ပြီး မဒီနာမြို့တော်သို့ ဟစ်ဂျရတ်ပြု ကြွသွားတော်မူသည်၊ ရက်အတန်ကြာသောအခါ ခင်ပွန်း သည်လည်း မွတ်စလင်မ် ဖြစ်ပြီး မဒီနာ မြို့တော်သို့ ရောက်လာသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က အဗွလ်အာစွ(ရသွေ့)သခင်နှင့်ပင် ပြန်၍ 'နေကာဟ်'ပြု လက်ထပ်ပေးတော်မူသည်။

သခင်မသည် မဒီနာမြို့တော်သို့ဟစ်ဂျရတ်ပြု ကြွသွားတော်မူရာ၊ လမ်းတွင် ကာဖွင်ရ် နှစ်ယောက်နှင့်တွေ့ပြီး တစ်ယောက်က သခင်မကို တွန်းပစ်လိုက်သည်၊ သခင်မမှာ ကျောက် တုံးပေါ်တွင် လဲကျသွားတော်မူသည်၊ ကိုယ်ဝန်ရှိသည်မှာလည်း ပျက်ကျသွားခဲ့သည်၊

သခင်မသည် ဒုက္ခရောက်ပြီး ကွယ်လွန်သည်အထိ ကောင်းမွန်စွာ ကျန်းမာခြင်းမရှိပေ၊ နောက်ဆုံး ထိုရောဂါနှင့်ပင် ကွယ်လွန်သွားတော်မူလေသည်။

**အကျိုးကျေးဇူး။** သာသနာတော်ကို လေးစားပြီး ဖွဲ့သတ္တိရှိသောကြောင့် သာသနာရေးအတွက် အိုးအိမ်ကို စွန့်လွှတ်သည်၊ ခင်ပွန်းသည်ကို ထားပစ်ခဲ့သည်၊ ကာဖွင်ရ်များ၏လက်ဖြင့် ဒုက္ခခံခဲ့ရသည်၊ ထိုဒုက္ခဖြင့် ကွယ်လွန်သွားတော်မူသည်၊ သို့သော်လည်း သာသနာတော်ကို လက်မလွှတ် စွဲမြဲစွာ ခံယူထားတော်မူသည်။ အို.... အမျိုးသမီး အပေါင်းတို့၊ ဘာသာ သာသနာတော် နှင့် ပတ်သက်၍ ဆန့်ကျင်သော အကြောင်းကိစ္စ ဟူသမျှကို စွန့်လွှတ်ကြရမည်၊ အကယ်၍ ဒုက္ခတစ်ခုခု ရောက်လျှင် သည်းခံနေကြရမည်၊ ၎င်း ခင်ပွန်းသည် သည် ဘာသာမဲ့ (မွတ်စလင်မ်) မဟုတ်လျှင် ထိုခင်ပွန်းနှင့် ပေါင်းသင်းခြင်း မပြုကြနှင့်။

# ရိုကီယဟ် (ရသွေ့) သခင်မ အကြောင်း

ရိုကီယဟ် (ရသွေ့) သခင်မလည်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ သမီးတော်ဖြစ်သည်၊ သခင်မ၏ ပထမခင်ပွန်းသည်မှာ အဘူလဟဗ် ကာဖွင်ရ်၏သား အွတ်ဗဟ် ဖြစ်သည်၊ အဘူလဟဗ်၏ မကောင်းခြင်းများအကြောင်း စူရဟ်တဗ်ဗတ်တွင် လာရှိပေသည်၊ ၎င်းသားအဖ နှစ်ယောက်သည် မွတ်စလင်မ် မဖြစ်ကြသောကြောင့် ဖခင်၏ စေခိုင်းချက်အရ အွတ်ဗဟ်က သခင်မကို စွန့်လိုက်လေသည်။

ထိုအခါ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ရိုကီယဟ် (ရသွေ့) သခင်မကို အွတ်စ်မာန်(ရသွေ့)သခင် နှင့် လက်ထပ် **နေကာဟ်ပြု**ပေးတော်မူသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် 'ဘဒ်ရ်' စစ်ပွဲသို့ စစ်ချီတက်တော်မူရာ၊ သခင်မသည် မမာမကျန်းဖြစ်နေသည်၊ ကိုယ်တော်သခင်က အွတ်စ်မာန် (ရသွေ့) သခင်ကို သခင်မအား ပြုစုနေရန်ထားခဲ့ပြီး၊ သင်သည် စစ်ပွဲတွင် မလိုက်ရသော်လည်း 'ဂျေဟာဒ်' ကာဖွင်ရ်များနှင့် စစ်တိုက်သော 'သဝါဗ်' ကို တိုက်သူများနှင့် အညီအမျှ ရမည်ဟု မိန့်တော်မူသည်၊ ၎င်းအွတ်စ်မာန်(ရသွေ့)သခင်အား သုံ့ပန်း ပစ္စည်းများကို အညီအမျှ ခွဲဝေပေးတော်မူသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် စစ်ပွဲအောင်နိုင်၍ မဒီနာမြို့တော်သို့ ပြန်ကြွလာတော်မူသောနေ့တွင်ပင် သခင်မ ကွယ်လွန်တော်မူလေသည်။

**အကျိုးကျေးဇူး။** သခင်မသည် အလွန်ကြီးကျယ် မွန်မြတ်တော်မူသည်၊ သခင်မကို 'ခစ်ဒ်မတ်' ဝတ်ကြီးဝတ်ငယ်ပြုခြင်းကို ဂျေဟာဒ်နှင့် အညီအမျှ ကုသိုလ်သဝါဗ် သတ်မှတ်တော်မူသည်၊ ၎င်းသို့ မွန်မြတ်ကြီးကျယ်ခြင်းသည် သခင်မက ဘာသာရေးလိုက်စားဆောက်တည်ခြင်းကြောင့်ဖြစ်ပေသည်။ အို..အမျိုးသမီးအပေါင်းတို့၊ ဒီန်သာသနာရေး မြဲခိုင်ပြည့်စုံအောင်ပြုကြရန် အချိန်မရွေး ဂရုစိုက်ကြကုန်၊ မည်သည့် ဂိုနာဟ်အကုသိုလ် အကြီးအသေးမှ မကျူးလွန်မိစေရန်ဂရုပြုကြကုန်၊ ဂိုနာဟ်အကုသိုလ် ကျူးလွန်ခြင်းဖြင့် သာသနာရေးသည် လျော့နည်းသွားလေသည်။

# အွမ်မေ့ကွလ်သူမ် (ရသွေ့) သခင်မ အကြောင်း

အွမ်မေ့ကွလ်သူမ်(ရသွေ့)သခင်မလည်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ သမီးတော်ဖြစ်သည်၊ သခင်မသည် ပထမ အိုတိုင်ဗဟ်နှင့် လက်ထပ်ခဲ့သည်၊ အိုတိုင်ဗဟ် သည် အဘူလဟဗ် ကာဖွင်ရ်၏ ဒုတိယသားဖြစ်သည်၊ သခင်မကို အခန်းမအပ်ရသေးမီ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် နဗီရစူလ် အဖြစ်ကို ရရှိခဲ့လေသည်၊ အိုတိုင်ဗဟ် တို့ သားအဖသည် မွတ်စလင်မ် မဖြစ်ကြ သာမက ဖခင်၏ စေခိုင်းချက်အာရအိုတိုင်ဗဟ်က သခင်မကို စွန့်လွှတ်လိုက်သည်၊ အစ်မတော် ရှိကီယဟ်(ရသွေ့)သခင်မ ကွယ်လွန်လေရာ၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သခင်မကို အွတ်စ်မာန်(ရသွေ့)သခင်နှင့်ပင် နေကာဟ်ပြု လက်ထပ်ပေးတော်မူလိုက်သည်။

ထိုအချိန်က ဟဖ်စွာဟ်(ရသွေ့)သခင်မလည်း မုဆိုးမ ဖြစ်သွားလေသည်၊ ဖခင် အုမရ်(ရသွေ့) သခင်က ဟဖ်စွာဟ်(ရသွေ့)သခင်မကို အွတ်စ်မာန်(ရသွေ့)သခင်နှင့် နေကာဟ်ပြုပေးလိုသည်၊ သခင်က သဘောမတူခဲ့ပေ၊ ဤအကြောင်းကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သိတော်မူရာ၊ အုမရ်(ရသွေ့)သခင်အား ဟဖ်စွာဟ်ကို အွတ်စ်မာန်ထက် ကောင်းသောခင်ပွန်း၊ ၎င်းအွတ်စ်မာန်ကို ဟဖ်စွာဟ်ထက် သာသော ဇနီးသည်ကို ငါရစူလ် စီစဉ်ပေးတော်မူမည်ဟု မိန့်တော်မူလေ၏၊ သို့ရှိရာ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဟဖ်စွာဟ် (ရသွေ့) သခင်မ နှင့် နေကာဟ်ပြုတော်မူပြီး အွတ်စ်မာန်(ရသွေ့)သခင်ကို သမီးတော်ကွလ်သူမ်(ရသွေ့)သခင်မနှင့် နေကာဟ်ပြုပေး တော်မူလိုက်သည်။

**အကျိုးကျေးဇူး။** ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က သခင်မကို ကောင်း သောသူမဟု မိန့်တော်မူသည်၊ ရစူလ်သခင်က ကောင်းသည်ဟု အပြောခံရသူမသည် အီမာန် ခိုင်မြဲ ပြည့်စုံသောကြောင့် ဖြစ်ပေသည်။ အို....အမျိုးသမီး အပေါင်းတို့၊ အီမာန် နှင့် 'ဒီန်' သာသနာရေးကို ကောင်းမွန် တိကျစေကြကုန်။

# ဖွာတွေမဟ် (ရသွေ့) သခင်မ အကြောင်း

ဖွာတွေမဟ် (ရသွေ့) သခင်မသည် ညီအစ်မများတွင် အငယ်ဆုံး၊ ၎င်းအဆင့် အတန်းတွင် အမြင့်ဆုံး ဖြစ်ပြီး ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အချစ်ဆုံးသမီး တော်ဖြစ်ပေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က သမီးတော် ဖွာတွေမဟ် (ရသွေ့)သခင်မကို မိမိအသက်၏ အပိုင်းတစ်ပိုင်း ဖြစ်ကြောင်း၊ ၎င်းတစ်လောကလုံးရှိ အမျိုးသမီးတို့၏ ခေါင်းဆောင်မှာ မိန့်တော်မူသည်၊ ဤသို့လည်း မိန့်တော်မူသေးသည်၊ အကြောင်းတစ်ခုခုကြောင့် ဖွာတွေမဟ်မှာ စိတ်ဒုက္ခ ရောက်လျှင် ငါရစူလ်လည်း စိတ် ညစ်တော်မူသည်။

'ဝဖ္စာတ်'ဖြစ် ကွယ်လွန်တော်မူမည့်ရောဂါ၌ အများမသိစေရန် ကွယ်လွန်တော်မူမည်ဖြစ်ကြောင်းကို သမီးတော်အား တိတ်တဆိတ် ပြောပြတော်မူသည်၊ ကွယ်လွန်မည့်အကြောင်း သိရလေရာ၊ ဖွာတွေမဟ်(ရသ္မေ)သခင်မသည် ငိုယိုတော်မူသည်၊ ထိုအခါ ကိုယ်တော်က စိတ်မပူလေနှင့်၊ အားလုံးထက်အလျင် သမီးသည် ငါရစူလ်နှင့် လာတွေ့ရမည်၊ ၎င်းဂျန္နတ်၌ သမီးသည် အားလုံးသော အမျိုးသမီးများ၏ ခေါင်းဆောင်ဖြစ်မည်ဟုမိန့်သောအခါ ဖွာတွေမဟ်(ရသ္မေ)သခင်မသည် ပြုံးရယ်တော်မူသည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မြေးတော်သားတော်များက အကြောင်းကိုမေးကြလေရာ၊ သခင်မက မဖြေဘဲနေသည်၊ ကိုယ်တော်'ဝဖ္စာတ်'ဖြစ် ကွယ်လွန်ပြီးမှ ဤအတွင်းစကားကို ပြောပြတော်မူလေသည်၊ ဖွာတွေမဟ်(ရသ္မေ)သခင်မသည် အလီ(ရသ္မေ)သခင် နှင့် အိမ်ထောင်ကျခဲ့သည်၊ ထို့ပြင် အခြားသော ဟဒီးသ်တော်များ၌ သခင်မ၏ ကြီးကျယ်မွန်မြတ်ခြင်းများ လာရှိပေသေးသည်။

**အကျိုးကျေးဇူး။** (၁) ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က ချစ်ခင်တော်မူခြင်းနှင့်တစ်သီးတစ်ခြားမြှောက်စားတော်မူခြင်းသည် သခင်မသည်၊ 'ဒီန်'ဘာသာရေး လိုက်စား ဆောက်တည်ခြင်း နှင့် သည်းခံမျိုသိပ်တော်မူသောကြောင့် ဖြစ်ပေသည်။

**အကျိုးကျေးဇူး။** (၂) ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ အကြောင်းကို ပထမဦးစွာ ရေးသားခဲ့ရာတွင်လည်း မြေးတော်သားတော်များနှင့် သမီးတော်များ၏ အမည်နာမံတော်များကို ရေးခဲ့ပေပြီ။

**အကျိုးကျေးဇူး။** (၃) အို အမျိုးသမီးအပေါင်းတို့၊ မြေးတော်သားတော်(၁၁)ပါးနှင့် သမီးတော်(၄)ပါးအကြောင်းကို သင်မတို့ ဖတ်ခဲ့ကြပေပြီ၊ မြေးတော်သားတော်များတွင် အာအေရှဟ်(ရသ္မေ)သခင်မမှတစ်ပါး ကျန်အားလုံးသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်နှင့် ဒုတိယ နေကာဟ်ပြု လက်ထပ်ကြခြင်းဖြစ်သည်၊ ၎င်းသမီးတော်များတွင် ဇိုင်နဗ်နှင့် ဖွာတွေမဟ်(ရသ္မေ)သခင်မနှစ်ပါးအပြင် ကျန်နှစ်ပါးသည် အွတ်စ်မာန်(ရသ္မေ)သခင်နှင့် ဒုတိယ နေကာဟ် ပြုကြခြင်းဖြစ်သည်။

ဗွန္နယာလောကရှိ အမျိုးသမီးများသည် ထိုသခင်မ(၁၅)ပါး နှင့် အဆင့်အတန်းညီမျှသူ၊ ဂုဏ်သရေရှိသူများ မဟုတ်ကြပေ၊ အကယ်၍ နောက်အိမ်ထောင် ပြုခြင်းသည် အပြစ်ဆိုဖွယ်ဖြစ်လျှင် (တောင်ဗဟ်-တောင်ဗဟ်) ဤသခင်မများသည် အပြစ်ဆိုဖွယ်ကို ပြုကြဘိသလော့၊ ဝမ်းနည်းဖွယ်ကောင်းသည်မှာ....အချို့သူများသည် နောက်အိမ်ထောင် ပြုခြင်းကို အပြစ်ဆိုကြသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အိမ်တော်သူ အိမ်တော်သားများ၏ အလုပ်ကို အပြစ်ဆိုလျှင်၊ မကောင်းဟုဆိုလျှင် ထိုသူသည် အဘယ်မှာလျှင် *အီမာန်*ရှိမည်နည်း၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ လမ်းစဉ်တော်ကို အပြစ်ဆိုပြီး၊ ကာဖွင်ရ်တို့၏ လမ်းစဉ်ကို ဂုဏ်ရှိသည်ဟု ထင်သူသည် အဘယ်ကဲ့သို့သော

မှတ်စလင်မ်ပေနည်း၊ အဘယ့်ကြောင့်ဆိုသော်....မုဆိုးမကို နောက်အိမ်ထောင် မပြုစေခြင်းသည် အိန္ဒိယနိုင်ငံ၏ကာဖွင်ရီ များထုံးစံဖြစ်သည်။

ထိုခေတ်က မုဆိုးမများနှင့် ယခုခေတ် မုဆိုးမများမှာ များစွာ ကွာခြားသည်၊ ထိုခေတ်က မုဆိုးမများသည် မိမိတို့၏ ဂုဏ်သရေကို ထိန်းသိမ်းကြသည်၊ စိတ်ကိုလည်း ချိုးနှိမ်ကြသည်၊ လူတို့ကဲ့ရဲ့ပြစ်တင်စရာ အလုပ်များကိုမပြုကြပေ၊ ယခုခေတ်မှုကား.... အချို့ မုဆိုးမများသည် အပျိုများထက်ပင် အလှပြင်ဖီးလိမ်းကြသည်၊ ထို့ကြောင့်အချို့တို့သည် ပြောပြရန်ပင် ရှက်ဖွယ်ကောင်းသော ကိစ္စများကို ကျူးလွန်ကြသည်။

ထို့ကြောင့် ယခုခေတ်တွင် မုဆိုးမကို အိမ်တွင်ထိုင်ထားရန် မသင့်လျော်ပေ၊ အဘယ့်ကြောင့်ဆိုသော် အမျိုးသမီးများသည် ယခင်ခေတ်အမျိုးသမီးများကဲ့သို့ အရှက်အကြောက် မရှိကြ၊ ၎င်းယောကျ်ားများလည်း ယခင်က ယောကျ်ားများကဲ့သို့ စိတ်ထားမရှိကြတော့ပေ၊ ၎င်းမုဆိုးမများ၏ စားဝတ်နေရေးကို ဂရုစိုက်သူလည်း ရှားပါးသွားလေသည်၊ ထို့ကြောင့် မုဆိုးမများကို အိမ်တွင် ထားနေရန်မထိုက်၊ အိမ်ထောင်ပြုပေးကြရန်ပင် ထိုက်သည်၊ အလ္လာဟ်အသျှင်မြတ်သည် အားလုံးကိုသိမြင်သော စွမ်းအားပေးတော်မူပါစေသတည်း။

ပထမအုမ္မတ်သားတို့၏သူတော်စင်မများအကြောင်းကိုရေးပြီးနောက် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြေးကသားတော်(၁၁)ပါးနှင့်သမီးတော်(၄)ပါး ပေါင်း (၁၅) ပါးအကြောင်းကို ရေးခဲ့ပေပြီ၊ ယခု ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏လက်ထက်တော်ကရှိသော ပုဂ္ဂိုလ်မကြီးများအကြောင်းကိုဆိုပေအံ့၊ ထိုပုဂ္ဂိုလ်မကြီးများအနက် အချို့သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့် အလွန်ရင်းနှီးကြလေသည်။

## ဟလီမဟ်စအ်ဒီယဟ် (ရသွေ့) သခင်မ အကြောင်း

ဟလီမဟ်စအ်ဒီယဟ်(ရသွေ့)သခင်မကြီးကရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား နို့တိုက်ကျွေးခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည်'တွာအစ်ဖ်'တွင် စစ်ချီတော်မူသောအခါ သခင်မကြီးနှင့် ခင်ပွန်းသည် ၎င်းသားတို့နှင့်တကွ ရစူလ် ကိုယ်တော်ထံ လာရောက် ခစားလေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တစ်ရိုတစ်သေ ဆက်ဆံတော်မူသည်၊ ၎င်းထိုင်ရန်အတွက် မိမိစောင်ကို ခင်းပေးတော်မူသည်၊သခင်မကြီးနှင့်တကွ အားလုံးသည် မွတ်စလင်မ်အဖြစ်ကို ခံယူသွားကြလေသည်။

**အကျိုးကျေးဇူး။** သခင်မကြီးသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် နှင့် ဆက်စပ်မှုရှိသည်၊ သို့သော်လည်း ထိုသို့ဆက်စပ်မှုရှိစေကာမူလည်း အသဘ်မှ လွတ်ကင်းရာလွတ်ကင်းကြောင်း မဖြစ်နိုင်ဟုသိကာအီမာန်ယူ၍သွားလေသည်။

အို....အမျိုးသမီးတို့.... ကျွန်ုပ်တို့သည် မည်သည့် ပီရ်ဆရာအဆက်ဖြစ်သည်၊ ၎င်းမည်သူမည်ဝါ အာလင်မ်ဟာဖွိဇ်သည် ကျွန်မ၏သား၊ ၎င်းမြေးဖြစ်သည်၊ ၎င်းတို့က

'ရှဖွာအတ်' အလ္လာဟ်အသျှင်မြတ် ထံတော်တွင် တောင်းပန်ပေးကြမည်ဟု အထင်နှင့် မနေကြနှင့် အကယ်၍ သင်မတို့တွင် အီမာန်ယုံကြည်ချက်ရှိနေပါက ၎င်းတို့ကအလ္လာဟ် အသျှင်မြတ် ထံတော်တွင် တောင်းပန် အသနားခံ ပေးနိုင်သည်၊ သို့တည်းမဟုတ် အီမာန်မရှိပါက ဆွေမျိုးတော်စပ်ခြင်းသည် မည်သို့မျှ အရာမရောက်ပေ။

## အွမ်မေ့အိုင်မန် (ရသွေ့) သခင်မ အကြောင်း

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် တစ်ခါတစ်ရံ သခင်မကြီးထံတွေ့ဆုံရန် သွားတော်မူသည်၊ တစ်ခါက ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် သခင်မကြီးထံ လာတော်မူရာ သောက်ရန် ပစ္စည်းတစ်ခုကို ခွက်ထဲတွင်ထည့်၍ တည်တော်မူသည်၊ ရစူလ် ကိုယ်တော်က မသောက်ချင်၍သော်လည်းကောင်း၊ 'ရိုဇဟ်' ဥပုသ် ရှိနေ၍သော်လည်း ကောင်း အကြောင်း တစ်ခုခုအတွက် မသောက်လိုကြောင်း ငြင်းဆန်တော်မူသည်၊ သခင်မကြီးသည် ကိုယ်တော်အား မွေးစားထားရသောဂုဏ်ဖြင့် သောက်ရမည်ဟု ဇွတ်ကိုင်တော်မူလေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ငါရစူလ်၏ မိခင်ရင်းပြီးသည်နောက် အွမ်မေ့အိုင်မန် (ရသွေ့) သခင်မသည် မိခင်ပင်ဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် 'ဝဖွာတ်' ဖြစ် ကွယ်လွန်တော် မူပြီးနောက် အဘူဘကရ်နှင့် အုမရ် (ရသွေ့) သခင် နှစ်ပါးသည်တစ်ခါတစ်ရံ သခင်မကြီးထံတွေ့ဆုံရန် သွားကြသည်၊ သခင်မကြီးသည် အဘူဘကရ် နှင့် အုမရ်(ရသွေ့) သခင်နှစ်ပါးကိုမြင်ပြီး ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား သတိရကာ ငိုကြွေးတော်မူသည်၊ ထိုအခါ အဘူဘကရ် နှင့် အုမရ် (ရသွေ့) သခင်နှစ်ပါးလည်း ငိုကြလေသည်။

**အကျိုးကျေးဇူး။** သခင်မကြီးသည် ကြီးကျယ် မွန်မြတ်လေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့် ဆွဟာဗဟ် (ရသွေ့) သခင်ကြီး များပင်တွေ့ဆုံရန်သွားရောက်ကြရသည်၊ ဤသို့သွားရောက် တွေ့ဆုံကြရခြင်းမှာသခင်မကြီး သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ်ကြီး, ဝတ်ငယ်ပြုသည်၊ ၎င်း ဘာသာ, သာသနာရေးကို လိုက်စားဆောက်တည်သောကြောင့် ဖြစ်ပေသည်။

အို....အမျိုးသမီး အပေါင်းတို့၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ်ကြီး, ဝတ်ငယ်ပြုလိုကြလျှင် ဤသို့ပြုကြရမည်၊ သာသနာတော်ကို ပြန့်ပွားအောင် ပြုကြကုန်၊ အခြားသူများကို ကောင်းရာညွှန်၍ မကောင်းမှုများမှ တားမြစ်ကြကုန်၊ မတတ်သော အမျိုးသမီးများကို သင်ပြပေးကြကုန်၊ မိမိတို့၏သား, သမီးများကို ဘာသာ ရေးပညာ သင်ပေးကြကုန်၊ ၎င်းကိုယ်တိုင်လည်း သာသနာတော်ကို မြဲမြံစွာ စွဲကိုင်ထား ကြကုန်၊ (အင်န်ရှာအလ္လာဟ်) သင်မတို့လည်း ကြီးကျယ်မွန်မြတ်သော သူမများဖြစ်လာ ကြပေမည်။

တွေ့ဆုံသည်ဟု ဆိုရာ၌ တွေ့ရန်လာသူ၏ ရှေ့မျောက်တွင် ပရ်ဒဟ်မရှိဘဲအတွေ့ခံသည်မဟုတ်ပေ၊ တစ်ဦးဦးထံသွား၍ တွေ့ဆုံပြောဆိုခြင်းသည် ပရ်ဒဟ်အတွင်းမှ ဖြစ်သော်လည်း တွေ့ဆုံရာပင် မည်ပေသည်။

## အွမ်မေ့စလိမ် (ရသွေ့) သခင်မ အကြောင်း

အွမ်မေ့စလိမ် (ရသွေ့) သခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဆွဟာဗိယဟ် 'တပည့်မကြီးတစ်ပါး ဖြစ်သည်၊ အဘူတွာလ်ဟဟ် (ရသွေ့) သခင်၏ ဇနီးသည်ဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံ ခ,စား၍ နေသော အနတ်စ် (ရသွေ့) သခင် ၏ မိခင်ဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ 'ခါလဟ်'ကြီးဒေါလည်း တော်စပ်သည်၊ ကိုယ်တော်၏ လက်ထက်တော်က သခင်မ၏ အစ်ကိုတစ်ပါးသည် စစ်ပွဲတွင် ရှဟီးဒ်' ကျဆုံးခဲ့လေသည်။

ထိုအချက်များကြောင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် သခင်မအား အလွန်ဂရုစိုက်တော်မူသည်၊ တစ်ခါတစ်ရံ ကိုယ်တော်သည် သခင်မအိမ်သို့ တွေ့ဆုံရန် ကြွသွားတော်မူသည်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကသခင်မကို ဂျန္နတ် ဥယျာဉ်ဘုံ နန်း၌ပင် မြင်တော်မူခဲ့သည်၊ သခင်မနှင့်ပတ်သက်၍ အံ့သြဖွယ် ဖြစ်ရပ်မှန် တစ်ရပ် လာရှိသည်။

သခင်မတွင် ကလေးတစ်ယောက်ရှိသည်၊ ထိုကလေးသည် မကျန်းမမာဖြစ်နေသည်၊ တစ်နေ့ ညအချိန်တွင်သေဆုံးသွားလေသည်၊ သခင်မသည် သည်းခံစိတ်ကိုရှေ့ဝယ်ထားခါ အကယ်၍ ခင်ပွန်းဖြစ်သူကို အသိပေးပါက စိတ်ညစ်မည် ထမင်းဟင်းပင်စားတော့မည် မဟုတ်ဟု တွေးတော်မူပြီး ပြောမပြရန် ဆုံးဖြတ်လိုက်သည်၊ ခင်ပွန်းသည်လာသော အခါ 'ကလေး အဘယ်သို့ နေသနည်း'ဟု မေး၏၊ ချမ်းမြေ့စွာ ရှိပါသည်ဟုဖြေ၏၊ မုသားလည်း မဖြစ်ပေ၊ မွတ်စလင်မ်တို့အတွက် အမိကနေရာထက် ချမ်းမြေ့သက်သာသော နေရာမရှိပေ၊ သို့သော် ခင်ပွန်းသည်က အဓိပ္ပါယ်ကို နားမလည်ခဲ့ပေ။

အချုပ်မှာ ခင်ပွန်းသည်အား ထမင်းခူးပေးသည် စားသောက်ပြီးနောက် အတူ အိပ်ရန်ဆန္ဒရှိလာသည်ကိုလည်း သခင်မက မငြင်းဆန်ဘဲနေခဲ့လေသည် ၊ကိစ္စအားလုံး ပြီးသွားသောအခါ သခင်မက 'အကယ်၍ တစ်ဦးတစ်ယောက်ထံမှ တစ်စုံတစ်ရာငှားပြီး တောင်းသောအခါ မပေးဘဲ ငြင်းဆန်နေနိုင်ပါသလား' ဟု မေး၏၊ ခင်ပွန်းသည်က 'မငြင်းဆန်ရ၊ ပြန်ပေးရမည်ဟုဆို၏၊ ဤသို့ဆိုလျှင် ကလေးအတွက်သည်းခံပါဟုသခင်မက ဆိုလေ၏၊ ထိုအခါ ခင်ပွန်းသည် အဘူတွာလ်ဟဟ် (ရသွေ့) သခင်သည် အစကတည်းက မပြောရကောင်းလားဟုစိတ်ဆိုးတော်မူလေသည်။

သခင်မသည် ဤအဖြစ်အပျက်ကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား သွားရောက်၍ အလုံးစုံကို ပြောပြလေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က

သခင်မအတွက်'ဒိုအာ' ပြုပေးတော်မူသည်၊ အလ္လာဟ်အသျှင်မြတ်အလိုတော်ဖြင့် ထိုညက အတူအိပ်ခြင်းဖြင့် သန္ဓေတည်ကာ သားယောကျ်ားကလေး ဖွားမြင်သည်၊ ၎င်းကလေးကို 'အဗ်ဒွလ္လာဟ်' ဟု အမည်သညာ မှည့်လေသည်၊ ၎င်း ဤ 'အဗ်ဒွလ္လာဟ်' သခင်သည် အာလင်မ် ပညာရှင်ကြီးတစ်ပါးဖြစ်သည်၊ ၎င်းအဆက်မှ အာလင်မ် များစွာထွန်းကားခဲ့ပေသည်။

**အကျိုးကျေးဇူး။** အို.... အမျိုးသမီးအပေါင်းတို့၊ သည်းခံခြင်းနှင့် ခင်ပွန်းသည်အား သက်သာစေမှုကို ဤသခင်မမှ နည်းနာယူကြကုန်၊ ငွားထားသောအရာ ပြန်ပေးရသည်ဟူသော ဥပမာပြဆိုမှုမှာ အဘယ်မျှကောင်း၍ မှန်ကန်ဘိသနည်း၊ အကယ်၍ လူသားသည် ဤမျှ အကြောင်းအချက်ကလေးကိုပင် နားလည်သိထားပါက ဘယ်သောအခါမှ သည်းခံမှုကို လက်လွှတ်မည်မဟုတ်ပေ၊ သင်မ၏သည်းခံသော 'ဘရ်ကတ်' ဖြင့် အလ္လာဟ်အသျှင်မြတ်က လျှင်မြန်စွာ အစားထိုးပေးတော်မူသည်၊ ထိုအစားထိုးပေးသော ကလေးဖြင့် အာလင်မ်ကြီးများ ထွန်းကားစေတော်မူသည်။

## အွမ်မေ့ဟရာမ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ တပည့်မကြီးတစ်ပါးဖြစ်သည်၊ အထက်တွင်ရေးခဲ့သောအွမ်မေ့စလီမ်(ရသွေ့)သခင်မ၏ညီမဖြစ်သည်၊ ဤသခင်မလည်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ 'ခါလဟ်' ကြီးဒေါ် တော်စပ်လေသည်၊ ကိုယ်တော်သည် သခင်မ အိမ်တော်သို့လည်းတစ်ခါတစ်ရံ ကြွသွားတော်မူလေ့ရှိပေသည်။

တစ်ခါကရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည်သခင်မအိမ်သို့သွားပြီးထမင်းစားသုံးကာ အိပ်ချင်လာသဖြင့် အိပ်တော်မူလိုက်သည်၊ ထို့နောက် ပြုံးတော်မူ၍နိုးလာသည်၊ သခင်မက အကြောင်းကိုမေးရာ ငါ့ရစ္စူလ်သည် အုမ္မတ်သားများကို 'ဂျေဟာဒ်' စစ်တိုက်ရန်အတွက် လှေများစီး၍ သွားနေကြသည်၊ ၎င်းတို့၏ အဝတ်အစား များသည် သူဌေးများ, ဘုရင်များကဲ့သို့ ဖြစ်နေသည်ကို အိပ်မက်မြင်မက်သောကြောင့် ပြုံးရယ်ခြင်းဖြစ်သည်ဟု မိန့်တော်မူလေ၏၊ ထိုအခါ သခင်မက ယာရစူလလ္လာဟ်၊ ကျွန်တော်မျိုးမကိုလည်း ၎င်းသူများအနက်ဖြစ်ရန် 'ဒိုအာ'ပြုပေးပါဟု လျှောက်ထားလေ၏၊ ကိုယ်တော်က 'ဒိုအာ' ပြုပေးတော်မူလိုက်သည်။

ထို့နောက် ကိုယ်တော်သည် အိပ်ချင်လာသဖြင့် ပြန်၍အိပ်တော်မူသည်၊ ပထမကဲ့သို့ပင် ပြုံးရယ်၍ နိုးလာတော်မူသည်၊ အိပ်မက်ကို ပြောပြတော်မူသည်၊ အိပ်မက်တွင် ပထမမြင်မက် သခဲ့သို့ ဖြစ်လေသည်၊ ကျွန်တော်မျိုးမကိုလည်း ၎င်းသူများအနက်မှဖြစ်ရန် 'ဒိုအာ'ပြုပေးတော်မူပါဟု လျှောက်၏၊ သင်မသည် ပထမအသုတ်တွင် ပါဝင်သွားပြီဟု ကိုယ်တော်က မိန့်တော်မူလေ၏။

သို့ရှိရာ သခင်မ၏ခင်ပွန်း အိုဗာဒဟ်(ရသွေ့)သခင်သည် ပင်လယ်ကမ်း 'ဂျေဟာဒ်' တွင်သွားရာ၊ သခင်မလည်း အတူပါလေသည်၊ ပင်လယ်မှတက်၍ တိရစ္ဆာန် တစ်ကောင်ကိုစီးရာ၊ ထိုတိရစ္ဆာန်က မြူးတူးခုန်ပေါက်သဖြင့် သခင်မသည် လိမ့်ကျပြီး ကွယ်လွန်သွားလေသည်။

**အကျိုးကျေးဇူး။** ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ဒိုအာသည် 'ကဘူလ်' ဖြစ်သွားလေသည်၊ အဘယ့်ကြောင့်ဆိုသော် အိမ်သို့ပြန်မရောက်မခြင်း 'ဂျေဟာဒ်'ပြုရန် ထွက်သူသည် 'ဂျေဟာဒ်'ပြုနေသည်ပင်ဖြစ်သည်၊ 'ဂျေဟာဒ်' ပြုရန်ထွက်ရာ၌ မည်သို့သောအဖြစ်နှင့်ပင်ကွယ်လွန်စေကာမူ 'ရှဟီဒ်'အကျိုးပင်ရလေသည်။

သခင်မသည် ဘာသာရေးကိုလိုက်စားလိုလားသဖြင့် အကျိုးကုသိုလ် 'သဝါဗ်' ရရန်မကထားကာ မိမိအသက်ကိုပင် ပမာနမထားပေ၊ ဤသို့ 'ရှဟီဒ်'အဖြစ်၏ စည်းစိမ်ရရန် ဒိုအာ အပြုခိုင်းတော်မူလေသည်။ အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့ကလည်း ဤသည်ကို ဂရုစိုက်ကြကုန်၊ ဘာသာရေးရာ လုပ်ဆောင်ရာ၌ အကယ်၍ အနည်းငယ် ဒုက္ခတွေ့သော်လည်း ထိပ်လန့်ခြင်း မဖြစ်ကြနှင့်၊ နောက်ဆုံး ကုသိုလ်'သဝါဗ်'သည် သင်မတို့ပင် ရရှိမည်ဖြစ်ပေသည်။

## အွမ်မေ့အဗဒ်(ရသွေ့)သခင်မ အကြောင်း

ဤသခင်မသည် အလွန် ကြီးကျယ်သော ဆွဟာဗီ တစ်ပါးဖြစ်သူ အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ် (ရသွေ့) သခင်၏ မိခင်ဖြစ်သည်၊ ကိုယ်တိုင်လည်း ဆွဟာဗီယဟ် ဖြစ်တော်မူသည်၊ သခင်မကြီးသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အိမ်တွင်းလုပ်ငန်းတွင် အလွန် အရေးပါသော သခင်မဖြစ်သည်၊ မြင်သူများက ကိုယ်တော်၏ မိသားစုမှ ဖြစ်သည်ဟု ထင်ကြရလေသည်။

**အကျိုးကျေးဇူး။** ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အိမ်တော်တွင် ဤမျှ အရေးပါ အရာရောက်ခြင်းမှာ သခင်မကြီးသည် 'ဒီန်' သာသနာရေးကို လိုက်နာ ဆောက်တည်သောကြောင့် ဖြစ်ပေသည်။ အို..အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း 'ဒီန်'သာသနာရေးကို တိကျစွာ ဆောက်တည် လိုက်နာကြမည်ဆိုလျှင် သင်မတို့လည်း 'ကေယာမတ်'ကမ္ဘာ့တရားခွင်နေ့၌ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်နှင့် နီးကပ်မှုကို ရရှိကြမည် ဖြစ်ပေသည်။

## အဘူသရ်ဂဖ်ဖွာရီ [ရသွေ့] သခင်၏ မိခင် အကြောင်း

အဘူသရ်ဂဖ်ဖွာရီ(ရသွေ့)သခင်သည် ဆွဟာဗီတစ်ပါး ဖြစ်သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် နဗီရစူလ် ဖြစ်တော်မူပြီး၊ ကာဖွင်ရ်များက ငြင်းဆန်ကြလေသောသတင်း ပြန့်နှံ့သွားလေရာ၊ သခင်သည် မိမိနေရာဒေသမှ မတ်ကကာဟ်မြို့တော်

သို့ စုံစမ်းရန် ရောက်လာတော်မူသည်၊ မတ်က်ကဟ်မြို့တော်သို့ရောက်ပြီး စုံစမ်းပြီးနောက် အစ္စလာမ်ဘာသာသည် တိကျမှန်ကန်ကြောင်းတွေ့ရလေရာ၊ မွတ်စလင်မ်အဖြစ် ခံယူသွားလေသည်၊ သခင်သည်အိမ်သို့ပြန်ကြွသွားပြီး မိခင်အားအကြောင်းစုံပြောပြရာ၊ မိခင်က အစ္စလာမ်သာသနာတော်နှင့် ပတ်သက်၍ မည်သို့မျှ ငြင်းဆန်ရန်အကြောင်းမရှိ၊ ငါလည်း မွတ်စလင်မ်ဖြစ်ပါပြီဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** ဤသည်မှာ.... စိတ်ဓါတ် ဖြူစင်ခြင်းပင် ဖြစ်သည်၊ မှန်ကန်တိကျမှုကို တွေ့ရှိရသောအခါ၊ လက်ခံ ယုံကြည် လိုက်နာရန်အတွက် ဘိုးဘထုံးစံကို ဂရုမစိုက်တော့ပေ။ အို ... အမျိုးသမီး အပေါင်းတို့၊ သင်မတို့လည်း မသိသေးသော ဘာသာရေးမှတ်ချက်တစ်ခုကို သိလာသောအခါ မျိုးနွယ်ထုံးစံကို ဂရုမစိုက်ကြနှင့်၊ ဝမ်းမြောက်ပျော်ရွှင်စွာ အမိန့်တော်အတိုင်း လိုက်နာဆောက်တည် ပြုမူကြကုန်။

# အဘူဟုရိုင်ရဟ်(ရသွေ့)သခင်၏မိခင် အကြောင်း

အဘူဟုရိုင်ရဟ်(ရသွေ့)သခင်သည် ဆွဟာဗီတစ်ပါးဖြစ်သည်၊သခင်သည် မိခင်ကို အစ္စလာမ်ဘာသာကို လက်ခံရန်ပြောဟောလေ့ရှိပေသည်၊တစ်ခါကမိခင်သည် သာသနာတော်ကို မလျော်သောစကားသုံးလိုက်သဖြင့် သခင်သည် အလွန်စိတ်ဒုက္ခရောက်၍ ငိုကြွေးကာ၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံရောက်လာသည်၊ အလ္လာဟ်အသျှင်မြတ်က ကျွန်တော်မျိုး၏မိခင်ကို လမ်းမှန်ပေးတော်မူရန် ဒိုအာပြုပေးပါဟု လျှောက်လေ၏။

ထိုအခါ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အို.... အလ္လာဟ်အသျှင်မြတ်၊ အဘူဟုရိုင်ရဟ်၏မိခင်ကို တရားလမ်းမှန်ပေးတော်မူပါဟု ဒိုအာပြုလေ၏၊ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်သည် ပျော်ရွှင်စွာ အိမ်သို့ပြန်လာရာ၊ တံခါးပိတ်ထားပြီး ရေချိုးနေသော အသံကိုကြားရသည်၊ သခင်၏အသံကိုကြား၍မိခင်က ရပ်နေရန်ပြောလေသည်၊ မိခင်သည် ရေချိုးပြီး တံခါးဖွင့်ကာ ( အရှ်ဟဒို၊ အန်လာအေလာဟ၊ အစ်လလ္လာဟ်ို၊ ဝအရှ်ဟဒို၊ အန္န၊ မို့ဟမ္မဒရ်၊ ရစူလွလ္လာဟေ့။ ) ဟု ဆိုလေသည်။

အဘူဟုရိုင်ရဟ်(ရသွေ့)သခင်သည် ဝမ်းသာလွန်းအားကြီးပြီး ငိုယိုတော်မူသည်၊ ချက်ချင်းပင် အကျိုးအကြောင်းကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား သွား၍ လျှောက်ထား၏၊ ကိုယ်တော်က အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်ကြောင်း ပြောသည်၊ ယာရစူလလ္လာဟ်၊ ကျွန်တော်တို့ သားအမိသည် မွတ်စလင်မ်တို့အား ချစ်ပြီး၊ မွတ်စလင်မ်တို့ကလည်း ကျွန်တော်တို့ကို ချစ်ခင်ရန် အလ္လာဟ်အသျှင်မြတ်ထံ ဒိုအာ ပြုပေးတော်မူပါဟု လျှောက်၏၊ ရစူလ်ကိုယ်တော်ကလည်း သခင် လိုလားသည့် အတိုင်း 'ဒိုအာ' ပြုပေးတော်မူသည်။

**အကျိုးကျေးဇူး။** ကောင်းသောအားဖြင့် မည်သို့အကျိုးဖြစ်ထွန်းသည်ကို သိကြရပေပြီ။ အို...အမျိုးသမီးအပေါင်းတို့၊ မိမိတို့၏သားသမီးများကိုလည်း အင်လိမ် ဘာသာရေးပညာသင်ပေးကြကုန်၊ ထိုကလေးများ ဘာသာရေးပညာတတ်ကျွမ်းလာပါက သင်မတို့လည်း အကျိုးဖြစ်ထွန်းလာမည် ဖြစ်ပေသည်။

## အမိစ်သခင်၏ သမီး အာတ်စမာအ် [ရသွေ့] သခင်မ အကြောင်း

ဤသခင်မလည်းဆွဟာဗီယဟ်တစ်ပါးဖြစ်သည်၊မတ်က်ကဟ်မြို့တော်တွင် ကာဖွင်ရ်များက မွတ်စလင်မ်များကို ညှဉ်းပန်းနှိပ်စက်ခြင်းပြုသောအခါ များစွာသောမွတ်စလင်မ်တို့သည်ဟာဗ်ရှဟ်နိုင်ငံသို့'ဟစ်ဂျ်ရထ်'ပြု့ထွက်ခွါသွားကြသည် ထိုသို့ထွက်ခွါသွားကြသော ပုဂ္ဂိုလ်များတွင် ဤသခင်မလည်းပါဝင်လေသည်၊ ထို့နောက် ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်သည် မဒီနာမြို့တော်သို့ ဟစ်ဂျ်ရတ်ပြု့ကြွမြန်းသွားလေရာ၊ ထိုပုဂ္ဂိုလ်များသည် ဟာဗ်ရှဟ်နိုင်ငံမှ မဒီနာမြို့တော်သို့ လာရောက်ကြသည်၊ ထိုသို့လာရောက်ကြသော ပုဂ္ဂိုလ်များတွင် ဤသခင်မလည်း ပါဝင်လေသည်၊ 'သခင်မသည် ဟစ်ဂျ်ရတ်နှစ်ခုပြု၍ သဝါဗ်ကုသိုလ်များစွာရမည်'ဟု ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က သတင်းကောင်း ပေးတော်မူသည်။

**အကျိုးကျေးဇူး။** အစ္စလာမ် သာသနာတော်အတွက် အိုးအိမ်ရှိပါလျက်၊ အိမ်မဲ့အဖြစ်ခံခဲ့သည်၊ ထို့ကြောင့်ပင် သဝါဗ်ကုသိုလ် နှစ်ဆရခြင်းဖြစ်ပေသည်။ အို...အမျိုးသမီးအပေါင်းတို့၊ အကယ်၍ အစ္စလာမ် သာသနာတော်အတွက် ကြိုးပမ်းဒုက္ခခံရသော်လည်း စိတ်ပျက်ခြင်းမဖြစ်ကြနှင့်၊ ဇွဲလုံ့လဖြင့် လုပ်ကိုင်ဆောင်ရွက်ကြကုန်။

## ဟိုသိုင်ဖွာဟ် (ရသွေ့) သခင်၏ မိခင် အကြောင်း

ဟိုသိုင်ဖွာဟ် (ရသွေ့) သခင်သည် ဆွဟာဗီတစ်ပါးဖြစ်လေသည်၊ သခင်က မိန့်သည်မှာ.... တစ်ခါက မိခင်က ကျွန်ုပ်ကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံ မသွားသည်မှာ မည်မျှနေ့ရက်ရှိပြီနည်းဟုမေးသည်၊ ကျွန်ုပ်က မည်မျှနေ့ရက်ရှိပြီ ဖြစ်ကြောင်း ပြောပြရာ ၊မိခင်ကစိတ်ဆိုး၍ ကျွန်ုပ်ကို ဆိုပြောကြိမ်းမောင်းသည်၊ ကျွန်ုပ်က ယခုပင် သွား၍ မဂ်ရစ်ဗ်နမာဇ်ကို ကိုယ်တော်နှင့်အတူဖတ်မည်၊ ကျွန်တော်အတွက်နှင့် မိခင်အတွက် ပါ ဒိုအာတောင်းခိုင်းမည်ဟု ပြောဆိုထွက်လာခဲ့သည်။

သို့ရှိရာ ကျွန်ုပ်သည် ကိုယ်တော်နှင့် အတူ မဂ်ရစ်ဗ် နမာဇ်ဖတ်သည်၊ အေရှာအ် နမာဇ်ကိုလည်း ဖတ်သည်၊ အေရှာအ် နမာဇ် ဖတ် ပြီး နောက် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အိမ်တော်သို့ ကြွမြန်း သွား တော် မူ သည်၊ ကျွန်ုပ်က

နောက်မှလိုက်သွားသည်၊ အသံကြား၍ 'ဟိုသိုင်ဖွာဟ်လား' ဟုမေးသည်၊ ကျွန်ုပ်က 'ဟုတ်မှန်နုကြောင်း' လျှောက်သည်၊ 'အဘယ်ကိစ္စနှင့်လာသနည်း၊ အလ္လာဟ်အသျှင်မြတ်သည် သင်နှင့် သင်၏မိခင်ကို အပြစ်များမှ လွတ်ငြိမ်းချမ်းသာမှု ပေးတော်မူပါစေ' ဟု ဒိုအာပြုတော်မူလေ၏။

**အကျိုးကျေးဇူး။** အဘယ်မျှ ကောင်းသော သခင်မကြီး ဖြစ်ပေသနည်း၊ သားကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံသွား,မသွားစစ်ဆေး၍ ဂရုတစ်စိုက် သွားစေတော်မူသည်။ အို.... အမျိုးသမီး အပေါင်းတို့၊ သင်မတို့လည်း မိမိတို့သားများကို သူတော်စင်များ၊ အာလင်မ်ပညာရှင်များထံ သွားရောက် ထိုင်စေကြကုန်၊ ဘာသာရေးပညာကိုလည်း ဆည်းပူးစေကြကုန်၊ ၎င်းကောင်းမြတ်သော ဆက်ဆံမှု၏ 'ဘရ်ကတ်'ကို ရယူစေကြကုန်။

# ခတ်တွာဗ်၏ သမီး ဖွာတွေမဟ် [ရသွေ့] သခင်မ
## အကြောင်း

၎င်းသခင်မသည် အုမရ်(ရသွေ့)သခင်၏ နှမဖြစ်သည်၊ အုမရ်(ရသွေ့)သခင်၏ အလျင်မွတ်စလင်မ်ဖြစ်လေသည်၊ သခင်မ၏ခင်ပွန်း စအီးဒ်ဗင်န်ဇိုင်ဒ်(ရသွေ့)သခင်လည်း မွတ်စလင်မ်ဖြစ်ပြီးလေပြီ၊ ၎င်းတို့သည် အုမရ်(ရသွေ့)သခင် မွတ်စလင်မ်မဖြစ်သေးသဖြင့် ၎င်းအား ကြောက်ရွံ့က မွတ်စလင်မ် အဖြစ် ခံယူထားကြသည်ကို ဖုံးအုပ်၍ ထားကြလေသည်။

တစ်ခါက သခင်မတို့ ကုရ်အာန်ဖတ်နေသည်ကို အုမရ်(ရသွေ့)သခင်က ကြားပြီး ဒုက္ခများပေးလေသည်၊ ယောက်ဖကား ယောကျ်ားဖြစ်၍ ထားဘိဦး၊ နှမက ကျွန်မတို့ မွတ်စလင်မ်များဖြစ်ကြသည်၊ ကုရ်အာန်ကျမ်းတော်ကို ဖတ်နေခြင်းပင်ဖြစ်သည်၊ ရိုက်လိုက ရိုက်ပါ၊ သတ်လိုကသတ်ပါဟု ဆိုလေသည်၊ ထိုအခါ အုမရ်(ရသွေ့)သခင်က ကျွန်ုပ်ကို ကုရ်အာန်ပြပါဟုဆိုသည်၊ ကုရ်အာန်ကျမ်းတော်မြတ်ကို မြင်သည်,ကြားသည်ပင် ရှိသေးသည်၊ စိတ်တွင်း၌ အီမာန်၏လင်းရောင်ခြည်သည် ဖြာထွက်လာလေသည်၊ ချက်ချင်းပင် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ထံ ခဲ့,စား၍ မွတ်စလင်မ် ဖြစ်သွားလေသည်။

**အကျိုးကျေးဇူး။** အို.. အမျိုးသမီး အပေါင်းတို့၊ သင်မတို့လည်း 'အီမာန်' နှင့် သာသနာတော်၏ အမိန့် ပညတ်များ နှင့် ပတ်သက်လာလျှင် ဇွဲသတ္တိရှိဘို့ လိုပေသည်၊ ငွေအသပြာ အနည်းငယ်အတွက် 'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲ ဆန့်ကျင်သော အလုပ်ကို လုပ်ခြင်း၊ သားချင်း မိတ်ဆွေ တို့ကို ထောက်ထား၍ 'ရှရီအတ်'နှင့် ကွဲလွဲသော ထုံးစံများကိုမပြုမူကြနှင့်၊ 'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲ ဆန့်ကျင်သော အလုပ်ကိစ္စများ၏ အနီးအပါးသို့ပင် မချဉ်းကပ်ကြလေနှင့်။

# အန်စွာရီ အမျိုးသမီး တစ်ပါး အကြောင်း

အစ်ဗ်နို့အစ်ဟာက် သခင်က အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့်အတူ 'အိုဟွဒ်'စစ်ပွဲ၌ အန်စွာရီအမျိုးသမီးတစ်ပါး၏ ခင်ပွန်း အဖေနှင့် မောင်တို့သည် "ရှဟီးဒ်"ဖြစ်ကျဆုံးကြလေသည်၊ ဤသတင်းကို သခင်မက ကြားသော အခါ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် အဘယ်သို့ ရှိပါသနည်းဟု ပထမဦးစွာ မေးတော်မူသည်၊ လူတို့က ကျန်းမာစွာရှိကြောင်း ပြောပြသည်၊ ရစူလ်ကိုယ်တော် ဘေးမထိ ရန်မခ, ရှိနေလျှင် မည်သည့်ပူပန်မှုမှ မရှိပါဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** စွဗ်ဟာနလ္လာဟ်.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ချစ်ခင်သော စံချိန်ကို တင်လိုက်ခြင်းပင်ဖြစ်သည်။ အို..အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား ချစ်ခင်ကြလျှင် ကိုယ်တော်ချမှတ်ခဲ့သော 'ရှရီအတ်' တရားတော် လမ်းစဉ်ကို စွဲစွဲမြဲမြဲ လိုက်နာကျင့်သုံးကြကုန်၊ ထိုသို့လိုက်နာမှသာ ချစ်ခင်ရာရောက်ပေသည်၊ ချစ်ခင်မှုဖြင့် ဂျန္နတ်တွင် ရစူလ်ကိုယ်တော်၏ အနီးအပါး အဆင့်ကို ရရှိမည်ဖြစ်ပေသည်။

# ဟာရစ်သခင်၏သမီး အွမ်မေ့ဖွာသွ်လ်လို့ဗာဗဟ်

## [ရသွေ့] သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ဘထွေးတော် အဗ်ဗားစ် (ရသွေ့)သခင်၏ ဇနီး ၎င်းအဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗားစ်(ရသွေ့)သခင်၏ မိခင်ဖြစ်သည်။

ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိသည်မှာ... အကြင်မွတ်စလင်မ်သည် ကာဖွင်ရ်နိုင်ငံ၌ နေခြင်းဖြင့် အလ္လာဟ်အသျှင်မြတ်အား အေဗာဒတ် ခ,ဝပ်မှု မပြုနိုင်လျှင် ထိုသူသည် ထိုနိုင်ငံဒေသကို လွှတ်၍ လွတ်လပ်သော နေရာသို့ သွားရောက်ရမည်၊ အကယ်၍ ထွက်ခွာသွားခြင်း မပြုပါက ထိုသူသည် ကြီးစွာသော 'ဂိုနာဟ်'ကို ခံရမည်၊ သို့သော် ကလေးများ၊ အမျိုးသမီးများသည် အခြား သွားရမည့်နေရာကို လမ်းမသိလျှင်၊ ၎င်း ဇွဲသတ္တိ လျော့နည်းပါက လွတ်ငြိမ်းခွင့်ရှိသည်။

အစ်ဗ်နို့အဗ်ဗားစ်(ရသွေ့)သခင်က မိန့်သည်မှာ.... ထိုဇွဲသတ္တိလျော့မှုတွင် ကျွန်ုပ်နှင့် မိခင်တို့ပါဝင်ကြသည်၊မိခင်သည် အမျိုးသမီးဖြစ်ပြီး ကျွန်ုပ်ကကလေးဖြစ်လေသည်။

**အကျိုးကျေးဇူး။** ဤသည်မှာ သခင်မ၏နိယတ်စိတ်ထားကောင်းမွန်ခြင်းဖြစ်သည်၊ ကာဖွင်ရ်တို့အလည်တွင် နေလိုသောစိတ်မရှိသော်လည်း မစွမ်းနိုင် မတတ်သာ၍သာနေရသည်၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်' မဟာကရုဏာတော်ကျရောက်ကာ ဂိုနာဟ်မှ လွတ်ကင်းသွားလေသည်။ အို....အမျိုးသမီးအပေါင်း

တို၊ သင်မတို့သည်လည်း 'ရှရီအတ်' တရားတော်မြတ်နှင့်အညီလိုက်နာ၍ဆောက်တည်ရန်နိယတ်စိတ်ထားကောင်းစွာထားကြကုန်၊ သို့မှသာ မတတ်သာသောကိစ္စတွင် ချမ်းသာ ခွင့်လွှတ်မှုကို ရရှိပေမည်၊ ၎င်းစိတ်ထားကပင်မကောင်းလျှင် ပြစ်ဒဏ်ဂိုနာဟ်မှ မလွတ်ကင်းနိုင်ပေ။

# အွမ်မေ့ စလီးတွင် (ရသွေ့) သခင်မ အကြောင်း

တစ်ခါက အုမရ်(ရသွေ့)သခင်သည် မဒီနာမြို့တော်၏ အမျိုးသမီးများကို စောင်များ ဝေငှတော်မူလေရာ၊ စောင်တစ်ထည်ကျန်နေသည်၊ မည်သူ့အားပေးရမည်နည်းဟု လူတို့ထံ အကြံတောင်းရာ၊ အလီ(ရသွေ့)သခင်၏ သမီး အုမရ်(ရသွေ့)သခင်၏ ဇနီး အွမ်မေ့ ကွလ်သူမ်(ရသွေ့)သခင်မကို ပေးရန် ပြောဆိုကြသည်၊ အုမရ်(ရသွေ့)သခင်က မိန့်သည်မှာ....ဤစောင်ကို အန်စွာရီအွမ်မေ့ စလီးတွင် ကိုပေးမည်၊ သူမသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်ထံ တပည့်ခံယူထားသူမဖြစ်သည်၊ ၎င်း 'အိုဟွဒ်' စစ်ပွဲတွင် မွတ်စလင်မ်တို့ သောက်သုံးရန် ရေအိတ်ဖြင့် လှည့်ပတ်တိုက်ခဲ့သည်၊ ဤသို့ပင် 'ခေါ်လဟ်' (ရသွေ့)သခင်မသည် စစ်ပွဲများ၌ ဓါးရှည်ကိုင်၍ တိုက်ပွဲဝင်ခဲ့လေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ် လမ်းတော်တွင် ဇွဲသတ္တိကြီးစွာဖြင့် လုပ်ဆောင်ခဲ့သောကြောင့် အုမရ်(ရသွေ့)သခင်က ဂုဏ်ပေးတော်မူခြင်းဖြစ်သည်။ ယခုမူကား ဇွဲလုံ့လမရှိသော အမျိုးသမီးအချို့တို့သည် နေ့စဉ် နမာဇ်ငါးကြိမ်ကိုပင် မှန်အောင် မဖတ်ကြပေ။

## နိုစိုင်လဒ်၏ သမီး ဟာလဟ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ခယ်မ ခဒီဂျဟ် (ရသွေ့)သခင်မ၏ ညီမ ဖြစ်သည်၊ တစ်ခါက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံ ခ,စားရာ၊ တံခါးဝတွင်ရပ်၍ ဝင်ခွင့်တောင်းလေသည်၊ သခင်မ၏အသံသည် ခဒီဂျဟ် (ရသွေ့)သခင်မအသံနှင့် တူသဖြင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် လန့်သွားတော်မူလျက်၊ အို....အလ္လာဟ်၊ ဤသူမသည် 'ဟာလဟ်' ဖြစ်ပါစေ....ဟု မိန့်တော်မူလေ၏။

**အကျိုးကျေးဇူး။** ဤသို့ ဒိုအာပြုခြင်းဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် သခင်မကို ချစ်ခင်ကြောင်း သိရလေသည်၊ ခယ်မတော်စပ်သည့် အတွက်ပင် မဟုတ်၊ ရစူလ် ကိုယ်တော်သည် သခင်မ၏ ဘာသာရေးလိုက်နာ ဆောက်တည်သောကြောင့် ချစ်ခင်ခြင်း ဖြစ်ပေသည်။ အို.... အမျိုးသမီးအစ်ပေါင်းတို့၊ သင်မတို့သည် ဘာသာရေးကို လိုက်နာ ဆောက်တည်ကြကုန်၊ သို့မှသာ သင်မတို့လည်း အလ္လာဟ် နှင့် ရစူလ်က ချစ်ခင်တော်မူပေမည်။

# အွတ်မဟ်၏ သမီး ဟင်နဒ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ယောက်ဖတော် မို့အာဝေယဟ်(ရသွေ့)သခင်၏ မိခင်ဖြစ်သည်၊ တစ်ခါက သခင်မက ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်အား လျှောက်သည်မှာ.... မွတ်စလင်မ်မဖြစ်မီက ကျွန်မသည် ရစူလ်ကိုယ်တော်ထက် သေးသိမ်သူ မရှိသောအဖြစ်ကို လိုလားခဲ့သည်၊ ယခုမွတ်စလင်မ် ဖြစ်ပြီးနောက် ကိုယ်တော်ထက်ပို၍ ဂုဏ်သရေရှိမည်ကို မလိုလားတော့ပါ၊ ငါ့ရစူလ်လည်း ဤအတိုင်းပင်ဖြစ်သည်ဟု ကိုယ်တော်က မိန့်တော်မူလေ၏။

**အကျိုးကျေးဇူး။** ပထမ အချက်မှာ.... သခင်မသည် အမှန်ကိုပြောဆိုလေ့ ရှိကြောင်း သိရသည်၊ ဒုတိယမှာ.... သခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ချစ်ခင်သည်၊ ၎င်းရစူလ်ကိုယ်တော်ကလည်း သခင်မအား ချစ်ခင်လေသည်။ အိုအမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း မှန်သောစကားကိုသာ ပြောဆိုကြကုန်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား အချစ်ထားကြကုန်၊ ရစူလ်ကိုယ်တော်က ချစ်ခင်စေမည့် လုပ်ငန်းစဉ်များကိုသာ ပြုမူကြကုန်။

# အွမ်မေ့ ခါလစ်ဒ် [ရသွေ့] သခင်မ အကြောင်း

မွတ်စလင်မ်တို့သည် ဟဗ်ရှဟ်နိုင်ငံသို့ ဟစ်ဂျ်ရတ်ပြု၊ ထွက်ခွာသွားကြသောအခါ ဤသခင်မလည်း ပါလေသည်၊ ထိုစဉ်က သခင်မသည် ကလေးအရွယ်ပင် ရှိသေးသည်၊ ထိုနိုင်ငံမှ ပြန်၍ မဒီနာမြို့တော်သို့ ရောက်လာသည်၊ သခင်မ၏ဖခင်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်ထံ အခ့စားဝင်လေရာ ဤသခင်မလည်း ပါလေသည်၊ သခင်မသည် အဝါရောင်အင်္ကျီကလေး ဝတ်ထားသည်၊ ရစူလ်ကိုယ်တော်က မိမိထံ ရှိနေသော ပန်းပွင့်ပါ စောင်တစ်ထည်ကို သခင်မအား ခြုံပေးတော်မူသည်၊ ၎င်း 'အလွန်အလွန် ကောင်းသောမိန်းကလေးဖြစ်သည်'ဟု မိန့်တော်မူပြီး 'ကလေးမ အသက်ရှည်ပါစေ'ဟု 'ဒိုအာ'ပြုတော်မူလေသည်။

လူတို့က ပြောကြသည်မှာ- ဤသခင်မထက်အသက်ရှည်သော အမျိုးသမီးကိုမကြားဘူးခဲ့၊ ၎င်းမည်သည့်သခင်မသည် ဤမျှ အသက်ရှည်သည်ဟူ၍ပင် ပြောစမှတ်ပြုနေကြရပေသည်၊ သခင်မသည် ငယ်ရွယ်သူ ကလေးဖြစ်သဖြင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ 'နဗူဝပ်တ်' တံဆိပ် ဘွဲ့တော်ကို ကိုင်တွယ်လေရာ၊ ဖခင်က ငေါက်ငမ်းခဲ့သည်၊ 'စိုးရိမ်စရာမရှိ၊ နေပါစေ'ဟု ရစူလ်ကိုယ်တော်က မိန့်တော်မူလေသည်။

**အကျိုးကျေးဇူး။** အို.... အမျိုးသမီးတို့၊ 'ဒီန်' သာသနာတော်၏ စောင်သည် ရစူလ် ကိုယ်တော်၏ စောင်ပင် ဖြစ်သည်။ ပမာဆိုသော်....

ကုရ်အာန်ကျမ်းတော်မြတ်က အပြစ် ရှောင်ကြဉ်ခြင်းကို အဝတ်အထည်မှာ မိန့်မြွက်ထားတော်မူပေသည်၊ အကယ်၍ သင်မတို့သည် ဤစည်းစိမ်ကို ရလိုကြလျှင် 'ဒီန်' နှင့် အပြစ်ရှောင်ကြဉ်မှုကို ဂရုတစ်စိုက် ပြုမူကြကုန်လော့။

## စွဖိယဟ် [ရသေ့] သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အရိုး ဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဘကြီးတော် ဟမ်ဇဟ် (ရသေ့) သခင်သည် 'အိုဟွဒ်' စစ်ပွဲ၌ ရှဟီးဒ်ဖြစ်, ကျဆုံးတော်မူရာ၊ ကိုယ်တော်က ငါရစူလ်သည် စွဖိယဟ် သခင်မကို ထောက်ထားတော်မူ၍သာ မြုပ်နှံ သင်္ဂြိုဟ်လိုက်ခြင်း ဖြစ်သည်၊ ငါရစူလ် အလိုအရ ဆိုလျှင် ဟမ်ဇဟ်(ရသေ့)သခင်ကို သားရဲတိရစ္ဆာန်များက စားသွားကြရန် ပစ်ထားခဲ့ချေပြီသည်၊ သို့မှသာ 'ကေယာမတ်' ကမ္ဘာ့တရားခွင်နေ့တွင် သားရဲတိရစ္ဆာန်တို့၏ ဝမ်းဗိုက်တွင်းမှ ထွက်လာရပေမည်။

ဤသို့မိန့်ခြင်းဖြင့် သိရသည်မှာ ... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် သခင်မကို အလွန် ဂရုစိုက်တော်မူသည်၊ မိမိပြုလုပ်ချင်သော အချက်ကို သခင်မအား ထောက်ထား၍ မလုပ်ဘဲနေခဲ့သည်၊ အို.. အမျိုးသမီးအပေါင်းတို့၊ ဤသို့ထောက်ထားတော်မူခြင်းသည် သခင်မ၏ဘာသာရေးလိုက်စားဆောက်တည်မှုကြောင့်ဖြစ်သည်၊ သင်မတို့လည်း ဘာသာသာသနာရေးကိုလိုက်စားဆောက်တည်ကြကုန်၊ သို့မှသာ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က သင်မတို့အား သဘောတူ နှစ်သက်တော်မူပေမည်။

## အဘွလ်ဖိုင်သမ် [ရသေ့] သခင်၏ ဇနီးသည် အကြောင်း

ဤသခင်သည် ဆွဟာဗီတစ်ပါးဖြစ်သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ဤသခင့်အပေါ် အလွန်ကရုဏာသက်တော်မူလေသည်၊ တစ်ခါက ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော် ဆာလောင်မွတ်သိတ်သဖြင့် သခင်၏အိမ်သို့ကြွသွားတော်မူသည်၊ သခင်သည်အိမ်၌မရှိရေချိုခပ်ရန်သွားနေသည်၊သခင်၏ဇနီးက ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်အား ပြုစုလေသည်၊ သခင်မှရေခပ်၍ပြန်လာသောအခါ ပျော်ရွှင်ဝမ်းမြောက်စွာဖြင့် စားဖွယ်များ တည်ခင်း ကျွေးမွေးလေသည်။

**အကျိုးကျေးဇူး။** အကယ်၍ ထို သူတော်စင်မ၏ စိတ်သဘောထားကို ရစူလ်ကိုယ်တော်သည် စိတ်ချရခြင်း မရှိပါက ခင်ပွန်းသည် အိမ်၌ မရှိသောအဖြစ်တွင် ဝင်ထိုင်ခြင်း ပြုတော်မမူဘဲ ပြန်လှည့်လာတော်မူမည်သာ ဖြစ်သည်၊ သခင်သည် စိတ်ထားဖြူစင် ကောင်းမွန်သည်ဟု ရစူလ်ကိုယ်တော်က သိသောကြောင့်ပင် ဖြစ်သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မှ စိတ်ပျော်ရွှင်ခြင်းနှင့် ရစူလ်ကိုယ်တော်က တစ်ဦးဦးအား စိတ်ပျော်ရွှင်တော်မူခြင်းသည် နည်းသော စည်းစိမ်မဟုတ်ပေ။

အို အမျိုးသမီး အပေါင်းတို့၊ ရစူလ်ကိုယ်တော်သည် ထိုအချိန်က ညှော်သည်အဖြစ် သွားတော်မူခဲ့ခြင်းဖြစ်သည်၊ သင်မတို့လည်း ညှော်သည်လာလျှင် စိတ်ပျော်ရွှင်ကြကုန်၊ စိတ်ကျဉ်းမြောင်းမှုကို မမွေးကြနှင့်။

## အဘူဘကရ် (ရသွေ့) သခင်၏ သမီး အတ်စ်မာအ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မရီး အာအေရှာဟ် (ရသွေ့) သခင်မ၏ အစ်မဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်သည် မဒီနာ မြို့တော်သို့'ဟစ်ဂျ်ရတ်'ပြု ကြွသွားတော်မူသောအခါ စားဖွယ်များ ထည့်ထားသော အိပ်တွင်ချီရန် ကြိုးရှာမရဘဲရှိနေသည်၊ အတ်စ်မာအ် (ရသွေ့) သခင်မကခါးစီးကြိုးကို အလည်မှ ဆုတ်လိုက်ပြီး တစ်စကို ခါးတွင်ပင် ပြန်ချီ၍ တစ်စကို စားဖွယ်အိပ် ချီလိုက်လေသည်။

**အကျိုးကျေးဇူး။** ဤကဲ့သို့ ချစ်ခင်သောစိတ်သည်၊ သာသနာရေး လိုက်စား ဆောက်တည် သူမှ ပင် ပေါ်ပေါက် လေသည်၊ မိမိအသုံး အဆောင်ကို ရစူလ်ကိုယ်တော် သက်သာစေရန်အတွက် ဖျက်ဆီးပစ်လိုက် လေသည်၊ အို...အမျိုးသမီးအပေါင်းတို့၊ ဘာသာရေးကို ပြည့်စုံအောင်ပြုရာ၌ ဤသို့ အချစ်ထား ရန် လိုအပ်ပေသည်၊ အကယ်၍ ဘာသာ,သာသနာရေး လုပ်ဆောင်ရာ၌ လောကကြီး ပျက်စီးသွားသော်လည်း ဂရုမစိုက်လေကြနှင့်။

## အွမ်မေ့ရူမာန် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်၏ ယောက္ခမ၊ ၎င်းအာအေရှာဟ် (ရသွေ့) သခင်မ၏မယ်တော်ဖြစ်သည်၊ တစ်ခါကအာအေရှာဟ် (ရသွေ့) သခင်မအပေါ် 'မိုနာဖွစ်က်' ဘာသာရေး အရေခြုံတို့က (တောင်ဗဟ်၊ တောင်ဗဟ်) ဖောက်ပြားသည်ဟု စွပ်စွဲကြသည်၊ ထိုသို့ စွပ်စွဲရာ၌ ရိုးသော မွတ်စလင်မ် အချို့လည်း ပါသွားကြသည်၊ ၎င်းရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကလည်း ခပ်ခွာခွာ နေတော်မူသည်၊ ထို့နောက် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်က အာအေရှာဟ် (ရသွေ့)သခင်မ၏ သန့်ရှင်း မွန်မြတ်ခြင်းအကြောင်း 'ကုရ်အာန်' ကျမ်းတော်မြတ်တွင် ချမှတ်တော်မူသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ထိုအာယတ်တော်ကို အိမ်ထွင်ဖတ်ပြ တော်မူသည်၊ ထိုအခါ အွမ်မေ့ရူမာန် (ရသွေ့) သခင်မက ထ၍ရစူလ် ကိုယ်တော်အား ကျေးဇူးတင်ကုန်ဟု သမီးတော် အာအေရှာဟ် (ရသွေ့)သခင်မအား မိန့်တော်မူ၏၊ သခင်မကြီးသည် စွပ်စွဲမှုခံရသဖြင့် စိတ်ဒုက္ခရောက်နေခဲ့သော်ငြားလည်း ရစူလ်ကိုယ်တော် အား အရိပ်အမြွက်ပင် ပြစ်တင်ပြောဆိုခြင်းများ မပြုခဲ့ပေ။

**အကျိုးကျေးဇူး။** အမျိုးသမီးများ အနေနှင့် ဤသို့သည်းခံ မျိုသိပ် နေခြင်းမှာ အံ့ဖွယ်ပင်ဖြစ်ပေသည်၊ ဤသို့စွပ်စွဲမှုခံရသောအဖြစ်၌နာကျည်း၍ ပြောဆိုမိမည်သာ ဖြစ်သည်၊ အနည်းဆုံး ကျွန်မသမီးကို သက်သက်စွပ်စွဲခြင်း ဖြစ်သည် ဟူ၍တော့ ပြောကြမည်ဖြစ်သည်၊ သန့်ရှင်းမှုကိုသိရပြီးနောက် ဒေါသဖြစ်၍ ပူဆွေး၍ ဤသို့သန့်ရှင်းသူမကို စွပ်စွဲရကောင်းလားဟု ပြောကြပေမည်၊ သခင်မကြီးသည် မည်သို့မျှ ပြောဆိုခြင်း မပြုခဲ့ပေ၊

ဇနီးမောန့် ခိုက်ရန်ဒေါသ ဖြစ်ကြသောအခါ သမီးကို မြှောက်ပင့်မပေးနှင့် သမီး၏ ယောက္ခမများနှင့် ရန်မတွေ့နှင့် ဤကိစ္စနှင့်ပတ်သက်၍ အမျိုးသမီးတစ်ပါး၏ သားသည် အာအေရှတ်(ရသွေ့)သခင်မအား မဟုတ်မလျား စွပ်စွဲရာတွင်ပါလေသည်၊ ထိုအမျိုးသမီးကြီးကသားကိုပြစ်တင်ပြောဆို၍အာအေရှတ် (ရသွေ့)သခင်မဘက်မှပါဝင် ခဲ့သည်၊ ထိုအမျိုးသမီးကြီး၏ အမည်သည် အွမ်မေ့မစ်တွာဟ် ဖြစ်သည်၊အမှန်ကို လိုလား ခြင်းသည် ဤသည်ပင်ဖြစ်သည်၊ သား၏စကားကို မထောက်ခံရုံပင် သာမက မှန်သော ကိစ္စဘက်မှနေခဲ့သည်၊ ၎င်းသားကို ဆိုပြောပြစ်တင်ခဲ့သည်။

## အွမ်မေ့အတွ ိယဟ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် ဆဟာဗီယဟ် တစ်ပါးဖြစ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့်အတူ စစ်ပွဲ (၆) ပွဲတွင် ပါဝင်ဆင်နွှဲခဲ့သည်၊ ထိုစစ်ပွဲများတွင် သခင်မသည် သူနာပြု တာဝန်ကို ထမ်းဆောင်ခဲ့သည်၊ မကျန်းမာသူများ၊ ဒဏ်ရာရသူများကိုဆေးတိုက် သည်၊ ပတ်တီးစည်း၊ ဆေးထည့်ပေးသည်၊ ၎င်းသခင်မကြီးသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား အလွန်ချစ်ခင်တော်မူသည်၊ ရစူလ်ကိုယ်တော်၏ နာမ တော်ကို ပြောရန်ကြုံလာတိုင်း ကျွန်မအဖေကို ကိုယ်တော်အပေါ် စွန့်လှူပါသည်ဟု ထည့်သွင်း ပြောဆိုတော်မူလေသည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီး အပေါင်းတို့၊ 'ဒီန်' သာသနာရေး လုပ်ငန်း များ တွင် ကြိုးပမ်း အားထုတ် ကြကုန်၊ ၎င်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဤသခင်မကြီးကဲ့သို့ ချစ်ခင်မှု ထားကြကုန်။

## ဗိုရိုင်ရဟ် (ရသွေ့) သခင်မ အကြောင်း

ဤသခင်မသည် တစ်ဦးသောသူ၏ ကျွန်မဖြစ်လေသည်၊ သခင်မကို အာအေရှတ် (ရသွေ့) သခင်မကဝယ်၍ သူကောင်းပြုခဲ့သည်၊ သခင်မသည် အာအေရှတ် (ရသွေ့) သခင်မအိမ်၌ပင် နေတော်မူ၍ အာအေရှတ် (ရသွေ့) သခင်မနှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဝတ်ကြီး၊ဝတ်ငယ်ပြုလေသည်၊ တစ်ခါကသခင်မအတွက် တစ်နေရာမှစားရန် အသားကျွေးပို့ရာ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က သခင်မ ထံမှတောင်း၍ စားသုံးတော်မူလေသည်။

**အကျိုးကျေးဇူး။** ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်အား 'ခစ်ဒ်မတ်' ဝတ်ကြီး, ဝတ်ငယ် ပြုရခြင်းသည် အလွန်ပင် 'တပ်က်ဒီရ်' ကောင်းလေသည်၊ ၎င်းသခင်မက ရစူလ်ကိုယ်တော်အား ချစ်ခင်ခြင်းကို ရစူလ်ကိုယ်တော်သည် ကောင်းစွာ သိသောကြောင့်သာ တောင်းယူ စားသုံးတော် မူခြင်းဖြစ်လေသည်၊

အို...အမျိုးသမီး အပေါင်းတို့၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား 'ခစ်ဒ်မတ်' ဝတ်ကြီးဝတ်ငယ်ပြုခြင်းသည့် 'ဒီန်' သာသနာတော် ခိုင်မြဲပြည့်စုံအောင် ပြုခြင်းပင်မည်ပေသည်၊ ဤသို့ ပြုခြင်းပင်လျှင် ရစူလ်ကိုယ်တော်အား ချစ်ခင်ရာ ရောက်ပေသည်။

## ဂျိုင်ရှ်သခင်၏သမီး ဖွာတွေ့မဟ်၊ အဇီဂျဟ်ရ်၏ သမီး ရဟ်မနဟ်၊ အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ်သခင်၏ဇနီး ဇိုင်နဗ် (ရသွေ့) သခင်မများ အကြောင်း

ဤသခင်မများသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ထံတော်သို့ လာရောက်၍ မတ်စ်အလဟ်ပြဿနာများ မေးမြန်းကြကြောင်း ဟဒီးသ်တော်များတွင် လာရှိပေသည်၊ ထို့ကြောင့် သခင်မ (၃) ပါး၏ အမည်ကိုတစ်နေရာထည်းရေးသားလိုက်ခြင်းဖြစ်သည် ပထမသခင်မက 'အစ်တေဟာသွာဟ်'၏ မတ်စ်အလဟ်ကို မေးသည်၊ ဒုတိယသခင်မက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ခယ်မ၊ မြောက် သား တော် ဇိုင်နဗ် ( ရသွေ့ ) သခင်မ၏ ညီမဖြစ်သည်၊ ၎င်းကလည်း အစ်တေဟာသွာဟ်၏ မတ်စ်အလဟ်ကိုမေးသည်၊ တတိယသခင်မက ဆွဒကဟ်လူဒါန်းသော မတ်စ်အလဟ်ကို မေးသည်၊ ဤသခင်မသည် နာမည်ကျော်ကြား ထင်ပေါ်သည့် အဗ်ဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ် (ရသွေ့) သခင်၏ ဇနီးဖြစ်သည်။

**အကျိုးကျေးဇူး။** အို...အမျိုးသမီးအပေါင်းတို့၊ ဘာသာ,သာသနာရေးကိုလိုက်စားသော စိတ်ဓာတ်သည် ဤသည်ပင်ဖြစ်သည်၊ ဘာသာရေးဆိုင်ရာ မသိသောအချက်အလက် မတ်စ်အလဟ်များကို အပြစ်ရှောင်ကြဉ်သော အာလင်မ်များထံ မေးမြန်းကြကုန်၊ ၎င်းမေးရန်ရှိသော အချက်သည် အမျိုးသမီး အတွင်းရေး ဖြစ်နေ၍ ကိုယ်တိုင် မေးမြန်းရန် ရှက်လျှင် အာလင်မ်၏ ဇနီးမှတစ်ဆင့် မေးယူကြကုန်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ မြောက်သားတော်များ၊ သမီးတော်များ အကြောင်းကို ရေးပြီးနောက် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ လက်ထက်တော်က ရှိခဲ့သော အမျိုးသမီး (၂၅) ပါးအကြောင်းကို ရေးခဲ့ပေပြီ၊ ထိုဆွဟာဗီယဟ်သခင်မများ အကြောင်း ကျမ်းစာများတွင် မြောက်မြားစွာ ရှိပေသေးသည်၊ ဤကျမ်းမှာ ရှည်လျားသွားမည်စိုး၍ ချန်လှပ်ထားခဲ့သည်၊ယခုရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏နောက်မှ ပေါ်ပေါက်ခဲ့သော သခင်မများအကြောင်းကို ရေးသားမည်။

## အေမာမ်ဟာဖွ၀ဇ် အစ်မ်နီ့အစာကင်ရ် [ရဟော့] သခင်၏ ဆရာမများ အကြောင်း

ဤအေမာမ် သခင်သည် ဟဒီးသ် ပါမောက္ခကြီး တစ်ပါးဖြစ်သည်၊ သခင်သင်ယူခဲ့သောဆရာများတွင် အမျိုးသမီးပေါင်း (၈၀) ကျော် ပါဝင်လေသည်။

**အကျိုးကျေးဇူး။** ယခုခေတ်တွင် ဝမ်းနည်းဖွယ် ကောင်းသည်မှာ အမျိုးသမီးများသည် များသောအားဖြင့် 'အင်လိမ်' ဘာသာပညာကို သင်ယူရန် တပည့်အဖြစ်ပင် မခံယူကြပေ။

## ဟဒီးဒ်ဗင်နိဇွဟ်ရာတွဗ၀ိးဇ်၏ နှမနှင့် တူမ အကြောင်း

ဤသခင်သည်ထင်ရှားကျော်ဇောသောသမားတော်ကြီးတစ်ပါးဖြစ်သည်၊ သခင်၏နှမနှင့် တူမသည် ဆေးပညာကို ကောင်းစွာ တတ်ကျွမ်းလေသည်၊ ခလီဖွဘ်ဟ်မန်စူရ်၏ အဆောင်တွင် ဆေးကုသရသော သူမများဖြစ်ကြပေသည်။

**အကျိုးကျေးဇူး။** ဤဆေးပညာသည် အမျိုးသမီးများတွင် လုံးဝကွယ်ပျောက်သလောက် ဖြစ်သွားပေပြီ၊ အကယ်၍ စိတ်ထားဖြူစင်ပြီးငွေကို အဓိကမထားဘဲလိမ်လည်မှုလည်းမပါ၊ ၎င်းဟရာမ်ဖြစ်သောပစ္စည်းများမှရှောင်၍ဘာသာရေးကို လက်မလွှတ်လျှင် ဤဆေးပညာသည် ကုသိုလ်'သဝါဗ်'ရသော ပညာရပ်တစ်ခုဖြစ်သည်၊ လူသားတို့မှာ အကျိုးဖြစ်ထွန်းရပေသည်၊ ယခုသော်ကား ဂျာဟင်လ်မသိသော ဝမ်းဆွဲဆေးဆရာမများသည် အမျိုးသမီးများကို ဒုက္ခရောက်စေသည်၊အကယ်၍ ဆေးပညာကို တတ်ကျွမ်းပါက ဤဒုက္ခရောက်မှုများ ပေါ်ပေါက်မည်မဟုတ်ပေ၊ အကြင်အမျိုးသမီးတို့၏ဖခင်၊ အစ်ကို့မောင်များသည် သမားတော်များဖြစ်ကြလျှင် လွယ်ကူစွာ ဤပညာရပ်ကို သင်ယူနိုင်ကြပေသည်။

## အေမာမ်ယဇီးဒ်ဗင်နိဟာရူန် [ရဟော့] သခင်၏ ကျွန်မ အကြောင်း

ဤသခင်သည်ဟဒီးသ်ကျွမ်းကျင်သောပါမောက္ခကြီးတစ်ပါးဖြစ်သည်၊ အိုမင်းလာသောအခါ စာမကြည့်နိုင်အောင်ပင် မျက်စိမှုန်သွားခဲ့သည်၊ သခင်၏ကျွန်မသည်ကူညီကာ ဟဒီးသ်တော်များကို ကျက်မှတ်ပြီး သခင်အား ပြောပြလေ၏။

**အကျိုးကျေးဇူး။** (စွဗ်ဟာနလ္လာဟ်) ထိုခေတ်အခါသမယက ကျွန်မများ၊ အစေခံမများသည် အာလင်မ်မများ ဖြစ်ကြသည်၊ ယခုခေတ် အမျိုးသမီးများသည် များသောအားဖြင့် ဂျာဟင်လ်များ ဖြစ်ကြသည်၊ အလ္လာဟ်အသျှင်မြတ်အတွက် ဤမသိနားမလည်မှုမှ သိနားလည်အောင် ကြိုးစားကြကုန်လော့။

## အစ်မ်နို့ စမာဏ်ကူ့ဖွဲ့ (ရဟေ့) သခင်၏ ကျွန်မအကြောင်း

ဤသခင်သည် ၎င်း၏(ဇမာနာ)လက်ထက်၌ ကြီးကျယ်သော အာလင်မ်တစ်ပါး ဖြစ်သည်၊တစ်ခါကမိမိ၏ကျွန်မကို'ကျွန်ုပ်၏တရားဟောပြောခြင်းသည်အဘယ်သို့နည်း'ဟု မေးတော်မူ၏။ ကျွန်မက 'တရားဟောသည်မှာ အလွန်ကောင်းပါသည်၊ သို့သော် အဖြစ် တစ်ခုမှာ အကြောင်းတစ်ခုကို ထပ်ခါထပ်ခါ ပြောသည်'ဟု ဝေဖန်၏။ သခင်က မိန့် သည်မှာ....'နားရိုင်းသူများမှတ်မိစေရန်ပြောခြင်းဖြစ်သည်'။ နားရိုင်းသူများ နားလည် အောင် ပြောနေလျှင်၊ နားလည်လွယ်သူများ ညည်းငွေ့သွားပေတော့မည်'ဟု ကျွန်မက ပြောလေ၏။

**အကျိုးကျေးဇူး။** အာလင်မ် တစ်ပါး၏တရားဟောပြောခြင်းကို ဝေဖန်နိုင်သော အရည်အချင်းသည် အာလင်မ်၌သာရှိသည်၊ထို့ကြောင့်ထိုကျွန်မ သည် အာလင်မ်ဖြစ်ကြောင်း သိရလေသည်။ အို....အမျိုးသမီးအပေါင်းတို့၊ ကျွန်မများ ထက်ကားအဆင့်အတန်းနိမ့်ကျမှုမဖြစ်စေကြနှင့်၊ ကြိုးစား၍ အင်လိမ် ဘာသာရေးပညာ ကို သင်ယူကြကုန်၊ အိမ်တွင် အာလင်မ်ယောကျ်ားရှိလျှင် အရဗီဘာသာကို သင်ယူကုန်၊ ဘာသာရေးပညာ၏အရသာသည် အရဗီဘာသာ၌သာရှိသည်၊ သင်မတို့သည် ယောကျ်ား များကဲ့သို့ ပစ္စည်းရှာဖွေရန် မရှိသဖြင့် ပညာသင်ရန် ယောကျ်ားများထက် ပိုမိုလွယ်ကူ လေသည်၊ အပ်ချုပ်မှုမှာ လအနည်းငယ်နှင့်တတ်နိုင်သည်၊ တစ်သက်လုံး အချိန်ဖြုန်းရန် မသင့်ပေ။

## အစ်မ်နို့ရျောင်ဇီ [ရဟေ့] သခင်၏ အရီး အကြောင်း

ဤသခင်သည် အာလင်မ်ကြီးတစ်ပါးဖြစ်သည်၊အရီးဖြစ်သူသည် သခင့်ကို ကလေး အရွယ်ကပင် အာလင်မ်များသင်ပြရာ သင်ယူရာနေရာသို့ခေါ်သွားလေ့ရှိပေသည်၊ကလေး အရွယ်ကပင် ဘာသာရေးရာနားသို့ဝင်နေခဲ့သည်၊ (မာရှာအလ္လာဟ်)သခင်သည် ၁၀-နှစ် သားအရွယ်တွင် အာလင်မ်များကဲ့သို့ 'ဝအ်ဇ်' တရားဟောတော်မူလေသည်။

**အကျိုးကျေးဇူး။** မိမိ၏ရင်သွေးကို ဘာသာရေးပညာသင်ကြားရန် မည်မျှဂရုစိုက် သည်ကို သိကြရပေပြီ၊ သခင်မသည် အသက်အရွယ်ကြီး၍သာ ကိုယ်တိုင်ခေါ်သွားခြင်းဖြစ်ပေမည်၊ သင်မတို့သည် ရင်သွေးများကို ဘာသာရေးပညာ မတတ်ကျွမ်းသေးလျှင် အင်္ဂလိပ်စာ မဖတ်ကြစေနှင့်၊ (ဘာသာရေးပညာမှာ အလစ်ဗေ ကုရ်အာန် ဖတ်တတ်ရုံသာမဟုတ်၊ ဘာသာရေး နှင့် ဆိုင်သော အမိန့်ပညတ်များကိုဆို လိုသည်။)

ရင်သွေးများကို မကောင်းသောသူများနှင့် ပေါင်းသင်းခြင်းမပြုစေနှင့်၊ ဘာသာရေး စာသင်ကျောင်းသို့ ဂရုတစ်စိုက် သွားစေကြကုန်။ ယခုမူကား အချို့သည် သင်ကြားပေးလိုသောစိတ်မရှိကြ၊ သင်ကြား ပေးလိုပါကလည်း အင်္ဂလိပ်ကျောင်းသို့ ပို့ကြသည်၊ ကျွန်ုပ်၏သားရဲအုပ်ဖြစ်မည်၊အရေးပိုင်ဖြစ်မည်ဟု လက်မ့ထောင်ကြသည်၊ ၎င်းကိုယ်တိုင်နှင့် မိဘကိုပါ ဂျဟန္နမ်ကျစေမည်ကိုဂရုမပြုကြပေ။ သိမှတ်ထားကြကုန်၊ အရေးကြီးဆုံးအချက်သည် ဘာသာရေးပညာဖြစ်သည်၊ ဤသည်ကို မတတ်ကျွမ်းလျှင် လုံးဝအသုံးမကျသူဖြစ်သည်။

## အေမာမ်ရဗီ အတွလ်ရာအ် သခင်၏ မိခင် အကြောင်း

ဤသခင်သည် ကြီးကျယ်သောအာလင်မ်တစ်ပါးဖြစ်သည်၊ နေမင်းထက်ပင် ကျော်ကြား တောက်ပသော အေမာမ်မာလစ်က် နှင့် ဟစံဗတ်စ္စရီ(ရဟေ့)သခင်နှစ်ပါး၏ ဆရာဖြစ်သည်၊ သခင်၏ဖခင်သည်'ဖ္ရရိုခ်'မည်သောပုဂ္ဂိုလ်ဖြစ်သည်၊ ၎င်းပုဂ္ဂိုလ်သည် ဘနီအို့မိုင်ယဟ် ဘုရင်လက်ထက်က စစ်တပ်တွင် အမှုထမ်းတစ်ဦးဖြစ်သည်၊ ဘုရင့်အမိန့်ဖြင့် စစ်ပွဲများအတွက် ထွက်ရလေသည်၊ ထိုအချိန်က ရဗီအဟ်(ရဟေ့)သခင်သည် မိခင်၏ ဝမ်းတွင်း၌ရှိသေးသည်၊ ဖခင်သည်ခရီးထွက်သွားရာ နှစ်ပေါင်း ၂၇-နှစ်ကြာမြင့်ခဲ့သည်။ ဖခင်ခရီးထွက်မှ မွေးဖွားပြီး၊ ဖခင် ပြန်မရောက်မီပင် ကြီးကျယ်သော အာလင်မ်ကြီး တစ်ပါးဖြစ်သွားလေသည်၊ စစ်ပွဲအတွက် ခရီးထွက်ခါနီးတွင် ဖခင်က မိခင်ကို ရွှေဒင်္ဂါးအပြားသုံးသောင်းပေးခဲ့သည်။

ဇွဲစိတ်ဓါတ်မြင့်မားသော သခင်မကြီးက ထိုပစ္စည်းများကို သားအား ပညာသင်ရာတွင်သုံးစွဲခဲ့သည်၊ ဖခင်သည် အနှစ် ၂၇-နှစ် နေပြီးနောက် ပြန်လာ၍ ရွှေဒင်္ဂါးများအကြောင်းကို မေးရာ၊ ထိန်းသိမ်းထားပါသည်ဟု ဖြေလေသည်၊ ထိုအချိန်၌ ရဗီအဟ်(ရဟေ့)သခင်သည် ဗလီဝတ်ကျောင်းတော်တွင် ဟဒီးသ်ပြနေတော်မူသည်၊ ဖခင်သည် သွားရောက်ကြည့်ပြီး ကျွန်ုပ်၏သားသည် တစ်လောကလုံး၏ရှေ့ဆောင်လမ်းပြဖြစ်နေသည်ဟု ဆိုကာ ဝမ်းမြောက်ပျော်ရွှင်စွာ အိမ်သို့ပြန်လာသည်၊ သခင်မကြီးက ရွှေဒင်္ဂါးပြားသုံးသောင်းက ကောင်းသလော၊ ဤသည်စည်းစိမ်က ကောင်းသလော့ဟု မေးလေ၏၊ ရွှေဒင်္ဂါးသည် ဤစည်းစိမ်ထက်တန်ဘိုးမရှိပါဟုမိန့်၏၊ ထိုအခါ သခင်မကြီးက ရွှေဒင်္ဂါးများကိုဤစည်းစိမ်ရရန်အတွက်သုံးစွဲခဲ့သည်ဟုပြောလေ၏၊ဖခင်က အလ္လာဟ်အသျှင်မြတ်၏ 'ကဆမ်'၊ သင်မသည် ရွှေဒင်္ဂါးများကို မဖြုန်းခဲ့ဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** အင်လ်မ် ဘာသာရေးပညာကို မည်မျှတန်ဘိုးထားကြောင်း သိကြရပေပြီ၊ ရွှေဒင်္ဂါးသုံးသောင်းကို သားအား ပညာသင်ကြားရာ၌သုံးစွဲပစ်ခဲ့သည်။ အို...အမျိုးသမီးတို့၊ သင်မတို့လည်းငွေကုန်သည်ကိုဂရုမစိုက်ကြနှင့်၊ မည်သို့ပင်ဖြစ်စေ၊ ရင်သွေးများကို 'အင်လ်မ်' ဘာသာရေးပညာ သင်ယူစေကြကုန်။

## အေမာမ်ဘိုခါရီ [ရဟေ] သခင်၏ မိခင် နှင့် အစ်မ အကြောင်း

အေမာမ် ဘိုခါရီ (ရဟမတွလ္လာဟ်) သခင်သည် ဟဒီးသ်တော်ကို ကျွမ်းကျင်သော ပုဂ္ဂိုလ်တစ်ပါးဖြစ်သည်၊ သခင်သည် သက်တော်(၁၄)နှစ်အရွယ်တွင် 'အင်လ်မ်' ဘာသာရေးပညာဆည်းပူးရန်ခရီးထွက်လေရာ၊ စရိတ်စကကို မိခင်နှင့်အစ်မက တာဝန်ယူသုံးစွဲခဲ့သည်။

**အကျိုးကျေးဇူး။** မိခင်သည် အသုံးစရိတ်ကို ထမ်းဆောင်ရမည်သာ ဖြစ်သည်၊ သို့သော် အစ်မသည် ထောက်ပံ့ရန် တာဝန်ရှိသူ မဟုတ်ပေ၊ တာဝန်မရှိဘဲ ပေးသည့်အတွက် ထိုခေတ်က အမျိုးသမီးများသည် အင်လ်မ် ဘာသာရေး ပညာ အတွက်ဆိုလျှင် မိမိ၏ ပစ္စည်း ပစ္စယများကို အကုန်ခံဝံ့သော သတ္တိရှိကြောင်း သိကြရပေသည်။ အို....အမျိုးသမီးတို့၊ သင်မတို့လည်း ဤသို့ ဇွဲသတ္တိရှိကြရန် ထိုက်ပေသည်။

## ကာသွမ်ဇာဒဟ်ရူမီ [ရဟေ] သခင်၏ အစ်မ အကြောင်း

ဤသခင်သည် ထင်ရှားသော အာလင်မ်ကြီး တစ်ပါး ဖြစ်သည်၊ သခင်သည် ရှာမ်နိုင်ငံရှိ အာလင်မ်များထံမှ အင်လ်မ် ဘာသာရေးပညာ သင်ကြားပြီးလေရာ၊ နိုင်ငံရပ်ခြားရှိအာလင်မ်များထံမှလည်း ပညာဆည်းပူးရန် စိတ်ပြင်းပြလာသဖြင့် တိတ်တဆိတ် ခရီးထွက်ရန် ပြင်လေသည်၊ အစ်မဖြစ်သူသည် ဤအကြောင်းကို သိသောအခါ မိမိပိုင် ရွှေဘယက်တန်ဆာများကို သခင် မသိအောင်ပင် သခင်၏ အထုပ်ထဲသို့ ထည့်ပေးလိုက်လေသည်။

**အကျိုးကျေးဇူး။** ထိုအမျိုးသမီးများကား နာမည်ကို အလိုမထားကြ၊ အင်လ်မ် ဘာသာရေး ပညာ တည်မြဲနေရန်ကိုသာ အဓိကထားကြသည်၊ အို....အမျိုးသမီးအပေါင်းတို့၊ အင်လ်မ် ဘာသာရေးပညာကို တည်မြဲနေစေရန် ကူညီခြင်းသည် အလွန်ကြီးမားသော ကုသိုလ် 'သဝါဗ်' ဖြစ်ပေသည်၊ ဘာသာရေးကျောင်းများကို တတ်နိုင်သည်ခန့် အကူအညီပေးကြကုန်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ လက်ထက်တော်က သခင်မများ အကြောင်းကို ရေးပြီးနောက် 'အင်လ်မ်' ဘာသာရေးပညာ သင်ယူရေးကို စိတ်ဝါသ်ထက်သန်သော သခင်မ(၁၀)ပါးအကြောင်းကို ရေးခဲ့ပေပြီ၊ ယခု 'အမလ်-အေဗာဒတ်' များပြုသော သခင်မများအကြောင်းကို ရေးသားမည်။

## မိုအာသဟ်အာဒဝီယဟ် [ရဟေ့] သခင်မ အကြောင်း

ဤသခင်မ၏ အဖြစ်သည် အံ့ဖွယ် ဖြစ်လေသည်၊ နေ့တွင်.... ဤနေ့တွင်သေမည် လားမသိ၊ သေခဲ့သော် အလ္လာဟ်အသျှင်မြတ်အား မေ့နေသော အဖြစ်၌ သေလျှင် မကောင်းဟုဆိုကာ၊ တစ်နေ့လုံး မအိပ်ပေ၊ ၎င်းညဖြစ်လာလျှင်လည်း ဤသို့ပင်ပြော၍ တစ်ညလုံးမအိပ်ပေ၊ အကယ်၍ အိပ်ချင်ခြင်း အားကြီးလာလျှင် အိမ်တွင်း၌ လှည့်ပတ် နေတော်မူသည်၊ သေသွားလျှင် ကေယာမတ်နေ့ အထိ သင်္ချိုင်းထဲ၌ အိပ်နေရမည်ဟု မိမိကိုယ်ကို ပြောဆိုလေ့ရှိတော်မူပေသည်။

သခင်မကြီးသည် တစ်နေ့တစ်ညတွင် နဖိလ် နမာဇ်ပေါင်း (၆၀၀) ဖတ်တော်မူ သည်၊ ဘယ်သောအခါမှ မိုးပေါ်သို့ မော့မကြည့်ပေ၊ ခင်ပွန်းသည် ကွယ်လွန်ပြီး ကတည်းက အိပ်ရာပေါ်တွင် အိပ်တော်မမူခဲ့ပေ၊ ဤသခင်မကြီးသည် အာအေရှဟ် (ရသေ့)သခင်မနှင့် တွေ့ကာ ဟဒီးသ်တော်များ သင်ကြားခဲ့သည်။ အို....အမျိုးသမီး အပေါင်းတို့ အလ္လာဟ်အသျှင်မြတ်အား ချစ်ခင်ခြင်းနှင့် သတိရခြင်းသည် ဤသည်ပင် မည်ပေသည်၊ မိမိတို့၏ မျက်လုံးအစုံကို ဖွင့်၍ အသိတရား ယူကြကုန်လော့၊ 'အမလ်' 'အေဗာဒတ်'များကို ကြိုးစားဆောက်တည် ပြုမူကြကုန်။

## ရာဗေ့အဟ်အာဒဝီယဟ် [ရဟေ့] သခင်မ အကြောင်း

ဤသခင်မသည် အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့၍ များစွာ ငိုကြွေးတော် မူသည်၊ အကယ်၍ 'ဂျဟန္နမ်' အပါယ် ငရဲအကြောင်း ပြောဟောသည်ကို ကြားလျှင် ကြောက်၍ သတိပင် မေ့သွားတော်မူသည်၊ သက်တော် (၈၀) နှစ်တွင် သွားလာရာ၌ လဲကျလုမတတ် ဒယိမ်းဒယိုင် ဖြစ်သွားတော်မူသည်၊ 'ကဖွာန်' အဝတ်စကို မိမိနှင့် အတူ အမြဲ ထားတော်မူသည်၊ 'စစ်ဂျဒဟ်' ပြုသောနေရာသည် မျက်ရည်များဖြင့် စိုရွှဲ သွားတော်မူသည်၊ သခင်မကြီး၏ ထူးဆန်းဖွယ်အကြောင်းများသည် ထင်ရှားပေသည်၊ ဤသခင်မကြီးကို 'ရာဗေအဟ်ဗစ္စရိယဟ်'ဟုလည်း ခေါ်ကြသည်။

**အကျိုးကျေးဇူး။** အို.... အမျိုးသမီး အပေါင်းတို့၊ အလ္လာဟ် အသျှင်မြတ်အား ကြောက်ရွံ့ခြင်းနှင့်သေခြင်းတရားကိုသတိရနေကြကုန်၊တင်ပြပါ သခင်မကြီးသည် သင်မတို့ကဲ့သို့ အမျိုးသမီးပင်ဖြစ်သည်။

## မာဂျေဒဟ်ကရရှိယဟ် [ရဟေ့] သခင်မ အကြောင်း

ဤသခင်မသည် ခြေတစ်လှမ်းလှမ်းပြီး နောက်တစ်လှမ်းတွင် သေမည်လည်းဖြစ်နိုင် သည်ဟု ပြောဆိုလေ့ရှိတော်မူသည်၊ ၎င်းလောကသားများကို ခရီးနှင်ရန် အမိန့်ပေး ထားတော်မူပါလျက် မသိသလိုပင် မေ့လျော့ ပေါ့ဆနေကြသည်ဟုလည်း မိန့်လေ့ ရှိတော်မူသည်၊ အလ္လာဟ်အသျှင်မြတ် နှစ်သက်တော်မူရန်နှင့် 'ဂျန္နတ်'၏ စည်းစိမ်သည် မကြိုးစားဘဲ မရနိုင်ဟု မိန့်ဆိုတော်မူသည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ ဤဆုံးမချက်များသည် အကျိုးရှိဆုံးသော အချက်များဖြစ်သည်၊ မိမိတို့စိတ်တွင် ဤသို့ခံယူချက်ထားပြီး လိုက်နာပြုမူ ဆောက်တည်ကြကုန်။

## ဂျအ်ဖွာရ်စွာဒစ်က်သခင်၏သမီး အာအေရှဟ် (ရဟေ့) သခင်မ အကြောင်း

သခင်မ၏အဆင့်သည် အလွန်မြင့်မားလေသည်။ အကယ်၍ ကျွန်မကို 'ဂျဟန္နမ်' ရေဲဘုံ သို့ချလျှင် ကျွန်မသည် အလ္လာဟ်အသျှင်မြတ်ကို တစ်ပါးတည်းရှိကြောင်း ယုံကြည်သူမ ဖြစ်ပါသည်ဟု အားလုံးအားပြောမည်ဟု မိန့်လေ့ရှိတော်မူလေသည်၊ သခင်မသည် ဟစ်ဂျ်ရီတော် ၁၄၅-ခုနှစ်တွင် ကွယ်လွန်တော်မူသည်၊ မစ်စွင်ရ် (အီဂျစ်ပ်) နိုင်ငံဗာဗေ့ ကရာနဟ်တွင် သခင်မ၏ ကဗရ် ရှိလေသည်။

**အကျိုးကျေးဇူး။** အို.... အမျိုးသမီးအပေါင်းတို့၊ ဤအဆင့်အတန်းကို တစ်ချို့ တစ်ချို့သာလျှင် ရရှိလေသည်၊ ပြည့်စုံတိကျစွာလိုက်နာဆောက်တည်ခြင်း၏ 'ဘရ်ကတ်' ဖြင့်သာ ရရှိပေသည်၊ ဤသို့လိုက်နာမှုကို ဂရုပြုကြကုန်။

အလ္လာဟ်အသျှင်မြတ်အားတစ်ပါးတည်းရှိကြောင်း ပြည့်စုံစွာယုံကြည်မှုမှာအခြားအရာများကို မကိုးကွယ်ရ၊ အားထားခြင်းလည်းမပြုရ၊ မည်သူ့မှမကြောက်ရ၊ မည်သူ၏ပျော်ရွှင်အောင်ပြုခြင်းကိုမှဂရုမစိုက်ရ၊မည်သူ၏ငြို့ငြင်မှုကိုမှအလေးမထားရ၊ အကောင်းပြောလျှင် မပျော်ရွှင်ရ၊မကောင်းပြောလျှင်စိတ်မညစ်ရ၊ နှိပ်စက်လျှင်လည်းအလေးမမူရ၊ ဖြစ်ပျက်သမျှအပေါင်းသည်အလ္လာဟ်အသျှင်မြတ် အလိုတော်အတိုင်းဖြစ်သည်၊ ကျွန်ုပ်သည် 'ဗန္ဒဟ်' တစ်ယောက်ဖြစ်၍ ဖြစ်သမျှကို သဘောတူကျေနပ်သည်ဟု ယုံကြည်ယူဆရမည်၊ ဤသို့မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ကိုတစ်ပါးတည်း ယုံကြည်သည့်အတွက် ဂျဟန္နမ်နှင့် မသက်ဆိုင်ဟူသော ဤသခင်မ၏ ယူဆချက်မှာ ဤသခင်မသည် အလ္လာဟ် အသျှင်မြတ်အားတစ်ပါးတည်းယုံကြည်ခြင်း၏ 'ဘရ်ကတ်' ကိုဖော်ပြခြင်းသာ ဖြစ်သည်။

## ရှိဗားဟ်ကိုင်စီသခင်၏ဇနီး အကြောင်း

ဤသခင်မသည် တစ်ညလုံး 'အေဗာဒတ်' ပြုတော်မူသည်၊ ညဝက် ကုန်လွန်သွားသောအခါ ခင်ပွန်းသည်အား နှိုးလေသည်၊ မထလျှင် အတန်ကြာ နှိုးပြန်သည်၊ ည၏နောက်ဆုံးပိုင်းတွင် အို ရှိဗာဟ် ထကုန်၊ သင်ကား အိပ်နေသည်ဟု ပြောလေသည်၊ တစ်ခါတစ်ရံ မြေပေါ်တွင်ကျနေသော ကြိုးစကလေးကိုယူ၍ အလ္လာဟ်အသျှင်မြတ်၏ ကဆမ်ဒွန္နယာလောကသည် ကျွန်မထံတွင် ဤကြိုးကလေးထက်ပင် တန်ဖိုးမရှိဟု ပြောလေ့ရှိပေသည်။

အေရှာအ် 'နမာဇ်' ဖတ်ပြီးနောက် ကောင်းမွန်သော အဝတ်ကိုဝတ်၍ ခင်ပွန်းသည်အား အတူအိပ်ရန် ဆန္ဒရှိပါသလားဟုမေးသည်၊ အကယ်၍ အတူအိပ်ရန်ဆန္ဒမရှိဟု ဆိုခဲ့သော် သခင်မသည် အဝတ်ကောင်းကိုပြန်ချွတ်ပြီး နံနက်အထိ 'နဖိလ်'၊ 'နမာဇ်'များ ဖတ်တော်မူလေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်အား မည်မျှ 'အေဗာဒတ်' ပြုခြင်း၊ ၎င်းခင်ပွန်းသည်အား တာဝန်ကျေပွန်ခြင်းနှင့် ခင်ပွန်းသည်ကို 'အေဗာဒတ်' ပြုအောင် လှုံ့ဆော်ခြင်းများ ပြုသည်ကို သင်မတို့သိကြရပေပြီ၊ ဤအချက်များသည် သင်မတို့ လိုက်နာရန်ထိုက်သော အချက်များဖြစ်ပေသည်။

## ဖွာတွေမဟ်နိုင်စာပူရီ (ရဟော့) သခင်မ အကြောင်း

ပြည့်စုံသော သူတော်စင် တစ်ပါးဖြစ်သူ သွန်နူန်မစ်စွရီ (ရဟော့) သခင်က မိန့်သည်မှာ....ဤသခင်မဖြင့် ကျွန်ုပ်မှာ ဘာသာရေးရာ များစွာ အကျိုးဖြစ်ထွန်းခဲ့သည်၊ သခင်မက မိန့်သည်မှာ.... အကြင်သူသည် အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်မြတ်အား သတိရမနေလျှင် ထိုသူသည် 'ဂိုနာဟ်' ဟူသမျှကို ကျူးလွန်မည်၊ ၎င်းနှုတ်မှ မချိန်ဆဘဲ ပြောချင်ရာ ပြောပေမည်၊ ၎င်းအကြင်သူသည် အလ္လာဟ်အသျှင်မြတ်ကို အချိန်ဟူသရွေ့ သတိရ နေလျှင် ထိုသူသည် အကျိုးမဲ့ အဟောသိက စကားများမှ နှုတ်ပိတ်နေပေမည်၊၎င်းအလ္လာဟ်အသျှင်မြတ်အား ရှက်ကြောက်နေမည်ဖြစ်သည်။

အဘူယဇီးဒ် (ရဟော့) သခင်က မိန့်သည်မှာ.... ကျွန်ုပ်သည်ဖွာတွေမဟ် (ရဟော့) သခင်မကဲ့သို့သော အမျိုးသမီးကို မတွေ့ဖူးခဲ့၊ သခင်မအား အကြောင်းတစ်ခုခုကိုပြောပြလျှင် ထိုအကြောင်းကိုသိပြီးဖြစ်နေသည်၊ မတ်က်ကဟ်မြို့တော်၌ အွမ်ရဟ်ပြုရန် သွားနေစဉ် ဟစ်ဂျ်ရီတော် ၂၂၇-ခုနှစ်၌ ကွယ်လွန်တော်မူလေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ် အသျှင်မြတ်အား အမြဲတစေ သတိရနေရမည် ဟု မွန်မြတ်သော လမ်းစဉ်ကို မိန့်ခဲ့လေသည်၊ ဤသို့ အမြဲထာဝရ အလ္လာဟ်အသျှင်မြတ်အား သတိရ တသနေသူသည် 'ဂိုနာဟ်' အကုသိုလ်အပေါင်းမှ လွတ်ကင်းနေမည်ဖြစ်သည်၊ သခင်မသည် 'ကရှ်ဖ်' အသိပွင့်သည်ဟူ၍လည်း သိရပေသည်၊ ဤသို့ 'ကရှ်ဖ်' ပွင့်ခြင်းမှာ အဆင့်အတန်းမြင့်သော အရာမဟုတ်၊ အကယ်၍ကောင်းသော သူများကို ရလျှင်ကား ကောင်းပေသည်။

## အစ္စမာအီလ် သခင်၏ သမီး ရာဗေယအဟ် (ဝါ) ရာဗေအဟ် (ရဟော့) သခင်မ အကြောင်း

ဤသခင်မသည် တစ်ညလုံး 'အေဗာဒတ်' ပြုတော်မူသည် ထာဝရ 'ရိုဇဟ်' ဥပုသ် စောင့်တော်မူသည်၊သခင်မကမိန့်သည် 'အသာန်' ဆိုသောအသံကြားလျှင် 'ဓောယာမတ်'

နေ့၌ခေါ်မည့် 'ဖွရစ်ရှိတဟ်' ကိုသတိရသည်၊ နေပူရှိန်ကို မြင်ရလျှင် 'ကေယာမတ်'နေ့၏ အပူရှိန်ကို သတိရသည်။

သခင်မ၏ခင်ပွန်း အစ်ဗ်နွလ်ဟာဝါရီ (ရဟေ့) သည် သူတော်စင်တစ်ပါးဖြစ်သည်၊ ၎င်းက သခင်မအား မိန့်သည်မှာ....ကျွန်ုပ်သည် သင်မနှင့် မောင်နှမ သဘောထားသည်၊ အတူအိပ်ကြရန် စိတ်ဆန္ဒမရှိ၊ သခင်မက မိန့်သည်မှာ.... အကြင်သူသည် 'အဗောဒတ်' ခ'ဝပ်မှုများပြုနေလျှင် အလ္လာဟ်အသျှင်မြတ်က ထိုသူ့ကို ၎င်း၏အပြစ် 'ဂိုနာဟ်' များ သိစေတော်မူသည်၊ သို့ရှိရာ ထိုသူသည် မိမိ၏အပြစ် 'ဂိုနာဟ်' များကိုသိလေရာ အခြားသူများ၏ အပြစ်များကို ကြည့်တော့မည်မဟုတ်ပေ၊ ၎င်းသခင်မက မိန့်သည်မှာ ဂျင်န်များ သွားလာသည်ကိုမြင်ရသည်၊ ၎င်း 'ဟူရ်' ကညာပျိုများကိုလည်း မြင်ရသည်။

**အကျိုးကျေးဇူး။** အို အမျိုးသမီး အပေါင်းတို့ 'အဗောဒတ် ခဝပ်မှုဟူသည်မှာ ဤသည်ကို ခေါ်ဆိုပေသည်၊ သင်မတို့အချို့သည် အခြားသူများအပြစ်များကိုရှာကြံဖော်ထုတ်နေကြသည်ကို ကုစားရန် ဆေးတစ်လက် ပေးထားပေသည်၊ မိမိတို့အပြစ်ကို ကြည့်ရှုသတိရကြကုန်၊ သို့မှသာ အခြားသူများ၏ အပြစ်ကို သင်မတို့ မြင်ကြရမည်မဟုတ်ပေ၊ ဤသခင်မမှာ 'ကရှ်ဖ်' ပွင့်သည်ဟုလည်း သိရပေသည်၊ 'ကရှ်ဖ်' ပွင့်သောကိစ္စကို အထက်တွင် ရေးခဲ့ပေပြီ။

# အွမ်မေ့ဟာရူန် (ရဟေ့) သခင်မ အကြောင်း

ဤသခင်မသည် အလ္လာဟ်အသျှင်မြတ်ကို များစွာ ကြောက်ရွံ့လေသည်၊ 'အဗောဒတ်' လည်း များစွာပြုသည်၊ ၎င်းမုန့်အလွတ် (အခြောက်တိုက်) ကိုသာ စားသည်၊ ညအချိန် ရောက်လာလျှင် စိတ်ပျော်ရွှင်ပြီး နေ့တွင် စိတ်ညစ်သည်....ဟု မိန့်တော်မူသည်၊ သခင်မသည် တစ်ညတာလုံး မအိပ်ဘဲ 'အဗောဒတ်' ပြုတော်မူသည်၊ နှစ် (၃၀) ထိ ခေါင်းတွင် ဆီထည့်တော်မမူ၊ ထိုသို့ ဆီမထည့်သော်ငြားလည်း ဆံပင်ကို ဖြေလိုက်ပါက သန့်ရှင်းတောက်ပနေသည်၊ တစ်ခါက အပြင်သို့ ထွက်သွားတော်မူရာတစ်ဦးဦးကတစ်ဦးကို ဖမ်းဟူ၍ ပြောသံကိုကြားခါ 'ကေယာမတ်'နေ့ကို သတိရပြီး မူးမေ့လဲသွားခဲ့သည်၊ ၎င်း တစ်ခါက တောတွင်းသို့သွားရာ ရှတ်တစ်ရက် ကျားတစ်ကောင်နှင့် ရင်ဆိုင်တွေ့သည်၊ သခင်မက အကယ်၍ ကျွန်ုပ်သည် သင့်၏အစာဖြစ်မူစားကုန်ဟု မိန့်လေ၏၊ ကျားသည် ကျောလှည့်၍ တောတွင်းသို့ ဝင်သွားလေသည်။

**အကျိုးကျေးဇူး။** (စွဗ်ဟာနလ္လာဟ်) သခင်မသည် အလ္လာဟ်အသျှင်မြတ် အား များစွာ သတိရတော်မူပြီးများစွာ ကြောက်ရွံ့တော် မူလေသည်၊ ကျားနှင့်ပတ်သက်၍ကား သခင်မ၏ 'ကရာမတ်'ဖြစ်သည် 'ကရာမတ်'ကို 'ကရှ်ဖ်' အကြောင်းကိုရေးခဲ့သည့်အတိုင်း မှတ်ယူကုန်၊ အို.... အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်

အသျှင်မြတ်အား ကြောက်ရွံ့ရန်နှင့် သတိရနေရန်ကိုစိတ်၌ ပေါ်ပေါက်အောင် ပြုကြကုန်၊ နောက်ဆုံးတစ်နေ့ 'ကေယာမတ်' လည်း လာပေဦးမည်၊ ထိုနေ့အတွက် လွတ်ကင်းရာ လွတ်ကင်းကြောင်းကို စီမံကြကုန်လော့....။

### ဟဗီးဗ်အဂျမီသခင်၏ဇနီး အွမ်ရဟ် (ရဇဟ်) သခင်မ အကြောင်း

သခင်မသည် တစ်ညတာလုံး 'အေဗာဒတ်' ပြုနေတော်မူသည်၊ ညဥ့်နောက်ဆုံးပိုင်းတွင် 'ရှင်ကား အိပ်မောကြနေသည်၊ ခရီးသည်များကားသွားနေကြပြီ' ဟုခင်ပွန်းသည်အား ပြောလေ၏၊ တစ်ခါက သခင်မ၏ မျက်စိကျိန်းလေရာမနာပါလားဟု တစ်ဦးသောသူမက မေးသဖြင့် ကျွန်မစိတ်၏ နာကျင်မှုသည် ဤသည်ထက် ပိုမိုပြင်းထန်သည်ဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်အသျှင်မြတ်အားချစ်ခင်မှု၏ နာကျင်မှုကို စိတ်၌ စွဲပေါ်အောင် ပြုကြကုန်၊ သို့မှသာ အခြားအရာများအတွက် နာကျင်မှုသည် မပြောပလောက်သောအရာများ ဖြစ်သွားပေမည်။

### အွမ်မတွလ်ဂျလီလ် (ရဇဟ်) သခင်မ အကြောင်း

ဤသခင်မသည်သူတော်စင်မကြီးတစ်ပါးဖြစ်သည်၊တစ်ခါက 'ဝလီ' သည်အဘယ်သို့သောသူကိုခေါ်သနည်းဟူ၍ ပုဂ္ဂိုလ်ကြီးများတွင် အငြင်းဖြစ်ကြသည်၊ အားလုံးသည် အွမ်မတွလ်ဂျလီလ် (ရဇဟ်) သခင်မထံ သွားရောက်မေးရန် ဆုံးဖြတ်ကြပြီးမေးကြသည်၊ သခင်မက မိန့်သည်မှာ ဝလီသည် အချိန်ဟူသရွေ့ အလ္လာဟ်အသျှင်မြတ်အား 'အေဗာဒတ်' ပြုတသနေခြင်းမှတစ်ပါး အခြားအလုပ်မရှိသူဖြစ်သည်၊ အခြားအလုပ်တွင် စိတ်ဝင်စားသူသည်ဝလီ မဟုတ် လူညာပင်ဖြစ်သည်။

**အကျိုးကျေးဇူး။** မည်မျှ မြင့်မြတ်သော သခင်မ ဖြစ်ပေသနည်း၊ ပုဂ္ဂိုလ်ကြီးများကပင် ဤကဲ့သို့ကိစ္စများကို သွားရောက် မေးမြန်း ကြရသည်၊ သခင်မက ဝလီ အမှတ်အသားကို ကောင်းစွာ ပြောပြတော်မူသည်၊ အို....အမျိုးသမီးအပေါင်းတို့၊ သင်မတို့လည်း ဤသည်ကို ရနိုင်အောင် ကြိုးစားကြကုန်၊ မိမိတို့၏ လုပ်ငန်းဟူဟူသမျှထက် အလ္လာဟ်အသျှင်မြတ် အား သတိရ တသသော လုပ်ငန်းကို အားပေးပြုမူကြကုန်။

### ကေလာဗ်သခင်၏သမီး အိုမိုင်ဒဟ် (ရဇဟ်) သခင်မ အကြောင်း

မာလစ်က်ဗင်န်ဒီနာရ် (ရဇဟ်) သခင်သည် ပြည့်စုံသော သူတော်စင်ကြီးတစ်ပါးဖြစ်ပေသည်၊ ဤသခင်မသည် မာလစ်က်(ရဇဟ်)သခင့်ထံသွားလာလေ့ ရှိပေသည်၊အချို့

သူတော်စင်များက ဤသခင်မသည် ရာဗေအဟ်(ရဟော့)သခင်မထက် အဆင့်အတန်းမြင့်မားသည်ဟု မိန့်ကြသည်၊ အလ္လာဟ်အသျှင်မြတ်ထံသွားရန်ကို အခြားသောအရာများထက် ပိုမိုချစ်ခင်မှသာလျှင် 'မွတ်တကီ' ဖြစ်နိုင်သည်ဟု တစ်ဦးသောသူ၏ ပြောသံကိုကြားလေရာ၊ သခင်မသည် မူးမေ့လဲကျသွားလေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်ထံသွားရန် ဇွဲသန်သော သခင်မဖြစ်တော်မူသည်၊ ယခုမူကား သေမည်ဆိုသောစကားကိုပင် မကြားလိုကြပေ ၊ဤသို့ဖြစ်ရခြင်းမှာ ဒွန္နယာလောကကို ခင်တွယ်စွဲလန်း၍သာ မသေလိုခြင်း ဖြစ်သည်၊ ဒွန္နယာလောက၏ ခင်တွယ်စွဲလန်းမှုကို စိတ်မှ ပျောက်ပစ်လိုက်လျှင် အလ္လာဟ်အသျှင်မြတ်နှင့် တွေ့လိုသောစိတ် ပေါ်ပေါက်လာမည် ဖြစ်ပေသည်။

## အဗီရဟ်အာဗေဒဟ် [ရဟော့] သခင်မ အကြောင်း

တစ်နေ့သောအခါများစွာသောသူတော်စင်များသည်သခင်မထံလာရောက်ကြပြီး ကျွန်တော်တို့အတွက် ဒိုအာပြုပေးပါဟု လျှောက်ကြ၏၊ သခင်မက မိန့်သည်မှာ... ကျွန်မသည် ဂိုနာဟ်ဂါရ်ဖြစ်သည်၊ ဂိုနာဟ်ပြုကျင့်သည့်အတွက် လူသားသည် အအ, ဖြစ်သွားပါက ကျွန်မသည် စကားပြောနိုင်မည်မဟုတ်၊ သို့သော် ဒိုအာပြုခြင်းသည် စွန္နတ်တော်ဖြစ်၍ ဒိုအာပြုပေးမည်၊ ထို့နောက် အားလုံးအတွက် ဒိုအာပြုပေးတော်မူလေသည်။

**အကျိုးကျေးဇူး။** သခင်မသည် သူတော်စင်မကြီးတစ်ပါးဖြစ်ပါလျက် မိမိကိုယ်ကို မစွမ်းနိုင်သူ၊ ဂိုနာဟ်ဂါရ် အကုသိုလ်ကျူးလွန်သူဟု ယူဆလေသည်၊ ယခုမူကား အချို့သည် တတ်စ်ဗီးဟ် ၂-၃ကြိမ် ဖတ်ရုံမျှဖြင့် မိမိကိုယ်ကို သူတော်ကောင်းဟုထင်နေကြသည်၊ အလ္လာဟ်အသျှင်မြတ်သည်ကြွားဝါဂုဏ်ဖေါ်ခြင်းကို နှစ်သက်တော်မမူပေ၊ အဖြစ်ဟူသမျှ၌ မိမိကိုယ်ကို နှိမ့်ချရမည်၊ အမှန်မှာလည်း လူသားသည် များစွာသော အပြစ်များ ဝိုင်းရံလျက်ရှိသည်၊ ၎င်းအဗေဒတ်ပြုကာ မိမိအပြစ်များကို ကြည့်ရှုပါက မိမိကိုယ်ကို ကြီးမြင့်သည်ဟု အထင်ရောက်မည် မဟုတ်ပေ။

## ရှအ်ဝါနဟ် [ရဟော့] သခင်မ အကြောင်း

သခင်မသည် အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ကာ များစွာ ငိုကြွေးတော်မူသည်၊ ကျွန်မသည် မျက်ရည်များ လုံးဝမကျန်တော့အောင် ငိုပစ်ချင်သည်၊ ၎င်းနောက် သွေးမျက်ရည်ဖြင့် တစ်ကိုယ်လုံးတွင် သွေးများ မကျန်အောင် ငိုချင်သည်ဟု မိန့်တော်မူလေ၏။

သခင်မ၏ အိမ်အဖေါ်က မိန့်သည်မှာ.... ကျွန်မသည် သခင်မအား မြင်ရကတည်းက ဒွန္နယာလောကကို ခင်တွယ်မက်မောသောစိတ် ပ,ပျောက်သွားသည်၊ ၎င်းမည်သည့်မွတ်စလင်မ်ကိုမှ သေးသိမ်သူဟုမထင်မှတ်တော့ပေ။ ဖို့သွိုင်လ်ဗင်န်အယားသွ

(ရဟေ့) သခင်သည့် ထင်ရှားသော သူတော်စင်တစ်ပါး ဖြစ်သည်၊ သခင်သည် ဤ ရှအ်ဝါနယ်(ရဟေ့)သခင်မထံ သွား၍ ဒိုအာ အပြုခိုင်းလေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့၍၊ ချစ်ခင်၍ ငိုခြင်းသည် အလွန် ကြီးကျယ်သော စည်းစိမ် ဖြစ်ပေသည်၊ အကယ်၍ တစ်ကယ် မငိုချင်သော်လည်း ငိုယိုသောသဏ္ဍာန်ဆောင်ကုန်၊ အလ္လာဟ် အသျှင်မြတ်သည် ကျိုးငယ်နှိမ့်ချတောင်းဆိုမှုကို သနားကရုဏာသက်လာတော်မူပေမည်၊ ၎င်းသူတော်စင်ထံ သွားရောက် တွေ့ဆုံ ထိုင်ခြင်းဖြင့် မည်သို့ အကျိုးသက်ရောက်ကြောင်း သိကြရပေပြီ၊ သခင်မ၏ အိမ်ဖော်က အကျိုးသက်ရောက်ပုံကို ဖေါ်ပြထားပေသည်။ သင်မတို့လည်း ကောင်းသောသူများနှင့်သာ တွေ့ဆုံဆက်ဆံကြကုန်၊ မကောင်းသောသူမများနှင့် တွေ့ဆုံ ဆက်ဆံခြင်း မပြုကြနှင့်။

## အာမေနဟ် ရမလိယဟ် (ရဟေ့) သခင်မ အကြောင်း

ဘာရှရိဗင်နှိဟာရစ်(ရဟေ့)မည်သော သူတော်စင်တစ်ပါးရှိလေသည်၊ သခင်သည် ဤသခင်မထံ လာရောက်လေ့ရှိလေသည်၊ တစ်ခါက ဘာရှရ်(ရဟေ့)သခင်သည် မကျန်းမမာ ဖြစ်၍ နေရာ၊ သခင်မသည် မေးမြန်းရန် သွားတော်မူသည်၊ ကြီးကျယ်သော အေမာမ်တစ်ပါးဖြစ်သူ အေမာမ် အဟ်မဒ်ဗင်န် ဟန်ဗလ် (ရဟေ့) သခင်လည်း လူမမာ မေးရန် ရောက်လာသည်၊ အေမာမ် သခင်သည် ရမ်လဟ် မှ လာသော အာမေနဟ် (ရဟေ့) သခင်မ ဖြစ်ကြောင်း သိရသဖြင့် ဘာရှရ် (ရဟေ့) သခင်မှ တဆင့် 'ဒိုအာ' တောင်းပေးရန် အပြောခိုင်းလေသည်၊ ထိုအခါ အေမာမ် သခင်၏ ခိုင်းစေချက် အရ (ဘာရှရ်ရဟေ့)သခင်က သခင်မအား ဒိုအာပြုပေးရန် လျှောက်လေ၏။ အို... အလ္လာဟ် အသျှင်မြတ်၊ ဘာရှရ်နှင့်အဟ်မဒ်က ဂျဟန္နမ်ငရဲဘုံမှ လွတ်ကင်းလိုကြသည်၊ ဤသူနှစ်ဦး ကိုဂျဟန္နမ်၏ မီးဘေးမှ လွတ်ကင်း ချမ်းသာမှု ပေးတော်မူပါ....ဟု သခင်မက ဒိုအာ ပြုပေးလေ၏။

အေမာမ်အဟ်မဒ်(ရဟေ့)သခင်ကမိန့်သည်မှာ... သခင်မကဒိုအာပြုပေးပြီးနောက် တစ်ညတွင် စာရွက်တစ်ရွက် အပေါ်မှကျလာသည်၊ စာတွင် ပထမဦးစွာ 'ဗစ်မစ်လ္လာဟ်' ရေးထားပြီးနောက်၊ ငါအသျှင်က လက်ခံတော်မူသည်၊ ၎င်းပြင် ငါအသျှင့်ထံတော်တွင် စည်းစိမ်များလည်း ရှိသေးသည်ဟု ရေးသားပါရှိလေသည်။

**အကျိုးကျေးဇူး။** စွဗ်ဟာနလ္လာဟ်၊ မည်မျှဒိုအာ'ကဘူလ်'ဖြစ်သောသခင်မဖြစ်ပေသနည်း။ အို....အမျိုးသမီးတို့၊ ဤသို့ 'ဘရ်ကတ်'ဖြစ်ခြင်းသည် ပြည့်စုံ တိကျစွာ အမိန့်တော်မြတ်များကို လိုက်နာဆောက်တည်သောကြောင့် ရရှိခြင်းဖြစ်သည်၊ အကြင်သူသည် အလ္လာဟ်ရစူလ်၏ အမိန့်တော်ကို တိကျစွာ လိုက်နာလျှင် ထိုသူ့ကို

အလ္လာဟ်အသျှင်မြတ်က လိုသောဆု ပေးသနားတော်မူလေသည်၊ သို့ရှိရာ အမိန့်တော်မြတ်များကို လိုက်နာဆောက်တည်ကြရန် ကြိုးစားအားထုတ်ကြကုန်။

## ဇိုင်ဒ်မင်န် အမင်လ် ဖွဝါရစ် သခင်၏ သမီး မန်ဖွူစဟ် [ရဇော့] သခင်မ အကြောင်း

သခင်မသည် ကလေးသေဆုံးသွားလေရာ၊ ကလေး၏ဦးခေါင်းကို ရင်ဝယ်ပိုက်၍ ကျွန်ုပ်အလျှင်သွားခြင်းက၊ ကျွန်ုပ်နောက်နေရစ်ခဲ့ခြင်းထက် ပို၍ကောင်းသည်ဟုမိန့်တော်မူလေ၏။ ဆိုလိုသည်မှာ....ကျွန်ုပ်အလျှင်သေဆုံးခြင်းဖြင့်၊ ကလေးက ကျွန်ုပ်ကို ချမ်းသာရရန် တောင်းဆိုပေမည်၊ ၎င်းကလေးမှာလည်း အပြစ်မရှိဖြစ်မည်၊ အကယ်၍ ကျွန်ုပ်နောက်တွင် နေရစ်ခဲ့ရမူ ဂိုနာဟ်အကုသိုလ်များ ကျူးလွန်မိလျှင် ကျွန်ုပ်ကို ချမ်းသာရအောင် တောင်းပေးနိုင်မှ တောင်းပေးနိုင်မည်။

ကျွန်ုပ်၏ သည်းခံခြင်းသည် ပူဆွေးခြင်းထက် ကောင်းသည်၊ ခွဲခွာရသည့်အတွက် ဝမ်းနည်းရသည်ထက် ကုသိုလ်'သဝါဗ်' ရသည်အတွက် ပို၍ ဝမ်းသာသည်ဟု မိန့်တော်မူလေ၏။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ တစ်ဦးဦးကွယ်လွန်သေဆုံးပါက အထက်ပါ စကားများကိုပြောပြီးမိမိကိုယ်ကိုဆုံးမလျှင်(အင်န်ရှာအလ္လာဟ်) လုံလောက်ပေမည်။

## အလီ [ရဇွေ့] သခင်၏ မြေး၏မြေးမ ဇိုင်ဒ်ယေဘဟ် နဖွီစဟ် [ရဇော့] သခင်မ အကြောင်း

၎င်းသခင်မသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အနွယ်တော်မှဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော်...၎င်းသခင်မသည် အလီ(ရဇွေ့)သခင်၏မြေး ဇိုင်ဒ်သခင်၊ ၎င်းဇိုင်ဒ်သခင်၏ မြေးမဖြစ်သည်။

သခင်မသည် ဟစ်ဂျ်ရီတော် ၁၄၅-ခုနှစ်တွင် မတ်က်ကဟ်မြို့တော်၌ မွေးဖွားတော်မူသည်၊ အေဗာဒတ်ခ ဝပ်မှုဖြင့်ပင် အချိန်များကို ကုန်လွန်စေတော်မူသည်၊ ကြီးကျယ်သော အေမာမ်တစ်ပါး ဖြစ်သူ အေမာမ်ရှာဖွေအီ(ရဟေ့)သခင်သည် မစ်စွင်ရ် နိုင်ငံသို့ လာသောအခါ သခင်မအား တွေ့ဆုံရန် သွားလာတော်မူလေ့ရှိသည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ အင်လ်မ်ဘာသာရေးပညာနှင့် အေဗာဒတ်ပြု၍ ကြီးကျယ်မွန်မြတ်လာမှုကြောင့် ကြီးကျယ်သော အေမာမ်သခင်ပင်သခင်မထံလာရောက်တွေ့ဆုံရလေသည်၊ သင်မတို့လည်းအင်လ်မ်ကိုသင်ယူ ကြကုန် ထိုအင်လ်မ်အသီအပေါ် လိုက်နာဆောက်တည်ကြကုန်၊ သို့မှသာသင်မတို့လည်း ကြီးကျယ်မွန်မြတ်လာပေမည်။

## မိုင်မူနဟ်စေခ်ဒါအ် [ရဟေ့] သခင်မ အကြောင်း

အဗ်ဒွလ်ဝါဟစ်ဒ်ဗင်န်ဇိုင်ဒ် (ရဟေ့) သခင်သည် သူတော်စင်တစ်ပါး ဖြစ်သည်၊ သခင်ကမိန့်သည်မှာ... ဂျန္နတ်၌အတူနေရမည့်သူမကို ကျွန်တော်မျိုးအား ပြသတော်မူပါဟု အလ္လာဟ်အံသျှင်မြတ်ထံတော်တွင် ဒိုအာပြုရာ ဂျန္နတ်တွင် သင်နှင့်အတူနေရမည့်သူမသည် မိုင်မူနဟ်စေခ်ဒါအ်ဖြစ်သည်ဟု မိန့်လေ၏၊ အဘယ်နေရပ်ဌာနက ဖြစ်ပါသလဲဟု မေးလျှောက်ရာ၊ ကူဖွာမြို့မည်သည့်အနွယ်မှဟူ၍မိန့်တော်မူ၏။ ကျွန်ုပ်သည် ကူဖွာမြို့သို့သွားပြီး မေးမြန်းစုံစမ်းရာ၊ ထိုသူမသည် အရူးမဖြစ်သည်၊ ဆိတ်များကြောင်းသည်ဟု သိရသည်၊ ကျွန်ုပ်သည် တောတွင်းသို့လိုက်သွားရာ၊ ရပ်လျက် နမာဇ်ဖတ်နေသည်ကို တွေ့ရသည်၊ ဆိတ်များ နှင့် ဝံပုလွေများသည် အတူကျက်စားနေကြသည်။

သူမက 'စလာမ်'လှည့်ပြီးနောက် အို အဗ်ဒွလ်ဝါဟစ်ဒ် သွားကုန်လော့ ၊တွေ့ဆုံရန်ကတိသည် ဂျန္နတ်၌သာရှိသည်ဟုမိန့်၏၊ ကျွန်ုပ်သည် မိမိအမည်ကို ခေါ်လိုက်သဖြင့် အံ့အားသင့်သွားသည်၊ ကျွန်ုပ်အမည်ကို အဘယ်ကဲ့သို့ သိသနည်းဟု မေးရာ၊ ထိုဌာန ဂျန္နတ်၌သိကျွမ်းကြမည့်ဝိညာဉ်များတွင် ယခုကတည်းက ချင်ခင်မှုရှိသည်ဟုမိန့်လေသည်၊ ဆိတ်နှင့်ဝံပုလွေများကို တစ်နေရာတည်း မြင်နေရသည်မှာ အဘယ်သို့ပါနည်းဟု မေးရာ၊ ပြန်၍မိမိအလုပ်ကိုလုပ်ကုန်၊ ကျွန်မသည် မိမိလုပ်ငန်းစဉ်ကို အလ္လာဟ်အသျှင်မြတ်အလိုရှိတော်မူသည်နှင့် ကိုက်ညီအောင် ပြုသဖြင့် အလ္လာဟ်အသျှင်မြတ်က ကျွန်မ ဆိတ်များနှင့် ဝံပုလွေများကို သင့်တင့်အောင်ပြုပေးတော်မူသည်ဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** ဤသခင်မ၏ ကံရှိဖို့နှင့်ကရာမတ် နှစ်ရပ်စလုံးရသည်ကိုထောက်၍ သခင်မသည် ဤ'ဘရ်ကတ်'ရသည်မှာ ရှရီအတ် တရားတော်မြတ်ကို ပြည့်စုံတိကျစွာ လိုက်နာဆောက်တည်သောကြောင့် ဖြစ်ပေသည်။ အို... အမျိုးသမီးအပေါင်းတို့၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်များကို နာခံ ဆောက်တည်ရန်အတွက် အသင့်ပြင်နေကြကုန်။

## ရှိုင်ဟာနဟ်မဂျ်နူနဟ် (ရဟေ့) သခင်မ အကြောင်း

သူတော်စင်တစ်ပါးဖြစ်သော အဗ္ဗရ်ရဗီးအ်(ရဟေ့)သခင်ကမိန့်သည်မှာ.... ကျွန်ုပ်နှင့် တကွ သူတော်စင်များဖြစ်သော မုဟမ္မဒ်ဗင်န်အလ်မွန်ကဒင်ရ် နှင့် သာဗစ်တ်ဘနာနီ (ရဟေ့)သခင် နှစ်ပါးတို့သည် ရှိုင်ဟာနဟ်(ရဟေ့)သခင်မထံ ဧည့်သည် အဖြစ် သွားရောက်ကြသည်။

သခင်မသည်ညဉ့်ဝက်မတိုင်မီထ၍ လိုလားစွဲမက်သူသည် ချစ်သူဘက်သို့သွားသည်၊ စိတ်သည် ပျော်ရွှင်လွန်းအားကြီးပြီး ခုန်ထွက်မတတ်ဖြစ်နေသည်ဟုမိန့်လေ၏၊ ညဉ့်ဝက်တွင်အလ္လာဟ်အသျှင်မြတ်ကို သတိမေ့စေသော ပစ္စည်းကို စိတ်စွဲလန်းရန်မထိုက်၊ ညတွင်ငိအေဗာဒတ်ခံ့ဝပ်မှုကို ကောင်းစွာကြိုးစား၍ ပြုရန်ထိုက်သည်၊ သို့မှသာ လူသားသည်

အလ္လာဟ်အသျှင်မြတ်ထံ အချစ်ခံရသူဖြစ်မည်ဟု မိန့်လေသည်၊ ညကုန်လွန်ကာနီးအချိန်တွင် ကျွန်မဆုံးရှုံးပါပြီဟု အော်ဟစ်သည်၊ ကျွန်ုပ်သည်လန့်ဖြန့်၍ အဘယ်သို့ဖြစ်ပါသနည်းဟု မေးမိသည်၊ အလ္လာဟ်အသျှင်မြတ်အား စိတ်စွဲလန်းစွာ 'အေဗာဒတ်' ပြုရန် အကောင်းဆုံးသောညသည် ကုန်လွန်လေပြီဟု မိန့်လေ၏။

**အကျိုးကျေးဇူး။** သခင်မသည် ညကိုမည်မျှ စွဲမက်ကြောင်း သိကြရပေပြီ၊ 'အေဗာဒတ်' ပြုရခြင်း၏ အရသာကို သိလို့ရလိုသော သူများထံသာလျှင် ညသည်တန်ဖိုးရှိလေသည်၊ အို အမျိုးသမီးတို့ သင်မကိုလည်း ညတွင်အနည်းငယ်မျှ အချိန်တစ်ချိန်ကို 'အေဗာဒတ်' ပြုရန် သတ်မှတ်ထားကြကုန်၊ အလ္လာဟ်အသျှင်မြတ်အပြင် အခြားအရာကိုစိတ်စွဲခြင်း၏မကောင်းကြောင်းသခင်မကမိန့်ထားပေသည်၊ သင်မတို့လည်း ရွှေ၊ ငွေ၊ ပစ္စည်း၊ အဝတ်အစား၊ သားသမီး၊ အမွေပစ္စည်း၊ ပန်းကန်အိုးခွက်နှင့် အိမ်ရာအဆောက်အအုံများကို များစွာစိတ်စွဲလန်းမှု မထားကြနှင့်။

## စစ်ရီဇကတွဓ (ရဟေ့) သခင်၏ တပည့်မတစ်ပါး အကြောင်း၊

သခင်၏တပည့်တစ်ပါးကအကြောင်းပြုခဲ့သည်၊ ကျွန်ုပ်တို့ဆရာ၏တပည့်မတစ်ပါး၏ ကလေးသည် ကျောင်းနေသည်၊ ထိုကျောင်းဆရာက ကလေးအား အလုပ်တစ်ခုနှင့် ခိုင်းလိုက်ရာ ကလေးသည် သွားရင်း ရေနစ် သေဆုံး သွားလေသည်၊ ကျောင်းဆရာက သိသောအခါ စစ်ရီ (ရဟေ့) သခင်ထံသွား၍ အကြောင်းကြားသည်၊ သခင်သည် တပည့်မအိမ်သို့သွား၍ သည်းခံရန် ဆိုဆုံးမတော်မူသည်၊ သခင်မက အဘယ့်ကြောင့် သည်းခံရန် ဆုံးမပါသနည်းဟု လျှောက်ရာသခင်မ၏ကလေးရေနစ်သေသွားပြီဟုမိန့်လေ၏၊ ကျွန်မသားလားဟုမေးရာ ဟုတ်ကြောင်း သခင်ကမိန့်၏၊ ကျွန်မသားသည် ရေနစ်မသေနိုင်ဟုပြောခါ သားရေနစ်သောနေရာသို့ သွားလေသည်၊ ထိုနေရာသို့ ရောက်သောအခါ ဟေ့.... 'ဇွာရိ' ဟု သခင်မသည် သားငယ်အမည်ကိုခေါ်သည်၊ သားကလည်း 'အမေ'ဟု ဖြေခါ ရေအတွင်းမှ အသက်ရှင်လျက် ထွက်လာလေသည်။

စစ်ရီ (ရဟေ့) သခင်က ဂျူနိုင်စ် (ရဟေ့) သခင်အား ဤအကြောင်းကိုမေးရာ သခင်က မိန့်သည်မှာ ဤသူမမှာ အဆင့်အတန်းမြင့်မားမှုတစ်ခုရှိသည်၊ သူမအပေါ် ဒုက္ခတစ်ခုခုကျရောက်မည်ဆိုလျှင်အလ္လာဟ်အသျှင်မြတ်ကအသိပေးသည်၊ ထို့ကြောင့်ဤကိစ္စကို မသိရသဖြင့် မဖြစ်နိုင်ဟု ပြောခြင်းဖြစ်သည်။

**အကျိုးကျေးဇူး။** 'ဝလီ' သူတော်စင်များသည် အဆင့်အတန်းတစ်မျိုးစီ ရှိကြသည်၊အကြောင်းအချို့ကို အလျှင်မသိသော 'ဝလီ' ထက် သိသော'ဝလီ'ကသာမြတ်သည်ဟု မထင်မှတ်ကြနှင့် အလ္လာဟ်အသျှင်မြတ်သည် ပေးလိုသော 'ဝလီ' အား အလိုရှိတော်မူသည့်အတိုင်း ပေးသနားတော်မူသည်၊ သို့သော်လည်း

ဤ 'ကရာမတ်' သည် ကြီးပေသည်၊ ဤသို့ 'ဘရ်ကတ်' ရရှိခြင်းသည် အလ္လာဟ် ရစူလ်၏ အမိန့်တော်များကို လိုက်နာဆောက်တည်၍ ရရှိခြင်းဖြစ်သည်၊ ဤသို့ ကြီးကျယ်မှုရရှိရန် ကြိုးစားကြရန် ထိုက်သည်၊ အလ္လာဟ်အသျှင်မြတ်သည် ဤသို့သော အဆင့်အတန်းကို ပေးလိုက ပေးတော်မူပြီး ဤသည်ထက် မြင့်မားသော အဆင့်အတန်းကို ပေးလိုကလည်း ပေးတော်မူပေမည်၊ မိမိတို့ဘက်မှ 'အေဗာဒတ်' ခ ဝပ်မှု ပိုမိုပြုကြရန် ထိုက်လေသည်။

## တွဟ်ဖွာဟ် (ရဇေဟ်) သခင်မ အကြောင်း

စစ်ရီစကတ္ထိ (ရဟေ့) သခင်က အကြောင်းပြုခဲ့သည်၊ တစ်ခါကကျွန်ုပ်သည်ဆေးတိုက်သို့သွားလေရာ အမျိုးသမီးတစ်ဦးသည် အချစ်လက်ာများဖတ်လျက် ငိုနေသည်ကိုတွေ့ရသည်၊ ကျွန်ုပ်သည် အစောင့်အား မေးကြည့်ရာ စိတ်မနှံ့သူဖြစ်ကြောင်း သိရသည်၊ စိတ်မနှံ့ဟု ပြောသံကြားကာ သူမသည် ပို၍ငိုသည်၊ သူမက ကျွန်မသည် သူရူးမဟုတ် အချစ်ရူးဖြစ်သည်ဟုပြောသည်၊ ကျွန်ုပ်က မည်သူ့ကိုချစ်သနည်းဟုမေးရာ ကျွန်မတို့ကို စည်းစိမ်များ ပေးတော်မူပြီး အမြဲထာဝရ အနီးအပါးတွင် ရှိတော်မူသော အလ္လာဟ် အသျှင်မြတ်ကို ချစ်သည်ဟု ပြောသည်။

ထိုအချိန်၌ သူမကို ပိုင်ဆိုင်သောဆရာသည် ရောက်လာပြီး တွဟ်ဖွာဟ် အဘယ်မှာနည်းဟု အစောင့်အားမေးသည်၊ အဖဲ့စောင့်က အတွင်း၌ရှိသည်ဟု ဖြေသဖြင့်ဝင်လာသည်၊ ၎င်းသည် ကျွန်ုပ်ကိုမြင်ပြီး အရိုအသေပေးသည်၊ ကျွန်ုပ်က ကျွန်ုပ်ထက် ဤကလေးမကို ပို၍ အရိုအသေ ပေးထိုက်ကြောင်း ပြောပြသည်၊ သင်သည် သူမကို ဤသို့အဘယ်ကြောင့် ပြုထားသနည်းဟု ကျွန်ုပ်က မေးလိုက်သည်၊ ၎င်းက ပြောသည်မှာ.... ဤသူမအတွက် ကျွန်တော်၏ စည်းစိမ်အားလုံးကုန်ခဲ့သည်၊ ငွေနှစ်သောင်းဖြင့်ဝယ်ထားသည်၊ ကောင်းစွာ အမြတ်ရမည်ဟု ကျွန်တော်ထင်ခဲ့သည်၊ သို့သော်လည်းသူမသည် မစားမသောက် နေ့ည ငိုနေသည်၊ ထိုအခါကျွန်ုပ်က ကျွန်ုပ်ကိုရောင်းပါဟုပြောလိုက်သည်၊ သခင်သည် 'ဖွကီးရ်' ဖြစ်၍ ဤမျှငွေပေးနိုင်မည်မဟုတ်ဟု ၎င်းကဆိုသည်။

ကျွန်ုပ်သည် အိမ်သို့ပြန်ပြီး အလ္လာဟ်အသျှင်မြတ်ထံ ငိုယို၍ 'ဒိုအာ' တောင်းနေခဲ့သည်၊ ထိုအချိန်၌ တစ်ဦးသောသူက တံခါးကိုခေါက်သည်၊ သွား၍ကြည့်ရာလူတစ်ယောက်သည် ငွေများစွာယူလာပြီး ရပ်နေသည်၊ ကျွန်ုပ်က မည်သူပါနည်းဟု မေးရာ ၎င်းက ကျွန်တော်သည် အဟ်မဒ်အစ်ဗ်နုလ်မို စန်နာဖြစ်သည်၊ ကျွန်တော်သည် သခင့်ထံငွေယူသွားရမည်ဟု အိပ်မက်မြင်မက်သည်၊ ထို့ကြောင့် လာရောက်ခြင်းဖြစ်ပါသည်ဟု ပြောသည်။

ကျွန်ုပ်သည် ပျော်ရွှင်သွား၍ ခါ မနက်တွင် ဆေးတိုက်သို့သွားခဲ့သည်၊ ထိုအချိန်၌ သူမ၏ဆရာလည်း ငို၍ရောက်လာသည်၊ ကျွန်ုပ်က မပူပါနှင့် ငွေယူလာသည် အဖိုးနှစ်ဆ တောင်းလျှင်လည်း ပေးမည်....ဟု ပြောလိုက်သည်၊ ထိုအခါ၎င်းကပြောသည်မှာ

တစ်လောကလုံး၏ ပစ္စည်းများ ရသော်လည်း ကျွန်တော် မရောင်းတော့၊ သူမကို အလ္လာဟ်အသျှင်မြတ်အတွက် သက်သက် သူကောင်းပြုပါသည်၊ ကျွန်ုပ်က အကြောင်းကိုမေးရာ ညက အိပ်မက်တွင် စိတ်ဆိုးမှုခံရသည် သခင့်ကို သက်သေထား ပါသည်၊ ကျွန်တော်၏ ပစ္စည်းများကို အလ္လာဟ်အသျှင်မြတ် လမ်းတွင် လှူပါသည်ဟု ပြောလေသည်၊ ထိုအခါ အဟ်မဒ်အစ်ဗ်နုလ်မိုစန်နာ ကလည်းငိုလေသည်၊ကျွန်ုပ်က အကြောင်းကိုမေးရာ ကျွန်တော်လည်း ရှိပစ္စည်းများကို အလ္လာဟ်အသျှင်မြတ်လမ်းတော်တွင် ပေးလှူပါသည်ဟုပြောသည်၊ ကျွန်ုပ်က (စွဗ်ဟာနလ္လာဟ်) ဘိဘိတွဟ်ဖွာဟ်အတွက် ဤမျှလူများ 'ဟေဒါယတ်' တရားလမ်းမှန် ရကြသည်ဟု ပြောလိုက်သည်။

တွဟ်ဖွာဟ်သည် ထ၍ငိုခါ သွားလေသည်၊ ကျွန်ုပ်တို့သည် အတူလိုက်သွားကြသည်၊ ခပ်ဝေးဝေး ရောက်သောအခါ တွဟ်ဖွာဟ်သည် ကျွန်ုပ်တို့နှင့်ခွဲ၍ အဘယ်သို့ ရောက်သွားမှန်း မသိတော့ပေ၊ ကျွန်ုပ်တို့သည် မတ်က်ကဟ် မြို့တော်သို့ အရောက်သွားကြသည်၊ အဟ်မဒ်ဗင်န်မို့ စန်နာသည် လမ်းတွင် ကွယ်လွန်သွားသည်၊ ကျွန်ုပ်နှင့် တွဟ်ဖွာဟ်၏ ပိုင်ရှင်ဆရာသည် မတ်က်ကဟ်မြို့သို့ ရောက်ခဲ့ကြသည်၊ ကျွန်ုပ်တို့သည် 'ကအ်ဗဟ်' ဗိမာန်တော်ကို 'တွဝါဖ်'ပြုနေရာ နာကျည်းဖွယ် ငိုသံတစ်သံကြားရသဖြင့် အနီးသို့သွား၍ အဘယ်သူနည်းဟုမေးရာ (စွဗ်ဟာနလ္လာဟ်) မမှတ်မိတော့ဘူးလား ကျွန်မ တွဟ်ဖွာဟ် ဖြစ်ပါသည်ဟု ပြောသည်။

ကျွန်ုပ်က အဘယ်အရာ ရသနည်းဟုမေးရာ ကျွန်မစိတ်တွင် အခြားသူများ ကိန်းအောင်းခြင်းမရှိတော့ဘဲ အလ္လာဟ်အသျှင်မြတ် တစ်ပါးသာ ရှိပါသည်ဟု ပြောသည်၊ အဟ်မဒ်ဗင်န်မိုစန်နာ ကွယ်လွန်ကြောင်းပြောရာ သူ့ကိုအလ္လာဟ်အသျှင်မြတ်က ကြီးကျယ်သော အဆင့်အတန်း ပေးတော်မူလိုက်သည်ဟု ပြောသည်၊ သင်မ ဆရာလည်း ပါသည်ဟု ပြောရာ သူမသည် တိုးတီးရေရွတ်လျက် သေဆုံးသွားလေသည်၊ ပိုင်ရှင်ဆရာသည်ဤအဖြစ်ကို မြင်လေရာ ၎င်းလည်း စိတ်ထိခိုက်ခါ လဲကျသွားသည်၊ စမ်းကြည့်ရာ သေနေပေပြီ၊ ကျွန်ုပ်သည် ၎င်းတို့နှစ်ဦးစလုံးအတွက်'ကဖွာန်'ထုတ်၍သင်္ဂြိုဟ်ခဲ့ရလေသည်။

**အကျိုးကျေးဇူး။** (စွဗ်ဟာနလ္လာဟ်) အလ္လာဟ်အသျှင်မြတ်ကို အဘယ်မျှ ချစ်သောသူမ ဖြစ်ပေသနည်း၊ အို...အမျိုးသမီးတို့၊ ဤသို့အချစ်ထားနိုင်ရန် လုံးပမ်း အားထုတ် ကြကုန်၊ ဤသခင်မ အကြောင်းကို ကျွန်ုပ်တို့၏ဆရာ ဟာဂျီ အင်မ်ဒါဒွလ္လာဟ်၊ မို့ဟာဂျင်ရ်မတ်က်ကီ (ရဟေ့) သခင်ကမိမိပြုစုသော (တွဟ်ဖွတွလ်အွရှိရှာက်) ကျမ်းတွင် အကျယ်တဝင့် ရေးသားထားလေသည်။

## ဂျိ့ဝိုင်ရဟီ (ရဟေ့) သခင်မ အကြောင်း၊

ဤသခင်မသည် ဘုရင်မတစ်ပါး၏ ကျွန်မဖြစ်သည်၊ ထိုဘုရင်က သခင်မကို သူကောင်းပြုခဲ့သည်၊ ထို့နောက် သခင်မသည် အဘူအဗ်ဒွလ္လာဟ်တိုရာဗီ (ရဟေ့)

သခင်၏ 'အေဗာဒတ်' ပြုပုံကိုကြည့်ခါ သဘောကျပြီး သခင်နှင့် နေကာဟ် ပြု လက်ထပ်ခဲ့သည်၊ သခင်မသည် 'အေဗာဒတ်' ခ႖ဝပ်မှုများစွာပြုတော်မူသည်၊ တစ်ခါအိပ်မက်တွင် ကောင်းမွန်လှပသောအဆောင်များမြင်မက်ရာ မည်သူ့အတွက်နည်းဟု သခင်မကမေး၏၊ တဟာဂျ်ဂျဒ် 'နမာဇ်'တွင် 'ကုရ်အာန်'ဖတ်သူအတွက် ဖြစ်သည်ဟု ပြောသည်ကို သိရသောအချိန်ကစပြီး ညတွင်မအိပ်တော့ပေ၊ ၎င်းညများတွင် ခင်ပွန်းသည်အားနှိုး၍ ခရီးသည်များ သွားနေကြသည်ဟု ပြောလေသည်။

**အကျိုးကျေးဇူး။** အို... အမျိုးသမီးအပေါင်းတို့၊ သင်မတို့သည် ကိုယ်တိုင်လည်း အလ္လာဟ်အသျှင်မြတ်အား 'အေဗာဒတ်'ခ႖ဝပ်မှုများ များစွာပြုကြကုန်၊ ၎င်းခင်ပွန်းသည်ကိုလည်း 'အေဗာဒတ်' ခ႖ဝပ်မှုပြုရန် တိုက်တွန်းလှုံ့ဆော်ကြကုန်လော့...။

## ရှားဟ်ဗင်နှ်ရှိုဂျာအ်ကင်ရ်မာနီ သခင်၏သမီး အကြောင်း

ဤပုဂ္ဂိုလ်သည် ဘုရင့်အဖြစ်ကိုစွန့်လွှတ်၍ဖွကီရ် သူတော်စင်လမ်းစဉ်ကိုခံယူသွားသူသည်၊ သခင့်တွင်သမီးတစ်ပါးရှိလေရာ ဘုရင်တစ်ပါးကကြောင်းလမ်းခဲ့သည်၊ သို့ရာတွင် သခင်က လက်မခံခဲ့ပေ၊ ဆင်းရဲသော တတ်က်ဗီရ် ကောင်းသည့် သူပျိုတစ်ယောက်ကို 'နမာဇ်' ကောင်းစွာဖတ်သည်ကို တွေ့ရသဖြင့် ထိုသူပျိုနှင့် နေကာဟ်ပြု လက်ထပ်ပေးလိုက်သည်။

သခင်မသည်အခန်းအပ်လိုက်သဖြင့်ခင်ပွန်းဖြစ်သူအိမ်သို့ရောက်လာသည်၊ ခြောက်နေသော မုန့်တစ်ဖဲ့ အိုးပေါ်တွင် အုပ်ထားသည်ကိုတွေ့ရသဖြင့် သခင်မကအကြောင်းကိုမေးသည်၊ ခင်ပွန်းဖြစ်သူက ညက စဲဟ်ရီစားရာတွင်ကျန်နေ၍'အစ်ဖ်တာရ်' 'ရိုဇဟ်'လွှတ်သောအခါ စားရန်ချန်ထားခြင်း ဖြစ်သည်ဟုပြောရာ သခင်မသည် အိမ်တွင်းသို့ ဝင်နေသောခြေလှမ်းကို နောက်ဆုတ်လိုက်လေသည်၊ ဘုရင့်သမီးသည် ကျွန်တော်ကဲ့သို့ ဆင်းရဲသားအိမ်တွင် ပျော်ရွှင်နိုင်မည်မဟုတ်ကြောင်း သိပါသည်ဟု ခင်ပွန်းသည်က ပြောသည်၊ ဘုရင့်သမီးသည် ဆင်းရဲသောကြောင့် မနှစ်မြို့ခြင်းမဟုတ်၊ ရှင်သည် အလ္လာဟ်အသျှင်မြတ်အပေါ် ယုံပုံအားထားသူမဟုတ်သဖြင့် မနှစ်မြို့ခြင်းဖြစ်သည်၊ ကျွန်မဖခင်ကိုလည်း အံ့ဩမိသည် ဖခင်က(ပါရစာ)အဖြစ်ရှောင်ကြဉ်သောသူပျိုတစ်ယောက်ဟုဆိုခဲ့သည်၊ အလ္လာဟ်အသျှင်မြတ်အပေါ် ယုံပုံအားထားခြင်းမရှိသူသည်(ပါရစာ) မဖြစ်နိုင်၊ ထိုအခါသူပျိုက အမျိုးမျိုးတောင်းပန်လေသည်၊ သခင်မက ဤအိမ်တွင်ကျွန်မနေရမည်လော့၊ ဤမုန့်ကိုထားမည်လော့ဟုမေးသည်၊ ထိုအခါသူပျိုကချက်ချင်း ထိုမုန့်ခြောက်ကလေးကို လှူဒါန်းပစ်လိုက်လေသည်၊ ထိုအခါကျမှ သခင်မသည်အိမ်တွင်းသို့ဝင်၍ ထိုင်တော်မူလေသည်၊

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ ဤသခင်မသည်လည်း အမျိုးသမီးပင်ဖြစ်သည်၊ သင်မတို့သည် သည်းခံမှုကို လက်ကိုင်ပြုကြကုန်၊ ရွှေငွေပစ္စည်းအတွက် လိုဘရမ္မက်ကို များစွာ မထားကြနှင့်။

## ဟာတင်မ်အစွာမ် (ရဟေ့) သခင်၏ သမီးငယ်ကလေး အကြောင်း

ဤသခင်သည် သူတော်စင်ကြီးတစ်ပါးဖြစ်သည်၊ သူဌေးတစ်ယောက်သည် လမ်းသွားယင်း ရေငတ်သဖြင့် ကုံ၍ ရေတစ်ခွက် တောင်း၍ သောက်သည်၊ ရေသောက်ပြီး သူဌေးကငွေပစ်ပေးသွားသည်၊တစ်အိမ်သားလုံးသည်'တဝပ်က်ကွလ်'အပေါ်တွင်နေထိုင်ကြလေရာ၊ ပျော်ရွှင်သွားကြသည်၊ ထိုအိမ်တွင် သမီးငယ်ကလေးရှိသည်၊ ထိုသမီးလေးက ငိုလေသည်၊ အကြောင်းကိုမေးကြရာ၊ အသုံးမကျသော 'ဗန္ဒဟ်' လူသားတစ်ယောက်က ကျွန်မတို့၏ အဖြစ်ကို ကြည့်ရှုသဖြင့် သူဌေးဖြစ်သွားကြပြီလော့၊ အလ္လာဟ်အသျှင်မြတ်ကား ကျွန်မတို့၏အဖြစ်ကို အမြဲထာဝရကြည့်ရှုနေတော်မူသည်၊ သို့သော်လည်း ကျွန်မတို့သည် စိတ်ကို သူဌေးအဖြစ်မထားကြသည်မှာ ဝမ်းနည်းဖွယ်ဖြစ်သည်ဟု ပြောလေသည်။

**အကျိုးကျေးဇူး** ။မည်မျှအသိတရားရှိသော ကလေးမဖြစ်သနည်း၊ ဝမ်းနည်းဖွယ်ကောင်းသည်မှာ.... ယခုခေတ်ရှိ အဘွားအိုများပင် များသောအားဖြင့် ဤသို့အသိတရားမရှိကြပေ၊ အလ္လာဟ်အသျှင်မြတ်အပေါ် အားမထားဘဲ လူလူချင်းအပေါ် အားထားနေကြသည်၊ မည်သူဖြင့် အကျိုးဖြစ်မည်၊ မည်သူက ကူညီလိမ့်မည်ဟု မျှော်လင့်နေကြသည်၊ အလ္လာဟ်အသျှင်မြတ်အတွက် မိမိတို့၏ စိတ်ကို သန့်ရှင်းဖြူစင်စွာ ထားကြကုန်လော့။

## စစ်တွလ်မို့လူးက် (ရဟေ့) သခင်မ အကြောင်း

ဤသခင်မသည် အရဗ်နိုင်ငံမှဖြစ်သည်၊ သခင်မလက်ထက်ရှိ ဝလီ သူတော်စင်နှင့်အာလင်မ်ပညာရှင်များသည်သခင့်မကို အရိုအသေပြုဂုဏ်ပေးကြသည်၊ တစ်ခါက သခင်မသည်'ဗိုင်တွလ်မို့ကတ်ဒတ်စ်'သို့ ကြွသွားတော်မူသည်၊ ထိုခေတ်က'ဗိုင်တွလ်မို့ကတ်ဒတ်စ်' တွင် အလီဗင်နိအလ်ဗတ်စ်ယမာနီ(ရဟေ့)မည်သော သူတော်စင်တစ်ပါး ရှိလေသည်၊ သခင်က မိန့်သည်မှာ... ကျွန်ုပ် ထိုဗလီဝတ်ကျောင်းတော်၌ရှိနေခဲ့သည်၊ မိုးကောင်းကင်မှ 'နူရ်'ရောင်ခြည်တစ်ခုသည် 'ဗလီဂွန်ဗဒ်'ထိ ရောက်နေသည်ကိုတွေ့ရသည်၊ ကျွန်ုပ်က သွား၍ကြည့်ရာ၊ ထို'ဂွန်ဗဒ်'အောက်တွင် သခင်မသည် နမာဇ်ဝတ်ပြုနေသည်၊၎င်းထို'နူရ်'သည် သခင်မနှင့်ပင် ဆက်စပ်လျက် ရှိလေသည်။

**အကျိုးကျေးဇူး။** ဤ'နူရ်'သည် အပြစ်ရှောင်ကြဉ်သော အတွက်ကြောင့် ရရှိခြင်းဖြစ်သည်၊ အပြစ်ရှောင်ကြဉ်သူတိုင်း၏စိတ်တွင် ဤသို့'နူရ်'ရှိပေ

သည်၊ သို့သော် အလ္လာဟ်အသျှင်မြတ်သည် ပြင်ပအနေဖြင့်လည်း အလိုတော်ရှိတော်မူသူကို ထင်ရှားစွာတွေ့မြင်ရစေတော်မူသည်၊ 'နူရ်'၏အရင်းမူလနေရာသည်ကား စိတ်ပင်ဖြစ်ပေသည်၊ အို....အမျိုးသမီးတို့၊ အပြစ်ရှောင်ကြဉ်မှုကို ဂရုတစ်စိုက် လိုက်နာကြကုန်။ ကောင်းမှုကုသိုလ်အမှုများကို ပြုမူဆောက်တည်ကြကုန်။ ရှရီအတ် တရားတော်မြတ်က တားမြစ်ထားသည်များမှ ရှောင်ရှားကြကုန်။

## အဘူအာမင်ရ်ဝါအစ်ဇ္ဇာင် (ရဟေ့) သခင်၏ ကျွန်မ အကြောင်း

သခင်က မိန့်သည်မှာ.... ကျွန်ုပ်သည် ကျွန်မ တစ်ဌယောက်ကို ဈေးနည်းနည်းနှင့် ရောင်းနေသည်ကို တွေ့ရသည်၊ သူမ၏ အသားအရည် ဝါကျင့်နေပြီး၊ ဝမ်းဗိုက်မှာ ချပ်နေကာ ဆံပင်မှာ ဂျီးများဖြင့် ခဲနေသည်၊ ကျွန်ုပ်သည် သနားလာပြီး ဝယ်ယူလိုက်သည်၊ ကျွန်ုပ်က 'ရမသွာန်' ဥပုသ်လအတွက် ပစ္စည်းများ အဝယ်ခိုင်းရာ၊ ကျွန်မအတွက် ၁၂-လ အတူတူပင်ဖြစ်ပါသည်ဟု ပြောသည်။

သူမသည် အမြဲထာဝရ နေ့တွင်ရိုဇဟ်ဥပုသ်စောင့်ပြီး၊ ညတွင် အေဗာဒတ်ပြုသည်၊ အီးဒ်နေ့ နီးကပ်လာသောအခါ ကျွန်ုပ်က သူမအတွက် ပစ္စည်းများဝယ်ရန် ဆန္ဒပြုခဲ့ရာ၊ ရှင်သည် လောက အတွက် လုံးပမ်းသည်ဟု ပြောကာ နမာဇ်ကို ဆက်၍ဖတ်နေသည်၊ ဂျဟန္နမ်အကြောင်းပါဝင်သော အာယတ်တော်ကိုဖတ်နေယင်း ငယ်သံပါအောင် အော်ဟစ်ပြီး လဲကျကာ သေဆုံးသွားလေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ် အသျှင်မြတ်အား ကြောက်ရွံ့သည် ဆို သည် မှာ.... ဤသည်ပင်ဖြစ်သည်၊ ဤသို့ဖြစ်ရသည်မှာ အလိုဆန္ဒ အပြင်မှဖြစ်သည်၊ သို့သော် သင်မတို့ပြုနိုင်သော အချက်ကား ဂိုနာဟ်အကုသိုလ်များကို မကျူးလွန်ဘဲနေကြကုန်၊ လက်,ခြေ,စိတ်,နှုတ်,လျှာ၏ ဂိုနာဟ်များမှ ရှောင်ရှားကြကုန်။

**အကျိုးကျေးဇူး။** ကောင်းသော သူတော်စင်မများ (၁၀၀) ၏ အကြောင်းကို ဤအတွဲ၌ ရေးသားခဲ့ပေပြီ ပထမ အခွမ့်တ်သားတို့၏ သူတော်စင်မ (၂၅) ပါး၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မြောက်သားတော် နှင့် သမီးတော်(၁၅)ပါး၊ ရစူလ်ကိုယ်တော်၏ လက်ထက်တော်က သူတော်စင်မ(၂၅)ပါး၊ ရစူလ်ကိုယ်တော်၏နောက် အင်လ်မ် ဘာသာရေး ပညာ နားလည်သော သူတော်စင်မ (၁၀)ပါး၊ ဒရ်ဝေးရှ် အေဗာဒတ် ကောင်းစွာလုပ်သော သူတော်စင်မ(၂၅)ပါး၊ အားလုံးပေါင်း (၁၀၀) ဖြစ်ပေသည်၊ ကျမ်းကြီးများတွင် အကြောင်း အရာများ မြောက်မြားစွာ ရှိသေးသည်၊ သို့သော် ဆိုဆုံးမမှုကို နာယူလိုသူများအတွက် ဤပမာ တင်ပြချက်သည်ပင် လိုသည်ထက်ပင် ပိုနေပေသည်။

ဤတွင်၍ကား ဘာဟစ်ရှိတီ ဇေဝရ်ကျမ်း အဌမတွဲ ပြီး၏။

မုဟမ္မဒ် မူစာ [မဇ္ဇာဝေဟရီ]

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ نَحْمَدُهٗ وَنُصَلِّيْ عَلٰى رَسُوْلِهِ الْكَرِيْمِ

## ဘဟာစ်ရှိတ္တီ ဇေဝရ်ကျမ်း အင်္ဂမတ္တဲ၏ အပိုင်းတစ်ပိုင်း

# ကစ္စဝတ္တန်နစ္စဝဟ်ကျမ်း

ဤကျမ်းသည် ကျမ်းငယ်ကလေးတစ်စောင် ဖြစ်သည်၊ အများအားဖြင့် အမျိုးသမီးများကို ကောင်းမှု အတွက် လှုံ့ဆော်ပေးခြင်း ပါဝင်သည်၊ ၎င်း ထိုကောင်းမှုများကို ပြုလုပ်ကြသောသူမများ၏ မွန်မြတ်ထူးကဲခြင်း ပါဝင်သည်။

ဤကျမ်းငယ်ကို ပြုစုရခြင်း အကြောင်းမှာ.... ဟစ်ဂျရီတော် ၁၃၃၅-ခုတွင် ဒေးဂ်နေရာ ဘရတ်ပူရ် ပြည်နယ်တွင် သွားခဲ့သည်၊ တစ်နေ့တွင် အိမ်ရှင်၏အိမ်၌ အမျိုးသမီးများကို တရားဟောခဲ့သည်၊ လိုအပ်သည်အတွက် အမျိုးသမီးများ၏ ပေါ့လျော့လစ်ဟင်းမှုများအကြောင်းဟောပြောခဲ့သည်၊ ဟောပြောပြီးနောက် အမျိုးသမီးတစ်ဦးက အမျိုးသမီးများ၏ ပေါ့လျော့မှုများကို ကြားသိရပါပြီ၊ သို့သော် ကောင်းခြင်းများနှင့် အမျိုးသမီးတို့၏ဝတ္တရားများကို သိခွင့်ပြုရန်လည်း အရေးကြီးပေသည်—ဟု အပြောခိုင်းသည်။

အပြစ်များကို ဖော်ပြခြင်းဖြင့် အကျိုးသက်ရောက်သကဲ့သို့ ကောင်းခြင်းများကိုလည်း ဖော်ပြရလျှင် ပို၍ပင် အကျိုးသက်ရောက်မည်ဟုထင်ခဲ့သည်၊ ကောင်းမှုကို ကြားသိပြီး စိတ်အားထက်သန်ကာ ကောင်းမှု အမလ် အေဗာဒတ်များ ပို၍လုပ်ချင်လာမည်၊ အပြစ်များကိုချည့် ပြောပြနေလျှင် စိတ်အားငယ်သွားမည်ဟု ထင်ခဲ့သည်၊ ထိုအခါ ဤကိစ္စနှင့်ပတ်သက်သော ကျမ်းငယ်တစ်စောင် ပြုစုရန် စိတ်ပိုင်းဖြတ်လိုက်သည်။

ဤသို့ ဆုံးဖြတ်ပြီးနောက် သင်လိကအ်ဒဟ်လသို့ပင် ရောက်လာသည်၊ ကန်ဇွလ်အမ္မာလ်ကျမ်းတွင် ဤကိစ္စနှင့် ပတ်သက်သော ခေါင်းကြီးပိုင်းတစ်ခုကို မြင်တွေ့ရသဖြင့် ရေးလိုသောဆန္ဒသည် ပြန်လည် သစ်ဆန်းလာခဲ့သည်၊ ထိုကျမ်းမှပင် ဘာသာပြန်လျှင် ကောင်းမည်ဟု ယူဆမိသည်၊ ဘာသာပြန်ယင်း သတိရသော'ဟဒီးသ်'တော်အချို့လည်း ထည့်သွင်းမည် ဟု ကြံရွယ်ခဲ့သည်၊ ဘဟာစ်ရှိတီ ဇေဝရ်ကျမ်း အင်္ဂမတ္တဲတွင် ဤကိစ္စ နှင့်ပတ်သက်၍ အာယတ်တော်များ၊ ဟဒီးသ်တော်များ ပါဝင်သည်ဟုထင်ကာ လှန်လှောကြည့်ရာ၊ မပါဝင်သေးကြောင်းတွေ့ရသည်၊ ထို့ကြောင့် ပထမအခန်းတွင် ဘဟာစ်ရှိတီ ဇေဝရ်မှ ယူ၍၊ ဒုတိယ အခန်းတွင် ကန်ဇွလ်အမ္မာလ်၏ အဆိုများကို တိုးချဲ့မှုများဖြင့် ရေးသွားမည်။

ဘဟာစ်ရှိတီဇေဝရ်ကျမ်း အင်္ဂမတွဲတွင် ကောင်းခြင်းများ ရေးပြီး၊ မကောင်းခြင်း အချို့လည်းပါဝင်ခဲ့သည်၊ ကောင်းခြင်းများနှင့်မကောင်းခြင်းများကို ရောစွက်ပြခြင်းဖြင့် ညီမျှသွားပေမည်၊ ထို့ကြောင့် တတိယအခန်း၌ မကောင်းခြင်းများကို ရေးရန် စိတ်ကူးသည်၊ သို့ရှိရာ ဤကျမ်းငယ်သည် ကောင်းခြင်းများကို လှုံ့ဆော်ခြင်းနှင့် မှန်မြတ်ခြင်း များကို အဓိကထားသည်၊ သို့သော် မကောင်းခြင်းများကိုလည်း ဒွန်တွဲ ပြသွားမည်၊ ဤကျမ်းငယ်ကို (ကစ်ဝထုန်နစ်ဝဟ်) အမျိုးသမီးတို့ အပြစ် ရှောင်ကြဉ်ခြင်း၏ အဝတ် အစားဟု အမည်သတ်မှတ်လိုက်သည်။

အလ္လာဟ်အသျှင်မြတ် စွမ်းအားပေးသနားတော်မူပါစေသတည်း....။

## ပ ထ မ အ ခ န်း

ဘဟာစ်ရှိတီဇေဝရ်ကျမ်းမှ ကောင်းမှုလှုံ့ဆော်ချက်
ကုရ်အာန်နှင့်ဟဒီးသ်တော်တွင်လာသော

## ကောင်းသောသူမများ၏ အကျင့်စာရိတ္တနှင့် ချီးကျူးခံရမှုနှင့် အဆင့်အတန်း အကြောင်း

ဤသည်အထိ ကောင်းသောသူတော်စင်မ အပါး(၁၀၀)၏အကြောင်းကို ရေးခဲ့ပေပြီ၊ ထိုအကြောင်းများ ရေးရခြင်း၏ အဓိကအချက်မှာ အကျင့်စာရိတ္တ ကောင်းကြောင်းများကို ပြသရန်ဖြစ်သည်၊ ထို့ကြောင့် အလ္လာဟ်အသျှင်မြတ်က ကောင်းသော သူမများနှင့်ပတ်သက်၍ စာရိတ္တ ၎င်းချီးကျူးခြင်းနှင့် အဆင့်အတန်းများကို ကုရ်အာန် နှင့် ဟဒီးသ်တော်မှ အကျဉ်းအားဖြင့် ရေးသားမည်၊ အဘယ့်ကြောင့်ဆိုသော် အမျိုး သမီးများသည် အလ္လာဟ်နှင့်ရစူလ်က သီးခြား၍ ၎င်းတို့အကြောင်းကို မိန့်မြွက်ကြောင်း သိရသောအခါ အမျိုးသမီးများသည် စိတ်ထက်သန်လာပြီး ကောင်းခြင်းများကို ပြုမူချင် စိတ်များ ပေါ်ပေါက်လာပေမည်၊ ၎င်းခက်ခဲနေမှုသည် လွယ်ကူသွားပေမည်။

## အာယတ်တော်များ အကြောင်း

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်.... အကြင်အမျိုးသမီးများသည် အစ္စလာမ် သာသနာတော်၏လုပ်ငန်းစဉ်များကိုပြုလုပ်ကြသည်၊ (၀၁) နမာဇ်၊ ရိုဇဟ်ကို ဂရုတစ်စိုက် ဝတ်ပြုကာ 'သဝါဗ်' ကုသိုလ်နှင့်'ဂိုနာဟ်' အကုသိုလ်ဖြစ်စေသောအချက်များကို ဂရုပြုလျှင် အကြင်အမျိုးသမီးတို့သည် အိမာန်စွဲယူယုံကြည်မှုကို ကောင်းမွန်တိကျစွာထားလျှင် (၀၁) ကုရ်အာန် ဟဒီးသ်တော်နှင့် ကွဲလွဲသောအလုပ်များကို စိတ်ကူးပင်မထည့်ကြလျှင်၊ အကြင်

အမျိုးသမီးများသည် အမိန့်နာခံ၍နေကြလျှင် (ဝါ) ပ,လ္လားမောက်မာမှု မပြုကြလျှင်၊ အကြင်အမျိုးသမီးများသည် ခိုင်ရာတ်၊ ဇကာတ် ပေးလှူကြလျှင်၊ အကြင်အမျိုးသမီးများသည် ရိုဇဟ် ဥပုသ် စောင့်ထိန်းကြလျှင်၊ အကြင်အမျိုးသမီးများသည် မိမိတို့ဂုဏ်သိက္ခာကိုထိန်းကြလျှင်၊ (ဝါ) သူစိမ်းယောကျ်ားအား မြင်တွေ့စေခြင်း၊ အသံကြားစေခြင်း၊ ရှရီအတ်တရားတော်နှင့် ကွဲလွဲသော အဝတ်အစားဝတ်ခြင်း၊ မလိုအပ်ဘဲ ရယ်မောခြင်း၊ ပြောဆိုခြင်း၊ ထို့ပြင် အခြားသော ရှက်ဖွယ် ကိစ္စများမှ ရှောင်ကြဉ်လျှင်၊ အကြင်အမျိုးသမီးများသည်အလ္လာဟ်အသျှင်မြတ်ကိုသတိရကြလျှင်၊ (ဝါ)စိတ်ဖြင့်လည်း အလ္လာဟ်အသျှင်မြတ်ကို စွဲလန်းကာ နှုတ်လျှာဖြင့်လည်း တ,သနေပါက ဤသို့သော အမျိုးသမီးများအတွက် အလ္လာဟ်အသျှင်မြတ်က မဟာကရုဏာတော်နှင့် သဝါဗ်ကုသိုလ်များပေးရန် အသင့်ပြင်ထားတော်မူသည်။

အလ္လာဟ်အသျှင်မြတ်က မိန့်တော်မူသည်မှာ.... တပ်က်ဒီးရ် ကောင်းသော မွန်မြတ်သော အမျိုးသမီးများသည် ခင်ပွန်းသည်အား ဝတ္တရားကျေပွန်ကြသည်၊ ၎င်းခင်ပွန်းသည် အိမ်၌ မရှိစေကာမူလည်း မိမိတို့၏ဂုဏ်သရေကို ထိန်းသိမ်းကြသည်။

အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ.... အကြင်အမျိုးသမီးများသည် ရှရီအတ်တရားတော်၏အမိန့်ပညတ်တော်များကို ဂရုတစ်စိုက်လိုက်နာလျှင်၊ အကီဒဟ်ယုံကြည်ချက်လည်း မှန်ကန်လျှင် ခင်ပွန်းသည်၏စကားကို နာယူကြလျှင်၊ ရှရီအတ်တရားတော်မြတ်နှင့် ကွဲလွဲမှုကို ပြုမိလျှင် ပြုမိခြင်း တောင်ဗဟ်ပြု,အမှားဝန်ခံလျှင် အလ္လာဟ်အသျှင်မြတ်အား အေဗါဒတ်ခ,ဝပ်မှုကိုပြုနေလျှင်၊ ရိုဇဟ်ဥပုသ်စောင့်ထိန်းလျှင် ဤသို့သော အမျိုးသမီးများသည် ကောင်းမွန် မွန်မြတ်သော သူမများ ဖြစ်ကြပေသည်။

## ဟဒီးသ်တော်များ အကြောင်း

၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က အကြင်အမျိုးသမီးသည် ညတွင် ထ,၍ တဟဂျ်ဂျုဒ်နမာဇ်ဖတ်လျှင်၊ ၎င်းခင်ပွန်းကိုလည်း နမာဇ်ဖတ်ရန် နှိုးပါက၊ ဤသို့သော သူမအပေါ် အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်' မဟာကရုဏာတော် သက်ရောက်ပါစေဟု 'ဒိုအာ' ပြုတော်မူသည်။

၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည် အပျိုဖြစ်၍၊ ၎င်း ကလေးဖွားသော အချိန်၌၊ ၎င်း ကျစ်လဟ် တရားအား ထုတ်နေစဉ်တွင် သေဆုံးသွားပါက ထိုအမျိုးသမီးသည် 'ရှဟီဒ်' သာသနာ့အာဇာနည် အကျိုးရရှိပေသည်။

၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... အကြင်အမျိုးသမီးသည် ကလေး(၃)ယောက် သေဆုံးသွားလျှင်၊ ၎င်းထိုသူမသည် 'သဝါဗ်' ကုသိုလ်ရရန် မက်ဖြင့် သည်းခံနေလျှင် 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ရမည်။ အမျိုးသမီးတစ်ဦးက ယာရစူလလ္လာဟ်၊ကလေး(၂)ယောက်သေဆုံးလျှင်မည်သို့ပါနည်းဟု

မေးလျှောက်ရာ၊ ဤကုသိုလ်အကျိုးအတိုင်းပင် ရမည်ဟု မိန့်တော်မူ၏။ အခြားရေဝါယတ် တစ်ခုတွင် ဆွဟာဗီတစ်ပါးက ကလေး(၁)ယောက်သေဆုံးလျှင် မည်သို့ပါနည်းဟု မေးလျှောက်ရာ၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အထက်ပါအတိုင်း မိန့်တော်မူလေ၏။

၄။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကြင် အမျိုးသမီး၏ ကိုယ်ဝန်သည် ပျက်ကျသွားလျှင်၊ ၎င်းထိုသူမသည် သဝါဗ်ကုသိုလ် ရသည်ဟု ယုံကြည်ကာ သည်းခံခဲ့လျှင် ထိုပျက်ကျသေ့ာကလေးသည် မိခင်ကို ဂျန္နတ်ဥယျာဉ်ဘုံနန်းသို့ ဆွဲယူသွားမည်ဖြစ်သည်။

၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အကောင်းဆုံးသော ငွေတိုက်သည် တပ်က်ဒီးရ်ကောင်းသော အမျိုးသမီးဖြစ်သည်၊ခင်ပွန်းသည်ကကြည့်လိုက်ရုံဖြင့် စိတ်ပျော်သွားလျှင်၊၎င်းခင်ပွန်းသည်က အလုပ်တစ်ခုခိုင်းရာ အမိန့်နာခံလျှင်၊ ၎င်းခင်ပွန်းသည် အိမ်တွင် မရှိသောအခါ မိမိဂုဏ်သရေကို ထိန်းသိမ်းလျှင်။

၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အရဗ်နိုင်ငံ၏ ကို ရိုင်ရှ် အမျိုးသမီးများတွင် ကောင်းသော အမျိုးသမီးများ၌ ကောင်းချင်းလက္ခဏာ နှစ်ရပ်ရှိသည်။ ပထမမှာ....သားသမီးကို ကောင်းစွာ ဂရုစိုက်သည်၊ ဒုတိယမှာ....ခင်ပွန်းသည် ပစ္စည်းကို ကောင်းစွာ ထိန်းသိမ်းသည်။

**အကျိုးကျေးဇူး။** အမျိုးသမီးတို့တွင် ဤအချင်းအရာလက္ခဏာများရှိရန် လိုအပ်ကြောင်း အိရပေသည်၊ ယခုခေတ်တွင် အချို့သော အမျိုးသမီးများသည် ခင်ပွန်းသည်၏ပစ္စည်းကို မညာမတာ‌ဒသုံးစွဲပစ်ကြသည်၊ သားသမီးများကို ကျွေးမွေးရန်သာ ဂရုစိုက်ကြသည်၊ ဤသည်ထက် ၎င်းကလေးများ၏ စာရိတ္တများကို ပြုပြင်ရန် အရေးကြီးပေသည်၊ သို့တည်းမဟုတ်ပါက ကလေးအား ချစ်ခင်ခြင်းသည် အလဟဿဖြစ်ပေသည်။

၇။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ မိန်းမ၏မျှားနှင့် 'နေကာဟ်'ပြုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် အပျိုများသည် ခင်ပွန်းသည်နှင့်စကားပြောဆိုရာ၌ ချိုသာနူးညံ့သည်၊ ဆိုလိုသည်မှာ...အရှက်ဟ္ဂန္တွေရှိခြင်းကြောင့် မဆင်မချင်နှင့် ထင်ရာပြောဆိုမည် မဟုတ်ပေ၊ ထိုသူမများအား သုံးစွဲရန် ငွေပေးလိုက်လျှင် ပျော်ရွှင်သွားကြသည်။

**အကျိုးကျေးဇူး။** အမျိုးသမီးများသည် အရှက်ဟ္ဂန္တွေနှင့် လောဘ သတ်မှုသည် ကောင်းသောလက္ခဏာဖြစ်ပေသည်၊ ဤသို့မိန့်ခြင်းဖြင့် မုဆိုးမနှင့် အိမ်ထောင်မပြုရဟူ၍မဟုတ်ပေ၊ သာမက အပျို၏လက္ခဏာတစ်ရပ်ကို ဖေါ်ပြခြင်းသာ ဖြစ်သည်။ အခြားဟဒီးသ်တော်တွင် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ဆွဟာဗီတစ်ပါးကို မုဆိုးမနှင့် နေကာဟ်ပြု၊ လက်ထပ်သဖြင့် ဒိုအာပြုပေးတော်မူသည်။

၈။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည် နမ္မာဇ်(၅)ကြိမ်ဖတ်လျှင်၊ ရမသွာန်လ၏ ရိုဇဟ်ဥပုသ်ကို စောင့်ထိန်းလျှင်၊ မိမိ၏ ဂုဏ်သရေကို ထိန်းသိမ်းလျှင်၊ ခင်ပွန်းသည်၏ အန္တ အတာခံလျှင် ဤကဲ့သို့သော အမျိုးသမီးသည် ဂျန္နတ်ဥယျာဉ်ဘုံနန်းတွင် ကြိုက်နှစ်သက်ရာ တံခါးပေါက်မှ ဝင်နိုင်သည်။

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ.... အမျိုးသမီးသည် သာသနာတော်၏ အရေးကြီးသော အချက်များကို လိုက်နာ ဆောက်တည်ပါက ကြီးမားသော အပင်ပန်းခံရသည့် 'အေဗာဒတ်' များ ဆောက်တည်နေရန် မလိုပေ၊ ထိုကြီးမားသော အေဗာဒတ်၏ အကျိုးသဝါဗ်သည် အမျိုးသမီးများမှ ခင်ပွန်းသည်၏ စကားကိုနာယူခြင်း၊ သားသမီးများကို ဂရုစိုက်ခြင်းနှင့် အိမ်ထောင်မှု ထိန်းသိမ်းခြင်းဖြင့် ရရှိသွားလေသည်။

၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည် ခင်ပွန်းသည်ကစိတ်ကျေနပ်သောအဖြစ်နှင့်သေဆုံးသွားခဲ့သော် ထိုအမျိုးသမီးသည် ဂျန္နတ်သို့ရောက်မည်ဖြစ်သည်။

၁၀။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် (၄)ခုသော အချက်ကို လက်ကိုင်ပြုလျှင် ထိုသူသည် 'ဒွန္နယာ'-'အာခေရတ်' နှစ်ဌာန၏ စည်းစိမ်ရရှိသူဖြစ်သည်။ (၁) ရသမျှဖြင့် တင်းတိမ်ကာ အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်သောစိတ်ရှိရမည်။ (၂) နှုတ်,လျှာဖြင့် အလ္လာဟ်အသျှင်မြတ်အား တ,သနေရမည်။ (၃) ကိုယ်ကာယဖြင့်ဒုက္ခဟူသမျှကို သည်းခံနေရမည်။ (၄) အမျိုးသမီးသည် မိမိဂုဏ်သရေနှင့် ခင်ပွန်းသည်၏ ပစ္စည်းကို အလွဲသုံးစား မပြုဘဲ နေရမည်။

**အကျိုးကျေးဇူး။** အမျိုးသမီးသည် မိမိ ဂုဏ်သိက္ခာကို မညှိုးငယ်စေရ၊ ၎င်းပစ္စည်းကို ခင်ပွန်းသည်၏ သဘောတူချက် မရဘဲ မသုံးစွဲရ။

၁၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည် မုဆိုးမ ဖြစ်သွားလျှင် ထိုသူမသည် မျိုးနွယ်ကောင်းပြီး ငွေကြေးရှိသည်၊ သို့သော်လည်း ထိုသူမသည် မိမိ ရင်သွေးများကို ကျွေးမွေး ဂရုစိုက်ပြီး မိမိကိုယ်ကိုနှမ်းပါးစေသော် ကလေးများကြီးပြင်း၍ အိမ်ထောင်ခဲ့ကြသည်၊ ၎င်းသေဆုံးသွားကြသည့်အထိ ဂရုစိုက်ပါက ဤကဲ့သို့သော အမျိုးသမီးသည် ဂျန္နတ်ဥယျာဉ်ဘုံနန်းတွင် ငါရစူလ်နှင့် လက်ညှိုး ၎င်းလက်ခလယ်မှာ အနိမ့်အမြင့် ကွာခြားသည်ခန့်ပင် နီးကပ်စွာ နေရမည်။

**အကျိုးကျေးဇူး။** ဤဟဒီးသ်တော်မြတ်က မုဆိုးမကို နောက်အိမ်ထောင် မပြုရဟု ဆိုမထားပေ၊ သာမက အကြင်မုဆိုးမသည် နောက်အိမ်ထောင်

ပြုပါက ကလေးများ ပျက်စီးမည်၊ ၎င်းအလုပ်ပြင်ခြင်းနှင့် အိမ်ထောင်ပြုချင်စိတ် မရှိသော အမျိုးသမီးရရှိမည့် အဆင့်အတန်းကို ဖေါ်ပြခြင်းသာဖြစ်သည်။

၁၂။ တစ်ဦးသော ပုဂ္ဂိုလ်က ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား လျှောက်သည်၊ အမျိုးသမီးတစ်ဦးသည် 'နဖ်လ်''နမာဇ်'များကို များစွာ ဖတ်သည်၊ ၎င်းရိုဇဟ်ထားသည်၊ ခိုင်ရာတ်လှူတန်းမှုလည်းပြုပါသည်၊ သို့သော် နှုတ်လျှာဖြင့် အိမ်နီးချင်းများကို ဆိုပြော ဒုက္ခပေးပါသည်ဟု လျှောက်၏၊ ထိုအခါ ရစူလ်ကိုယ်တော်က ထိုသူမသည် ဂျဟန္နမ်ဖြစ်သည်ဟု မိန့်တော်မူလေ၏၊ ထိုပုဂ္ဂိုလ်ကပင် လျှောက်ထားပြန်သည်၊ အမျိုးသမီးတစ်ဦးသည် နဖ်လ်-နမာဇ် ၎င်း'ခိုင်ရာတ်'နှင့်ရိုဇဟ်ကို များများစွာ ပြုခြင်းမရှိပါ၊ အနည်းငယ် မုန့်တစ်ဖဲ့ လောက်သာ ဝေငှပါသည်၊ သို့သော် နှုတ်လျှာဖြင့် အိမ်နီးချင်းများကိုဒုက္ခမပေးပါ၊ ထိုအခါရစူလ်ကိုယ်တော်က ထိုသူမသည်ဂျန္နတ်သို့ရောက်မည်ဟု မိန့်တော်မူလေ၏။

၁၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ထံတော်တွင် အမျိုးသမီးတစ်ဦးသည် အခ,စားဝင်လာသည်၊ ထိုသူမနှင့်အတူ ကလေးငယ် နှစ်ယောက် ပါသည်၊ ကလေးတစ်ယောက်ကိုချီ၍ တစ်ယောက်ကိုလက်တွဲ၍လာခြင်းဖြစ်သည်၊ ထိုသူမကိုကြည့်၍ ရစူလ်ကိုယ်တော်ကမိန့်သည်မှာ.... အမျိုးသမီးများသည် ပထမ ဝမ်းတွင်း၌ ကိုယ်ဝန်ကို ဆောင်ထားကြရသည်၊ ထိုနောက် မွေးဖွားကြရသည်၊ ၎င်းထိုကလေးများကို ချစ်ခင် ဂရုစိုက်ကြသည်၊ အကယ်၍ အမျိုးသမီးများသည် ခင်ပွန်းသည်နှင့် မချေမငံမဟုတ်ဘဲ ကောင်းစွာဆက်ဆံခြင်းပြုကြလျှင်၊ ၎င်းနမာဇ်ကိုဂရုတစ်စိုက်ဝတ်ပြုပါက ဂျန္နတ်ဥယျာဉ်ဘုံနန်းသို့ ဝင်ရောက်ကြရမည်။

# ဒုတိယ အခန်း

## ကန်ဇွလ်အမ္မာလ်ကျမ်းမှ ကောင်းမှု လုံ့ဆော်ချက်များ အကြောင်း

ဟဒီးသ်တော်....၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သင်မတို့သည် ဤသည်ကို သဘောတူကျေနပ်ကြရန်ထိုက်သည်၊ သင်မတို့အနက် တစ်ဦးဦးသည် ခင်ပွန်းသည်ဖြင့်'ဟမလ်'ကိုယ်ဝန်ရှိလာပြီး ခင်ပွန်းကလည်း ဇနီးကိုကျေနပ်နှစ်သက်ပါက ထိုသူမသည် အလ္လာဟ်အသျှင်မြတ်အတွက် ရိုဇဟ်ထားသူ၊ ညမအိပ်ဘဲ အေဗါဒတ်ခ,ဝပ်မှုပြုသူများကဲ့သို့ သဝါဗ် ကုသိုလ်ရလေသည်၊ ၎င်းထိုသူမသည် ဝမ်းနာလာလျှင် မိုးမြေ၌ရှိသူများ မျက်လုံး အေးမြစေသည်ကို ထိုသူမအနေနှင့်ကား မမြင်ရပေ၊ ကလေးဖွားသောအခါ ထိုသူမသည် ကလေးက နို့တစ်ငုံ၊ ၎င်းတစ်ခါစုပ်ခြင်းဖြင့် ကောင်းမှုကုသိုလ် တစ်ခုကျ ရရှိသည်၊ အကယ်၍ ကလေး အတွက် ညတွင်ထ,ရမူ၊ ထိုသူမသည်

အလ္လာဟ်အသျှင်မြတ် လမ်းတော်တွင် ကျေးကျွန် (၇၀) သူကောင်းပြုသော အကျိုး ရသည်၊ အို...စလာမတ် (ဤအမည်သည် ရစူလ်ကိုယ်တော် သားတော် အစ်ဗ်ရာဟီးမ် သခင်အား ရေဝါယတ်ပြုသူ အမည်ဖြစ်သည်၊ ကိုယ်တော်က ထိုပုဂ္ဂိုလ်အား မိန့်တော် မူသည်၊) ငါရစူလ်မိန့်နေသော သူမများသည် အဘယ်သူမများဖြစ်သည်ကို သင်သိတိ သလော၊ ထိုသူမများသည် တစ်ယုတစ်ယဖြင့် ကြီးပြင်းလာကြသူများဖြစ်လျက် ခင်ပွန်း သည်ကို အားမနာဘဲ ဝတ္တရား ကျေပွန်သူမများ ဖြစ်ကြသည်။

ဟဒီးသ်တော်....၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည်မိမိခင်ပွန်းသည်အိမ်မှ(ခွင့်ပေးထားသည်ခန့်)အလ္လာဟ်အသျှင်မြတ် လမ်းတော်တွင် လှူဒါန်းလျှင် ထိုအမျိုးသမီးသည် လှူသည့်အတွက် ကုသိုလ်ရသည်၊ ၎င်းခင်ပွန်းသည်မှာ ရှာဖွေရသောကြောင့် ကုသိုလ်'သဝါဗ်'ရသည်၊ ၎င်းတိုက်တွန်းသူ မှာလည်း ကုသိုလ်'သဝါဗ်'ရသည်၊ ၎င်းတို့သည် ကုသိုလ်'သဝါဗ်' တစ်ခုကို ဝေခွဲယူကြရ သည်မဟုတ် အညီအမျှ အပို၊အလျော့မရှိ ရရှိကြပေသည်။

**အကျိုးကျေးဇူး။** သို့ရှိရာ အမျိုးသမီးသည် ပစ္စည်းကား ခင်ပွန်းသည် ရှာဖွေ ထားသော ပစ္စည်းဖြစ်၍ ငါ့မှာ ကုသိုလ်ရမည်မဟုတ်ဟု မယူဆ နှင့် ခင်ပွန်းသည်နှင့်အတူ ကုသိုလ် 'သဝါဗ်' အပြည့်အဝရရှိမည် ဖြစ်ပေသည်။

ဟဒီးသ်တော်....၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အို ..အမျိုးသမီးတို့ သင်မတို့၏ ဂျေဟာဒ် ကာဖွင်ရ်များနှင့် စစ်တိုက်ခြင်းသည် 'ဟဂျ်'ပြုမှု ဆောင်ရွက်ခြင်းပင် ဖြစ်သည်။

**အကျိုးကျေးဇူး။** အမျိုးသမီးများကို သက်ညှာထားပေသည်၊ အမျိုးသမီးများ အနေဖြင့် 'ဟဂျ်' ပြုခြင်းဖြင့်ပင် ဂျေဟာဒ် ကာဖွင်ရ် များနှင့် စစ်တိုက်ရသည်ခန့် မခဲယဉ်းဘဲ ဂျေဟာဒ်၏ ကုသိုလ် 'သဝါဗ်' ကို ပေးထားတော်မူသည်၊ ဂျေဟာဒ်သည်ကား အခဲယဉ်းဆုံး 'အေဗာဒတ်' တစ်ခုဖြစ်သည်။

ဟဒီးသ်တော် ၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီးများအပေါ်တွင် အလွန်အလွန် အရေးမကြီးပါက 'ဂျေဟာဒ်' ပြုရန်မလို ၎င်း'ဂျုမို့အဟ်' သော့ကြာနမာဇ်နှင့် ဂျနာဇာဟ်နမာဇ်တို့တွင် ပါဝင်ဝတ်ပြုရန် မလိုပေ။

**အကျိုးကျေးဇူး။** အမျိုးသမီးများ အနေဖြင့် အိမ်တွင် နေယင်းအကျိုး 'သဝါဗ်' ရရှိကြသည်ကို သိကြရပေပြီ။

ဟဒီးသ်တော်....၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကအမျိုးသမီးများကို ခေါ်ဆောင်သွားတော်မူခါ 'ဟဂျ်' ပြုပြီးနောက် မိန့်သည်မှာ ဟဂျ်ပြုပြီး၍သင်မတို့သည် အိမ်တွင်း၌ ထိုင်နေကြကုန်။

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ ပြင်းပြစွာ လိုအပ်အရေးကြီးမှုမရှိဘဲ ခရီးမထွက်ကြနှင့်ဟု မိန့်တော်မူခြင်း ဖြစ်ပေသည်။

ဟဒီးသ်တော်....၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အလ္လာဟ်အသျှင်မြတ်သည် မိမိခင်ပွန်းသည်ကို ချစ်ခင်စွဲလမ်းပြီး သူစိမ်းယောကျ်ားများမှ မိမိကိုယ်ကို ထိန်းသိမ်းသော အမျိုးသမီးကို နှစ်သက်တော်မူလေသည်။

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ ခင်ပွန်းသည်ကို ချစ်ခင်ခြင်း၊ ၎င်းကျိုးငယ်စွာ ဆက်ဆံ၍ ဂရုစိုက်ခြင်းများကို ကြိုးစားမှု ပြုမူနေရမည်၊ အချို့သောအမျိုးသမီးများကဲ့သို့ မာနထောင်လွှား၍ မနေရန်ဖြစ်သည်။

ဟဒီးသ်တော်....၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီးများသည် အမျိုးသားတို့၏ အဆစ်အပိုင်းမှပင် ဖြစ်သည်။

**အကျိုးကျေးဇူး။** သို့ရှိရာ အာဒမ် (အလိုင်ဟစ္စလာမ်) သခင်မှ ဟောင်ဝါ(အလိုင်ဟတ်စလာမ်)သခင်မကိုဖန်ဆင်းကြောင်းမှာထင်ရှားလေသည်၊ ဆိုလိုသည်မှာ.... အမျိုးသမီးများအတွက် 'ရှရီအတ်' တရားတော်၏ အမိန့်ပညတ်မှာ (သီးခြားချက်များမှတပါး) အမျိုးသားများကဲ့သို့ပင်ဖြစ်သည်၊ အမျိုးသမီးများအတွက် 'ဖွသွာအင်လ်' မွန်မြတ်ခြင်းများ တစ်သီးတစ်ခြား ပြဋ္ဌာန်းမထားသော်လည်း ဝမ်းနည်းရန်မရှိပေ၊အမျိုးသားများအတွက် ပြဋ္ဌာန်းထားသော 'ဖွသွာအင်လ်' မွန်မြတ်ထူးကဲခြင်းများပင် အမျိုးသမီးများအတွက်လည်း ပါဝင်ပေသည်။

ဟဒီးသ်တော်....၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ် သည် အမှန်မုချ အမျိုးသမီးများ အတွက် ဝန်တိုမှုကို ကုသိုလ် 'သဝါဗ်' ရသည်ဟု ရေးမှတ်တော်မူပြီး အမျိုးသားများ အတွက် 'ဂျေဟာဒ်' ကာဖွင်ရ်များ နှင့် စစ်ထိုးခြင်းကို ကုသိုလ် 'သဝါဗ်' ဟုရေးမှတ်တော်မူသည်၊ အကြင်အမျိုးသမီးသည် အီမာန်မြဲရန်နှင့် ကုသိုလ်'သဝါဗ်'ရရန်အတွက်ဝန်တိုမှု၊ ဥပမာ.... ခင်ပွန်းက နောက်အိမ်ထောင်ပြု အငယ်ယူထားသည်ကို သည်းခံနေပါက ထိုအမျိုးသမီးသည် 'ရှဟီဒ်' သာသနာ့အာဇာနည်၏ အကျိုး 'သဝါဗ်' ရလေသည်။

**အကျိုးကျေးဇူး။** အနည်းငယ်မျှ မျှိသိပ် သည်းခံခြင်းဖြင့် ကြီးစွာသော ကုသိုလ် 'သဝါဗ်'ရနေသည်ကို ကြည့်ကြကုန်လော့၊ အမျိုးသားများမှာ ခက်ခဲသော 'ဂျေဟာဒ်' ပြုမှသာ ထိုသို့ကုသိုလ်'သဝါဗ်'ရရှိကြပေသည်။

ဟဒီးသ်တော်....၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မိမိဇနီးသည်၏ လုပ်ငန်းကို လုပ်ကိုင်ပေးခြင်းဖြစ်လည်း သင်တို့မှာ'ဆွဒကာဟ်' အလှူဒါန၏ အကျိုးရရှိကြပေသည်။

**အကျိုးကျေးဇူး။** အမျိုးသမီးများကိုသက်သာစေရန်'ရှရီအတ်'တရားတော်မြတ်က နည်းလမ်းပေးထားပေသည်၊ ထိုသို့ကူညီခြင်းဖြင့် သဝါဗ်ကုသိုလ်ရမည်ဟု ကတိပြုထားပေသည်၊ ထိုကုသိုလ် 'သဝါဗ်' ရရန် မက်ဖြင့် မွတ်စလင်မ် တို့သည် မိမိတို့၏ ဇနီးသည်များကို သက်သာစေကြရမည်ဖြစ်သည်။

ဟဒီးသ်တော်....၁၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ အမျိုးသမီးများအနက် အကောင်းဆုံးသော သူမသည် ထိုသူမဖြစ်သည်၊ အကြင်သူမသည် ခင်ပွန်းသည်က ၎င်းအား ကြည့်သောအခါ ခင်ပွန်းသည် စိတ်ပျော်ရွှင်အောင် အမူအရာပြုလျှင် ၎င်းတစ်စုံတစ်ရာခိုင်းစေသော်နာခံလိုက်နာလျှင် ၎င်းမိမိအသက်စည်းစိမ်အတွက် ခင်ပွန်းကို ဆန့်ကျင်မှုပြုကာ ခင်ပွန်းသည်ကို စိတ်မကောင်းအောင်မပြုလျှင်။

ဟဒီးသ်တော်....၁၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ ဘောင်းဘီ (ထမီ) ဝတ်သောသူမများအပေါ် အလ္လာဟ်အသျှင်မြတ်၏ 'ရဟ်မတ်' တော် သက်ရောက်ပါစေ။

**အကျိုးကျေးဇူး။** ဘောင်းဘီ (ထမီ) သည် မဝတ်လျှင်မဖြစ်သော ကိစ္စဖြစ်သည်၊ သို့သော်လည်းထိုဝတ်ခြင်းကိုပင်လျှင်ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏'ဒိုအာ'ရရှိပေသည်၊ ဤသို့မိန့်ခြင်းသည် အမျိုးသမီးများအပေါ်တွင်အလွန်ကရုဏာ သက်တော်မူခြင်းဖြစ်ပေသည်။

ဟဒီးသ်တော်....၁၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ မကောင်းသောသူမ၏ ဖောက်ပြန်ခြင်းသည် မကောင်းသောသူများ တစ်ထောင်နှင့်အမျှခံရပြီး ကောင်းသောသူမ တစ်ယောက်သည် 'အောင်လေယာဝလီ' သူတော်စင်ခုနစ်ဆယ် (၇၀) နှင့် အညီအမျှ ကုသိုလ်'သဝါဗ်' ရပေသည်။

**အကျိုးကျေးဇူး။** အနည်းငယ် 'အမလ်' ပြုရုံဖြင့် အမျိုးသမီးများအား မည်မျှကုသိုလ် 'သဝါဗ်' ပေးထားတော်မူပေသနည်း၊ ဤသည်မှာ အမျိုးသမီးများကို ထောက်ထားညှာတာခြင်း မဟုတ်ဘိသလော။

ဟဒီးသ်တော်....၁၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီးတစ်ဦးသည် မိမိအိမ်၌ အိမ်တွင်းလုပ်ငန်းများကို လုပ်ကိုင်ခြင်းသည်(အင်န်ရှာအလ္လာဟ်ဇေဂျဟာဒ်) ပြုသူများ၏ ဂျေဟာဒ် အဆင့်အတန်းသို့ရောက်လေသည်။

**အကျိုးကျေးဇူး။** ဤ ပေးကမ်း တော် မူခြင်းမှာ ဆုံးခန်း မရှိသော ပေးကမ်းမှုဖြစ်သည်။

ဟဒီးသ်တော် ၁၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ကမိန့်တော်မူသည်၊ အမျိုးသမီးများတွင် အားလုံးထက် အကောင်းဆုံးသော သူမသည် ထိုသူမဖြစ်သည်၊ အကြင်သူမသည်မိမိဂုဏ်သိက္ခာကို ထိန်းသိမ်းလျှင် ၎င်းခင်ပွန်းသည်ကိုချစ်ခင်လျှင်။

**အကျိုးကျေးဇူး။** ခင်ပွန်းသည်အား ချစ်ခင်ခြင်းသည် စိတ်၏ပျော်ရွှင်မှု တစ်ရပ်ဖြစ်သည်၊သို့သော်လည်း ထိုကိစ္စနှင့်ပင် မွန်မြတ်ခြင်းနှင့်ကုသိုလ် 'သဝါဗ်' ပေးထားတော်မူသည်။

ဟဒီးဟ်တော် ၁၅။တစ်ဦးသောပုဂ္ဂိုလ်က ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား လျှောက်တင်သည်၊ ကျွန်တော်သည် ဇနီးသည်ထံ သွားသောအခါ ကျွန်မ၏ဆရာသည် ကောင်းပေ၏၊ အိမ်သူ၊ အိမ်သားများ၏ ဆရာသည် ကောင်းပေ၏ဟု ပြောသည်၊ ကျွန်တော် စိတ်ညစ်နေသောအခါတွင် ပူပင်ရန်မရှိပါ၊ ရှင့်အတွက် 'အာခေရတ်' သည် ကောင်းမွန်နေပါသည်ဟုပြောသည်၊ ရစူလ်ကိုယ်တော်က ဤသည်ကိုကြား၍ မိန့်တော်မူသည်မှာ ထိုသူမကိုပြောပြကုန်၊ ထိုသူမသည် အလ္လာဟ်အသျှင်မြတ်အတွက် အလုပ်လုပ်သော (ကောင်းမှုပွားသော) သူများအနက် တစ်ဦးဖြစ်သည်၊ ၎င်းထိုသူမသည် ဂေါဟာဒ်ကာဖွင်ရီ များနှင့် စစ်ထိုးသောပုဂ္ဂိုလ်များ၏ ကုသိုလ် 'သဝါဗ်' တစ်ဝက်ရရှိသည်။

**အကျိုးကျေးဇူး။** ခင်ပွန်းသည်အားရွှင်ပြုံးစွာဆက်ဆံမှုဖြင့် မည်မျှကြီးမားသော ကုသိုလ် 'သဝါဗ်' ရသည်ကို သိကြရပေပြီ။

ဟဒီးသ်တော်....၁၆။ ယဇီးဒ်ဗင်နီအန်စွာရီသခင်၏သမီး အတ်စ်မာအ် (ရဇ္ဇေ.) သခင်မက အကြောင်းပြုခဲ့သည်၊ သခင်မကရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား လျှောက်သည်၊ ကျွန်တော်မျိုးမသည် အမျိုးသမီးများက ကိုယ်စားစေလွှတ်ကြ၍ လာရောက်ခြင်းဖြစ်ပါသည်၊ အမျိုးသားများသည် ဂျိုမို့အဟ်နမာဇ်၊ ဂျမာအတ်၊ ၎င်းရောဂါသည်ကို မေးမြန်းရန် သွားခြင်း၊ ဂျနာဇဟ် နမာဇ်၊ ၎င်းဟဂျ်နှင့် အွမ်ရဟ်ပြုခြင်းနှင့် အစ္စလာမ်နိုင်ငံ နယ်ခြားကို စောင့်ရခြင်းတို့ဖြင့် ကျွန်တော်မျိုးမများထက် သာလွန်နေကြပါသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ သင်မပြန်၍ အမျိုးသမီးများကို ပြောပြကုန်၊ သင်မတို့သည် မိမိတို့ခင်ပွန်းသည် အတွက် ဆင်ယင်ဖီးလိမ်းခြင်း၊ ၎င်းလင့်ဝတ္တရားများကို ကျေပွန်ခြင်း၊ ခင်ပွန်းသည် စိတ်ပျော်ရွှင်စေရန် လုံ့လထုတ်ခြင်းနှင့် ခင်ပွန်းသည် စိတ်တိုင်းကျ နေထိုင် ၊နာခံခြင်းတို့သည် ထိုတင်ပြပါ 'အမလ်' များနှင့် ကုသိုလ်'သဝါဗ်' အညီအမျှပင် ဖြစ်သည်။

ဟဒီးသ်တော်.... ၁၇။ ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီးသည် ကိုယ်ဝန်ရှိသော အဖြစ်မှစ၍ ကလေးမွေးဖွားခြင်း နို့ဖြတ်သောအချိန်ထိ မွန်မြတ်ခြင်းနှင့်ကုသိုလ် 'သဝါဗ်' မှာ အစ္စလာမ်နိုင်ငံ နယ်ခြားကိုစောင့်ထိန်းသောသူကဲ့သို့ ဖြစ်သည်၊(ထိုသို့ စောင့်ထိန်းရခြင်းဖြင့် အမြဲထာဝရ စစ်ဖြစ်ရန်အသင့်ပြင်နေရခြင်းပင်ဖြစ်သည်၊) အကယ်၍ ကိုယ်ဝန်ရှိစဉ်မှ နို့ဖြတ်ချိန်အတွင်း သေဆုံးခဲ့သော် ထိုသူမသည် ရှဟီဒ်၏ ကုသိုလ် 'သဝါဗ်' နှင့်အညီရရှိသည်။

ဟဒီးသ်တော် ...၁၈၊ ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်က မိန့်တော်မူသည်၊ (ဟဒီးသ်နံပါတ် ၁ ကဲ့သို့ပင် ဖြစ်သည်၊ နို့တိုက်မှုသာ ကွဲလွဲသည်) အမျိုးသမီး

သည် ကလေးကို နို့တိုက်လျှင် နို့စို့ချက်တိုင်းတွင် သက်ရှိကို ရှင်စေသောအကျိုးရရှိသည့်၊ နို့ဖြတ်သောအခါ ဖွရစ်ရှိတာဟ်က ထိုသူမပခုံးကိုပုတ်၍ ကောင်းချီးပေးကာ၊ သင်မ၏ ဂိုနာဟ်အကုသိုလ်များ လွတ်ငြိမ်းချမ်းသာမှုရရှိပြီး ရှေ့တွင်ကျူးလွန်မည့် ဂိုနာဟ်ကိုသာ ရေးမှတ်မည်၊ ဆိုလိုသည်မှာ.... ဂိုနာဟ်စ္ဂီရဟ် သေးငယ်သော ဂိုနာဟ်များဖြစ်သည်၊ သို့သော်လည်း ဂိုနာဟ်စ္ဂီရဟ်ကျွတ်ခြင်းပင်လျှင် နည်းသော အကျိုးကျေးဇူးမဟုတ်ပေ။

ဟဒီးသ်တော်....၁၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အို...အမျိုးသမီးတို့ သိမှတ်ထားကြကုန်၊ သင်မတို့အနက် ကောင်းသောသူမများသည် ကောင်းသောသူများအလျှင် ဂျန္နတ်သို့ရောက်ကြရမည်၊ (ခင်ပွန်းသည် ဂျန္နတ်သို့ရောက်လာသောအခါ)ထိုသူမများကို ရေမိုးချိုး၍ အမွှေးအကြိုင်သုတ်လိမ်းပြီး ခင်ပွန်းသည်များလက်သို့အပ်မည်၊ အနီရောင်၊အ၀ါရောင် အစီးအနင်းများအပေါ်တွင် ထိုသူမများနှင့်အတူ ရင်သွေးများ ပုလဲများပမာ အစီအရီ ရှိကြမည်။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ အခြားမည်သည့်မွန်မြတ်ခြင်းကို လိုလားကြသေးသနည်း၊ သင်မတို့သည် ဂျန္နတ်တွင် ယောကျ်ားများအလျှင်ရောက်ကြမည်၊ သို့သော် ကောင်းသောသူမဖြစ်ရန် 'ရှရတ္ထ' အဓိကအချက်ဖြစ်သည်၊ မိမိကိုယ်ကို အမိန့်နာခံဆောက်တည်နေစေရန်မှာ ခဲယဉ်းသောကိစ္စမဟုတ်ပေ။

ဟဒီးသ်တော်....၂၀။ အာအေရှာဟ် (ရသွေ့)သခင်မက အကြောင်းပြုခဲ့သည်၊ အကြင်အမျိုးသမီး၏ ခင်ပွန်းသည် အပြင်သို့သွားနေလျှင်၊ မိမိကိုယ်ကိုထိန်းသိမ်းလျှင်၊ ဖီးလိမ်းအလှပြင်မှုကိုစွန့်လွှတ်လျှင်၊ ဟိုဟိုသည်သည် သွားလာမှုကိုမပြုလျှင်၊ လှစေသောပစ္စည်းများကိုစွန့်လျှင်၊ရှင်းနမာဇ်ကိုဂရုတစ်စိုက်၀တ်ပြုလျှင် ထိုသူမသည်ကေယာမတ်နေ့၌ အပျိုအစစ်ကဲ့သို့ ပြန်လည်ထရမည်၊ ခင်ပွန်းသည်မှာ 'မုအ်မင်န်' ဖြစ်ခဲ့သော် ထိုခင်ပွန်း၏ ဇနီးပင် ဖြစ်မည်၊ အကယ်၍ ထိုသူမ၏ ခင်ပွန်းသည် 'မုအ်မင်န်' မဖြစ်ခဲ့သော် (အီမာန်မရှိဘဲသေခဲ့သော်) အလ္လာဟ်အသျှင်မြတ်သည် ထိုသူမကို 'ရှဟီဒ်'တစ်ပါးပါးနှင့် 'နေကာဟ်'ပြုပေးတော်မူမည်။

ဟဒီးသ်တော် ၂၁။ အဗွဒ်ဒရ်ဒါအ် (ရသွေ့)သခင်က အကြောင်းပြုခဲ့သည်၊ ကျွန်ုပ်ကို ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိမိအိမ်သူအိမ်သားများအပေါ်တွင် တတ်နိုင်သည့်ခန့် သုံးစွဲမှုကို ချောင်လည်စေကုန်ဟု '၀စ္စီယတ်' မှာတမ်းတော်မူသည်။

**အကျိုးကျေးဇူး။** တတ်ကုန်နိုင်ပါလျက် ဇနီးသည်ကို သုံးစွဲမှု ကျပ်တီးစေသူများသည် ဤဟဒီးသ်တော်ကို ဖတ်ရှုမှတ်သားကြရန် ထိုက်သည်။

ဟဒီးသ်တော်....၂၂။ မဒါအေနီသခင်က အကြောင်းပြုခဲ့သည်၊ အလီ(ရသွေ့)သခင်က မိန့်သည်မှာ.... လူသားသည် မည်ကဲ့သို့ အ၀တ်၀တ်သည်၊ မည်သို့ ဆာမွတ်မှုကို မည်သို့ပြေလည်စေရမည်ဟူ၍ ဂရုစိုက်သူမဟုတ်လျှင် ထိုသူသည်အိမ်၏ဦးစီးခေါင်းဆောင် မဖြစ်နိုင်ပေ။

**အကျိုးကျေးဇူး။** အကြင်သူတို့သည် မိမိကိုယ်ကိုသာ မွန်းမံ ပြင်ဆင်၍ ဝအောင် စားနေကာ အိမ်သူအိမ်သားများကို ဂရုမစိုက်လျှင် ရှိုင်ခ်စအ်ဒီ (ရဟာမတုလ္လာဟ်)သခင်၏ လက်ာဖြင့် သံဝေဂယူကြကုန်။

بیں آں بے حمیت راکہ ہرگز ٭ نخواہد دید روئے نیک بختی

تن آسانی گزیند خویشتن را ٭ زن و فرزند بگزارد بہ سختی

မိမိကိုယ်ကိုသက်သာစေ၍၊ ဇနီးနှင့်ရင်သွေးများကို ဒုက္ခရောက်စေသော အညှာတာကင်းမဲ့သူသည် အလျှင်း 'တပ်က်ဒီးရ်' ကောင်းမည်မဟုတ်ပေ။

# မစ်ရှ်ကာတ်ကျမ်းတော် မှ ကောက်နုတ်ချက်

ဟဒီးသ်တော်....၂၃။ အဘူဟုရိုင်ရဟ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ အမျိုးသမီးများအား ကောင်းစွာဆက်ဆံရန် ငါရစူလ်၏ မှာတမ်း'ဝစွိယတ်'ပြုချက်ကိုလက်ခံလိုက်နာကြကုန်၊ အဘယ့်ကြောင့်ဆိုသော် အမျိုးသမီးများသည် နံရိုးဖြင့် ဖန်ဆင်းခြင်းခံကြရသည်။

ထို့ကြောင့် အမျိုးသမီးများကို နူးညံ့သိမ်မွေ့စွာ ဆက်ဆံကြရမည်၊ အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်မှာ.... (ဝအာရှေရှူဟွန်န၊ ဗင်လ်မအ်ရူဖွေ့) အမျိုးသမီးများကို ကောင်းမွန်စွာ ဆက်ဆံကြကုန်။ (ဘိုခါရီကျမ်း)

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ.... အမျိုးသမီးများမှ ကောင်းစွာ ဖြောင့်မတ်မှန်ကန်မှုကို မက်မထားကြနှင့်၊ ထိုအမျိုးသမီးတို့၏ အသိနည်းခြင်းကိုသည်းခံကြကုန်၊ ဤသည်မှာ အမျိုးသမီးများအား သက်ညှာရန်မိန့်ထားကြောင်း သိကြရပေသည်။

ဟဒီးတော်...၂၄။ အဘူဟုရိုင်ရဟ် (ရသွေ့) သခင်က အကြောင်းပြုခဲ့သည်၊ မုအ်မင်န်ယောကျ်ားသည် မုအ်မင်န်မိန်းမဇနီးကို အညှိုးထားရန်မထိုက်၊ အဘယ့်ကြောင့်ဆိုသော် ၎င်းသူမ၏ အကျင့်တစ်ခုကိုမကြိုက်ပါက အခြားတစ်ခုကို နှစ်သက်မည်ပင် ဖြစ်သည်၊ (ဆိုလိုသည်မှာ ဤသည်ကိုစဉ်းစား၍ သည်းခံနေရမည်)။ (မွတ်စလင်မ်ကျမ်း)

ဟဒီးသ်တော်....၂၅။ အဗ်ဒွလ္လာဟ်ဗင်န်ဇမ်အဟ် (ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ မိမိ၏ ဇနီးသည်ကို ကျေးကျွန်ကဲ့သို့ မညှာမတာရိုက်ပုတ်ရန်မထိုက်၊ နေ့ကုန်သောအခါ ပေါင်းသင်းမည်သာ ဖြစ်သည်။ (ဘိုခါရီကျမ်း)

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ....ထိုသို့ရိုက်ပုတ်ပါက ဇနီးသည်မှာ စိတ်လိုလားမှု ရှိမည်မဟုတ်ပေ။

ဟဒီးတော်....၂၆။ ဟကီမ်ဗင်န် မိုအာဝေယဟ် သခင်က ဖခင် မှ တဆင့် အကြောင်းပြုခဲ့သည်၊ ကျွန်ုပ်က ယာရစူလလ္လာဟ် ကျွန်တော်တို့သည် ဇနီးသည်များ အပေါ် အဘယ်တာဝန်ရှိပါသနည်း....ဟု မေးလျှောက်ရာ၊ ကိုယ်တော်က မိန့်သည်မှာ.... သင်စားလျှင် ဇနီးသည်ကိုလည်း ကျွေးရမည်၊ သင်အဝတ်ဝတ်လျှင် ဇနီးကိုလည်း အဝတ်ဆင်ရမည်၊ ၎င်းဇနီး၏ မျက်နှာကို မရိုက်နှင့်၊ ခိုက်ရန်ဖြစ်မှုကို အိမ်တွင်း၌ပင် ရှိစေကုန်။ (အဟ်မဒ်၊ အဘူဒါဝူးဒ်၊ အစ်ဗ်နို့ မာဂျဟ်ကျမ်း)

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ ဇနီးသည်မှာ စိတ်ဆိုး, စိတ်ကောက်လျှင် အိမ်ပြင်သို့ မထွက်စေနှင့်။

ဟဒီးသ်တော်....၂၇။ အဘူဟုရိုင်ရဟ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အားလုံးသည် မုအ်မင်န်များ ဖြစ်ကြသည်၊ အီမာန်ပြည့်စုံသူသည် ထိုသူဖြစ်သည်၊ အကြင်သူ၏ စာရိတ္တသည် ကောင်းမွန်လျှင်၊ သင်တို့အနက် အကောင်းဆုံးသောသူများသည် ထိုသူများဖြစ်သည်၊ အကြင်သူတို့သည် မိမိတို့ဇနီးများကို ကောင်းစွာဆက်ဆံကြလျှင်။ (တင်ရ်မေသီကျမ်း)

ဤသည်မှာ ဒုတိယအခန်း၏ ဟဒီးသ်တော် (၂၇)ပုဒ် ဖြစ်သည်၊ ပထမအခန်းတွင် (၁၃)ပုဒ် ပါဝင်ခဲ့သည်၊ အားလုံးပေါင်း ဟဒီးသ်တော်(၄၀)ဖြစ်သည်။ ပမာဆိုသော် အမျိုးသမီးများနှင့်ပတ်သက်သော ဟဒီးသ်တော်ပေါင်း(၄၀)ဖြစ်သည်။

# တတိယအခန်း

ဘဟာစ်ရှိတီ ဇေဝရ်ကျမ်း၏ မြစ်တားချက်များအကြောင်းကို ဆိုပေအံ့။

## အမျိုးသမီးတို့၏ အချို့ပြစ်ချက်များအပေါ် ကုရ်အာန်နှင့် ဟဒီးသ်တော်၏ ဆုံးမချက်

ကောင်းသောသူမြတ်မများအကြောင်းကို ရေးသားပြီးနောက် အမျိုးသမီးများ၏ အချို့သောပြစ်ချက်များ၊ ထိုပြစ်ချက်များကို ကျူးလွန်ခြင်းဖြင့် ကောင်းမှုကုသိုလ်မှာ လျော့နည်းသွားရသည်၊ ထိုပြစ်ချက်များ နှင့် ပတ်သက်၍ အလ္လာဟ် နှင့် ရစူလ်က တစ်သီးတစ်ခြား အမျိုးသမီးများကို ဆိုဆုံးမတော်မူခဲ့ခြင်းများကို ရေးသားတင်ပြရန် လိုအပ်သည်ဟု ယူဆမိသည်၊ ထို့ကြောင့် ထိုပြစ်ချက်များကို အကျဉ်းအားဖြင့်ဖော်ပြမည်၊ သို့မှသာ အမျိုးသမီးများအနေနှင့် ထိုမကောင်းသောအချက်များမှ ရှုံရှာမုန်းတီးလာကာ ရှောင်ကြဉ်လာကြမည်၊ ၎င်းဆောက်တည်သော ကောင်းမှု ကုသိုလ် မလျော့နည်းဘဲ ပြည့်ပြည့်ဝဝ ရရှိကြပေမည်။

## အာယတ်တော်များ အကြောင်း

၁။ အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်၊ အကြင်အမျိုးသမီးများကို ပြောစကားနားထောင်မည်မဟုတ်ဟု သင်တို့ထင်ကြလျှင်၊ ပထမ ဆိုဆုံးမကြကုန်၊ အကယ်၍ ဆုံးမမှုကို မနာခံကြလျှင်၊ ထိုအမျိုးသမီးများ အနီးတွင် ထိုင်ခြင်း၊ အတူအိပ်ခြင်းကို ရပ်ဆိုင်းထားကြကုန်၊ ထိုသို့ပြုပါသော်လည်း မနာယူကြပါလျှင် ရိုက်ပုတ်ဆုံးမကြကုန်၊ အကယ်၍ စကားနာခံမှုပြုလာကြသော်၊ အမျိုးသမီးများကိုဒုက္ခပေးရန် ဆင်ခြေဆင်လက် မရှာကြံကြနှင့်။

**အကျိုးကျေးဇူး။** ခင်ပွန်းသည်၏စကားကိုမနာခံခြင်းသည် အလွန်မကောင်းသော အချက် ဖြစ်ကြောင်း တင်ပြပါ အာယတ်တော်မြတ်ဖြင့် သိရလေသည်။

၂။ အလ္လာဟ်အသျှင်မြတ်မိန့်တော်မူသည်၊ သွားလာရာ၌ မြေပေါ်တွင် ခြေကို ဆောင့်၍မသွားကြနှင့်၊ ထိုသို့သွားခြင်းဖြင့် ဝတ်ထားသောဘယက်တန်ဆာများ၏အသံကို သူစိမ်းယောကျ်ားများ ကြားသွားပေမည်။

**အကျိုးကျေးဇူး။** ခြူကဲ့သို့သော အသံမြည်သည့် ဓာယက်တန်ဆာကိုကား လုံးဝဝတ်ဆင်ပိုင်ခွင့်မရှိ၊ တစ်ခုနှင့်တစ်ခု ထိမိ၍ မြည်မည့်အချက်ကို ဂရုစိုက်ရန် မိန့်မြွက်ထားခြင်းဖြစ်သည်၊ ခြေတွင်ရှိသော အရာတစ်ခု၏ အသံကိုပင် ဂရုစိုက်ရမည်ဟု မိန့်ထားပေရာ၊ အမျိုးသမီး၏ အသံနှင့် ကိုယ်ကာယ ပေါ်သည့်ကိစ္စကို မည်မျှတင်းကျပ်စွာ ပိတ်ပင်ထားမည်ဖြစ်ကြောင်း သိသာပေသည်။

## ဟဒီးသ်တော်များ အကြောင်း

၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အို.... အမျိုးသမီးတို့၊ ငါရစူလ်သည် ဂျဟန္နမ်ငရဲဘုံ၌ သင်မတို့ကို များပြောင်စွာ မြင်တော်မူခဲ့သည်၊ အမျိုးသမီးများက အကြောင်းကို မေးကြရာ၊ ရစူလ်ကိုယ်တော်က မိန့်သည်မှာ.... သင်မတို့သည် အရာခပ်သိမ်းကို ကျိန်ဆဲကြသည်၊ ၎င်းခင်ပွန်းသည်ကို များစွာ ကျေးဇူးကမ်းကြသည်၊ ၎င်းခင်ပွန်းသည်ပေးထားသောပစ္စည်းကို နှာခေါင်းရှုံ့ကြသည်။

ဘိုခါရီနှင့်မွတ်စလင်မ်ကျမ်းတွင် အဘူစအီးဒ်ခွဒ်ရီ(ရသေ့)သခင် 'ရေဝါယတ်' အကြောင်းပြုသော ရှည်လျားသည့် ဟဒီးသ်တော်၌ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က အမျိုးသမီးများအား မိန့်ဆိုထားသည်မှာ အို...အမျိုးသမီးအပေါင်းတို့၊ 'ခိုင်ရာတ်' လှူတန်းမှုကိုပြုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် ငါရစူလ်သည် သင်မတို့ကိုများပြောင်စွာ 'ဂျဟန္နမ်' အပါယ်ငရဲ၌ မြင်တွေ့တော်မူသည်၊ အမျိုးသမီးများက အကြောင်းရင်းကို မေးလျှောက်ကြရာ၊ သင်မတို့သည် ကဲ့ရဲ့ပြစ်တင်ကျိန်ဆဲမှုများစွာပြုကြသည်၊ ၎င်းခင်ပွန်းသည်ကို ကျေးဇူးကမ်းကြသည်။

၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ရှေ့တော်တွင် အမျိုးသမီး တစ်ဦးက ရောဂါကို မကောင်းပြောသည်၊ ရစူလ်ကိုယ်တော်က ရောဂါကို မကောင်း မပြောနှင့်၊ ရောဂါ ဖြစ်ခြင်းဖြင့် 'ဂိုနာဟ်' အကုသိုလ်များ ကျွတ်သည်ဟု မိန့်တော် မူလေ၏။

၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဖွဲ့နွဲ့၍ ငိုသော သူမသည် အကယ်၍ 'တောဗဟ်'ပြု အမှားဝန်ခံခြင်းမပြုပါက 'ကေယာမတ်' နေ့တွင် တစ်ကိုယ်လုံးတွင် အဝတ်ကဲ့သို့ အဆီများရစ်ပတ်ကာ ရှင်ပြန်ထရမည်၊ သို့ရှိရာ ကိုယ်ကာယကို လျှင်မြန်စွာမီးစွဲလောင်မည်၊ ၎င်းအဝတ်ကဲ့သို့ပင် တစ်ကိုယ်လုံးအဖုအလုံး များ ပေါက်မည်၊ (ဝ၁)ဒုက္ခနှစ်မျိုးခံရမည်၊ အဖုအလုံးဖြင့် တစ်ကိုယ်လုံး မခံမရပ်နိုင် ဖြစ်မည်၊ ၎င်းဂျဟန္နမ်၏ မီးလောင်ခံရဦးမည်။

၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အို... မွတ်စလင်မ်အမျိုးသမီးတို့၊အိမ်နီးချင်းတစ်ဦးနှင့်တစ်ဦးပေးပို့သောပစ္စည်းကို ဆိတ်ခွာရိုး ပင် ဖြစ်စေကာမူ၊ သေးသိမ်သည် ၎င်း တန်ဘိုးမရှိဟု မထင်မှတ်ကြနှင့်။

**အကျိုးကျေးဇူး။** အချို့သော အမျိုးသမီးများတွင် မကောင်းသော အလေ့ ရှိကြသည်၊ အခြားသူ၏အိမ်မှလာသော ပစ္စည်းကို နှာခေါင်း ရှုံ့ကြသည်၊ ကဲ့ရဲ့ကြသည်။

၅။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီး တစ်ယောက်သည် ကြောင်တစ်ကောင်ကိုဖမ်း၍ချီထားသည်၊ အစာမကျွေး ရေမတိုက်ဘဲ ထားကာ၊ လွှတ်လည်းမလွှတ်ပေ၊ ထို့ကြောင့် မချိမဆန့်သေသွားသောအတွက်ကြောင့် ထိုအမျိုးသမီးသည် အသာဗ်ပြစ်ဒဏ် ခံရသည်။

**အကျိုးကျေးဇူး။** ဤသို့ပင် တိရစ္ဆာန်များကိုမွေးထားပြီး အစာရေစာမကျွေးဘဲ ထားခြင်းသည် အသာဗ်ပြစ်ဒဏ် ခံရမည့်အချက် ဖြစ်သည်။

၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အချို့သော ယောကျ်ားမိန်းမတို့သည် နှစ်ပေါင်း(၆ဝ) အလ္လာဟ်အသျှင်မြတ်၏ အေဗာဒတ် ခ ဝပ်မှု ပြုကြသည်၊ သို့သော်လည်း သေဆုံးခါနီး အချိန်တွင် 'ရှရီအတ်' တရားတော်မြတ်နှင့် ကွဲလွဲသောကိစ္စကိုပြု၍ ဂျဟန္နမ် အပါယ်ငရဲ ထိုက်သက်သူများ ဖြစ်ကြသည်။

**အကျိုးကျေးဇူး။** အချို့တို့၏ အလေ့အကျင့်မှာ ကျွန်ုပ်(ကျွန်မ)၏ ပစ္စည်းကို မြေးအား ပေးပါ၊ ညီ(မောင်)ကို မပေးနှင့်၊ ၎င်းမည်သည့် သမီးကို မည်သည့်ပစ္စည်းအား အခြားသမီးများထက် ပို၍ပေးပါဟု ပြောဆို၍ သေကြ

သည်၊ ဤသို့ပြုခြင်းများသည် 'ဟရာမ်' ကြီးလေးသော အပြစ် ဖြစ်သည်၊ 'ဝစ္စီယတ်' မှာတမ်းမှုနှင့် အမွေရသင့်ရထိုက်ကြောင်းများကို မှန်ကန်သော အာလင်မ်အား မေးပြီး ထိုအတိုင်းပြုကြရမည်၊ ကွဲလွဲစွာ မပြုကြနှင့်။

၇။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အမျိုးသမီး တစ်ဦးသည် အခြား တစ်ဦးအား မိမိခင်ပွန်းသည်ကို ၎င်း မြင်နေရဘိအလား အကျိုး အကြောင်းများကို ပြောမပြရ။

၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ထံတော်တွင် မြောက်သား တော်နှစ်ပါး ထိုင်နေတော်မူစဉ် မျက်မမြင် ဆွဟာဗီတစ်ပါး ရောက်လာသည်၊ ရစူလ် ကိုယ်တော်က မြောက်သားတော်နှစ်ပါးအား 'ပရ်ဒဟ်' လုံခြုံမှုအတွင်း၌ သွားရန် မိန့် တော်မူသည်၊ မြောက်သားတော်နှစ်ပါးသည် အံ့ဩ၍၊ ထိုပုဂ္ဂိုလ်သည် မျက်မမြင်ဖြစ် ကြောင်းလျှောက်သည်။ သင်မတို့ကား မျက်မမြင်မဟုတ်ကြ၊ ထိုသူ့ကို မြင်နေကြသည်ဟု မိန့်တော်မူသည်။

၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့် တော် မူ သည်၊ အကြင် အမျိုးသမီးသည် လောက၌ ခင်ပွန်းသည်ကို ဒုက္ခပေးလျှင်၊ ဂျန္နတ် ဥယျာဉ်ဘုံနန်းတွင် ၎င်းသူရမည့် 'ဟူရ်'ကညာပျိုက အလ္လာဟ်အသျှင်မြတ်သည် သင်မအား ဖျက်ဆီးပါစေ၊ ၎င်းသူသည် သင်မထံ ခေတ္တခဏညှော့သည်ဖြစ်သည်၊ မကြာမီ သင်မထံမှ ကျွန်မထံသို့ရောက် လာမည်ဟု ပြောလေသည်။

၁၀။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ငါရစူလ်သည် ဤ'ဒိုဇခ်'မိန်းမများကိုမမြင်ဘူး(ဝါ)ငါရစူလ်'ဇမာန'ခေတ်ကုန်ပြီးနောက်ဤသို့သော အမျိုးသမီးများပေါ်ပေါက်လာမည်၊အဝတ်ကိုဝတ်ဆင်ကြမည်၊သို့သော် ဝတ်လစ်စလစ် ပမာဖြစ်မည်၊ (ဝါ) ကိုယ်ပေါ်တွင် အဝတ်ပါသော်ငြားလည်း တစ်ကိုယ်လုံး မြင်နေရ သကဲ့သို့ ပါးလွှာမည်၊ ၎င်းကိုယ်ကာယကိုလှုပ်၍ မော်ကြွားကာ လမ်းလျှောက်ကြမည်၊ ၎င်းဆံပင်များထဲတွင် ဆံပင်တုများ၊ ၎င်းအဝတ်စများထည့်၍ ဆံပင်များသည် ထင်စေ ရန် ပြုလုပ်ကြမည်၊ ကုလားအုတ်ဘို့ကဲ့သို့ဆံပင်တုဖြင့် မြင့်အောင်ပြုကြမည်၊ ဤသို့သော သူမများသည် ဂျန္နတ်သို့ဝင်ရောက်ကြရမည်မဟုတ် သာမက ဂျန္နတ်၏အနံ့ပင် ခံကြရမည် မဟုတ်ပေ။

**အကျိုးကျေးဇူး။** ဆိုလိုသည်မှာ.... အပြစ်ရှောင်ကြဉ်သော အမျိုးသမီးများသည် ဂျန္နတ်သို့ ဝင်ရောက်ကြလေသောအခါ ထိုသူမများသည် အတူ ဝင်ရောက်ကြမည်မဟုတ်၊ အပြစ်ခံပြီး ၎င်းအီမာန်၏ 'ဘရ်ကတ်' ဖြင့်သာ -နောက်ဆုံး ဂျန္နတ်သို့ ဝင်ကြရမည်။

၁၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်အမျိုးသမီးသည် ရွှေဘယက်တန်ဆာကို လူတို့မြင်စေရန်အတွက် ဝတ်လျှင်၊ ထိုဘယက်တန်ဆာဖြင့် ထိုသူမကို 'အသာဗ်'ပြစ်ဒဏ် ပေးတော်မူမည်။

၁၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ခရီးတစ်ခုတွင် ကြွသွားတော်မူရာ၊ တစ်ဦးသောသူက 'လအ်နတ်' ကျိန်ဆဲနေသည်ကိုကြားရသဖြင့် အတူပါပုဂ္ဂိုလ်များအား အကြောင်းကိုမေးရာ၊ လူတို့ကလျှောက်ကြသည်၊ မည်သည့် သူမတစ်ယောက် ဖြစ်သည်၊ ကုလားအုတ်သည် သွားရာတွင် နှေးကွေးမသာကြောင့်၊ ၎င်း မြူးတူးခုန်ပေါက်သောကြောင့် ကုလားအုတ်ကို'လအ်နတ်'ကျိန်ဆိုနေခြင်းဖြစ်သည်။ ထိုအခါ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်က ထိုသူမ နှင့် ထိုသူမ၏ ပစ္စည်းများကို ကုလားအုတ်ပေါ်မှ ချပစ်ရန် အတူပါပုဂ္ဂိုလ်များအား အမိန့်ပေးတော်မူလေ၏၊ ထိုသူမအနေဖြင့် ကုလားအုတ်သည် 'လအ်နတ်' ကျိန်ဆိုသင့်သည်ဖြစ်နေရာ၊ အဘယ့်ကြောင့် ထိုကုလားအုတ်ကို အသုံးပြုသနည်း။ (ကောင်းစွာ အပြစ်ပေးတော်မူခြင်း ဖြစ်၏။)

ဤတွင်ရှိကား ကစ္စဝတ္တန် နစ္စဝဟ်ကျမ်း ပြီး၏။

## ဘဟာစ်ရှိတီဇေဝရ်ကျမ်း အဋ္ဌမတွဲ၏ နောက်ဆက်တွဲကို ဆိုပေအံ့

ဤစာမူနှစ်ရပ်တွင် ချီးကျူးခြင်းနှင့်ဆုံးမချက် အာယတ်တော်(၅)ပုဒ်၊ ဟာဒီးသ်တော်(၂၅)ပုဒ် ရေးသားခဲ့ပေသည်၊ ဤဘဟာစ်ရှိတီဇေဝရ်ကျမ်း အဋ္ဌမတွဲ အစတွင် ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ်(ဆွလလ္လာဟု)ကိုယ်တော်၏ စာရိတ္တတော်များကို ရေးခဲ့သည်၊ ထိုအချက်များကို အချိန်ဟူသရွေ့ လိုက်နာဆောက်တည်ကြရန်လိုအပ်ပေသည်၊ ဤအတွဲအလျင် ပထမတွဲမှ သတ္တမတွဲအထိ ကောင်းမှုများ၊ ဆိုဆုံးမချက်များကို အကျယ်တဝင့်ရေးသားခဲ့သည်၊ ထိုအချက်များကို ဂရုစိုက်၍ လိုက်နာကျင့်သုံးကြကုန်၊ ထိုသို့လိုက်နာကျင့်သုံးခြင်းဖြင့်(အင်န်ရှာအလ္လာဟ်)ကေယာမတ်၌ ကြီးမားသောအဆင့်အတန်းများ ရရှိကြမည်၊ သို့တည်းမဟုတ် လိုက်နာကျင့်သုံးခြင်းမပြုသော ယောကျ်ား-မိန်းမတို့သည် ဒုက္ခများနှင့် ရင်ဆိုင်ကြရမည်၊ (ဤသို့ မကောင်းသော အဖြစ်မှ အလ္လာဟ်အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏)။

အကယ်၍ ကုရ်အာန်ကျမ်းတော်မြတ်နှင့်ဟာဒီးသ်တော်ကိုနားလည်လာသောအခါ၊ ဤသို့ 'ဒိန်' မကောင်းသော အကျင့်၊ မကောင်းသော 'အကီဒဟ်'၊ မကောင်းသော 'အမလ်'၊ မကောင်းသော ယောကျ်ား-မိန်းမများအကြောင်းကို သိရပေမည်၊ အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်တို့နှင့် သင်တို့အားလုံးကို ကောင်းမှုဆောက်တည်နိုင်သော စွမ်းအား ပေးတော်မူပါစေ။ ၎င်း ထိုကောင်းမှုများပြုလျက် သေဆုံးကြ၍၊ ထိုအဖြစ်၌ပင် ရှင်ပြန်ထစေတော်မူပါစေသတည်း....။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ نَحْمَدُهٗ وَنُصَلِّيْ عَلٰى رَسُوْلِهِ الْكَرِيْمِ

### ပထမ နောက်ဆက်တွဲ

## ဘဟာစ်ရှိတီ ဂျောင်ဟာရ်ကျမ်း အဋ္ဌမတွဲ

### ရစူလ်ကိုယ်တော်၏ ချမ်းမွေ့ယ်နှင့်သန့်ရှင်းသော အလေ့တော်များနှင့် စာရိတ္တတော်များ အကြောင်း

ဗိုင်ဟာကီကျမ်းရှင်က ဘရာအ်ဗင်နအာဇစ်ဗ် (ရသေ့) သခင်မှ ဆင့်ပြန်ခဲ့သည်၊ ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အားလုံးသော သူများထက် ချောမော လှပတော်မူသည်၊ ၎င်းအားလုံးသောသူများထက်စိတ်သဘောထားကောင်းတော်မူသည်၊ ရစူလ် ကိုယ်တော်၏ အရပ်သည် ရှည်လည်းမရှည်၊ ပုလည်းမပုပေ၊ အနေတော် အရပ် အမောင်း ရှိတော်မူသည်။ မျက်နှာတော်သည် ဂျုံနှစ်ရောင်ရှိသည်၊ လ ပြည့် လ ကို အပြစ်ရှာ၍ရသည်၊ သို့သော် ရစူလ်ကိုယ်တော်၏ မျက်နှာတော်သည် ဒဏ်ရာ ဒဏ်ချက် အစွန်းအထင်း မရှိပေ။

အစ်ဗ်နို့စအဒ် သခင်က အစ်မာအီလ်ဗင်န်အယာရှ် (ရသေ့)သခင်မှ (စွဟီးဟ် မွရ်စလ်)ဖြင့် အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အားလုံးသော သူများထက် ဒုက္ခအပေါ် သည်းခံတော်မူသည်။

တင်ရ်မေသီကျမ်းရှင်က ဟင်ဒ်ဗင်န် အဗီဟာလဟ် (ရသေ့) မှ ရှည်လျားသော ဟဒီးသ်တော်တွင် ရစူလ်ကိုယ်တော်၏ အလေ့တော်ကို အကြောင်းပြုရာ၌ ဤသည် လည်း ပါဝင်သည်၊ ရစူလ်ကိုယ်တော်သည် လမ်းသွားသော အခါ ခြေတော် ကြွရာ၌ အားနှင့်ကြွပြီး ခြေတော်ချသောအခါ ရှေ့သို့ သွားတော်မူသည်၊ ၎င်းကျိုးငယ်စွာဖြင့် ခြေတော်ကိုလှမ်းတော်မူသည်၊ သွားလာရာ၌ အမြင့်မှအနိမ့်သို့ ဆင်းသကဲ့သို့ သွားတော် မူသည်၊ တစ်ဖက်သို့ ကြည့်လိုတော်မူသောအခါ မျက်နှာကိုလှည့်၍ ကြည့်တော်မူသည်၊ (ဝါ)မျက်စိကိုစွေ၍ကြည့်သော အလေ့အထမရှိပေ၊ အရှုကို အမြဲ အောက်သို့ထားတော် မူသည်၊ မိုးပေါ်ထက် မြေပေါ်တွင် ကိုယ်တော်၏အရှုသည် များလေသည်၊ ၎င်းရစူလ် ကိုယ်တော်သည် လမ်းသွားသောအခါ၊ ဆွဟာဗဟ်သခင်များနောက်မှသာ သွားတော်မူ သည်၊ ကိုယ်တော်သည်ရှက်တတ်သောကြောင့် အများအားဖြင့် မော့်၍မကြည့်ဘဲ မျက်လုံး ဒေါင့်ဖြင့်သာ ကြည့်တော်မူသည်၊ ရစူလ်ကိုယ်တော်သည် တွေ့သူတိုင်း အလျင်ဦးအောင် 'စလာမ်'ပေး, နှုတ်ခွန်းဆက်တော်မူသည်။

အဘူဒါဝူးဒ်ကျမ်းရှင်က ဂျာဗင်ရ်(ရသေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ် ကိုယ်တော်သည် စကားပြောသောအခါ နားထောင်သူ နားလည်စေရန်အတွက် ဆိုင်း၍

ဆိုင်း၍ပြောတော်မူသည်၊နားထောင်သူပျင်းရိ လန့်သွားလောက်အောင်လည်းဆိုင်းတော်မမူပေ။

ဟဒီးသ်တော် တစ်ရပ်တွင်လာရှိသည်၊ ရစူလ်ကိုယ်တော်သည် စကားတစ်ခွန်းကို (၃) ကြိမ် မိန့်ဆိုတော်မူသည်၊အချုပ်မှာ ကိုယ်တော်သည် မိန့်ခွန်းတော်ကို အကောင်းဆုံး နည်းဖြင့် မြွက်ကြားတော်မူသည်၊ လိုအပ်သလိုဂရုပြု၍ မိန့်ဆိုတော်မူသည်၊ အချို့သည် နားလည်လွယ်ကြသည်၊ ထိုအခါ၌ ထပ်ဆင့်၍ မိန့်နေရန်မလိုတော့ပေ၊ အချို့သည် ချက်ချင်းနားမလည်ကြ၊ အလတ်တန်းစားဖြစ်၍ ထိုသို့သောသူအား(၂)ကြိမ် မိန့်ရလေသည်၊ အချို့သည် နားဝေးလွန်းသဖြင့် (၃) ကြိမ်ဆက်၍မိန့်ပါမှ နားလည်ကြသည်၊ ၎င်းအကယ်၍ ဤသို့ (၃) ကြိမ်မိန့်ခြင်းဖြင့်ပင် မလုံလောက်သေးသော် စိတ်မတိုဘဲ စိတ်ထားကြီးစွာဖြင့် ဆက်လက်ပြော၍ နားလည်သွားစေပေသည်။

ကောင်းစွာ မှတ်သားထားကြကုန်၊ အမှန်မှာ စာရိတ္တ ကောင်းမွန်ခြင်းနှင့် စည်းကမ်းများကို ဂရုစိုက်သော အမြင့်ဆုံးသောအဆင့်ကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ရရှိတော်မူပေသည်၊ အလျင်ကမည်သူမှ မရခဲ့၊နောက်လည်း မည်သူမှရရှိမည်မဟုတ်ပေ၊ စည်းစနစ်များကို ဂရုစိုက်လျက် ကောင်းစွာဆက်ဆံမှုပြုခြင်းသည် အကောင်းဆုံးသော အချက်ဖြစ်သည်။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏အလေ့တော်မှာအလုပ်တစ်ခုကို ကိုယ်တိုင် လုပ်ဆောင်တော်မူလျှင် စည်းကမ်းစနစ်ကျကျ ပြုတော်မူသည်၊ ၎င်းအခြားသူများသည် လုပ်ဆောင်ရာ၌ မှားယွင်းမှုပေါ့လျော့မှုရှိလာလျှင် ငေါက်ငမ်းတော်မမူပေ၊ ဟုတ်ပါ၏၊ ၎င်းတို့အားပြုပြင်ရန်အတွက် စည်းစနစ်ကျကျ ချိုသာနူးညံ့စွာ ဆုံးမတော်မူသည်၊ဤသည် နည်းလမ်းကို စွန္နတ်တော်လမ်းစဉ်လိုက်သော ပုဂ္ဂိုလ်များအနေနှင့် လိုက်နာ ကျင့်သုံးကြရမည်၊ ကိုယ်တိုင် စည်းကမ်းနည်းလမ်းများကို လိုက်နာကျင့်သုံး၍ စာရိတ္တမြင့်မားကြရပေမည်၊ အခြားသူများကိုလည်း လိုက်နာကျင့်သုံးကြရန် တိုက်တွန်းကြရမည်၊ သို့သော် မိမိကိုယ်ကို လိုက်နာမှုဖြင့်သို့ဒ္ဓ တင်ကာ အခြားသူများ၏ ပေါ့လျော့မှုကို ပြစ်တင်ဖော်ထုတ်ခြင်းမပြုနှင့် ဟုတ်ပါ၏ ၎င်းတို့၏ ပေါ့လျော့မှားယွင်းမှုကို ပြုပြင်သောအနေဖြင့် အကယ်၍ လိုအပ်ခဲ့သည်ဖြစ်မူ ပြင်းပြစွာ အရေးယူမှုပြုနိုင်သည်၊ကောင်းစွာ မှတ်သားထားကြကုန်။

အဘူဒါဝူးဒ်ကျမ်းရှင်က အာအေရှဟ် (ရသွေ.) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မိန့်ခွန်းတော်သည်တစ်လုံးတစ်ပါဒစီပြတ်သား ရှင်းလင်းသည် အကြင်သူသည် မိန့်ခွန်းတော်ကို နားထောင်ရလျှင် နားလည်၍ပင် သွားလေသည်။

ဗိုင်ဟကီကျမ်းရှင်က အာအေရှဟ် (ရသွေ.) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် မကောင်းသော အကျင့်များအနက် မုသားစကားကိုပို၍ စက်ဆုပ်တော်မူသည်။

ဗိုင်ဟာကီ၊ အဘူဒါဝူးဒ် နှင့် 'နေစာအီ' ကျမ်းရှင်များက အိနတ်စ်(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် အဝတ်အထည်များတွင် အရောင်မျိုးစုံဖြင့် ယက်လုပ်သော ယမန်နိုင်ငံဖြစ် အဝတ်ကို နှစ်သက်တော်မူပေသည်၊ အဇီဇီက အစ်ဗ်နို့ ရတ်စ်လာမ်သခင်မှ ဤအထည် နှစ်သက်ခြင်း၏ အကြောင်းရင်းကို အကြောင်းပြုခဲ့သည်၊ ထိုအထည်များသည် လှပတင့်တယ်သော အဝတ်များမဟုတ်ကြ ရိုးရိုးပင်ဖြစ်သည်၊ ၎င်းအညစ်အပေလည်း ခံပေသည်။

စွဗ်ဟာနလ္လာဟ် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ တံခိုးဂုဏ်တော်ပင် ဖြစ်သည်၊ ကိုယ်တော်သည် မိမိကိုယ်ကို လောက၌ ခရီးသည်ပမာ ယူဆတော်မူသည်၊ လောက၏ စည်ပင်သာယာမှုကို မက်မောတော်မမူ၊ စည်းစိမ်များကိုလည်း ဂရုစိုက်တော် မမူပေ၊ အို...မွတ်စလင်မ် အပေါင်းတို့၊ သင်တို့လည်း ဤလမ်းစဉ်ကို လိုက်ကြရန် ထိုက် သည်၊ လိုအပ်သည်ခန့် အရှက်ဖုံးရုံပင် အဝတ်ဝတ်ကြကုန်၊ ရိုးရိုးနှင့် မပေလွယ်သော အဝတ်ကို ဝတ်ဆင်ကြကုန်၊ သို့မှသာ ထိုအလ္လာဟ်အသျှင်မြတ် ဘက်တော်သို့ စိတ်အာရုံ စူးစိုက်ရာတွင် ထိုလှပတင့်တယ်သော အဝတ်များက အတားအဆီးမပြုနိုင်ပေမည်၊ မကြာ ခဏ ဖွတ်လျှော်နေရသောအဝတ်လည်း မဖြစ်စေနှင့် အချို့'ရေဝါယတ်'များ၌ ဖြူသော အဝတ်များအား ချီးကျူးထားခြင်းလည်း လာရှိပေသည်။

'ဘိုခါရီ' နှင့် 'အစ်ဗ်နို့မာဂျဟ်' ကျမ်းရှင်က အာအေရှဟ် (ရသွေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အမြဲထာဝရ ပြုနေ နိုင်သော 'အေဗာဒတ်' နှစ်သက်တော်မူသည်၊ (နဖိလ်နမာဇ်များကို တတ်နိုင်သည်ခန့် ဖတ်ကြရန်ထိုက်သည်၊) တစ်ရက်ထည်းတွင် များစွာဖတ်၍ နောက်တစ်ရက်တွင် ထိုမျှ မဖတ်နိုင်ခြင်း မဖြစ်စေရ၊ တစ်ရက်ထည်း 'အေဗာဒတ်' များစွာလုပ်ပြီး ဆက်မလုပ် နိုင်ခြင်းထက် နေ့စဉ်တတ်နိုင်သည်ခန့် အနည်းငယ် 'အေဗာဒတ်' ပြုခြင်းက ပို၍ကောင်း လေသည်၊ သို့သော် တစ်ခါတစ်ရံ ပြု၍ တစ်ခါတစ်ရံ ပျက်ကွက်ခြင်း ရစူလ်ကိုယ်တော်၏ မိန့်ခွန်းတော်အရ မဖြစ်စေကြနှင့်။

အစ်ဗ်နွတ်စ် စွန်နီ(ရဟေ့)စသည့် သခင်က အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော် သည် ဆိတ်သားကို ရှေ့ပိုင်းမှ ပို၍နှစ်သက်တော်မူသည်။

ဟာကင်မ် စသည်က အာအေရှဟ် (ရသွေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် သောက်သုံးရေတွင်အေးသော ချိုမြသောရေကိုပို၍ နှစ်သက်တော် မူသည်။

အဘူနအီမ်က အစ်ဗ်နို့အဗ်ဗားစ် ( ရသွေ့ ) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် ( ဆွလလ္လာဟု ) ကိုယ်တော်သည် သောက်ရာတွင် နို့ကိုနှစ်ကြိုက်တော် မူလေသည်။

အစ်ဗ်နွတ်စ်စွန်နီနှင့် အဘူနအီမ်က အာအေရှဟ် (ရသွေ့) သခင်မမှ အကြောင်း ပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ဟင်းလျာများတွင် 'စရိကာ' ရေကို ကြိုက်နှစ်သက်တော် မူသည်။

'မွတ်စလင်မ်' ကျမ်းရှင်က အနတ်စ် (ရသွေ့) သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ချွေးအထွက် များလေသည်၊ ၎င်းအဇီဇီဒ္ဒ လာရှိသည်၊ အွမ်မေ့စလီမ်(ရသွေ့)သခင်မသည် ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ချွေးများကိုစုသည်၊ ၎င်းအခြားသော အမွှေးနံ့သာများတွင် ရောလေသည်၊ အဘယ့် ကြောင့်ဆိုသော် ရစူလ်ကိုယ်တော်၏ချွေးသည် မွှေးကြိုင်လေသည်၊ ဤသည်ကို မွတ်စလင်မ် ကျမ်းရှင်က အကြောင်းပြုခဲ့သည်။

မွတ်စလင်မ်ကျမ်းရှင်က ဂျာဗင်ရ်(ရသွေ့)သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ် တော်၏ မုတ်ဆိတ်တော်သည် (ထူထဲ) များလေသည်။

အစ်ဗ်နို့အဒီ စသည်က အာအေရှဟ်(ရသွေ့)သခင်မနှင့်အဘူဟုရိုင်ရဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အသီးအနှံများတွင် စွန်ပလွံစိုနှင့် ဖရဲသီးကို ပို၍နှစ်ကြိုက်တော်မူသည်။

အဘူနအီမ်က အစ်ဗ်နို့ အဗ်ဗားစ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ပခုံးရိုးသားကို အခြားသော အသားများထက်ပို၍နှစ်သက်တော် မူသည်။

အေမာမ်အဟ်မဒ်နှင့် နေစာအီက အဘူဝါကစ်ဒ်(ရသွေ့)သခင်မှ အကြောင်းပြုခဲ့ သည်၊ ရစူလ်ကိုယ်တော်သည် 'အေမာမ်' အဖြစ် 'နမာဇ်' ဖတ်သောအခါ 'နမာဇ်' ကို ခပ်တိုတို ဖတ်တော်မူသည်၊ ၎င်းတစ်ကိုယ်တည်း'နမာဇ်'ဖတ်တော်မူသောအခါ ရှည်လျား စွာ ဖတ်တော်မူသည်၊ ရစူလ်ကိုယ်တော်သည် မွတ်က်တဒီ နောက်လိုက်များဖြင့် 'နမာဇ်' ဖတ်တော်မူသောအခါ ခပ်တိုတိုဖတ်တော်မူခြင်းမှာ နောက်လိုက် မွတ်ကတဒီများ ဒုက္ခ မရောက်ကြစေရန်ဖြစ်သည်၊ တစ်ကိုယ်တည်း ဖတ်တော်မူသောအခါ ရှည်လျားစွာ ဖတ် တော်မူခြင်းမှာ 'နမာဇ်' သည် ကိုယ်တော်အတွက် မျက်လုံးအေးမြစေသောအရာဖြစ်သည်၊ 'နမာဇ်' တွင် ကိုယ်တော်သည် စိတ်အေးချမ်းမှု ရရှိသည်၊ ချစ်သူအာစစ်၏ ရှေ့မှောက် တွင်ကျိုးငယ်စွာရပ်၍ တောင်းဆိုအသနားခံနေရခြင်းထက် ကောင်းသော စိတ်အေးချမ်းမှု ကား မရှိတော့ပေ၊ ၎င်းထို 'နမာဇ်' ခပ်တိုတိုနှင့်ရှည်လျားသောအခန့်သည် ဟဒီးသ်တော် များ၌ အကျယ်တစ်ဝင့် လာရှိပေသည်။

'အေမာမ်အဟ်မဒ်' နှင့် 'အဘူဒါဝူးဒ်' ကျမ်းရှင်က အဗ်ဒွလ္လာဟ်ဗင်နဲဘစရ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် တစ်ဦးဦးအိမ်သို့ သွားတော်မူသောအခါ တံခါးပေါက် တည့်တည့်တွင် ရပ်တော်မမူဘဲ

တံခါး၏ ညာဘက်တွင်ရပ်ပြီး 'အတ်စ်စလာမို့အလိုင်ကွန်းမ်' ဟု ဆိုတော်မူပြီး ဧည့်သည် လာကြောင်း သိစေတော်မူသည်။

ဤနည်းလမ်းသည် 'စွန္နတ်တော်' ဖြစ်သည်၊ တစ်အိမ်အိမ်သို့ သွားရောက်ကြလျှင် တံခါးပေါက်တည့်တည့်မရပ်ကြနှင့်ဘဲ,ယာရပ်ကြကုန်၊ ဤသို့ရပ်ခြင်းဖြင့် သူစိမ်းတစ်ရ'စာ အမျိုးသမီးနှင့် ရင်ဆိုင်မတွေ့ပေမည်၊ သို့သော် အကယ်၍ တံခါးပိတ်ထားလျှင် တံခါး ပေါက် တည့်တည့်ရပ်နေခြင်းမှာ ကိစ္စမရှိပေ၊ အိမ်တွင်းရှိသူကို အသိပေးသော အနေဖြင့် 'အတ်စ် စလာမို့အလိုင်ကွန်းမ်' ဟု အသံပြုရမည်၊ အကယ်၍ တစ်ခါနှင့် မကြားလျှင် ဒုတိယမ္ပိ ထပ်၍ဆိုရမည်။

အစ်ဗ်နို့စအဒ် ( ရဟေ့ ) သခင်က တွာဗ်ကာတ်တွင် အစ်က်ရမဟ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဓလေ့တော်မှာ ကိုယ်တော်၏ထံသို့ တစ်ဦးတစ်ယောက်လာလျှင် ၎င်းသူ၏မျက်နှာတွင် ရွှင်ပြုံမှုကို တွေ့ရှိ ပါက ကိုယ်တော်သည် ၎င်းသူ၏ လက်ကိုဆွဲကိုင်တော် မူလေသည်၊ (ထိုသူသည် ရစူလ် ကိုယ်တော်မှ ဆွဲငင်ချစ်ခင်မှု ဖြစ်လာရန်ဖြစ်ပေသည်။)

အစ်ဗ်နို့မွန်ဒဟ် (ရဟေ့) သခင်က အွတ်ဗဟ်ဗင်န်အဗ်ဒ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ထံ တစ်ဦးတစ်ယောက် လာလျှင် ၎င်းသူ၏ အမည်နာမကို ရစူလ်ကိုယ်တော် နှစ်သက်တော်မမူပါက ၎င်း၏ နာမည်ကို ပြောင်းပစ်တော်မူပေသည်။

အေမာမ်အဟ်မဒ်စသည်က အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ ထံတော်သို့ တစ်ဦးတစ်ယောက်သည် လိုအပ်သူအားပေးရန် 'ဇကာတ်' ငွေပေးပါက အို...အလ္လာဟ် အသျှင်မြတ် မည်သူကို 'ရဟ်မတ်' မဟာကရုဏာ သက်တော်မူပါဟု မိန့်လေ့ရှိတော် မူသည်၊ (ကျွန်ုပ်တို့လည်း ဤနည်းလမ်းကို လိုက်ကြရန်ထိုက်သည်၊ တစ်ဦးတစ်ယောက် သည် ကျွန်ုပ်တို့မှတ္ဘက်ဆင့် 'ဆွဒကဟ်' လှူဒါန်းခြင်းနှင့် ကောင်းမှုတစ်ခုအတွက် အလှူငွေ ထည့်ဝင်လျှင် အထက်ပါအတိုင်း 'ဒိုအာ' ပြုပေးကြရန် ထိုက်သည်။)

'ဟာကင်မ်' ကျမ်းရှင်က အာအေရှဟ် (ရသေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ပျော်ရွှင် ဝမ်းမြောက် သောအခါ ဤသို့ မိန့်လေ၏။

ٱلْحَمْدُ لِلّٰهِ ٱلَّذِى بِنِعْمَتِهِ تَتِمُّ ٱلصّٰلِحٰتُ

ချီးမွမ်းထောပနာ ပြုပြုသမျှ အပေါင်းသည် အလ္လာဟ်အသျှင်မြတ်က **မိမိ စည်း** စိမ်တော်ဖြင့် ကောင်းကျိုး ကောင်းရာများကို ပြည့်စုံစေတော်မူသည်။

၎င်းမနှစ်သက်တော်မူသောအခါ ဤသို့ မိန့်တော်မူ၏။

اَلْحَمْدُ لِلّٰهِ عَلٰى كُلِّ حَالٍ

အဖြစ်ဟူသမျှအပေါ် ကျွန်တော်မျိုး အလ္လာဟ်အသျှင်မြတ်အား ချီးမြှင့်ထောပနာပြုပါသည်။

အေမာမ်အဟ်မဒ်နှင့် အစ်ဗ်နို့မာဂျဟ်ကျမ်းရှင်က အစ်ဗ်နို့မတ်စ်အူးဒ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ကျွန်မနှင့်ကျွန်များ (ဂျေဟာဒ်)မှ ရစူလ်ကိုယ်တော် အစုရရှိခဲ့လျှင်၊ ကွဲပြား ခြားနားမှု မဖြစ်စေရန်အတွက် အိမ်သူအားလုံးကို ခွဲဝေပေးတော်မူသည်။

ဆိုလိုသည်မှာ.... တစ်ဦးမှာရပြီး၊ တစ်ဦးမှာမရပါက အချင်းချင်းမသင့်မတင့်ဖြစ်ကြမည်၊ ဤနည်းလမ်းကို ကျွန်ုပ်တို့ လိုက်နာကြရန်ထိုက်သည်၊ မည်သည့် အရာပစ္စည်းမဆိုဝေလျှင်၊ အချင်းချင်းမသင့်မတင့်နှင့်ခိုက်ရန်မဖြစ်ကြစေရန်ဂရုစိုက်ရမည်၊ သားချင်းများကို ဝေသည်ဖြစ်စေ၊ အိမ်သားများကို ဝေသည်ဖြစ်စေ၊ တပည့်တပန်းများကို ဝေသည်ဖြစ်စေ ညီမျှစေရန် ဂရုပြုကြရမည်။

ခတ္တီးဗ်သခင်က အာအေရှာ်(ရသွေ့)သခင်မမှ ဆင့်ပြန်ခဲ့သည်၊ ရစူလ်ကိုယ်တော်၏ထံ စားသုံးရန် ထမင်းရောက်လာသောအခါ (အခြားသူများလည်း ကိုယ်တော်နှင့်အတူလက်ဆုံစားကြသည်) ကိုယ်တော်သည် ရှေ့တော်၌ရှိသောအရာကိုသာ စားသုံးတော်မူသည်၊ ၎င်းကိုယ်တော်၏ရှေ့မှောက်သို့ စွန်ပလွံသီးရောက်လာသောအခါ ကိုယ်တော်သည် ဟိုဘက်ဤဘက်မှ ယူ၍ စားတော်မူသည်။

အစ်ဗ်နွှတ် စွန်နီ စသည်က အနတ်စ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ထံ သစ်သီးများယူလာသောအခါ၊ ချက်ချင်း စားနိုင်သော အသီးဖြစ်ပါက ကိုယ်တော်သည် ထိုအသီးကို မျက်စိနှစ်ဖက်နှင့်ထိပြီး ၎င်းနောက်နှုတ်ခမ်းတော်နှင့်ထိပြီး ဤသို့မိန့်လေ၏။

اَللّٰهُمَّ اَرَيْتَنَا اَوَّلَهُ فَاَرِنَا اٰخِرَهُ

အို...အလ္လာဟ်အသျှင်မြတ်၊ ထိုအသီး၏အစကိုမြင့်စေသကဲ့သို့၊ ထိုအသီး၏အဆုံးကိုပါ မြင်စေတော်မူပါ။

ထို့နောက် ကိုယ်တော်သည် ထိုအသီးများကို အနီးအနားရှိ ကလေးများအား ဝေငှပေးတော်မူသည်။

အစ်ဗ်နို အစာကင်ရ်(ရဟေ)သခင်က၊ စာလင်မ်ဗင်န် အဗ်ဒုလ္လာဟ်ဗင်န် အုမရ် နှင့် ကာစင်မ်ဗင်န်မုဟမ္မဒ်(ရသွေ)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်၏ထံတော်သို့ အမွှေးအကြိုင် နံ့သာဆီ စသည့် ပုလင်းခွက် ယူလာသောအခါ ကိုယ်တော်သည် လက်ချောင်းများဖြင့် တို့ကာ သုတ်ရန် နေရာတွင် သုတ် လိမ်း တော်မူလေသည်။

တွာဗ်ရာနီကျမ်းရှင်က အွမ်မွလ် မုအ်မေနီးန် ဟဖ်စွာဟ် (ရသွေ) သခင်မ မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် လျောင်းလဲတော်မူသော အခါ လက်ယာလက်ကို ပါးပြင်ပေါ်ထား၍ လှဲတော်မူသည်။

ရှိရာဇီ(ရဟေ)သခင်က အလ်ကာဗ်ကျမ်းတွင် အာအေရှဟ် (ရသွေ) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ခေါင်းတွင် ဆီလိမ်းတော်မူသော အခါ ဆီကို လက်ဝဲလက်ဖဝါးပေါ်တွင်ထည့်၍ ပထမ မျက်ခုံးကိုလိမ်းတော်မူသည်၊ ပြီးနောက် မျက်ခွံနှစ်ဘက်ကိုလိမ်းပြီးမှ ဦးခေါင်းတော်ကို လိမ်းတော်မူသည်။

အဇီဇီ၌ပါရှိသည်၊ မိုနာဝီ(ရဟေ)သခင်က မိန့်ခဲ့သည်၊ 'ရေဝါယတ်'တစ်ခုတွင် ရစူလ်ကိုယ်တော်သည် မုတ်ဆိတ်တော်ကို ဆီလူးမည်ဆိုလျှင် ပထမ မျက်ခွံနှစ်ဘက်ကို လိမ်းတော်မူသည်၊ ပြီးနောက် မုတ်ဆိတ်ကိုလိမ်းတော်မူသည်။ (မောင်လာနာအရှိရဖွ် အလီ ရဟမတွလ္လာဟ်သခင်က ဤအဆိုကို မတွေ့ဘူးကြောင်းဖြင့် မိန့်ဆိုထားပေ၏)။

အဘူဒါဝူးဒ်၊ တင်ရ်မေသီ နှင့် တွဟာလဝီကျမ်းရှင်များက အနတ်စ်နှင့် ဂျာဗင်ရ် (ရသွေ)သခင်နှစ်ပါးမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ကျင်ကြီးကျင်ငယ် စွန့်ရန် ထိုင်လိုတော်မူသောအခါ လုံချည်(ဘောင်းဘီ)ကို ထိုင်မည့်နေရာမြေနှင့် နီးကပ်မှ သာမတော်မူသည်၊ဤကားမလိုအပ်ဘဲအရှက်မပေါ်စေရန်ဖြစ်ပေသည်၊အဘယ့်ကြောင့် ဆိုသော် ကျင်ကြီးကျင်ငယ် စွန့်ရန် နေရာနှင့် နီးကပ်မှသာလျှင် လှန်သင့်သောကြောင့် ဖြစ်သည်၊ ပထမကတည်းက အရှက်ကို လှန်ထားရန်မလိုအပ်ပေ၊ ထို့ကြောင့် ကိုယ်တော်သည် လိုအပ်သောနေရာကျမှသာ အဝတ်ကို လှန်တော်မူသည်။

အဘူဒါဝူးဒ်၊နေစာအီနှင့်အစ်ဗ်နိုမာဂျဟ်ကျမ်းရှင်များက၊အာအေရှဟ်(ရသွေ) သခင်မထံမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် သံဝါသမှုကြောင့်၊ ရေချိုးရန်ရှိတော်မူသော အခါ ရေမချိုးသေးဘဲ အိပ်ယိုတော်မူသော် ဝိုဇွူရေသန့်စင်တော်မူပြီးမှ အိပ်တော်မူသည်၊ ထိုသို့ရေချိုးရန်ထိုက်သောအဖြစ်၌ စားသောက်လိုတော်မူလျှင်၊ လက်နှစ်ဘက်ကို လက်ကောက်ဝတ်ပါ ဆေးကြောတော်မူပြီးမှ စားသောက်တော်မူသည်။ ဟိုင်သွ်နှင့်နေဖွာစ်ရာသီနှင့်မွေးဖွားပြီးလာသော အမျိုးသမီးများလည်း ဤနည်းလမ်းအတိုင်း လိုက်နာရန် စွန္နတ်တော်ပင်ဖြစ်သည်။

ဟာကင်မ်နှင့် အဘူဒါဝူးဒ်ကျမ်းရှင်များက အဗ်ဒွလ္လာဟ်ဗင်န် ယဇီးဒ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် စစ်သည်တော်များကို ပို့လွှတ်တော်မူသောအခါ ဤဒိုအာကို ဖတ်တော်မူသည်။

أَسْتَوْدِعُ اللهَ دِيْنَكُمْ وَأَمَانَتَكُمْ وَخَوَاتِيْمَ أَعْمَالِكُمْ

ကျွန်ုပ်သင်တို့၏'ဒီန်'အမာနတ်ပစ္စည်း၊ ၎င်း'အမလ်'၏အဆုံးကို အလ္လာဟ်အသျှင်မြတ်ထံ အပ်နှင်းပါသည်။

တစ်ဦးတစ်ယောက်အား ပို့လွှတ်သောအခါအထက်ပါဒိုအာဖတ်ကြရန်ထိုက်သည်၊ ဤဒိုအာသည် သွားသူအဖို့ 'ဒီန်' ဒွန္နယာကောင်းကျိုးအတွက် ဖြစ်ပေသည်။

ခတ္တီးဗ်က အနတ်စ်(ရသေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အဝတ်သစ်ဝတ်လိုတော်မူသောအခါ ဂျုမို့အဟ် သောကြာနေ့တွင် ဝတ်တော်မူသည်၊ ဟာကီးမ်တင်ရ်မေသိက အဗ်ဒွလ္လာဟ်ဗင်န် ကအဗ်(ရသေ့)သခင်မှ နဝါဒေ့ရှလ်အို့စွူးလ်ကျမ်းတွင် အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် 'မစ်ဝါးက်' တံပူဖြင့်သွားတိုက်ပြီးလျှင် ကြီးသူကိုပေးတော်မူသည်၊ ရေ စသည်သောက်ပြီး ကျန်သည်ကို လက်ယာဘက်တွင်ရှိသူအား ပေးတော်မူသည်။ (ဤနှစ်ချက်စလုံးသည် ရက်ရောတော်မူခြင်းနှင့် 'ဘရ်ကတ်' ဖြစ်စေရန်အတွက်ပင် ပြုလုပ်တော်မူခြင်းဖြစ်သည်)။

အစ်ဗ်နွတ်စ်စွန်နီ နှင့် တွာဗ်ရာနီကျမ်းရှင်က အွတ်စ်မာန် ဗင်န် အဗင်လ် အာစွ (ရသေ့) သခင် မှ အကြောင်းပြုခဲ့သည်၊ မြောက်လေ တိုက်သောအခါ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ဤဒိုအာကို ဖတ်တော်မူသည်။

اَللّٰهُمَّ إِنِّيْ أَعُوْذُ بِكَ مِنْ شَرِّ مَا أُرْسِلَتْ فِيْهَا

အလ္လာဟွမ္မ၊ အင်နီ၊ အအူသို့ဗေ့က၊ မင်န်ရှရ်ရေ့၊ မာအရ်စလ်တ၊ ဖွီဟာ။

ဤဒိုအာကိုဖတ်တော်မူခြင်း၏ အကြောင်းရင်းမှာ.... ဤသို့ မြောက်လေဖြင့် အချို့အမျိုးသားများအပေါ် အသာဗ်ပြစ်ဒဏ်အဖြစ်ပို့ခဲ့သည်၊ ထို့ကြောင့် ကိုယ်တော်သည် ဒိုအာပြုတော်မူခြင်းဖြစ်သည်။ အို....အလ္လာဟ်အသျှင်မြတ်၊ ထိုလေဖြင့်ပို့သော မကောင်းခြင်းများမှ ကျွန်တော်မျိုး ကင်းရန်ဆုပန်ပါ၏။တင်ပြပါဒိုအာ၏အဓိပ္ပါယ်သည် ဤသည်ပင်ဖြစ်သည်။

အေမာမ်အဟ်မဒ် နှင့် ဟာကင်မ်ကျမ်းရှင်က အာအေ့ရှတ် (ရသေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် 'အဟ်လေ့ဗိုင်တ်' အိမ်တော်သူအိမ်တော်သားများမှ မုသားတစ်ကြိမ်ပြောသည်ဟုကြားသိတော်မူလျှင်ကိုယ်

တော်သည် ထိုပုဂ္ဂိုလ်မှ အမြဲ စိတ်ထိခိုက်၍ စိတ်ဆိုးနေတော်မူသည်၊ ထိုပုဂ္ဂိုလ်သည် 'တောင်ဗဟ်'ပြု့အမှားဝန်ခံလျှင် ကိုယ်တော်သည် ပြန်၍ သဘောတူ ကျေနပ်သွားတော်မူသည်၊ အကြောင်းမှာ မုသားစကားပြောခြင်းသည် အစ္စလာမ်သာသနာတော်၌ လွန်စွာအပြစ်'ဂိုနာဟ်'ကြီးလေသည်၊ ဂိုနာဟ်ကျူးလွန်သူအား အမုန်းထားရမည်ပင်ဖြစ်သည်၊ ထို့ကြောင့် ရစူလ်ကိုယ်တော်သည် ဤသို့သောသူအား အမုန်းထားခဲ့သည်၊ ၎င်းရစူလ်ကိုယ်တော်သည် အားလုံးသော 'ဂိုနာဟ်' ကျူးလွန်သူများအား အမုန်းထားတော်မူခဲ့သည်။

ရှီရာဇီ (ရဟေ့) သခင်က အလ်ကာဖ်ကျမ်း၌ အဘူဟုရိုင်ရဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် စိတ်ညစ်တော်မူသောအခါ မုတ်ဆိတ်တော်ကို လက်နှင့်ကိုင်တော်မူသည်၊ ၎င်းကြည့်တော်မူသည်။

အစ်ဗ်နွစ်စွန်နီ နဒဳမ်(ရဟေ့)သခင်နှစ်ပါးက၊ အာအေရှဟ် (ရသွေ့) သခင်မမှ ၎င်းအဘူနဒီးမ်(ရဟေ့)သခင်က၊ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် စိတ်ညစ်တော်မူလျှင် မုတ်ဆိတ်တော်ကို ကြိမ်ဖန်များစွာ ကိုင်တော်မူသည်။

အေမာမ်အဟ်မဒ်က အွပ်က်ဗဟ်ဗင်နှ အာမင်ရ်(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် 'စွရ်မာ' သစးသောအခါ မ့အကြိမ်ဖြင့် မျက်လုံးကိုသားတော်မူသည်၊ တင်ရ်မေသီ စသည့်ကျမ်းရှင်က အကြောင်းပြုသည်မှာ ရစူလ်ကိုယ်တော်သည် မျက်လုံးတိုင်းတွင် (၃)ကြိမ်စီ စွရ်မာသားတော်မူသည်။

မွတ်စလင်မ် နှင့် အေမာမ်အဟ်မဒ် စသည့်ကျမ်းရှင်က အနတ်စ်ဗင်နှ မာလစ်က် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် မုန့်စားတော်မူသောအခါ၊ လက်ချောင်းသုံးချောင်းဖြင့် စားသုံးတော်မူသည်၊ ၎င်းစားပြီး ထိုလက်ကို စုတ်တော်မူသည်။ (ဤသို့ လက်ကိုလျက်ခြင်းသည် အလ္လာဟ်အသျှင်မြတ် ပေးသနားတော်မူသော စည်းစိမ်တော် 'ရိဇ်' အလဟဿမဖြစ်စေရန်အတွက် ဖြစ်ပေသည်)။

တင်ရ်မေသီကျမ်းရှင်က အဘူဟုရိုင်ရဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ခက်ခဲမှု ကြုံတွေ့လာတော်မူလျှင်၊ ဦးခေါင်းတော်ကို မိုးဘက်သို့ မော့တော်မူသည်၊ ၎င်း 'စွဗ်ဟာနလ္လာဟုင်လ်-အဇွီးမ်' ဖတ်တော်မူသည်။

အဘူဒါဝူးဒ်နှင့် အစ်ဗ်နို့မာဂျဟ်ကျမ်းရှင်က အဘူမူစာအရှ်အရီ(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် တစ်ဦးဦးအား အလုပ်တစ်ခုခုနှင့်စေလွှတ်တော်မူလျှင် လူတို့အား သတင်းကောင်းပြောကုန်ဟု မိန့်တော်မူသည်၊ (ဝါ)လူတို့အား လောကီ-လောကုတ္တရာရေးများတွင် ချိုသာနူးညံ့စွာပြောကုန်၊ မုန်းတီးမည့်ကိစ္စကို မပြုနှင့် ၊သို့မှသာ သင့်အား မမုန်းကြပေမည်။

ထို့သော် ရှရီအတ်တရားတော်မြတ်၏ကန့်သတ်ထားမှုကို ဂရုစိုက်ရမည်၊ သာသနာတော်နှင့်ဆန့်ကျင်သော သတင်းကောင်းများ၊ ပျော်ရွှင်ရန်အကြောင်းများ မပြောဆိုရ၊ ၎င်းလူတို့အပေါ် လွယ်ကူမှုကိုပြုကုန်၊ ပြင်းပြဒုက္ခပေးခြင်းမပြုနှင့်။

အဘူဒါဝူးဒ် နှင့် တင်ရ်မေသီကျမ်းရှင်က စွခရ်ဗင်န် ဝဒါအဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် စစ်သည်တော်များကို ဧလွှတ်တော်မူသော အခါ နေ့အစပိုင်းတွင် လွှတ်တော်မူသည်။ (အဘယ့်ကြောင့်ဆိုသော် ထိုအချိန်သည် အလိုပြည့်သော 'ဘရ်ကတ်' ဖြစ်သောအချိန် ဖြစ်ပေသည်)။

အဘူဒါဝူးဒ်ကျမ်းရှင်က အာအေရှဟ် (ရသွေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ဓလေ့တော်သည်၊ တစ်ဦးတစ်ယောက်သည် မကောင်းသောကိစ္စကိုပြုလျှင် ကိုယ်တော်သည် ဆုံးမရာ၌ မည်သူမည်ဝါ အဘယ်သို့နေသနည်း၊ ထိုသူသည် ဤသို့သောအလုပ်ကိုလုပ်သည်၊ ဤသို့သောစကားကို ဆိုသည် ဟု ပြောတော်မမူ၊ သို့သော် လူတို့က အဘယ်သို့နေကြသနည်း၊ ဤသို့ဤသို့ မကောင်းသော စကားများဆိုကြသည်၊ ၎င်း ဤသို့ ဤသို့ မကောင်းသော အလုပ်ကို လုပ်သည်ဟုသာ မိန့်တော်မူသည်။

(စွဗ်ဟာနလ္လာဟ်) ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ စာရိတ္တကောင်းတော်မူခြင်းဖြစ်သည်၊ ဉာဏ်အားမြော်အမြင်ကြီးတော်မူကာ ဆုံးမရာ၌ လိုရင်းကိုရရှိသည်၊ ၎င်း ဂိုနာဟ်ကျူးလွန်သူမှာလည်း ဆေးသိမ်ခြင်းမဖြစ်၊ အရှက်လည်းမရ သာမက ဆိုဆုံးမမှုကို အလေးထား၍ လိုက်နာချင်စိတ် ပေါ်ပေါက်လာရပေသည်။

အဘူနအီးမ် (ရဟေ့) သခင်က 'ဟွလ်ယတွလ်အောင်လေယာ'တွင် အဘူစအီးဒ် ခွဒ်ရီ(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် နံနက်စာ စားသုံးတော်မူလျှင်၊ ညနေစာ သုံးဆောင်တော်မမူ၊ ၎င်း ညနေစာ စားသုံးတော်မူလျှင်၊ နံနက်စာ သုံးဆောင်တော်မမူပေ။ (ဆိုလိုသည်မှာ.... ရစူလ်ကိုယ်တော်သည်၊ တစ်နေ့တစ်ကြိမ်သာ စားသုံးတော်မူသည်၊ တစ်ခါတစ်ရံ နံနက်တွင် စားတော်မူပြီး၊ တစ်ခါတစ်ရံ ညနေတွင် စားတော်မူသည်)။

အစ်ဗ်နို့မာဂျဟ်ကျမ်းရှင်က အာအေရှဟ်(ရသွေ့)သခင်မမှအကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် 'ဝိုသွူ'ရေသန့်စင်တော်မူပြီးနောက် မတ်က်ရှူးဟ်အချိန်မဟုတ်လျှင် နဖ်လ်နမာဇ် နှစ်ရကအတ် ဖတ်တော်မူသည်၊ (ဤသည်ကို လူတို့က တဟိယတွလ်ဝိုသွူဟု အမည်ထားကြသည်၊)ထို့နောက်ဖွရ်သွ်နမာဇ်ဖတ်ရန်အတွက် ဗလီဝတ်ကျောင်းတော်သို့ ကြွသွားတော်မူသည်။

ခတ္တ ီးဗ် နှင့် အစ်ဗ်နို့အစာကင်ရိ (ရဟေ.) သခင်နှစ်ပါးက အစ်ဗ်နို့အဗ်ဗါးစ် (ရသွေ.)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ခလေ. တော်မှာ.... ဆောင်းရာသီတွင် ဂျုံ့မို့အဟ်၊ သောကြာနေ့ည (မြန်မာအခေါ် ကြာသပတေးနေ့ည)တွင် အိမ်တွင်းသို့အိပ်ရန် စ,တင်အိပ်တော်မူသည်၊ ၎င်းနွေရာသီရောက်လာလေရာ၊ ဂျုံမို့အဟ်နေ့ညမှ စ,တင်၍ အိမ်ပြင်သို့ အိပ်တော်မူသည်၊ ၎င်းအဝတ်သစ်ဝတ်တော်မူလျှင် အလ္လာဟ်အသျှင်မြတ်အား ချီးမွမ်း တ,သတော်မူသည်၊ (ဆိုလိုသည်မှာ.... 'အလ်ဟမ်ဒို၊ လစ်လ္လာဟ်' ၎င်းထိုအတူ စကားလုံးများကို ရွတ်ဆိုတော်မူသည်၊) ၎င်းကျေးဇူးတင်သောအနေဖြင့်'နဖ်လ်နမာဇ်'နှစ်ရကအတ် ဖတ်တော်မူသည်။ ဟောင်းသွားသော ချွတ်တော်မူသည့်အဝတ်ကို တောင့်တသူ၊ လိုလားသူအား ပေးတော်မူလေသည်။

ဗိုင်ဟကီ နှင့် ခတ္တ ီးဗ်ကျမ်းရှင်က ဟာစန်ဗင်န် မုဟမ္မဒ်ဗင်န် အလီ(ရသွေ.)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ထံတော်တွင် ပစ္စည်းရောက်လာလျှင် အကယ်၍ နံနက်တွင် ရပါက မွန်းတည့်ထိ မထားပေ၊ ၎င်းညနေတွင် ရလျှင် ညအုထိ ထားတော်မမူပေ။ (ဆိုလိုသည်မှာ.... သုံးသင့်သည်ကိုသုံး၍ လှူပစ်တော်မူသည်)။

မုဟာဒ်ဒစ်ဘာဂဝီ(ရဟေ.)သခင်က ဝါလစ်ဒ်မွရ်ရဟ်(ရသွေ.)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အလွန်ရယ်မောချင်တော်မူလာလျှင်၊ ပါးစပ်ပေါ်သို့ လက်ထားတော်မူသည်။ (ဤသို့ များစွာရယ်မောခြင်းမှာ တစ်ခါတစ်ရံမှဖြစ်တတ်သည်၊ ရစူလ်ကိုယ်တော်သည်အများအားဖြင့် ပြုံးရုံပင် ပြုံးတော်မူသည်။)

အစ်ဇ်နွတ်စ်စွန်နီ(ရဟေ.)သခင်က အဘူဒိုမာမဟ်(ရသွေ.)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ပရိသတ်တစ်ခု၌ ထိုင်တော်မူလျှင် စကားစမြည် ပြောလျှင်၊ ထိုနေရာမှ ထ,လိုသောအခါ၊ ၁၀ ကြိမ်မှ ၁၅ ကြိမ်ထိ၊ 'အစ်တစ်ဂ်ဖွာရ်'ဖတ်တော်မူသည်။ အခြားဟဒီးသ်တော်တစ်ရပ်တွင် ထို'အစ်တစ်ဂ်ဖွာရ်'သည် ဤသည်ဖြစ်သည်ဟု လာရှိပေသည်။

أَسْتَغْفِرُ اللَّهَ الْعَظِيمَ الَّذِي لَا إِلَٰهَ إِلَّا هُوَ الْحَيُّ الْقَيُّومُ وَأَتُوبُ إِلَيْهِ

အတ်စ်တဂ်ဖွေရုလ္လာ၊ ဟလ်အဇွ ီမလ္လသီ၊ လာအေလာဟ၊ အစ်လ္လာ၊ဟို့ဝလ်ဟိုက်ယွလ်၊ ကိုက်ယူးမ်၊ ဝအတူဗို့၊ အေ့လိုင်းဟ်။

အဘူဒါဝူးဒ်ကျမ်းရှင်က အဗ်ဒွလ္လာဟ်ဗင်န်စလာမ်(ရသွေ.)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ထိုင်တော်မူသောအခါ၊ စကားပြောတော်မူသောအခါ အများအားဖြင့် မိုးပေါ်သို့ မော့ကြည့်တော်မူသည်။

အဘူဒါဝူးဒ်ကျမ်းရှင်က ဟိုသိုင်ဖွာဟ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ခဲယဉ်းမှုတစ်ခုခုနှင့် ကြုံတော်မူသောအခါ နဖိလ်နမာဇ် ဖတ်တော်မူသည်၊ ဤအမလ်ဖြင့် အတွင်း-အပြင်နှင့် လောကီ-လောကုတ္တရာ အကျိုးဖြစ်ထွန်းသည်၊ ၎င်းစိတ်ရှုတ်ထွေးမှုများမှ ကင်းဝေးလေသည်။

အစ်ဗ်နွတ်စ်စွန်နီက စအီးဒ်ဗင်န် ဟာကီးမ်(ရသေ့)သခင် မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ပစ္စည်းတစ်ခုခုကို ကောင်းသည်ဟုသိလျှင်၊ ၎င်းထိုအရာကို မိမိ၏ 'နသရ်'ထိမည်ကို စိုးရိမ်တော်မူပါက၊ ဤဒိုအာ ဖတ်တော်မူသည်။

اَللّٰهُمَّ بَارِكْ فِيْهِ فَلَا تَضُرُّهُ

အလ္လာဟုမ္မ၊ဗာရစ်က်ဖွီဟေ့၊ဖွလာတသွရ်ရို့ဟူ။ အို... အလ္လာဟ်အသျှင်မြတ်၊ ထိုအရာကို 'ဘရ်ကတ်' ပြုတော်မူပါ၊ ဆုံးရှုံးအောင် ပြုတော်မမူပါနှင့်။

ရစူလ် ကိုယ်တော့်၏ အရှုတော်ဖြင့် ကောင်းကျိုးပင် သက်ရောက်လေသည်။ သို့သော်လည်း၊ ရစူလ် ကိုယ်တော်သည် အုမ္မတ်သားများ လိုက်နာကြရန် အတွက် လုပ်ဆောင်ပြတော်မူခြင်း ဖြစ်ပေသည်။

အစ်ဗ်နို့စအဒ် သခင်က မိုဂျာဟစ်ဒ် သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အမျိုးသမီးတစ်ဦးအား နေကာဟ်ပြုရန် ကြောင်းလမ်းသောအခါ **လက်မခံ**ပါက ထပ်မံ၍ ပြောဆိုတော်မမူပေ။ (ဆိုလိုသည်မှာ ... ထပ်ဆင့်၍ လက်ခံရန်မပြောပေ၊ အကယ်၍ ကြောင်းလမ်းသည်ကို လက်ခံလျှင် နေကာဟ် ပြုတော်မူသည်၊ လက်မခံပါက ဆိတ်ဆိတ်ပင်နေတော်မူသည်၊ ဇွတ်တိုက်တွန်း၍ သေးသိမ်မှုကို ခံယူတော်မမူပေ၊ ၎င်းမည်သူ့ကိုမှ အဓမ္မပြု၍ လက်ခံအောင်မပြုပေ။) ရစူလ်ကိုယ်တော်သည် အမျိုးသမီးတစ်ဦးအား နေကာဟ်ပြုရန် ကြောင်းလမ်းခဲ့သည်၊ ထိုသူမက်ငြင်းခဲ့သည်၊ ထိုနောက် ထိုသူမကပင် ရစူလ်ကိုယ်တော် နှင့် နေကာဟ်ပြုလိုခဲ့သည်၊ ရစူလ်ကိုယ်တော်က ငါရစူလ်သည် အခြားအမျိုးသမီးတစ်ယောက်နှင့် နေကာဟ်ပြုပြီးပြီ၊ ယခု မလိုအပ်တော့ဟု မိန့်တော်မူလေသည်။

အစ်ဗ်နို့စအဒ် နှင့် အစ်ဗ်နို့ အစာကင်ရ် သခင်နှစ်ပါးက အာအေရှာ်(ရသေ့) သခင်မ မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် မြောက်သားတော်များနှင့် နှစ်ကိုယ်ချင်းတွေ့တော်မူသောအခါ ချိုသာနူးညံ့စွာနှင့် ကောင်းစွာရယ်မောပျော်ရွှင်စွာ ဆက်ဆံတော်မူပေသည်။

အစ်ဗ်နို့စအဒ် သခင်က ဟဗီးဗ်ဗင်န် စွာလေးဟ် သခင်မှ အကြောင်းပြုခဲ့သည် ရစူလ်ကိုယ်တော်သည် ကျင်ကြီး စွန့်ရန် သွားတော်မူသော အခါ ဖိနပ်စီး၍ သွားတော်မူသည်၊ ၎င်းဦးခေါင်းတော်ကိုလည်း အုပ်တော်မူသည်။

ဘိုခါရီကျမ်းရှင်က အစ်ဗ်နို့ အဗ်ဗား(စ်) (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ရောဂါသည်အားမေးမြန်းရန်သွားတော်မူသောအခါ (လာဗအ်စ၊ တိုဟူရွန်၊အင်ရှာအလ္လာဟ်)ဟု မိန့်ဆိုတော်မူသည်။

တွာဗ်ရာနီကျမ်းရှင်က အဘူအိုင်ယူးဗ် အန်စွာရီ (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် 'ဒိုအာ'ဆုမွန်ပြုတော်မူသောအခါ ပထမ မိမိအတွက် ပြုပြီးနောက် အခြားသူများအတွက် ပြုတော်မူလေသည်။

နေစာအီကျမ်းရှင်က သောင်ဗာန် (ရသေ့) သခင် မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ကြောက်ရွံ့မှု တစ်ခုခု ဖြစ်ပေါ်လာလျှင်၊ ဤဒိုအာကို ဖတ်တော်မူသည်။

اَللّٰهُ اَللّٰهُ رَبِّيْ لَا شَرِيْكَ لَهٗ

အလ္လာဟ်-အလ္လာဟ်၊ရဗ်ဗီ၊လာရှရီကလဟူ။

အစ်ဗ်နို့ မွန်သဟ် သခင်က စို့ဟိုင်လ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ပြောဆိုခြင်း နှင့် အလုပ်အကိုင် မှ သဘောတော် ကျတော်မူလျှင် ဆိတ်ဆိတ်နေတော်မူသည်။

အဘူနအီမ် (ရဟေ့) သခင်က အွမ်မေ့စလ်မဟ်(ရသေ့)သခင်မမှ အကြောင်းပြုခဲ့သည်၊ မြောက်သားတော်များအနက် တစ်ဦးတစ်ယောက်သည် မျက်စိနာလျှင် ရစူလ်ကိုယ်တော်သည် မျက်စိနာ မပျောက်မခြင်း ထိုမြောက်သားတော်နှင့် အတူ အိပ်တော်မမူပေ။

အစ်ဗ်နွလ်မို့ ဗါရစ်က်နှင့် အစ်ဗ်နို့ စအဒ်(ရဟေ့)သခင်နှစ်ပါးက အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် 'ဂျနာဇဟ်'အသုဘတစ်ခုသို့ သွားတော်မူလျှင် ဆိတ်ဆိတ်နေတော်မူသည်၊ ၎င်းမိမိစိတ်တွင်း၌ သေခြင်းတရားကိုသတိရနေတော်မူသည်၊ (အဘယ့်ကြောင့်ဆိုသော်'ဂျနာဇဟ်'အသုဘသည် သံဝေဂတရားယူရန်ဖြစ်သည်၊ ထိုးသေသူကိုကြည့်၍၊ မိမိတစ်နေ့သေရမည်ကိုသတိရနေရန်ထိုက်သည်၊သေပြီးနောက် မစွမ်းနိုင်ဖြစ်နေမည်ကို ဂရုပြုရမည်၊ ၎င်း'အသာဗ်'ပြစ်ဒဏ်များမှ ကြောက်ရွံ့နေရန် ထိုက်သည်)။

ဟာကင်မ်၊ အဘူဒါဝူးဒ်နှင့်တင်ရ်မေသီကျမ်းရှင်များက အဘူဟုရိုင်ရဟ်(ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ချီသောအခါ၊ လက် သို့တည်း မဟုတ် အဝတ်ကို ပါးစပ်ပေါ်ထားတော်မူသည်၊ ၎င်းအသံကို တိုးနိုင်သမျှတိုးအောင် ပြုတော်မူသည်။

မွတ်စလင်မ် နှင့် အဘူဒါဝူးဒ်ကျမ်းရှင်က အာအေရှဟ် (ရသေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ကောင်းမှုကို ပြုတော်မူလျှင် ထိုအလုပ်ကို အမြဲပြုတော်မူပေသည်။

အစ်ဗ်နို့ အဗစ်ဒ်ဒွန္နယ်ာ (ရဟေ့) သခင်က အဘူဟုရိုင်ရဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် ဒေါသဖြစ်တော်မူလျှင် ရပ်လျက်ရှိနေပါက ထိုင်ပစ်တော်မူလိုက်သည်၊ ၎င်းဒေါသဖြစ်သောအချိန်သည် ထိုင်လျက်ရှိနေပါကလျောင်း လဲတော်မူလေသည်၊ (အဖြစ်ပြောင်းပစ်ခြင်းသည်ဒေါသပြေလည်စေသောဆေးတစ်လက် ဖြစ်သည်။)

'အဘူဒါဝူဒ်' ကျမ်းရှင်က အွသ်မာန် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် သေသူကိုမြှုပ်နှံပြီးနောက်ကဗရ်တွင် အနည်း ငယ်မျှ အချိန်ဆိုင်းငံ့တော်မူသည်၊ ၎င်းကိုယ်တော်နှင့် အတူပါသော ပုဂ္ဂိုလ်များလည်း ဆိုင်းနေကြသည်၊ ၎င်းကိုယ်တော်က မိန့်သည်မှာ သေသူအတွက် အလ္လာဟ်အသျှင်မြတ်ထံ 'မဂ်ဖွေရတ်' ချမ်းသာဆု တောင်းကြကုန်၊ ၎င်းထိုသူအား တည်မြဲစွာ ရပ်တည်နိုင်စေရန် 'ဒိုအာ' ပြုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် ယခုအချိန်ကတည်းကစ၍ စစ်မေးနေပြီ ဖြစ်သည်၊ (ဆိုလိုသည်မှာ ဤအချိန်သည်'မွန်ကရ်နကီးရ်' ဖွရစ်ရှိတဟ်'နှစ်ပါးကစစ်မေး နေသောအချိန်ဖြစ်သည်၊ထို့ကြောင့် သေသူမှာ စိတ်ဒုက္ခမရောက်စေရန်အတွက် တည်မြဲစွာ ရပ်တည်နေနိုင်ရန်နှင့် ကောင်းမွန်ကျနစွာ ဖြေကြားနိုင်စေရန် 'ဒိုအာ'ပြုကြကုန်။)

'တင်ရ်မေသီ'ကျမ်းရှင်က အဘူဟုရိုင်ရဟ် (ရသွေ့) သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် အင်္ကျီဝတ်တော်မူလျှင် ညာဘက်မှ စတော်မူသည်၊ (ဆိုလိုသည်မှာ ညာလက်ကို အလျှင်သွင်းတော်မူသည်။)

အစ်ဗ်နို့ စအဒ် (ရဟေ့) သခင်က အနတ်စ်ဗင်န် မာလစ်က် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ခလေ့တော်မှာ.... ဆွဟာဗီတပည့်တစ်ပါးသည် ရစူလ်ကိုယ်တော်နှင့် တွေ့ရန်လာ၍ ရပ်နေလျှင် ကိုယ်တော် လည်း ရပ်နေတော်မူသည်၊ ထိုပုဂ္ဂိုလ် မသွားမခြင်း ကိုယ်တော်သည် ဆိုင်းငံ့နေတော် မူသည်၊ ဆွဟာဗီတပည့်တစ်ပါးသည် ကိုယ်တော်နှင့် တွေ့ဆုံရန်လာပြီးလက်ဆွဲနှုတ်ဆက် လိုသောအခါ ရစူလ်ကိုယ်တော်သည် ၎င်း၏လက်တွင် မိမိလက် ပေးထားတော်မူသည်၊ ထိုသူက မလွှတ်မခြင်း ကိုယ်တော်သည် မိမိလက်တော်ကို ဖယ်ပစ်တော်မမူပေ၊ (အစ်ဗ်နွလ် မို့ဗာရစ်က်၏'ရေဝါယတ်တွင် ဤသို့လည်းလာရှိသည်၊) ထိုပုဂ္ဂိုလ်သည် မိမိမျက်နှာကို အခြားဘက်သို့ မလှည့်မခြင်း၊ ရစူလ်ကိုယ်တော်သည် မျက်နှာတော်ကို ၎င်းဘက်မှ လှည့် ပစ်တော်မမူပေ၊ ၎င်း ဆွဟာဗီတစ်ပါးသည် တွေ့ရန်လာ၍ ကိုယ်တော်၏ နားအနီးသို့ တိုးတိုးစကား ပြောလိုမူ၊ ကိုယ်တော်သည် ၎င်းအနီးသို့ နားကပ် ပေးတော်မူသည်၊ ထိုပုဂ္ဂိုလ်သည် ပြောပြီး၍ ခွာမသွားမခြင်း ကိုယ်တော်သည် နောက်ဆုတ်တော်မမူပေ။

'နေစာအီ' ကျမ်းရှင်က ဟိုသိုင်ဖွာဟ် (ရသွေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား ဆွဟာဗဟ်များအနက် တစ်ပါးပါးသည် တွေ့ဆုံရန်လာလျှင် ကိုယ်တော်သည် လက်ဆွဲနှုတ်ဆက်တော်မူသည်၊ ၎င်းထိုပုဂ္ဂိုလ်အတွက် 'ဒိုအာ'ဆုမွန်များ ပြုပေးတော်မူသည်။

'တွာဗိရာနီ' ကျမ်းရှင်က ဂျုန်ဒွဗ်(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ် ကိုယ်တော်သည်၊ ဆွဟာဗဟ် တပည့်တော်များနှင့် တွေ့ဆုံသောအခါ ပထမ စလာမ် ပေးတော်မူသည်၊ ပြီးနောက် 'မို့စာဖွဟာဟ်' လက်ဆွဲနှုတ်ဆက်တော်မူသည်။

အစ်ဗ်နွတ်စ်စွန်နီသခင်က အန်စွာရီ ကျွန်မငယ်တစ်ဦးမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် တစ်ဦးဦးကို ခေါ်လိုပြီး ၎င်းသူ၏ အမည်ကို သတိမရလျှင် (ယာအစ်ဗ်န၊ အဗ်ဒွလ္လာဟ်) အို....အလ္လာဟ်အသျှင်မြတ် ဗန္ဒဟ်၏သားဟု ခေါ်တော် မူသည်။

'ဟာကင်မ်' ကျမ်းရှင်က ဂျာဗင်ရ် (ရသွေ့) သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ် ကိုယ်တော်သည် သွားတော်မူသောအခါ ဟိုဟိုသည်သည် ဝဲ-ယာကြည့်ရှုတော်မမူပေ။

'အဘူဒါဝူးဒ်' ကျမ်းရှင်ကအွမ်မေ့စလ်မဟ် အနွယ်အချို့မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ အိပ်ရာခင်းသည် ကဖွာန်ကဲ့သို့ဖြစ်သည်၊ (ဆိုလိုသည်မှာ ကဖွာန် ထုပ်သော အဝတ်ကဲ့သို့ဖြစ်သည်၊) အဖိုးတန်သော လှပသော အခင်းကို သုံးတော်မမူ၊ ၎င်းကိုယ်တော်၏ ဗလီသည် ခေါင်းရင်းတော်တွင် ရှိသည်၊ (ဆိုလိုသည်မှာ ရစူလ်ကိုယ် တော်သည် အိပ်တော်မူသောအခါ ဗလီဘက်သို့ခေါင်းထား၍ အိပ်တော်မူသည်)

အခြား ဟဒီးသ်တော်တစ်ရပ်တွင် 'တင်ရ်မေသီ' ကျမ်းရှင်ကဟဖ်စွာဟ်(ရသွေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ အိပ်ရာခင်းသည် အကြမ်းထည် ဖြစ်သည်။

'ဟာကင်မ်' ကျမ်းရှင်ကအစ်ဗ်နို့အဗ်ဗားစ်(ရသွေ့)သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ အင်္ကျီမြှတ်သည် ခြေမျက်စိ အပေါ်တွင်ရှိသည်၊ (ဆိုလိုသည်မှာ အခြား ဟဒီးသ်တော်များအရ ခြေသလုံးတစ်ဝက်ထိရှည်သည် ၎င်းကိုယ်တော်၏ အင်္ကျီ လက်သည် လက်ချောင်းများအထိ ရှိသည်။)

အခြား ဟဒီးသ်တော် တစ်ရပ်တွင် 'အဘူဒါဝူးဒ် နှင့် 'တင်ရ်မေသီ' ကျမ်းရှင်က အကြောင်းပြုခဲ့သည်၊ အင်္ကျီလက် အရှည်သည် လက်ကောက်ဝတ်ထိ ရှည်သည်၊ (အချုပ် မှာ ကိုယ်တော်သည် နှစ်မျိုးစလုံး ဝတ်တော်မူကြောင်း အတည်ဖြစ်သည်၊ သို့ရှိရာ ကိုယ်တော်၏ အင်္ကျီအချို့သည် လက်ကောက်ဝတ်ထိ ရှည်ပြီး၊အချို့သည် လက်ချောင်း များအထိ ရှည်သည်။)

'အေမာမ်အဟ်မဒ်၊ တင်ရ်မေသီ နှင့် အစ်ဗ်နို့မာဂျဟ်' ကျမ်းရှင်များက အာအေ ရှဟ် (ရသွေ့) သခင်မမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ ခေါင်းအုံးသည် စွန်ပလွံခက်များ ဖြည့်ထားသော သားရည်ဖြစ်သည်။

'တွာဗ်ရာနီ' ကျမ်းရှင်က နွအ်မာန်ဗင်န်ဘရှ ိရ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အညှံဆုံး စွန်ပလွံသီးများဖြင့်ပင် ဝမ်းဝအောင် စားတော်မမူပေ၊ တစ်လောကလုံး၏ ဘဏ္ဍာငွေတိုက်များသည်ကိုယ်တော်၏ ခြေဖဝါးအောက်တွင် ရှိနေသည်၊ သို့သော်လည်း ကိုယ်တော်သည် သူဆင်းရဲ အဖြစ် အတိုင်း နေထိုင်တော်မူသည်၊ ဒွန္နယာလောက၏ စည်းစိမ်များကို သေးသိမ်ယုတ်ညံ့ သည်ဟု ယူဆ၍ ဆင်းရဲသားအဖြစ်နှင့် နေတော်မူသည်၊ ရသောငွေကြေးများကို အများ အားဖြင့် လှူဒါန်းတော်မူသည်၊ အညှံစား စွန်ပလွံသီးများသည် အရဗ် နိုင်ငံသား များ၏ ရိုးရိုးအစာဖြစ်သည်၊ ထိုအညံ့စားများသည် ပေါ်များစွာ ရှိလေသည်။

'တင်ရ်မေသီ' ကျမ်းရှင်က အနတ်စ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် လာလတံ့သောရက်, နောက်ရက်အတွက်ပင် စားသောက်ရန် စုထားတော်မမူပေ။

'တွာဗ်ရာနီ' ကျမ်းရှင်က အစ်ဗ်နို့အဗ်ဗားစ် (ရသေ့) သခင်မှ အကြောင်းပြုခဲ့ သည်၊ ရစူလ်ကိုယ်တော်သည် လမ်းသွားတော်မူသောအခါ ရှေ့မှသွားနေသူများကို ဖယ်ရှားစေတော်မမူ၊ ၎င်းရိုက်ပုတ်ဖယ်ခိုင်းခြင်းလည်း ပြုတော်မမူပေ၊ (ကြွားဝါသော သူများသည် လမ်းရှင်းသွားစေရန်အတွက် အခိုင်းအစေများဖြင့်လမ်းပေါ် ရှိသူများကို အဖယ်ခိုင်းသည် ဝေါက်ငမ်းကြသည်၊)

အစ်ဗ်နို့စအဒ် သခင်က အာမ်အေရှုဟ်(ရသေ့)သခင်မထံမှ အကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်သည် (၃) ရက်ထက်လျော့၍ ကုရ်အာန်ကျမ်းတော်မြတ်ကို စ,ဆုံး ဖတ်တော်မမူပေ၊ (၃-ရက်တွင် တစ်ခတမ် ဖတ်တော်မူသည်။)

အစ်ဗ်နို့စအဒ်သခင်က မုဟမ္မဒ်ဗင်န်အလ်ဟန်ဖီယဟ် သခင်မှအကြောင်းပြုခဲ့သည်၊ ရစူလ်ကိုယ်တော်၏ ဓလေ့တော်မှာ (ရှရီအတ် တရားတော်မြတ်အရ လုပ်ပိုင်သော အလုပ်ကို လုပ်ကြလျှင်) တားမြစ်တော်မမူပေ၊ ၎င်းကိုယ်တော်အား မေးခွန်းတစ်ခုကို မေးလျှင် ထိုအမေးကို ပြည့်စုံအောင် ပြုလိုတော်မူပါက 'ကောင်းပြီ'ဟု မိန့်တော်မူလေ သည်၊ ၎င်းအံကယ်၍ အကြောင်းတစ်ခုခုကြောင့် မလုပ်ဆောင်လိုလျှင် ဆိတ်ဆိတ် နေတော်မူသည်။

ဤတွင်ရှိကား ပထမနောက်ဆက်တွဲပြီး၏။

**မုဟမ္မဒ်မူစာ (မန္တာလေးရှိ)**

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ نَحْمَدُهٗ وَنُصَلِّىْ عَلٰى رَسُوْلِهِ الْكَرِيْمِ

# ဒုတိယ နောက်ဆက်တွဲ

## အစ်စွလာဟွန်နေစာအ်၊ အမျိုးသမီးတို့အား

## ပြုပြင်ချက်များ

နဟ်မဒို့ဟူ၊ ဝနို့စွာလ်လီ၊ အလာရစူလေ့ဟင်လ် ကရီးမ်၊

အလ္လာဟ်အသျှင်မြတ်အား ချီးမြှင့်ထောပနာပြုပြီး ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အပေါ် 'စွလဝါတ်၊ စလာမ်'ပြု ပို့ပြီးနောက် အစီရင်ခံလိုသည်မှာဗဟာဟစ်ရှိတီ ဇေဝရ်ကျမ်း အဌမတွဲရေးနေစဉ် အပိုင်းများခွဲရန် ကောင်းသော အမျိုးသမီးများ၏ အကြောင်းများကို စုဆောင်းခဲ့သည်၊ ထိုသို့ပင် သံဝေဂတရား ယူနိုင်ကြစေရန် မကောင်းသော အမျိုးသမီးများနှင့် 'တောင်ဗဟ်' ပြု၍ မကောင်းရာမှ ကောင်းလာသော အမျိုးသမီးများအကြောင်း စုဆောင်းခဲ့သည်၊ သို့သော် စုဆောင်းထားသည်မှာ များပြားလွန်း၍ ပထမအကြောင်းပါ အမျိုးသမီးများအကြောင်းကိုပင်အဓိကအဖြစ်ထည့်သွင်းပြီး ဒုတိယ အမျိုးအစား အကြောင်းကို ဤအတွဲနောက်ဆုံးတွင် (အမျိုးသမီးတို့၏ အချို့ပြစ်ချက်များအပေါ်'ကုရ်အာန်'နှင့်'ဟဒီးသ်တော်'၏ ဆုံးမချက်) ခေါင်းစဉ်ဖြင့်အနည်းငယ်မျှသာ ရေးသားခဲ့သည်၊ ထိုအကြောင်းများ ရေးနေစဉ် ပြန်၍ ကြည့်မိသောအခါ ထုတ်စေရန် အခွင့်သင့်မည်ကို စောင့်ဆိုင်းနေခဲ့သည်၊ ထိုအချိန်၌ အိမ်နီးချင်းတစ်ဦးက အမျိုးသမီးများ ပြစ်ချက်နှင့်ပတ်သက်၍ 'မှတ်စု' ဟူ၍ ကျွန်ုပ်ထံ ပေးခဲ့သည်။

ကျွန်ုပ်ရေးသည်များနှင့် ဆက်စပ်နေ၍ အားလုံးကို စုပေါင်းကာ 'ဗဟာဟစ်ရှိတီ ဇေဝရ်' ကျမ်း အဌမတွဲ၏ နောက်ဆက်တွဲအဖြစ် အသုံးပြုလျှင် မကောင်းနေသော အမျိုးသမီးများသည် ကောင်းလာပြီး 'တောင်ဗဟ်' ပြုလာကြမည်ဟု ယူဆမိသည်၊ 'မှတ်စု' သည် ဒေါ်သအလျောက် ရေးထား၍ ခပ်ပြင်းပြင်း ဖြစ်နေသည်၊ ထို့ကြောင့် ကျွန်ုပ်က သတိပေးချက်ကို ဖြည့်စွက်ခဲ့သည်၊ ဤစုပေါင်းချက်ကို ပထမ ဆိုးသွမ်းသော အမျိုးသမီးများ၊ ထို့နောက် 'တောင်ဗဟ်'ပြု အမှားဝန်ခံသော အမျိုးသမီးများ၊ ထို့နောက် ကျွန်ုပ် ဖြည့်စွက်သော သတိပေးချက်၊ ပြီးမှ 'မှတ်စု'ကိုထည့်သွင်းထားသည်၊ သို့ရှိရာ ဤစုပေါင်းချက်သည် 'ဗဟာဟစ်ရှိတီ ဇေဝရ်'ကျမ်း အဌမတွဲ၏ နောက်ဆုံးပိုင်း ဖြစ်သည်၊ ၎င်းတင်ပြခဲ့သောအကြောင်းများ အကျယ်ဖွင့်ချက်လည်းဖြစ်သည်၊ ဤစုပေါင်းထားသည်ကို (အစ်စွလာဟွန်နေစာအ်၊ အမျိုးသမီးတို့အား ပြုပြင်ချက်များဟု အမည်တပ်လိုက်သည်။)

## ၁။ အိုနှစ်ကိ၏ အကြောင်း

ဤသူမသည် အာဒမ် (အလိုင်ဟုစ္စလာမ်)သခင်၏ လက်ထက်တော်က ရှိခဲ့သည်၊ ဤသူမသည် ပထမဦးစွာ လော်လီဖောက်ပြားပြီး မိမိမျက်နှာကို အိုးမဲ သုတ်ခဲ့သည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က ထိုသူမကို လောက၌လည်း 'အသာဗ်' ပြစ်ဒဏ်ပေးခဲ့သည်၊ ဆင်ကဲ့သို့ကြီးသောမြွေများ၊ ကုလားအုတ်ကဲ့သို့ ကြီးသော ဝံပုလွေများ၊ မြည်းကဲ့သို့ ကြီးသော လင်းတများကို အကွယ်မှ ပေါ်ပေါက်စေတော်မူသည်၊ ထိုတိရစ္ဆာန်များသည် ထိုသူမကို အားလုံးဝိုင်း၍ စားကြသည်။

**အကျိုးကျေးဇူး။** မကောင်းသော ကိစ္စကို ကျူးလွန်သဖြင့် မည်သို့ ပြစ်ဒဏ် ခံရသည်ကို သိကြရပေပြီ၊ ယခု ဤသို့ပြစ်ဒဏ်များ ခံရမည်မဟုတ်ဟူ၍ မယူဆကြနှင့်၊ ဤသို့ လောက၌ ပြင်းပြသော'အသာဗ်'ပြစ်ဒဏ် မခံကြရသည်မှာ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် အတွက်ကြောင့် ဖြစ်သည်၊ သို့သော် နောင်အာခေရတ်၌ အားလုံးပေါင်း၍ 'အသာဗ်'ပြစ်ဒဏ် ခံကြရမည်၊ နောင်အာခေရတ်သည် တစ်ကယ်ပင်ရောက်လာမည်ဖြစ်ရာ၊ လျစ်လျူရှုထား၍ မဖြစ်နိုင်ပေ။

လော်လီဖေါက်ပြားမှုပင် မကောင်းသော ကိစ္စဟု မမှတ်ထင်ကြနှင့်၊ သာမက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မှာ ရှင်းလင်းစွာ မိန့်တော်မူထားသည်၊ မျက်စိ, နား, လျှာ, လက်, ခြေ နှင့် စိတ်ဖြင့်လည်း မကောင်းမှုများ ဖြစ်ပွားနိုင်သည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည် သူစိမ်းယောကျ်ား (မိန်းမ)၊ သတို့သမီး (သတို့သား) တို့ကို ချောင်းမြောင်း ကြည့်လျှင် မျက်စိ၏ မကောင်းမှု ဖြစ်သည်၊ မတတ်သာ၍ မဟုတ်ဘဲ သူစိမ်းယောကျ်ား(မိန်းမ)နှင့် ရောနှောပြောဆိုလျှင်၊ ဤသည်မှာ နှုတ်လျှာ၏မကောင်းမှု ဖြစ်သည်၊ ၎င်းစိတ်ပျော်ရွှင်စေရန် ထိုသူ (သူမ)၏ စကားကို နားထောင်လျှင် ကဗျာလင်္ကာ 'မို့နာဂျ်ဟ်'ကို နားထောင်လျှင်၊ ဤသည်မှာ နား၏ မကောင်းမှု ဖြစ်သည်၊ ဤသို့ပင် 'ရှရီအတ်'တရားတော်မြတ်အရ 'ပရ်ဒဟ်'ပြုရမည့်သူများနှင့် လက်ဆက်ခြင်း၊ ခါး, ခေါင်းအပေါ် လက်တင်လျှင် ဤသည်မှာ လက်၏ မကောင်းမှုဖြစ်သည်၊ ဤသို့ သူနှင့်တွေ့ဆုံရန် အိမ်မှ သွားခြင်း၊ ထိုသူ (သူမ) ရှေ့သို့ လာလျှင်၊ ဤသည်မှာ ခြေ၏ မကောင်းမှုဖြစ်သည်၊ ၎င်းစိတ်ဖြင့် တ,သခြင်း၊ စိတ်စွဲလန်းနေလျှင် ဤသည်မှာ စိတ်၏ မကောင်းမှုဖြစ်သည်။

မကောင်းသောကိစ္စဖြင့် ဂိုနာဟ် အပြစ်ဒဏ် ခံရသကဲ့သို့ ဤသို့သော တင်ပြသည့် အချက်များဖြင့်လည်း ဂိုနာဟ်ခံရပေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အမျက်တော်မှ ကြောက်ရွံ့ကြရန်ထိုက်သည်၊ ၎င်း တင်ပြပါ အချက်များမှ ရှောင်ကြဉ်ကြရန် သင့်လှပေသည်။

## ၂။ ဝါအေလဟ်၏ အကြောင်း

ဤသူမသည် နူးဟ် (အလိုင်ဟစ္စလာမ်) သခင်၏ ဇနီးသည်ဖြစ်သည်။ သို့သော် အီမာန် မယူခဲ့ပေ။ ရေကြီးလာပြီး မြေအတွင်းမှ ရေများ ပန်းထွက်လာသော အခါ နူးဟ် (အလိုင်ဟစ္စလာမ်) သခင်သည် အီမာန် ရှိသူများကို လှေသင်္ဘောကြီး ပေါ်သို့ စီးနင်းစေတော်မူသည်၊ မိမိ၏သားနှင့် ထိုသူမကို အီမာန် လက်ခံပြီး လှေသင်္ဘောပေါ် တွင် တက်ကြရန် ဆိုဆုံးမတော်မူသည်၊ သို့သော်လည်း အီမာန် မယူ လှေသင်္ဘောပေါ် မတက်ကြပေ၊ ၎င်းတို့သည် ရေကြီးလာမည်ကိုပင် ယုံကြည်မှု မရှိကြ၊ ထို့ကြောင့် နူးဟ်(အလိုင်ဟစ္စလာမ်)သခင်ကိုပင် ရယ်မော ပြောင်လှောင်ကြသည်၊ ရေကြီးလာလေ သောအခါ သားနှင့် ဇနီးသည်မှာ အခြား ကာဖွင်ရ်များနှင့်တကွ ရေနစ် သေဆုံးသွား ကြသည်။

**အကျိုးကျေးဇူး။** ဤသူမ၏အကြောင်းသည် ကုရ်အာန်ကျမ်းတော်မြတ်၌ ဤသို့ လည်းလာရှိသည်၊ အနှစ်ဆက်ခံရသော ပုဂ္ဂိုလ်၏ ဇနီးဖြစ်သော်ငြားလည်း သာသနာပေါ်တွင် ရပ်တည်မှုမရှိခဲ့၊ ထို့ကြောင့် ထိုပုဂ္ဂိုလ်ဇနီးဖြစ်ခြင်းမှာ အရာမရောက်ခဲ့၊ ၎င်းဂျဟန္နမ်အပါယ်ငရဲသို့ ပို့လွှတ်ခြင်းခံရသည်။ အို...အမျိုးသမီးတို့၊ ကောင်းစွာ မှတ်သားထားကြကုန်၊ မိမိတို့၏ ခင်ပွန်း၊ ဖခင်၊ အစ်ကို၊ မောင် သားတို့အနက် တစ်ဦးဦး ဘာသာရေးရာမှန်မြတ်ထူးကဲသူများဖြစ်၍ အားထားမနေကြနှင့်၊ သင်မတို့၏ 'ဒိန်'အီမာန်သည် ဖြောင့်ဖြူးခြင်းမရှိပါက သင်တို့ သားချင်းအနက် တစ်ဦးဦး ဘာသာ ရေးရာ ထူးကဲမှန်မြတ်နေခြင်းဖြင့် အသုံးဝင်မည်မဟုတ်ပေ။

## ၃။ လူးတွ် [အလိုင်ဟစ္စလာမ်] သခင်၏ ဇနီး အကြောင်း

ဤသူမသည် ကာဖွင်ရ်ပင်ဖြစ်သည်၊ မကောင်းဘောကိစ္စများ၌ ကာဖွင်ရ်များကို အကူအညီပေးခဲ့သည်၊ လူးတွ်(အလိုင်ဟစ္စလာမ်)သခင်၏ အွမ္မတ်သား ကာဖွင်ရ်များ အပေါ် အလ္လာဟ်အသျှင်မြတ်၏အသာဗ်တော်ကျရောက်တော်မူမည်ဖြစ်ရာ၊ ယခုနံနက်တွင် ဤရွာကြီးအပေါ် အသာဗ် ကျရောက်တော့မည်ဖြစ်သည်၊ သင်သည် အီမာန်ရှိသူများကို အတူ ခေါ်ဆောင်၍ ညတွင်းချင်း ဤရွာကြီးအပြင်သို့ထွက်ကုန်၊ မည်သူမျှ နောက်သို့ လှည့်၍ မကြည့်နှင့်ဟု အလ္လာဟ်အသျှင်မြတ်က 'ဖွရစ်ရှ်တဟ်' ကောင်းကင်တမန်မှ တဆင့် မိန့်တော်မူလေသည်။

အချုပ်မှာ.... လူးတွ်(အလိုင်ဟစ္စလာမ်)သခင်သည် အလ္လာဟ်အသျှင်မြတ် အမိန့် တော် အရ ရွာကြီးမှ အပြင်သို့ ထွက်သွားတော်မူသည်၊ ဤသူမသည် မိမိ အသက်ကို ကာကွယ်ရန်အတွက် အတူလိုက်လာခဲ့သည်၊ ရွာကြီးရှိသူများအပေါ် အသာဗ် ပြစ်ဒဏ် ကျရောက်ပြီး ခဲမိုး ရွာ လေ သော အခါ ဆူညံသံများ ပေါ်ထွက်လာသည်၊ အီမာန်

ရှိသူများသည် ကြောက်ရွံ၍ ဦးခေါင်းညွတ်ကာ သွားမြဲတိုင်း သွားကြသည်၊ ဟိုဟို သည်သည် မကြည့်ကြပေ၊ သို့သော် ဤသူမသည် ထိုကာဖွင်ရ်များ နှင့် သားချင်း တော်သည်၊ ၎င်း သူမ ကိုယ်တိုင်ပင် ကာဖွင်ရ်များ၏ ယုံကြည်မှုမျိုးရှိသည်၊ မည်သို့ ဖြစ်နေကြသည်ကို သိလိုဇောဖြင့် နောက်သို့ လှည့်ကြည့်သည်၊ နောက်သို့လှည့်ကြည့်လိုက် သည်နှင့် တစ်ပြိုင်တည်း ကျောက်ခဲ တစ်ခဲသည် ထိုသူမအားလာ၍ထိသည်၊ ၎င်းနေရာ တွင်ပင် ပွဲချင်းပြီး သေဆုံးသွားလေသည်။

**အကျိုးကျေးဇူး။** ကုရ်အာန်ကျမ်းတော်မြတ်တွင် လူတ် (အလိုင်ဟစ္စလာမ်) သခင် ၏ ဇနီးသည်အကြောင်းလာရှိသည်ကို အထက်တွင်တင်ပြခဲ့သည်၊ ထိုသို့လာရှိရာ၌ ဤသို့လည်းလာရှိသေးသည်၊ ထိုသူမသည် တမန်တော်၏ ဇနီးဖြစ်သော်ငြားလည်း အကျိုးသက်ရောက်မှု မရရှိခဲ့၊ အဘယ့်ကြောင့်ဆိုသော် ထိုသူမသည် သာသနာတော်အပေါ်၌ ရပ်တည်မှုမရှိခဲ့ပေ။

အို...အမျိုးသမီးအပေါင်းတို့၊ မိမိတို့၏ဒီန်နှင့်အီမာန်ပင် အသုံးဝင်မည်ဖြစ်ကြောင်းကို ထုပ်မံ၍ ကောင်းစွာသိမှတ်ထားကြကုန်၊ အချို့အမျိုးသမီးများသည် သားချင်းဆွေမျိုး များ အတွက်မိမိတို့ယုံကြည်ချက်အီမာန်ကို ဖျက်ဆီးကြသည်၊ ဘာသာရေးမလိုက်စားသော သူယုတ်မာများနှင့်ဝင်ထွက်ဆက်ဆံကြသည်၊ ဤတင်ပြပါသူမသည် မိမိသားချင်းများကို ချစ်ခင်မှုဖြင့်ပျက်စီးခဲ့သည်၊ အသက်နှင့်အီမာန် နှစ်ရပ်စလုံးဆုံးရှုံးခဲ့သည်၊ အကယ်၍ အီမာန်ယူခဲ့လျှင် နောက်သို့ လှည့်မကြည့်လျှင် 'ဘလာ' ဒုက္ခအပေါင်းမှ လွတ်ကင်းနေမည် ဖြစ်သည်၊ သိမှတ်ထားကြကုန်၊ အကြင်သူတို့သည် အလ္လာဟ်ရစူလ်လမ်းစဉ်ကို မလိုက်နာ ကြလျှင် သင်မတို့လည်း ထိုသို့သောသူများနှင့် ဝင်ထွက်ဆက်ဆံခြင်းများ မပြုကြနှင့်။

## ၄။ ဇွဲဒူဖ်၏ အကြောင်း

တမန်တော် စွာလေးဟ် (အလိုင်ဟစ္စလာမ်) သခင်၏ လက်ထက်တော်တွင် ဇွဲဒူဖ် မည်သော ကာဖွင်ရ်မတစ်ယောက်ရှိသည်၊ ထိုသူမ၏ အကျင့်စာရိတ္တသည် မကောင်းပေ၊ ၎င်းကဲ့သို့ပင် အကျင့်မကောင်းသောသူမတစ်ယောက်ရှိသည်၊ ထိုသူမထံတွင် နို့ပေးသော ဆိတ်စသည့် တိရစ္ဆာန်များရှိသည်၊ စွာလေးဟ် (အလိုင်ဟစ္စလာမ်) သခင်၏ 'မုအ်ဂျဇတ်' တံခိုးတော်ဖြင့် အလ္လာဟ်အသျှင်မြတ်က ကျောက်တုံးမှ ကုလားအုတ်မ ဖြစ်စေတော် မူခဲ့သည်။

ထိုရွာကြီး၌ ရေများစွာထွက်သောရေတွင်းတစ်တွင်းရှိလေသည်၊ တိရစ္ဆာန် အား လုံးကို ထိုရေတွင်းမှ ငင်၍ ရေတိုက်ကြရသည်၊ ဤကုလားအုတ်မ ဖြစ်ပေါ်လာကတည်းက အလ္လာဟ်အသျှင်မြတ် အမိန့်တော်ဖြင့် တစ်ရက်တွင် တိရစ္ဆာန် အားလုံး သောက်ကြ၍ နောက်တစ်ရက်တွင် ဤကုလားအုတ်မသောက်ရန်သတ်မှတ်တော်မူသည်၊ အဘယ့်ကြောင့် ဆိုသော် ထိုကုလားအုတ်မသည် အလွန် ကြီးလေသည်၊ ရေ အလွန် သောက်သည်၊ ထို

ကုလားအုတ်မ သောက်သော နေ့တွင် အခြားတိရစ္ဆာန်များအတွက် ရေမကျန်တော့ပေ၊ ဤသည်ကို ကာဖွင်ရ်များက မလိုလားခဲ့ကြပေ။

မကောင်းသော ကိစ္စတစ်ရပ်ဖြစ်လာသည်၊ တင်ပြပါ အကျင့်မကောင်းသည့် သူမ နှစ်ယောက်သည် ထိုသူမများကဲ့သို့ အကျင့်စာရိတ္တမကောင်းသည့် ယောကျ်ားနှစ်ယောက် အား ထိုသူမနှစ်ဦးက တိုင်ကြသည်၊ ကျွန်ုပ်အိမ်တွင် အားလုံးထက်ပို၍ တိရစ္ဆာန်များ ရှိသည်၊ တစ်ရက် အားလုံးရေငတ်နေကြရသည်၊ ဤကိစ္စကို ပြေလည်အောင် ရှင်းပေးနိုင် လျှင် သင်တို့မှ ပျော်ရွှင်မည်၊ ၎င်းဆင်တို့၏ အနွံအတာခံမည်၊ ပြုချင်သလို ပြုကြပါဟု ဆိုလေသည်၊ ထိုယုတ်မာသော သူနှစ်ယောက်က အခြား အဖော်များကိုလည်း ခေါ်၍ ကုလားအုတ်မကြီး သွားရာလမ်းတွင် ပုန်းအောင်း၍ ထိုင်နေကြသည်၊ ထိုကုလားအုတ်မ ကြီးသည် ရေသောက်ရန်သွားလေရာ၊ ထိုသူများအနီးသို့ ရောက်သွားသောအခါ ထိုသူတို့ သည် ပုန်းအောင်းနေရာမှထွက်၍ ဓါးလှံများဖြင့် ခုတ်ကြသည်၊ ခြေထောက်ကိုခုတ်ရာ ကုလားအုတ်မကြီးသည် လဲကျသွားသည်၊ အလဲတွင် ထိုသူတို့က ဝိုင်း၍ အရှင်လတ်လတ် သတ်လိုက်ကြသည်။

ထိုသို့ ရှိုင်းပြစွာပြုမူကြသဖြင့် ထိုသူတို့အပေါ် အလ္လာဟ်အသျှင်မြတ်၏ အမျက် တော် ကျရောက်လေသည်၊ ပထမရက်တွင် ကာဖွင်ရ်အားလုံး၏မျက်နှာများသည် ဝါကျင့် သွားသည်၊ ဒုတိယရက်တွင် နီရဲသွားသည်၊ တတိယရက်တွင် မည်း၍သွားသည်၊ စတုတ္ထ ရက်တွင် ပထမဦးစွာလေပြင်းကျလာသည်၊ ၎င်းအထက်မိုးကောင်းကင်မှ မီးမိုးရွာချသည်၊ ထို့နောက် ဂျစ်ဗ်ရာအီလ် (အလိုင်ဟစ္စလာမ်) ကောင်းကင်တမန်တော်ကြီးက အားနှင့် အော်လိုက်ရာ၊ ကာဖွင်ရ်အားလုံး၏အသည်းနှလုံးသည် ကွဲအက်သွားသည်၊ ၎င်းအသက် ဇီဝိန် ချုပ်ငြိမ်း သွားလေ၏၊ ၎င်း ထိုကျရောက်လာသော မီးများဖြင့် အားလုံးသည် လောင်ကျွမ်း၍ ပြာဖြစ်သွားကြသည်။

**အကျိုးကျေးဇူး။** နှစ်ဦးသောသူမ၏ အကျင့်စာရိတ္တ မကောင်းမှုဖြင့် ဒုက္ခမှာ... အားလုံး အပေါ်သို့ ကျရောက်လာလေသည်၊ ထိုသူမ နှစ်ဦး၏ ဆိုးသွမ်းမှုသည် ပစ္စည်းကို ခင်တွယ်ချစ်ခင်မှုကြောင့် ပေါ်ပေါက်လာရသည်။

အို... အမျိုးသမီးအပေါင်းတို့၊ ရွှေ၊ ငွေ၊ ပစ္စည်းပစ္စယ၏ ခင်တွယ်စွဲလန်းမှုကို စိတ်မှ ပယ်ဖျောက်ပစ်ကြကုန်၊ ပစ္စည်းအားခင်တွယ်မှုဖြင့် ဒုက္ခအကြီးအကျယ်ရောက်ရလေသည်၊ အလ္လာဟ်အသျှင်မြတ် စောင်မတော်မူပါစေ၊ ဤသို့ အကျင့်စာရိတ္တ မကောင်းသော သူမများနှင့် တတ်နိုင်သည်ခန့် စိတ်မှ မုန်းတီးစိတ်ထားကြကုန်၊ ပြောဆိုရာ၌ ဖြစ်စေ တွေ့ဆုံရာ၌ဖြစ်စေ ဤသို့သော သူမများနှင့် ချိုသာနူးညွှတ်စွာ မဆက်ဆံနှင့်၊ ဤသို့သော သူမများနှင့် ဖော်ရွေစွာဆက်ဆံပါက အသာဗ်နှင့် ဝဗာလ် အတိဒုက္ခများ၊ ထိုမကောင်း သူမများအပေါ် ကျရောက်လျှင် သင်မတို့အပေါ်ပါ ကျလာမည်ကိုစိုးရိမ်ရပေသည်၊ ၎င်း အကယ်၍ မုန်းတီးခြင်း မနှစ်မြို့ခြင်းများ ၎င်းတို့အပေါ်ထားမှု ဂိုနာဟ်မှ ၎င်းအလ္လာဟ် အသျှင်မြတ်၏ အမျက်တော်မှ လွတ်ကင်းနေပေမည်။

## ၅။ အန်ရိဗီလ်၏ အကြောင်း

တမန်တော် အင်လ်ယားစ် (အလိုင်ဟစ္စလာမ်) သခင်၏ လက်ထက်တော်က ဤမည်သော 'အန်ရိဗီလ်' သူယုတ်မာသည် ရုပ်တုကိုးကွယ်သော ဘုရင်၏ ဇနီးဖြစ်သည်၊ ဤသူမသည် ကိုယ်တိုင်လည်း မတရားသော ညှဥ်းပမ်းသော အသနားကင်းမဲ့သော သူမဖြစ်သည်၊ ထိုသူမသည် တမန်တော်များစွာကို 'ရှဟီးဒ်' ပြု သတ်ဖြတ်ခဲ့သည်၊ ထိုသူမအနီးတွင် သူတော်ကောင်းတစ်ပါး နေထိုင်သည်၊ ထိုသခင်၏ထံ ဥယျာဉ်တစ်ခုရှိသည်၊ သူမသည် ထိုဥယျာဉ်မှ ဖြတ်သွားလေ့ရှိသည်၊ထိုဥယျာဉ်သည် အလွန်ကောင်းသဖြင့် အားလုံးက ချီးကျူးကြသည်၊ထို့ကြောင့် ဤသူမသည် မနာလိုမုန်းတီးခဲ့သည်၊အကြောင်းတစ်ခုခုရှာကြံ၍ ဥယျာဉ်ကို သခင့်ထံမှ လုယူ၍ ၎င်းကိုသတ်ပစ်ရန်ကြံစည်နေခဲ့သည်။

တစ်နေ့ ဘုရင်သည် ခရီးရှည်ထွက်သွားသည်၊ ဘုရင်သည် ခရီးသွားသောအခါ ဇနီးသည်ကို ဘုရင်အဖြစ် အုပ်ချုပ်ရစ်ရန် အာဏာလွှဲ၍ သွားလေ့ရှိပေသည်၊ ဤတစ်ကြိမ်လည်း ထုံးစံအတိုင်း ခရီးသွားလေရာ ဇနီးအား အာဏာများအပ်နှင်း၍ သွားလေသည်၊ ထိုသူမက လူများကို သခင်က ဘုရင်အား ဆဲရေးသည်ဟု ရုံး၌ မုသားသက်သေ ခံကြရန် သွန်သင်ထားသည်၊ ဘုရင်၏ ဥပဒေမှာလည်း ဘုရင်ကိုဆဲကြောင်း သက်သေအထောက်အထားပြနိုင်လျှင် ထိုဆဲသူကို သတ်ပစ်လေ့ရှိသည်။

ထိုသူမသည် ထိုသူတော်ကောင်းကို ခေါ်ယူ ဖမ်းဆီးစေပြီး ဘုရင်ကိုဆဲရေးကြောင်း ကြားရသည်ဟု ပြောသည်၊ ထိုပုဂ္ဂိုလ်က မဟုတ်မှန်ကြောင်း ငြင်းဆိုသည်၊ ထိုသူမက သွန်သင်ထားသော သူများကိုခေါ်၍ မုသားသက်သေထွက်စေသည်၊ ၎င်းတို့က ဘုရင်ကို ဆဲရိုးအမှန်ပင်ဖြစ်ကြောင်း ထွက်ဆိုကြသဖြင့် ထိုသူမက ထိုပုဂ္ဂိုလ်ကို သတ်ပစ်လေသည်၊ ၎င်းပိုင်ဥယျာဉ်ကိုလည်း မတရားသိမ်းယူလေ၏။

ဘုရင်သည် ခရီးမှပြန်လာရာ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က အင်လ်ယားစ်(အလိုင်ဟစ္စလာမ်)သခင့်အပေါ် 'ဝဟီ'အမိန့်တော် ပို့လေသည်၊ထိုဘုရင်ကို ပြောကုန်၊ မွတ်စလင်မ်တစ်ဦးအား မတရားညှဥ်းပန်းပြီးသတ်ခဲ့သည်၊ ထိုသူပိုင်ဥယျာဉ်ကိုလည်း သိမ်းခဲ့သည်၊ အကယ်၍ ဇနီးမောင်နှံ နှစ်ဦးသည်'တောင်ဗဟ်'ပြု အမှားဝန်ခံပြီး အမွေစားများကို ဥယျာဉ်ပြန်ပေးပါက ကောင်းလေစွ၊ သို့တည်းမဟုတ် သင်တို့ကိုဖျက်ဆီးပစ်တော်မူမည်။

အင်လ်ယားစ် (အလိုင်ဟစ္စလာမ်) သခင်သည် အမိန့်တော်မြတ်အတိုင်း ဘုရင်အားသွားရောက်ပြောပြရာ ဘုရင်သည် ဒေါသဖြစ်လာသည်၊ 'တောင်ဗဟ်'ပြုရန်ဖယ်ထားဘိဦး အင်လ်ယားစ်(အလိုင်ဟစ္စလာမ်)သခင်အား ရန်သူပမာ ထားလေတော့သည်၊ နောက်ဆုံး အလ္လာဟ်အသျှင်မြတ်အမိန့်တော်အရအင်လ်ယားစ်(အလိုင်ဟစ္စလာမ်)သခင်သည်၊ အခြားမြို့ရွာသို့ ထွက်ခွာသွားတော်မူသည်၊ ရက်မကြာမီ ထိုဘုရင်၏သားသည် ရောဂါဖြစ်ပြီး

သေဆုံးသွားသည်၊ ဤအပူမကျသေးမီ ဘုရင်တစ်ဦးက စစ်ချီတက်လာပြီး ထိုဘုရင်၏ တိုင်းပြည်ကိုသိမ်းယူလိုက်သည်၊ ထိုဘုရင်ဇနီးမောင်နှံနှင့်တကွ 'ကာဖွင်ရှီ'တစ်မျိုးသားလုံးသည် ဓားလွှယ်ဖြင့် သုတ်သင်မှု ခံကြရလေ၏။

**အကျိုးကျေးဇူး။** မတရားပြုခြင်း၏ နိဂုံးမှာ.... အဘယ်သို့ဖြစ်ရသည်ကို သိပြီးကြရလေပြီ၊အို....အမျိုးသမီးအပေါင်းတို့၊ တစ်ဦး၏ ပစ္စည်းအပေါ် မကောင်းစိတ်ထားခြင်း၊ တစ်ဦးကို မတရားပြောဆိုခြင်း၊ တစ်ဦးကို ရိုက်ပုတ်ခြင်း၊ ဒုက္ခပေးခြင်း၊ ၎င်းပြစ်တင်ကဲ့ရဲ့ခြင်း၊ တစ်ဦးကို စိတ်တိခိုက်အောင်ပြုခြင်း၊ ၎င်းတစ်ဦး၏ နောက်ကွယ် အတင်းပြောခြင်းတို့သည် မတရားပြုခြင်းများ ဖြစ်ပေသည်၊ ၎င်းမတရားပြုခြင်း၏ 'ဝဗာလ်'ဒုက္ခကိုသင်မတို့ဖတ်ခဲ့ကြရပေပြီ၊မိမိကိုယ်ကို အမြဲထာဝရဤမကောင်းမှုများမှ လွတ်ကင်းအောင် ပြုကြကုန်။

## ၆။ နာအေလဟ်၏ အကြောင်း ၊

ဂျုရ်ဟမ် မည်သော အုပ်စုတစ်စုရှိလေသည်၊ ၎င်းတို့သည် အစ္စမာအီလ်(အလိုင်ဟစ္စလာမ်) သခင် ယေ်ရှယ်စဉ်က မတ်က်ကဟ်မြို့တော်တွင် နေသည့်အချိန်၌ ပထမဦးစွာလာရောက် နေထိုင်ကြသူများဖြစ်သည်၊ ထိုသူများတွင် နာအေလဟ် မည်သော သူမတစ်ယောက်ရှိသည်၊ ထိုယုတ်မာသောသူမသည် ကအ်ဗဟ်ဗိမာန်တော်အတွင်း၌ လေ်လီဖောက်ပြားခဲ့သည်၊ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်၏ အမျက်တော်သည် ထိုမိန်းမ ယောကျာ်းနှစ်ဦးအပေါ် ကျရောက်ခဲ့သည်၊ နှစ်ယောက်စလုံးသည် ကျောက်ရုပ်ပကတိ ဖြစ်သွားကြသည်၊ ထိုယောကျာ်း၏အမည်သည် 'အစာဖ်' ဖြစ်သည်၊

လူတို့က ထိုသူ့ သူမနှစ်ယောက်၏ကျောက်ရုပ်ကိုယူ၍ နောင်လာနောက်သားများ သတိသံဝေဂ ယူကြရန်အတွက် မတ်က်ကဟ်မြို့ရှိ 'စွဖွာ' နှင့် 'မရ်ဝဟ်' တောင်နှစ်ခုပေါ်တွင် တစ်ယောက်စီ တင်ထားကြသည်၊ ရက်အတန်ကြာထိ ၎င်းတို့နှစ်ဦးသည် 'စွဖွာ' နှင့် 'မရ်ဝဟ်' တောင်ပေါ်တွင် ရှိနေကြသည်၊ ကာလကြာညောင်းသောအခါ 'ဂျာဟင်လ်' အသိတရားကင်းမဲ့သူများက ထိုလေ်လီဖောက်ပြား 'ဇနာ' ပြုသောသူနှစ်ဦး၏ ကျောက်ရုပ်ကို ကိုးကွယ်လာကြသည်၊ ထို့ကြောင့် ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်၏ လက်ထက်တော်တွင် ကျောက်ရုပ်နှစ်ခုကိုယူ၍ ဖျက်ဆီးပစ်ခဲ့လေသည်။

**အကျိုးကျေးဇူး။** အလ္လာဟ်အသျှင်မြတ်၏ အမျက်တော်မှ ကင်းရန် ဆုပန်ပါ၏၊ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကို ဖီဆန်ခြင်းဖြင့် ဤသို့မကောင်းသော အဖြစ်ဖြင့် နိဂုံးချုပ်ရမည်ဖြစ်သည်၊ အကယ်၍ လောကလူ့ဘောင်တွင် အပြစ်ဒဏ်မှ လွတ်ကင်းနေသော် နောင် 'အာခေရတ်' တွင်အဘယ်ကဲ့သို့ လွတ်ကင်းမည်နည်း၊ သန့်ရှင်းမွန်မြတ်သောနေရာတွင် 'ဇိနာဟ်' အကုသိုလ်ကျူးလွန်ခြင်းဖြင့်ပို၍ အပြစ်ကြီးကြောင်း သိရလေသည်၊ ဤသို့ပင် သန့်ရှင်းသော အချိန်တွင် 'ဇိနာဟ်' ပြုခြင်းလည်း

ပို၍အပြစ်ကြီးသည်၊ အချို့သူတို့သည် 'ရမသ္ဒာန်' ဥပုသ်လ စသည့် ရက်များတွင်လည်း 'ဂိုနာဟ်' အကုသိုလ်ကျူးလွန်မှုကို မလွတ်ကြပေ၊ ထိုသို့ပြုကြခြင်းဖြင့် 'ဝဗာလ်' ဒုက္ခပို၍ ကျရောက်သည်၊ မည်သို့သော 'ဂိုနာဟ်' ကို ပြုကျင့်စေကာမူ အတူတူပင် ဖြစ်သည်၊ နောက်ကွယ် အတင်းပြောခြင်း၊ မတရားညှဉ်းပမ်းခြင်း၊ မပိုင်သောငွေကို သုံးစွဲခြင်း တို့သည် 'ဂိုနာဟ်' ဖြစ်ရာ၌ အားလုံးပါဝင်သွားလေသည်။

## ၇။ ဗလ်အမ်ဗာအူရ်၏ ဇနီးအကြောင်း

ဤသူသည် အပြစ်ရှောင်ကြဉ်သူ ရှင်းသူတော်စင်တစ်ဦးဖြစ်သည်၊ ရှာမ်နိုင်ငံတွင် နေထိုင်သည်၊မူစာ(အလိုင်ဟစ္စလာမ်)သခင်၏အွမ္မတ်တပည့်သား,မြေးများသည် အလ္လာဟ် အသျှင်မြတ်၏ အမိန့်တော်အရ ယူရှအ် (အလိုင်ဟစ္စလာမ်) သခင်နှင့်အတူ ရှာမ်နိုင်ငံရှိ ဗိုင်တွလ်မို့ကဒ်ဒတ်စ်အား 'ကာဖွင်ရ်' များလက်မှ လွတ်ကင်းအောင်ပြုရန် စစ်ချီတော်မူသည်၊ ရှာမ်နိုင်ငံ၏ အကြီးအကဲများသည် ထိုသူတော်စင်ထံလာ၍ မွတ်စလင်မ်များ စစ်ရှုံးနိမ့်အောင် ဘဒ် 'ဒိုအာ' တောင်းဆိုပေးရန် ပြောကြသည်၊ သူတော်စင်က ငြင်းပယ်ခဲ့သည်၊ ရစူလ် ရှင်းရစူလ်နှင့် အတူပါသူများအား ဘဒ် 'ဒိုအာ' ပြုခြင်းသည် အလွန်မကောင်းသောကိစ္စဖြစ်သည်၊ ကျွန်ုပ် အလျှင်းမပြုနိုင်ဟု ဆိုလေသည်။

ထိုအခါ သူတော်စင်အား ပြောမရကြလေရာ သူတော်စင်၏ဇနီးအား ၎င်းတို့က ရွှေ,ငွေပစ္စည်း အမြောက်အမြားပေး၍ သူတော်စင်အား ဘဒ် 'ဒိုအာ' ပြုလာအောင် တိုက်တွန်း လှုံ့ဆော်ခိုင်းကြလေသည်၊ ဇနီးဖြစ်သူ ယုတ်မာသည့်သူမသည် လောဘမထိန်းနိုင်ဘဲ ပေးသောပစ္စည်းများကိုယူ၍ ခင်ပွန်းသည်အား လှုံ့ဆော်လေသည်၊ ထိုအခါခင်ပွန်းသည် သူတော်စင်သည်ဘဒ်'ဒိုအာ'မကောင်းဆုတောင်းရန် သဘောတူသွားသည်၊ ဘဒ်'ဒိုအာ' ပြုရန် ဆန္ဒပြုသည်နှင့်တစ်ပြိုင်တည်း ယုံကြည်မှုတည်းဟူသော 'အီမာန်' သည် ပျက်ပြယ်သွားသည်၊ လျှာသည် ရင်ညွှန့်အထိ တွဲလွဲကျလာလေသည်၊ မွတ်စလင်မ်တို့သည် စစ်အောင်မြင်သွားကြလေရာ ဗလ်အမ်ဗာအူရ် ကိုလည်း သတ်ပစ်ကြလေသည်။

**အကျိုးကျေးဇူး။** လောဘသည်အဘယ်မျှဆိုးဝါးကြောင်းသိကြရပေပြီ၊ရွှေ,ငွေကို မက်မောမှုဖြင့် ထိုသူမသည် မိမိ၏ယုံကြည်မှု အီမာန်ကို ဖျက်ဆီးသည်၊ ၎င်းခင်ပွန်းသည်၏ အီမာန်ကိုလည်း ပျက်စီးအောင်ပြုသည်၊ အီမာန်လည်းမရှိဖြစ်ရသည်၊ အသက်လည်း ဆုံးရှုံးရလေသည်။

အို...အမျိုးသမီးအပေါင်းတို့၊ ယခုခေတ်အခါသမယတွင်လည်းအချို့အမျိုးသမီးများသည် လောဘ လှောင်အိမ်၌ မိနေကြသည်၊ ခင်ပွန်းသည်အား တံစိုးလက်ဆောင်လာဘ်အယူခိုင်းကြသည်၊ ၎င်းပျော်ရွှင်ကြသည်၊ ကျွန်မတို့ထံတွင် ဤမျှရွှေဘယက်တန်ဆာရှိသည်၊ ဤမျှ ငွေပစ္စည်းများ ရှိသည်ဟု ကြွားဝါကြသည်၊ ဇနီးမောင်နှံ နှစ်ဦး 'ဂျဟန္နမ်' ငရဲဘုံသား ဖြစ်ကုန်ကြသည်ကိုကား ဂရုမပြုကြပေ။

## ၈။ ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်အား သတ်သော သူမ အကြောင်း

ထိုခေတ်အခါသမယ၌ဘုရင်တစ်ဦးရှိခဲ့သည်၊ထိုဘုရင်၏ဇနီးသည်မှာယခင်ခင်ပွန်းမှ သမီးတစ်ယောက်ရှိခဲ့သည်၊ ထိုသူမသည် အသက်အရွယ် ကြီးရင့်လာလေရာ ဘုရင်သည် အခြားသူမတစ်ယောက်ကို လိုချင်လာမည်ဟုထင်ပြီး မိမိ၏သမီးကိုဘုရင်နှင့် ပေးစားရန် ကြံရွယ်လေသည်၊ ၎င်းထိုသူမကသမီးကိုလည်း လက်ခံရန်နားချလေသည်၊ထိုအရှက်ကင်းမဲ့ သော သမီးကလည်း ဘုရင်ကသူမအား ချစ်ကြိုက်လာစေရန်ကြိုးစားလေသည်၊ ထိုဘုရင် ကလည်း သမီးကို စွဲမက်လာလေသည်။

ယဟ်ယာ(အလိုင်ဟစ္စလာမ်)သခင်သည် ဤကိစ္စကို သိတော်မူသောအခါ မပြုသင့် မပြုထိုက်ကြောင်း တားမြစ်တော်မူလေသည်၊ ထိုယုတ်ညံ့သူမများသည် ယဟ်ယာ (အလိုင် ဟစ္စလာမ်) သခင်အား ရန်သူသဘောထားကြသည်၊၎င်းသခင်အား ဖမ်းဆီးခေါ်ဆောင် လာပြီး ဦးခေါင်းတော်ကို ကိုယ်မှတစ်ခြားဖြစ်သွားအောင် ခုတ်ဖြတ်ပစ်သည်၊ ၎င်းကျန်ရှိ နေသောကိုယ်ကို မတော်မတရား ပြုလုပ်ရန် ထိုသူမက ဆန္ဒပြုလေသည်၊ အို .. ယုတ်ညံ့သူမ၊ သင်မအတွက် ဤအလုပ်သည် မပြုပိုင်၊ 'ဟလာလ်' မဖြစ်ဟု ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်၏ ပြတ်နေသော ခေါင်းတော်မှ အသံထွက်ပေါ်လာလေသည်။ သို့သော်လည်း ထိုယုတ်မာသောသူမသည် နောက်မဆုတ်ဘဲ မတော်မတရားပြုရန် ကြံလေသည်။

ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်၏ ခေါင်းတော်မှ သွေးများသည် ဖြန်ထွက် လာကာ လုံးဝမရပ်တော့ပေ၊ ထိုခေတ်တွင် ကောင်းသော ဘုရင်တစ်ပါး ရှိလေသည်၊ ထိုဘုရင်သည် ဤသတင်းကို ကြားသိလေရာ စစ်သည်တော်များနှင့် ချီတက်လာသည်၊ စစ်အောင်မြင်ပြီး၊ ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်အား သတ်သူများနှင့် 'ကာဖွင်ရ်' ခုနစ်သောင်းကို သုတ်သင်ပစ်လိုက်လေသည်၊ ထိုအခါမှပင် ယဟ်ယာ (အလိုင်ဟစ္စလာမ်) သခင်၏ ဦးခေါင်းတော်မှ သွေးများထွက်ခြင်းသည် ရပ်စဲသွားလေသည်။

**အကျိုးကျေးဇူး။** ရှိုင်တွာန် မိစ္ဆာ၏ မကောင်းသော အလုပ်များမှ အလ္လာဟ် အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏၊ 'နဖ်စ်' စိတ်အလို လိုက်၍ မည်မျှကြီးမားသောကိစ္စကို ကျူးလွန်လိုက်သည်ကို ကြည့်ကြကုန်လော့ ..၊ ရစူလ်တစ်ပါး အသတ်ခံရသည်၊ပြီးနောက်ကြီးသော မဖွယ်ရာ ဂိုနာဟ်တစ်ခုကိုကျူးလွန်သည်၊ ထိုသို့ပြုကြ သော်လည်း စိတ်ပျော်ရွှင်မှုကားမဖြစ်၊ မကြာမီချက်ခြင်း 'ဇွလ်မ်' မတရားပြုမှု၏ပြစ်ဒဏ်ကို ခံရသည်၊ဤသို့မတရားပြုသည်ကိုကြားသိပြီး ဆိတ်ဆိတ်နေခဲ့သူများ၊ ၎င်းဘုရင်၏မလျော် ကန်သော မတရားသောအလုပ်မှ စိတ်ဆိုးမှုမပြုသူများ အားလုံးတို့သည် ဒုက္ခသေဆုံးမှုနှင့် တွေ့ကြလေသည်။

ဤသည်သော ကိစ္စဖြင့် သိရသည်မှာ.... နဖိစ် စိတ်အလိုလိုက်ခြင်း၊ ၎င်းမတရားပြုခြင်း၊ ၎င်းရှရီအတ် တရားတော်မြတ်နှင့် ဆန့်ကျင်သော ကိစ္စပြုခြင်းတို့ကို ရှုံ့မုန်းစိတ်မထားခြင်းသည် အပြစ်အလွန်ကြီး၍ ရှောင်ကြဉ်ကြရမည်ဖြစ်သည်၊ နဖ်စ်စိတ်က ရှရီအတ်တရားတော်မြတ်နှင့် ကွဲလွဲသောကိစ္စပြုချင်လာလျှင်၊ အလျှင်း စိတ်အလိုအတိုင်း မပြုကျင့်ကြနှင့်၊ ၎င်းရှရီအတ်တရားတော်ကို လက်မလွှတ်ကြနှင့်၊ ၎င်းမည်သူ့အပေါ်မှ မည်သို့သော မတရားမှုမှမပြုကြနှင့်၊ နိုင်ထက်စီးနင်းမပြုကြနှင့်၊ မတရားသဖြင့်တစ်ဦးတစ်ယောက်အား စိတ်ညစ်အောင်မပြုကြနှင့်၊ တစ်ဦးတစ်ယောက်၏ ဂုဏ်သရေကို ပျက်ပြားအောင်မပြုကြနှင့်၊ မည်သူ၏ ရသင့်ရထိုက်သည်ကို မတရားမပြုကြနှင့်၊ ရသင့်သည်ကို ပေးကုန်၊ ပြုကျင့်လျှင် 'ဇွလ်မ်' မတရားပြုရာပင် မည်ပေသည်။

အကြင်သူသည် ရှရီအတ်တရားတော်နှင့် ဆန့်ကျင်သော အလုပ်တစ်ခုခုကို လုပ်လျှင်၊ ထိုသို့ပြုကျင့်သူအား စိတ်မှအမုန်းထားကုန်၊ အကယ်၍ ထိုသို့ ဂိုနာဟ်ပြုသူသည် သင့်အား ဆုံးရှုံးအောင် မပြုနိုင်လျှင် ၎င်းအား ဆက်ဆံမှုဖြတ်တောက်ကုန်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့သောသူအား အချစ်ထားခြင်း၊ ဆက်ဆံခြင်းဖြင့် ထိုသူ'ဝဗာလ်' ဒုက္ခရောက်လျှင်၊ သင်လည်း ရောၡ ပါသွားမည်ကို စိုးရိမ်ရသည်။

## ၉။ ရှမ်စူန်သခင်၏ ဇနီး အကြောင်း

အီစာ(အလိုင်ဟစ္စလာမ်)သခင်သည် မိုးကောင်းကင်ယံသို့ ကြွသွားတော်မူသောအချိန်သမယတွင် ရှမ်စူန်မည်သောအပြစ်ရှောင်ကြဉ်သည့်သူတော်စင်တစ်ပါးရှိလေသည်၊ အလ္လာဟ်အသျှင်မြတ်က ထိုသခင်အား ကြီးမားသောစွမ်းအားပေးတော်မူသည်၊ ထိုခေတ်တွင် ကာဖွင်ရ်ဘုရင်တစ်ဦးရှိသည်၊ ထိုကာဖွင်ရ်ဘုရင်သည် သခင့်အား ရန်ငြိုးထားလေသည်။

ကာဖွင်ရ်ဘုရင်သည် သခင်၏ဇနီးထံအကြောင်းကြားသည်၊ အကယ်၍ သင်မသည် 'ရှမ်စူနီ'ကို တစ်နည်းနည်းဖြင့်ဖမ်းပေးလျှင် သင်မကို မိဖုရားအရာမြှောက်မည်၊ ထိုယုတ်မာသည့် သူမသည် မိဖုရားဖြစ်ချင်သောကြောင့် သခင်အိပ်နေတော်မူသောအခါ၊ လက်ကိုကြိုးတုပ်ပြီး ဖမ်း ပေး လိုက် သည် ၊ ဘုရင်၏ အစေအပါးများသည် သခင့်အား ဘုရင့်ထံခေါ်ဆောင်သွားကြသည်၊ ဘုရင်သည် ရှမ်စူန်အား ကြိုးစင်တင်မည်၊ မည်သူမဆို လာရောက်ကြည့်နိုင်သည်ဟု ကြေငြာစေသည်၊ ကြိုးစင်တင်မည်ကို ကြည့်ရှုရန် ထောင်ပေါင်းများစွာသောသူများရောက်လာလေသည်၊ ထိုအချိန်၌ ရှမ်စူန်သခင်သည် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ထံ 'ဒိုအာ' တောင်းလေသည်၊ ဒိုအာ ပြုသည်နှင့် တစ်ပြိုင်တည်း နန်းတော်သည် ပြိုကျပြီး ဘုရင်မှာ ပိ၍သေသွားလေသည်၊ လူတို့သည် ဘုရင့်ကိုဆွဲထုတ်နေကြစဉ် ရှမ်စူန်သခင်သည် ပကတိချောမောစွာ အိမ်သို့ရောက်လာသည်၊ ၎င်းထိုယုတ်မာသည့် ဇနီးသည်ကို 'တွလာက်'ပေး ကွာရှင်းလိုက်တော်မူသည်။

**အကျိုးကျေးဇူး။** ထိုယုတ်မာသောသူမသည် ဒွန္တယာလောက၏ လောဘကို မက်မောရှိ၍ သူတော်စင်ခင်ပွန်းသည်ကိုမကောင်းကြံခဲ့သည်၊ သို့သော် မိဖုရားလည်းမဖြစ်၊ ခင်ပွန်းသည်က ကွာရှင်းမှုလည်းခံခဲ့ရသည်၊ မကောင်းသောအလုပ်ကို လုပ်ခြင်းဖြင့် ဤသို့အပြစ်ဒဏ်ခံကြရပေသည်၊ အလိုလောဘမှ ရှောင်ကြဉ်ကြရန် ထိုက်ပေသည်။

## ၁၀။ ဂျို့ရီးဂျ်သခင်အား စွပ်စွဲသော သူမ အကြောင်း

အီဗာ (အလိုင်ဟစ္စလာမ်) သခင် နှင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ ကြားကာလတွင် ဂျို့ရီးဂျ်မည်သော သူတော်စင်တစ်ပါးရှိလေသည်၊ အသက်ငယ်ငယ်နှင့်ပင်၊ အလ္လာဟ် အသျှင်မြတ်အား 'အေဗာဒတ်' ပြုရာတွင် မွေ့လျော်၍သွားလေသည်၊ လူတို့မှ တစ်သီးတစ်ခြား တော၌ အိမ်ငယ်တစ်လုံး ဆောက်လုပ်၍ နေသည်။

တစ်ခါက သခင်သည် နမာဇ်ဝတ်ပြုခြင်း၌မွေ့လျော်၍နေတော်မူသည်၊ ထိုအချိန်၌ မိခင်ဖြစ်သူက တံခါးပေါက်မှလာ၍ခေါ်သည်၊ သခင်သည် နမာဇ်ဝတ်ပြုနေမှုကြောင့် အဖြေမပေးခဲ့ပေ၊ မိခင်သည် ခေါ်သည်ကို မထူးသဖြင့် စိတ်ဆိုးကာ အို....အသျှင်၊ ဤသားကို မကောင်းသောမိန်းမများနှင့် ပတ်သက်ပါစေဟု ကျိန်ဆို၍သွားလေသည်၊ သားသမီးတို့သည် မိဘအတွက် တာဝန်ကြီးတစ်ရပ်ရှိပေသည်၊ အကယ်၍မိဘသည် နဖ်လ် နမာဇ်ဖတ်နေသည်ကို မသိ၍ ခေါ်ခဲ့သော် နမာဇ်ကိုဖျက်၍ ထူးရမည်ဟူ၍ 'မတ်စ်အလဟ်' ရှိပေသည်၊ သို့သော် သခင်သည် ဤမတ်စ်အလဟ်ကို သတိမရသောကြောင့် မထူးခဲ့ပေ၊ ထိုသို့မထူးသဖြင့် မိခင်၏ ကျိန်ဆိုမှု ထိသွားလေသည်။

သခင့်အပေါ် ဒုက္ခရောက်လာသည်မှာ....သခင့်အား မလိုသူများက အကျင့်စာရိတ္တ မကောင်းသောသူမတစ်ယောက်ကို လာဘ်ထိုး၍ သခင့်အား နာမည်ဖျက်ရန် သွန်သင် လှုံ့ဆော်ကြလေသည်၊ ၎င်းသူမသည် ဖေါက်ပြား၍ ကိုယ်ဝန်ရှိနေရာ မွေးဖွားပြီးနောက် သခင်၏နာမည်ကို ညွှန်လိုက်သည်။

လူတို့သည် သခင်၏အိမ်ငယ်သို့ချီတက်လာကြကာ၊ အိမ်ကိုဖြိုပစ်ပြီး သခင်ကိုနှိပ်စက် ဒုက္ခပေးကြသည်၊ ၎င်းသူမပြောသည်ကို နားထောင်ကုန်၊ အရှက်ကင်းမဲ့လှသည်ဟုဆိုကြသည်၊ သခင်က 'သင်၏ဖခင်မည်သူနည်း ပြောပြကုန်'ဟု၊ နို့စို့ကလေးဘက်သို့ လှည့်၍ မိန့်လေသည်၊ ကလေးက နွားကျောင်းသားတစ်ဦး၏ နာမည်ကိုပြောပြသည်၊ ထိုအခါ လူတို့သည် သခင့်အား အလွန်ကြည်ညိုသွားကြသည်၊ လက်ခြေကိုင်၍ တောင်းပန်ကြကာ သခင့်အိမ်ကို ရွှေအတိဖြင့် ဆောက်ပေးမည်ဟု ဆိုကြသည်၊ သခင်က ယခင်အတိုင်းပင် မြေအိမ်ဘဲဆောက်ပေးပါဟုမိန့်သဖြင့် မြေအိမ်ပင် ပြန်၍ဆောက်ပေးကြလေသည်။

**အကျိုးကျေးဇူး။** ထိုသူမသည် သူတော်စင်တစ်ပါးကို မတရားစွပ်စွဲသဖြင့် မည်သို့ သေးသိမ်သွားကြောင်း သိကြရပေပြီ၊ အလ္လာဟ်အသျှင်မြတ်က ထိုသူမကို သေးသိမ်အောင် ပြုတော်မူခဲ့သည်၊ ဘယ်သောအခါမှ အပြစ်ကင်းသူကို စွပ်စွဲခြင်းမပြုကြနှင့်၊ အချို့အမျိုးသမီးများ၏ အလေ့မှာအနည်းငယ်သံသယဖြစ်ရုံဖြင့် တစ်ဦးတစ်ယောက်ကို အကျင့်စာရိတ္တမကောင်းဟု စွပ်စွဲကြသည်၊ တစ်ဦးဦးကို ခိုးသည်ဟု စွပ်စွဲသည်၊ ဤသို့စွပ်စွဲခြင်းများသည် 'ဂိုနာဟ်' အပြစ်အလွန်ကြီးလေသည်။

တင်ပြပါအချက်ဖြင့် သိရသည်မှာ... သားသမီးကို အချိန်ဟူသရွေ့ ကျိန်ဆဲခြင်း သည် မကောင်းပေ၊ ဒိုအာ 'ကဗူလ်'ပြု လက်ခံသောအချိန်နှင့် တိုက်ဆိုင်သွားလျှင် ခက်ပေမည်၊ ထိုအခါ သားသမီးမှာ သက်သက် ဒုက္ခနှင့် ရင်ဆိုင်ရပေမည်၊ သားသမီး ဒုက္ခရောက်သည်ကို မြင်တွေ့ပြီး ကိုယ်တိုင်လည်း စိတ်ညစ်ရပေမည်၊ တင်ပြပါအချက်ဖြင့် မိဘအပေါ် သားသမီးက လိုက်နာရမည့် တာဝန်သည် ကြီးမားကြောင်း သိရပေသည်၊ ယခုခေတ်အခါသမယတွင် ဤအချက်ကို ဂရုစိုက်သူ နည်းပေသည်၊ အို... အမျိုးသမီးတို့၊ တင်ပြပါအချက်များကို လိုက်နာရာ၌ မေ့လျော့ပေါ့ဆခြင်းများ မပြုကြနှင့်။

## ၁၁။ ဘနီအစ္စရာအီလ် အနွယ်မှ အကြင်နာ ကင်းမဲ့သော သူမ အကြောင်း

ဘိုခါရီကျမ်းတော်တွင် ဟဒီးသ်တော်တစ်ရပ် လာရှိသည်၊ ရစူလွလ္လာဟ် (ဆွလ လ္လာဟု)ကိုယ်တော်က ဘနီအစ္စရာအီလ်အနွယ်မှ အမျိုးသမီး တစ်ယောက် အကြောင်း ကို မိန့်တော်မူသည်၊ ထိုသူမသည် ကြောင်တစ်ကောင်ကို ဖမ်း၍ ချီထားသည်၊ အစာ မကျွေး၊ ရေလည်းမတိုက်ပေ၊ ကြွက်စသည် ဖမ်း၍စားနိုင်ရန် လွှတ်လည်း မလွှတ်ပေ၊ နောက်ဆုံး ကြောင်သည် ငတ်မွတ်၍ မချိမဆန့်ဖြင့် သေသွားလေသည်။ မြင့်မြတ်တော် မူသော အလ္လာဟ်အသျှင်မြတ်က ထိုသူမကို ဂျဟန္နမ်သို့ချတော်မူသည်။ အခြားရေဝါယတ် ဆင့်ဆိုမှုတစ်ခုတွင် လာရှိသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ဂျဟန္နမ်အပါယ် ငရဲဘုံတွင် ထိုကြောင်သည် ထိုသူမ ရင်ဝပေါ်တွင် ထိုင်၍ လက်သဲ ခြေသဲများဖြင့် ထိုသူမကို ကုတ်ဖဲ့နေကြောင်း တွေ့မြင်တော်မူလေသည်။

**အကျိုးကျေးဇူး။** အကြင်နာ ကင်းမဲ့ခြင်း၏ အဆုံး မည်သို့ဖြစ်သည်ကို သင်မတို့ သိကြရပေပြီ၊ လူသား ဖြစ်စေ၊ တိရစ္ဆာန် ဖြစ်စေ မည်သူ့ အပေါ်၌မှ အကြင်နာကင်းမဲ့မှုမပြုကြနှင့်၊ သို့သော်အကယ်၍ ကြောင်၊ ငှင်းခွေးတို့သည် ဆိုးသွမ်းလျှင်၊ ဒုက္ခပေးလျှင် ရိုက်နှက်နိုင်သည်၊ သို့ရာတွင် မချိမဆန့် ထားခြင်းသည် 'ဂိုနာဟ်'ဖြစ်ပေသည်။

အချို့ အညာအတာကင်းမဲ့သော သူများသည် ကြက်တူရွေး၊ သာလိကာ စသည် ကို မွေးကြသည်၊ လှောင်အိမ်တွင် ထည့်ထားပြီး အစာရေစာ အတွက် ဂရုမစိုက်ကြ၊

ၾင်းနေပူသည့် မိုးရွာသည်ကို ဂရုမစိုက်ဘဲ ထားကြသည်၊ လွှတ်လည်း မလွှတ်ကြပေ၊ ဤသို့ မချိမဆန့်ဖြစ်အောင် ပြုထားခြင်းဖြင့် ဒွန္တယာလောက၌လည်း ဒုက္ခနှင့် တွေ့ကြုံရသည်၊ ဤသို့ထားသူများသည် အများအားဖြင့် ဒုက္ခအမျိုးမျိုး၌ နစ်မွန်းနေကြသည်၊ ထိုသူများမှ စိတ်အေးချမ်းမှုမရကြပေ၊ ၎င်းနောင် 'အာခေရတ်'၏ အပြစ်ကိုကား ဖတ်ပြီးကြပေပြီ၊ ထိုသို့နှိပ်စက်သော သူမသည် ဂျဟန္နမ်သို့ ကျရောက်လေသည်၊ အို... အမျိုးသမီးတို့၊ အကြင်နာကင်းမဲ့မှုမှ ရှောင်ရှားကြကုန်။

## ၁၂။ ပထမအုမ္မတ်သားများမှ အကျင့်စာရိတ္တမကောင်းသော သူမ တစ်ယောက် အကြောင်း

အုသ်မာန် (ရသွေ့) သခင်က မိန့်တော်မူသည်၊ ပထမ အုမ္မတ်သားများတွင် အပြစ်ရှောင်ကြဉ်သော သူတော်စင်တစ်ပါးရှိလေသည်၊ အကျင့်စာရိတ္တ မကောင်းသော သူမတစ်ယောက်သည် သူတော်စင်အား အခွင့်သင့်လျှင် ဖျက်ဆီးမည်ဟု အကြံထုတ်နေခဲ့သည်၊ ထိုသူမသည် အစေခံ ကျွန်မကို သူတော်စင် ထံ လွှတ်၍ အပြောခိုင်းလေသည်၊ ကျွန်မသည် တစ်ဦးသောသူနှင့် အပေးအယူပြုရန်ရှိပါသည်၊ အလုပ်မှာကြီးသဖြင့် သက်သေများရှေ့တွင်ပြုရမည်ဖြစ်ပါသည်၊ အလ္လာဟ်အသျှင်မြတ်အတွက်သက်သေခံခြင်းသည် 'သဝါဗ်' ကုသိုလ် ရပါသည်၊ ခေတ္တ ခဏ ရပ်လျက်ပင် ဤကိစ္စမှာ ပြီးစီးသွားမည် ဖြစ်ပါသည်။

သူတော်စင်မှာသည် ခပ်ရိုးရိုး ဖြစ်သဖြင့် ထိုသူမ အိမ်သို့ လိုက်သွားသည်၊ အိမ်တွင်းသို့ဝင်မိသောအခါ၊ အစေခံကျွန်မက တံခါးပေါက်များကို အပြင်မှပိတ်ပစ်လိုက်သည်၊ ရှေ့တွင် ကြည့်လိုက်ရာ ထိုအကျင့်စာရိတ္တ မကောင်းသော သူမကိုတွေ့ရသည်၊ ထိုသူမနှင့် အရက်ပုလင်းနှင့် ကလေးငယ်တစ်ယောက်ရှိသည်၊ ထိုအခါ ယုတ်မာသောသူမက ကျွန်မသည် သက်သေအတွက်ခေါ်သည်မဟုတ်၊ ရှင်၏အပြစ်ရှောင်ကြဉ်မှုကို ဖျက်ဆီးရန်ဖြစ်သည်၊ ကျွန်မနှင့်ပျော်ပါးပါ၊ သို့တည်းမဟုတ် အရက်ကိုသောက်ပါ၊ သို့တည်းမဟုတ် ဤကလေးငယ်ကို သတ်ပါဟု ဆိုလေသည်။

သူတော်စင်မှာသည် အသက်သေမည်ကို စိုးရိမ် ကြောက်ရွံ့ပြီး အခက်ကြုံနေခဲ့လေသည်၊ ထိုသုံးမျိုး အနက် အရက်သည် အပြစ်ပေါ့မည်ဟု ယူဆကာ အရက်ကို သောက်သည်၊ အရက်မူးသည်နှင့် တစ်ပြိုင်တည်း ဉာဏ်အမြော်အမြင် ဆင်ခြင်တုံတရားသည် ပပျောက်သွားသည်၊ ထိုအဖြစ်၌ ကျွန် 'ဂိုနာဟ်'နှစ်ရပ်ကိုလည်း ကျူးလွန်လေတော့သည်။

**အကျိုးကျေးဇူး။** ဂိုနာဟ် အကုသိုလ်များသည် တစ်ခုနှင့် တစ်ခု ဆက်စပ်မှုရှိလေသည်၊ ဂိုနာဟ်တစ်ခုကျူးလွန်မိလျှင် အခြား ဂိုနာဟ်များလည်း ဆက်၍ ကျူးလွန်လေတော့သည်၊ ထို့ကြောင့် ဂိုနာဟ်အကုသိုလ်သည် ကြီးသည်ဖြစ်စေ၊

သေးငယ်သည် ဖြစ်စေ အားလုံးသော အကုသိုလ်များမှ ရှောင်ကြဉ်ကြရန် ထိုက်သည်၊ သို့တည်းမဟုတ်ပါက အခြားသော 'ဂိုနာဟ်' အကုသိုလ်များ၏ လမ်းစလည်း ပွင့်သွားလေသည်။

ပမာဆိုသော် အများအားဖြင့် တွေ့မြင်ရသည်မှာ.... တစ်ဦးသောသူသည် မိမိ၏ သားသမီးကို ထုံးစံ ပြုလုပ်ထားကြသည့်အတိုင်း 'နေကာဟ်'ပြု လက်ထပ်ပေးလိုသည်၊ 'ရှရီအတ်'တရားတော်မြတ်နှင့် ကွဲလွဲဆန့်ကျင်သော်လည်း ကြီးသော ဂိုနာဟ် မဟုတ်ဟု ယူဆသည်၊ ကုန်ကျစရိတ်လည်းရှိသည်၊ ဤသည်အချက်များကိုစဉ်းစားပြီး၊ လက်ထပ်ပွဲကျင်းပရန်စီစဉ်သည်၊ ကျင်းပစဉ်အတွင်း၌ အခြားသော ဂိုနာဟ် အကြီး-အသေးများ ပြုကျင့်လာရလေသည်၊ တစ်ခါတစ်ရံ ကုန်ကျငွေမှာ ရှိသည်ထက်ပို၍ကုန်သွားသည်၊ ၎င်းငွေတိုးပေး၍ချေးငှါးရသည်၊ တစ်ခါတစ်ရံ 'ယတီးမ်' ဖတဆိုးကလေးများ၏ ပစ္စည်းမိမိတို့ ပစ္စည်း နှင့် ရောထားသည်ကို သုံးစွဲလိုက်ကြရသည်၊ ဤသို့ ဖတဆိုးကလေးတို့၏ ပစ္စည်းကို သုံးစွဲခြင်းသည် 'ဟရာမ်'ဖြစ်သည်၊ ထိုဟရာမ် စားဖွယ် ထမင်း ဟင်းလျာကို မိတ်ဆွေ ဧည့်သည်များကို ကျွေးမွေးသည်၊ ဂိုနာဟ်တစ်ခုမှ အဘယ် အဘယ်ထိ ဂိုနာဟ်များ ဖြစ်လာသည်ကို ကြည့်ကြကုန်လော့၊ ဤသို့ပင် အခြားသော ဂိုနာဟ်များလည်း ပြန့်ပွားသွားလေသည်။

## ၁၃။ ဘနီအစ္စရာအီလ် အနွယ်မှ ဇောက်ကျစ်သော သူမ တစ်ယောက် အကြောင်း

မူစာ(အလိုင်ဟစ္စလာမ်)သခင်သည် ကန်တစ်ခုတွင် ရေများ ဖြည့်စေပြီး၊ ဒိုအာ မန်းမှုတ်ခဲ့သဖြင့် ထိုရေ၏တံခိုးစွမ်းရည်မှာ.... အကယ်၍ အကျင့်စာရိတ္တ ဖောက်ပြန်သော အမျိုးသမီးသည် ထိုရေကိုသောက်လိုက်လျှင် မျက်နှာသည် မည်းသွားပြီး ချက်ချင်းသေလေသည်၊ မူစာ (အလိုင်ဟစ္စလာမ်) သခင် 'ဝဖွာတ်'ဖြစ်၊ ကွယ်လွန်ပြီးနောက်လည်း ထိုရေကန်၏ စွမ်းရည်တံခိုးမှာ ရှိမြဲပင်ဖြစ်သည်။

တစ်ခါက တစ်ဦးသောသူသည် မိမိဇနီးသည်ကို ဖေါက်ပြားသည်ဟု သံသယ မကင်းဖြစ်ခဲ့သည်၊ ထင်သည့်အတိုင်းလည်း တစ်ကယ်ပင် ဖေါက်ပြားခဲ့သည်၊ ခင်ပွန်းသည်က သတင်းလွှင့်ခဲ့သည်၊ ၎င်းအာဏာပိုင်များထံ ဖြေရှင်းပေးရန် အကူအညီတောင်းခဲ့သည်၊ ထိုအာဏာပိုင်များက ထိုရေကိုတိုက်ရန် ဆုံးဖြတ်ပြီး ထိုသူမကို ခေါ်ယူသည်၊ ထိုသူမမှာညီမတစ်ယောက်ရှိသည်၊ ရုပ်ရေတူလွန်းသဖြင့် ခွဲခြားရန်မလွယ်ကူလှပေ၊ ထိုသူမသည် ညီမအား လိမ်လည်၍ ဖြောင့်ဖြပြောဆိုကာ၊ မိမိအားခေါ်ယူသူများထံသို့ ညီမကို သွားစေလေသည်၊ ညီမဖြစ်သူသည် အားလုံး၏ ရှေ့မှောက်တွင် ရေကိုသောက်လေရာ၊ မည်သို့မျှ ထူးခြားမှုမဖြစ်သဖြင့် အားလုံး အံ့အားသင့်နေကြသည်။

အချုပ်မှာ ... ညီမဖြစ်သူသည် ကန်ရေကိုသောက်ပြီး အိမ်သို့ပြန်လာပြီး အစ်မနှင့် တွေ့သည်၊ ညီမ၏အသက်ရှူသည် အစ်မထံရောက်လေရာ၊ မျက်နှာတစ်ပြင်လုံးမည်းသွားပြီး ချက်ချင်း သေဆုံးသွားလေသည်၊ ထိုအခါကျမှပင် လူတို့သည် လိမ်လည်ကြောင်း သိကြရလေ၏။

**အကျိုးကျေးဇူး။** လိမ်လည် လှည့်ဖျားမှုမှာ ဖုံးကွယ်၍ မရပေ၊ အလ္လာဟ်အသျှင်မြတ်က သေးသိမ်အောင်ပင် ပြုတော်မူလိုက်လေသည်။ အို.... အမျိုးသမီးတို့၊ ပြောဆိုရာ၌၊ ဆက်ဆံရာ၌ စိတ်ကိုဖြူစင်စွာထားပြီး နှုတ်လျှာဖြင့် မှန်ကန်မှုကိုသာ ပြောဆိုကြရန် ထိုက်ပေသည်။

## ၁၄။ အွမ်မေ့ဂျမီလ် ၏ အကြောင်း

ဤမည်သော အွမ်မေ့ဂျမီလ်သည် အဘူလဟဗ် ကာဖွင်ရ်၏ ဇနီး ဖြစ်သည်၊ ကုရ်အာန်ကျမ်းတော် စူရဟ်တဗ်ဗတ်၌ ဤသူမ၏ မကောင်းကြောင်း လာရှိပေသည်၊ ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား အမုန်းထားသည်၊ တောမှ ဆူးကိုင်းများ ယူလာပြီး ညတွင် ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် သွားရာ လမ်းတွင် ခင်းထားသည်၊ သွားလာသောအခါ ရစူလ်ကိုယ်တော်၏ခြေတော်ကိုစူးစေရန်ဖြစ်သည်။ တစ်ခါက သစ်ကိုင်းများ ခေါင်းပေါ်ရွက်၍ လာရာ၊ သစ်ကိုင်းများချီသော ကြိုးကို မကျစေရန် အတွက် မေးအောက်တွင်သိုင်းထားသည်၊ ရုတ်တစ်ရက် သစ်ကိုင်းထုတ်သည် နောက်သို့ ကျသွားရာ၊ ကြိုးဖြင့် လည်ပင်းအစ်၍ အသက်ရှူကြပ်ကာ သေဆုံးသွားလေသည်။

**အကျိုးကျေးဇူး။** အစ္စလာမ် သာသနာတော်ကို လိုက်စားသူများအား အမုန်းထားခြင်း၏ အဆုံးသည် 'ဒွန္နယာ-အာခေရတ်' နှစ်ဋ္ဌာနတွင် မကောင်းဖြစ်သည်၊ ဤသို့ မကောင်းစိတ်ထားခြင်းမှ အလ္လာဟ်အသျှင်မြတ်ထံ ကင်းရန် ဆုပန်ပါ၏။

အချို့အမျိုးသမီးများသည် မောင်လဝီများ၏ ပြောဟောသော 'မတ်စ်အလဟ်' များကို ပုတ်ခတ်ငြင်းပယ်ကြသည်၊ မတ်စ်အလဟ်အတိုင်း လိုက်နာကျင့်သုံးသူကို ကဲ့ရဲ့ကြသည်၊ သီးခြား၍ သာရေး နာရေးများတွင် 'ရှရီအတ်' တရားတော်အတိုင်း လိုက်နာပြုမူသူ ပြောသူများကို အလွန်စက်ဆုပ်ကြသည်၊ ဤသို့ ပြုကြခြင်းသည်လည်း သာသနာတော်ကို အမုန်းထားခြင်းပင်ဖြစ်သည်၊ ဤသို့ အမုန်းထားသူသည် လောကီ လောကုတ္တရာ၌ အတိဒုက္ခရောက်ရသည်ကို ဖတ်ခဲ့ကြပေပြီ၊ ဤသို့မကောင်းစိတ်ထားခြင်းမှ တောင်ဗဟ်ပြုကြကုန်၊ ၎င်းမကောင်းစိတ်ထားများမှ ရှောင်ကြဉ်ကြကုန်။

## ၁၅။ မတ်က်ကဟ်မြို့ အောင်မြင်သောအခါ အသတ်ခံကြရသော သူမများ အကြောင်း

မတ်က်ကဟ် မြို့တော်သည် ပထမ 'ကာဖွင်ရ်'များ လက်ထဲတွင် ရှိခဲ့သည်။ ကျွန်ုပ်တို့၏ ရစူလ် မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်က ကာဖွင်ရ်များကို တိုက်ထုတ်ခဲ့သည်၊ ဤသည်ကို မတ်က်ကဟ်မြို့ အောင်မြင်ခြင်းဟု ခေါ်သည်၊ ထိုကာဖွင်ရ်များတွင် အစ္စလာမ်သာသနာတော်ကို မကောင်းဟူ၍ ဖွဲ့နွဲ့သီဆိုသော သူမများရှိလေသည်၊ ထိုသူမများကို တွေ့ရာနေရာတွင် သတ်ပစ်ရမည်ဟု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က အမိန့်တော် ထုတ်ပြန်ခဲ့သည်၊ ထိုသူမများအနက် ဖေါ်ပြပါ ( ၄ ) ယောက်သည် အသတ်ခံကြရသည်။ ဖွရစ်ရှ်တဟ်၊ ဖွရတ်နာ၊ အရီးတ် နှင့် အွမ်မေ စအဒ်တို့ဖြစ်ကြသည်။

**အကျိုးကျေးဇူး။** ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် သနား ညှာတာကြင်နာတော်မူသော သခင် ဖြစ်တော်မူသည်၊ စစ်ပွဲများ၌ပင် ရစူလ်ကိုယ်တော်သည် အမျိုးသမီးများကို မသတ်ရန် ညွှန်ကြားမိန့်ဆိုထားတော်မူသည်၊ သို့သော် ထိုသူမများသည် ကြီးသောမကောင်းမှုကြီးကို ကျူးလွန်ကြသဖြင့် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မြတ်ဖြင့် သတ်တော်မူခြင်းဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အလ္လာဟ်အသျှင်မြတ် အမိန့်တော် မရှိဘဲ မည်သည့်ကိစ္စကိုမှ ပြုတော်မမူပေ၊ ထိုမကောင်းမှုမှာ ထိုသူမများသည် အစ္စလာမ်သာသနာတော်ကို မကောင်းပြောကြသည်၊ ထိုမကောင်း စကားများကို ဖွဲ့နွဲ့ သီဆိုကြသည်၊ ယခုခေတ်တွင်လည်း အချို့ အမျိုးသမီးများသည် ရှရီအတ် တရားတော်ကို စိတ်ထင်ရာ ဝေဖန် ပြောဆိုကြသည်၊ ၎င်းအချို့သည်ကား မောင်လဝီများကို မကောင်းပြောရာ၌ ကာရံညီအောင်စပ်ကာ သီဆိုကြပေသေးသည်၊ ဤမကောင်းပြောဆိုသူများသည် ပြင်းပြသော 'အသာဗ်' ပြစ်ဒဏ်များမှ ကြောက်ရွံ့ကြရန် ထိုက်ပေသည်။

## ၁၆။ ဟာရစ်၏ သမီး ဇိုင်နဗ် အကြောင်း

ခိုင်ဗရ်မည်သောရွာကြီးတစ်ရွာရှိသည်၊ ထိုရွာကြီးတွင် ယဟူဒီကာဖွင်ရ်များနေထိုင်ကြသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်နှင့်၎င်းတို့မှာစစ်ဖြစ်ကြသည်၊ မွတ်စလင်မ်များက စစ်အောင်မြင်ကြသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ထိုရွာကြီး၌ ခေတ္တဆိုင်းငံ့နေတော်မူသည်၊ ဇိုင်နဗ်မည်သော ယဟူဒီသူမတစ်ယောက်သည် ရစူလ်ကိုယ်တော်၏ ထံတော်သို့ စားဖွယ်အချို့ ယူလာသည်၊ ထိုယုတ်မာသောသူမက ထိုစားဖွယ်များတွင် အဆိပ်ထည့်ထားသည်၊ ရစူလ်ကိုယ်တော် နှင့် တကွ ဆွဟာဗဟ်သခင်အချို့က စားသုံးကြသည်၊ ထို့နောက် အလ္လာဟ်အသျှင်မြတ်၏ အလိုတော်ဖြင့် ရစူလ်ကိုယ်တော်

သည် အဆိပ်ပါရှိကြောင်းသိသွားကာ စားယင်းလက်ကို ရုပ်လိုက်တော်မူပြီး ဆွဟာဗဟ် သခင်များကို မစားကြရန် တားမြစ်တော်မူသည်။

သို့သော် ... ဆွဟာဗီ(ရသွေ့)သခင်တစ်ပါးသည် ထိုအဆိပ်သင့်ကာ သေဆုံးသွားတော်မူသည်၊ ၎င်းရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်မှာလည်း ရက်အတန်ကြာသောအခါ ထိုအဆိပ်မှာ စူးရှလာခဲ့သည်၊ ‘ဝဖွာတ်’ဖြစ်, ကွယ်လွန်တော်မူခြင်းသည် ထိုအဆိပ်ရောဂါနှင့် ဖြစ်ပေသည်၊ အချို့ကျမ်းများတွင် ရေးသားပါရှိသည်မှာ.... ထိုဆွဟာဗီ(ရသွေ့) သခင် ကွယ်လွန်ပြီးနောက် ထိုသူယုတ်မာမအား မေးရာ၊ အဆိပ်ခပ်ကြောင်း ဝန်ခံသည်၊ ၎င်းထိုသူမအား သေဒဏ်အပြစ်ပေးခဲ့သည်။

**အကျိုးကျေးဇူး။** ဤသူမသည်လည်း အစ္စလာမ်သာသနာကို အမုန်းထားခြင်းဖြင့် ပျက်စီးခဲ့သည်။ အို... အမျိုးသမီးတို့၊ အစ္စလာမ်သာသနာတော်နှင့် ရှရီအတ် တရားတော်၏ အမိန့်ပညတ်တော်များနှင့် ပတ်သက်၍ ဘယ်သောအခါမှ စိတ်၌ မကောင်းသောတွေးထင်မှုများ မထားကြနှင့်၊ ရယ်မောပျော်ရွှင်စွာ ‘ရှရီအတ်’ တရားတော်မြတ်၏ အမိန့်တော်များကို လက်ခံ နာယူ လိုက်နာကြကုန်။

## ၁၇။ လဗီးဒ်ယဟူဒီ၏ သမီးများ အကြောင်း

လဗီးဒ်ယဟူဒီ၏ သမီးများသည် အချင်းချင်း တိုင်ပင်ဆွေးနွေးကြ၍၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား ကွယ်လွန်စေရန် ‘ဂျာဒူ’ပြုကြသည်၊ ရစူလ်ကိုယ်တော်သည် အသက် ဆုံးရှုံးမှုကား မဖြစ်၊ သို့သော် အနည်းငယ် မေ့လျော့မှု ဖြစ်လာသည်၊ သာသနာရေး၌ကား လုံးဝ မေ့တော်မမူ၊ စားသောက်ခြင်း နှင့် သွားလာခြင်း စသည်များ၌သာ အနည်းငယ်မေ့လျော့မှုဖြစ်လာသည်၊ ထိုနောက် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က (ကွလ်အအူသွ ့ ပ ိ ့ ပဗေ့ရဗ်ဗင်လ်၊ ဖွလပ်က်နှင့် ကွလ်အအူသွ ့ ပ ိ ့ ပဗေ့ရဗ်ဗင်နားစ်) စူရဟ်နှစ်ပုဒ်ကို ချပေးတော်မူသည်၊ ထိုစူရဟ်နှစ်ပုဒ်၏ ‘ဘရ်ကတ်’ တော်ဖြင့် ‘ဂျာဒူ’၏ စူးရှမှုသည် လုံးဝ ပပျောက်သွားလေသည်။

**အကျိုးကျေးဇူး။** ထိုသူမများသည်လည်း အစ္စလာမ် သာသနာတော်ကို မုန်းတီးသဖြင့် ပျက်စီးခဲ့ကြသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အား အသက်ရန်မူရန် ဖယ်ထားဘိဦး၊ သာသနာတော်နှင့် သာသနာဝင်များအား ဘယ်သောအခါမှ စိတ်၌ ရန်ညိုးထားခြင်း၊ ဒုက္ခရောက်စေခြင်း မပြုကြနှင့်။

## ၁၈။ မာလစ်က်၏ သမီး စလ်မာ၏ အကြောင်း

ဤစလ်မာ မည်သော သူမသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ လက်ထက်တော်က မွတ်စလင်မ်အဖြစ် ခံယူခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က ဤသူမသည် မွတ်စလင်မ်အဖြစ်နှင့် နေမည်မဟုတ်ဟု မိန့်တော်မူလေသည်။ သို့ရှိရာ

ရစူလ်ကိုယ်တော် 'ဝဖွာတ်' ဖြစ်ပြီးနောက် မိန့်တော်မူခဲ့သည့် အတိုင်းပင် ဖြစ်လာသည်၊ ထိုသူမသည် တိုင်းပြည်အုပ်ချုပ်ချင်စိတ် ပေါ်ပေါက်လာကာ ဘာသာတရားမှ မျက်နှာလွှဲသွားသည်၊ လမ်းမှားသောသူများသည် ထိုသူမ အုပ်ချုပ်မှုအောက်၌ ဝင်ရောက်လာကြသည်၊ နောက်ဆုံးတွင် မွတ်စလင်မ် စစ်သည်တော်များက ထိုသူမ စိုးစံရာသို့ ရောက်လာပြီး ထိုသူမနှင့်တကွ နောက်လိုက်များကိုပါ ဓားလွယ်ဖြင့် သုတ်သင်ခဲ့လေသည်။

**အကျိုးကျေးဇူး။** ပစ္စည်းအား ခင်တွယ် စွဲမက်ခြင်းသည် မကောင်းဖြစ်သကဲ့သို့ ခေါင်းဆောင် အကြီးအကဲ ဖြစ်လိုသော လောဘသည်လူသားကို ပျက်စီးစေတတ်သည်၊ တင်ပြပါ သူမ၏ ဒွန္နယာ၊ အာခေရတ် နှစ်ဌာနပျက်စီးသည်ကို သိကြရပေပြီ၊ အို....အမျိုးသမီးတို့၊ မိမိတို့ကိုယ်ကို အခြားသူများထက် နိမ့်ကျသည်ဟု ယူဆကြကုန်၊ ၎င်းကျိုးငယ်မှုကို အလေ့ပြုကြကုန်၊ ထိုသို့ ကျိုးငယ်စိတ် ထားခြင်းဖြင့် မြင့်မြင့်တော်မူသော အလ္လာဟ်အသျှင်မြတ်က သင်တို့အား ဒွန္နယာ အာခေရတ် နှစ်ဌာန၌ ဂုဏ်သရေရှိသူအဖြစ် ထားတော်မူပေမည်။

## ၁၉။ ကတ်တွာမဟ်၏ အကြောင်း

အုပ်စုတစ်စုရှိသည် ထိုသူတို့ကို 'ခါရေဂျီ' ဟုခေါ်ကြသည်၊ ၎င်းတို့သည် မွတ်စလင်မ်ဟု ဆိုကြသော်လည်း ၎င်းတို့၏ 'အကီဒဟ်' အယူဝါဒများသည် 'ရှရီအတ်' တရားတော်မြတ်၏ 'အကီဒဟ်' နှင့် ကွဲလွဲသည်၊ ထိုသူတို့သည် အလီ(ရသွေ့) သခင်၏ လက်ထက်တော်မှ စတင်ပေါ်ပေါက်ခဲ့လေသည်၊ အလီ(ရသွေ့)သခင်နှင့် ၎င်း'ခါရေဂျီ' တို့မှာ စစ်ပွဲကြီးများဖြစ်ခဲ့သည်၊ ထို့ကြောင့် အလီ (ရသွေ့) သခင်အား အလွန်မုန်းတီးခဲ့ကြသည်။

ထို 'ခါရေဂျီ' များမှ (၃) ဦးသော သူတို့သည် တစ်ခါက မတ်က်ကဟ်မြို့တွင် စုရုံးမိကြသည်၊ အလီ (ရသွေ့) သခင်သည် ထိုအချိန်က 'ကူဖွာ' မြို့၌ နေထိုင်လေသည်၊ ထိုသုံးဦးသည် အလီ (ရသွေ့) သခင်နှင့် အခြားဆွဟာဗဟ် သခင်နှစ်ပါးကို လုပ်ကြံရန် တိုင်ပင်ကြသည်၊ အလီ (ရသွေ့) သခင်အား လုပ်ကြံရန် တစ်ယောက်က အသင့်ပြင်လေသည်၊ ထိုသူ၏ အမည်သည် အဗ်ဒွရ်ရဟ်မာန် အစ်ဗ်နို့မွလ်ဂျင်မ် ဖြစ်သည်၊ ၎င်းသည် လုပ်ကြံရန်အတွက် ကူဖွာမြို့သို့ သွားသည်၊ ၎င်းသည် ကူဖွာမြို့သို့ရောက်သောအခါ ယုတ်ညံ့သော သူမတစ်ယောက်နှင့် တွေ့သည်၊ ထိုသူမ၏ ရုပ်ရေချောမောသည်ကို မြင်ပြီး ၎င်းက လက်ထပ်ရန် ကြောင်းလမ်းသည်၊ ထိုသူမက 'ကျွန်မ၏ မဟ်ရ် ခန်းဝင် ကြေးပေးနိုင်လျှင် လက်ထပ်မည်'ဟု ပြောသည်၊ ၎င်း အဗ်ဒွရ်ရဟ်မာန်က 'မဟ်ရ်' မည်သည့်အရာ ပေးရမည်နည်းဟု မေးရာ ထိုယုတ်ညံ့သူမက အလီ (ရသွေ့) သခင်အား လုပ်ကြံ သတ်ရမည်ဟု ဆိုသည်၊ ထိုသူမသည်လည်း 'ခါရေဂျီ' အသင်းဝင်မှ ဖြစ်သည်၊ ထိုသူမ၏ အဖ၊ အစ်ကို၊ ဘကြီးများသည် စစ်ဖြစ်ရာ၌ အလီ (ရသွေ့) သခင်၏လက်တော်

ဖြင့် သေခဲ့ကြသည်၊ ၎င်းတို့သည် 'ခါရေဂျီ' ပြင်ဆင်ရေးသမားများ ဖြစ်ကြသည်၊ ၎င်းယုတ်ညံ့သော သူမသည် တို့အတွက် အလီ (ရသွေ့) သခင်အား လုပ်ကြံသတ်ဖြတ်ရန် တောင်းဆိုခဲ့သည်။

အချုပ်မှာ ထိုသူသည် လက်ခံပြီး ဖဇ္ဂျ်ရ်နမာဇ် အချိန်မတိုင်မီ ဗလီဝတ်ကျောင်းတော်၏ တံခါးပေါက်တွင် သွား၍ပုန်းအောင်းနေခဲ့သည်၊ အလီ (ရသွေ့) သခင်သည် နမာဇ် ဝတ်ပြုရန်အတွက် ဗလီဝတ်ကျောင်းတော်သို့ကြွလာတော်မူရာ ၎င်းယုတ်ညံ့သော သူသည် ပုန်းအောင်းနေရာမှထပြီး အလီ (ရသွေ့) သခင်၏ခေါင်းတော်ကို ဓားလွှယ်ဖြင့် ခုတ်ပြီး ထွက်ပြေးလေသည်၊ အလီ (ရသွေ့) သခင်သည် ထိုဒဏ်ရာဖြင့် 'ဝဖွာတ်' ဖြစ်ကွယ်လွန်တော်မူသည်၊ ထိုယုတ်ညံ့သူမှာလည်း ဖမ်းမိပြီး အသတ်ခံရလေသည်။

**အကျိုးကျေးဇူး။** သိမှတ်ထားကြကုန်၊ ဤသို့သော သူမသည် 'ဒီန်' သာသနာတော်ကို ချစ်မြတ်နိုးလျှင် 'ဒီန်'ဘာသာမဲ့သော သားချင်းများအတွက် အလီ (ရသွေ့) သခင်အား အမုန်းထားမည်မဟုတ်ပေ၊ သို့သော် ၎င်းသူမသည် ကိုယ်တိုင်'ဒီန်'မဲ့သူဖြစ်သဖြင့်ဤမျှကြီးမားသော'ဂိုနာဟ်'ကိုကျူးလွန်ခဲ့သည်၊ အို- အမျိုးသမီးတို့ 'ဒီန်' သာသနာတော်အား ချစ်ခင်စိတ်ကို စိတ်၌ စွဲမြဲစွာ ခံယူထားကြကုန်၊ သို့တည်းမဟုတ်ပါက ကြီးမားသော 'ဂိုနာဟ်' များသည် 'ဒီန်'မဲ့ခြင်းကြောင့် ဖြစ်ပေါ်လာပေသည်။

## ၂၀။ အရှင်အဗ်၏သမီး ဥမ္မဇ်ဒဟ်၏ အကြောင်း

ဤသူမသည် အေမာမ်ဟစန် (ရသွေ့) သခင်၏ ဇနီးဖြစ်သည်၊ သူမသည် ဟစန် (ရသွေ့) သခင်၏ ရန်သူဖြစ်သော ယဇီးဒ်၏ လှုံ့ဆော်မှုဖြင့် ချစ်စဖွယ် ခင်ပွန်းသည်အား အဆိပ်ကျွေးခဲ့သည်၊ ယဇီးဒ်က သူမကို လက်ထပ်ယူမည်၊ ၎င်း'ဒရမ်'တစ်သိန်းပေးမည်ဟု ပြောခဲ့သည်၊ ဒရမ်တစ်သိန်းသည် ငွေသုံးသောင်းခန့်ရှိသည်၊ အဆိပ်ကျွေးသောအခါ ပြင်းပြမှုကြောင့် အေမာမ်ဟစန်(ရသွေ့)သခင်၏ဝင်းတွင်းသားများသည် ပြတ်တောက်၍ ထွက်လာသည်၊ ရက်ပေါင်း (၄၀) တိတိ ဤသို့ဒုက္ခခံရပြီးနောက် 'ရှဟီးဒ်' ဖြစ် ကွယ်လွန်သွားတော်မူသည်၊ ထိုအခါ ယုတ်မာသောသူမက ယဇီးဒ်အား ပေးမည်ဆိုသော ကတိအတိုင်း ပေးပါဟု အကြောင်းကြားခဲ့သည်၊ ထိုအခါ သင်မကို ကျွန်ုပ်ထံပါးတွင်မထားနိုင်ဟု ဖြေခဲ့သည်၊ အချုပ်မှာ ယုတ်ညံ့သူမမှာ'ဂိုနာဟ်'အပေါ်၊ 'ဂိုနာဟ်' ဆင့်ခဲ့သည်၊ လောကီ၏ သာယာမှုလည်း မရရှိပေ။

**အကျိုးကျေးဇူး။** အို....အမျိုးသမီးတို့၊ ဤမကောင်းမှု များသည် လောကကို ခင်တွယ်စွဲလမ်းမှု အလိုရမက်ကြောင့် ပေါ်ပေါက် လာရလေသည်၊ အလိုလောဘဖြင့် စိတ်ထင်ရာ ကျူးလွန်ကြမည်ဖြစ်သည်၊ ဤလောဘ တည်းဟူသော ရောဂါကို စိတ်မှ ထုတ်ပယ်ပစ်ကြကုန်၊ ပစ္စည်းပစ္စယ ရွှေ၊ငွေ အဝတ်အစားကို ခင်တွယ်ခြင်းမှ စိတ်ကိုသန့်ရှင်းစွာ ထားကြကုန်။

တင်ပြပါ (၂၀) ဦးသော သူမများသည် မကောင်းသော သူမများဖြစ်ကြသည်၊ ယခုပထမက မကောင်းခဲ့ပြီး နောက်တွင် အလ္လာဟ်အသျှင်မြတ် အလိုတော်ဖြင့်ကောင်းမွန်လာသော အမျိုးသမီးအချို့အကြောင်းကို ရေးသားမည်။

## ၂၁။ ဇီဗိဇိုလိုင်ခါ၏ အကြောင်း

ဤသူမသည် ပထမ မစ်စွင်ရ် (အီဂျစ်ဗ်) နိုင်ငံ၏ ဝန်ကြီးနှင့်အကြောင်းပါခဲ့သည်၊ ထိုဝန်ကြီးက ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်ကို ဝယ်ယူ၍ သားပမာ မွေးစားရန် ဇနီးဇိုလိုင်ခါအားအပ်နှင်းခဲ့သည်၊ သို့သော်သူမသည် မကောင်းသောစိတ်များဝင်လာခဲ့သည်၊ ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်ကို အလ္လာဟ်အသျှင်မြတ်က မကောင်းမှုမှ လွတ်ကင်းစေတော်မူခဲ့သည်၊ ထို့နောက် ထိုဝန်ကြီးကပင် သင့်တော်မည်ဟုယူဆပြီး ယူစွဖ် (အလိုင်ဟစ္စလာမ်)သခင်ကိုအကျဉ်းချထားခဲ့သည်၊ရက်အတန်ကြာသောအခါ မစ်စွင်ရ်(အီဂျစ်ဗ်)နိုင်ငံဘုရင်က အချုပ်ထောင်မှလွှတ်ရန် အမိန့်ချမှတ်လေရာ ယူစွဖ် (အလိုဖ်ဟစ္စလာမ်)သခင်က 'ပထမ ကျွန်ုပ်၏ကိစ္စကို အမျိုးသမီးများအား မေးကြည့်ပါ'ဟု မိန့်လေ၏၊ မေးကြည့်သောအခါဇိုလိုင်ခါက 'ကျွန်မအမှားသာဖြစ်သည်၊သခင်သည်သန့်ရှင်းပါသည်၊ ဟုလျှောက်၏၊ နောက်ဆုံးတွင် ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်သည် မစ်စွင်ရ်(အီဂျစ်ဗ်) နိုင်ငံ၏ ဘုရင်မင်းမြတ် ဖြစ်သွားသည်၊ ထိုဝန်ကြီးသေဆုံးသွားသောအခါ ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်သည် ဇိုလိုင်ခါ သခင်မနှင့် 'နေကာဟ်'ပြုလက်ထပ်ခဲ့သည်၊ထိုဇိုင်လိုင်ခါသခင်မဖြင့် အဖ်ရာအီမ်နှင့် မိရှာအီမ်မည်သော သမီးတော်နှစ်ပါး ထွန်းကားခဲ့သည်။

**အကျိုးကျေးဇူး။** အမှန်စကားသည် မည်သို့ကောင်းကြောင်း သိကြရပေပြီ၊ ယူစွဖ်(အလိုင်ဟစ္စလာမ်)သခင်အပေါ်တွင် မတရားစွပ်စွဲခဲ့စဉ်က ဇိုလိုင်ခါသခင်မသည် စိတ်ရှုတ်ထွေးခြင်းနှင့် ဒုက္ခများ ဝိုင်းဝိုင်းလည်ခဲ့သည်၊ ၎င်းအမှန်စကားကိုပြောသောအခါတွင် အလ္လာဟ်အသျှင်မြတ်က ဒုက္ခများမှ ကင်းလွတ်စေတော်မူသည်၊ စိတ်အလို ပြည့်ဝစေရန်လည်း စီမံပေးတော်မူသည်၊ ခင်ပွန်းသည် ဝန်ကြီးသေဆုံးခဲ့သည်၊ ယူစွဖ် (အလိုင်ဟစ္စလာမ်) သခင်မှာ ဘုရင်ဖြစ်ခဲ့သည်၊ ၎င်းဇိုလိုင်ခါသခင်မနှင့်လက်ထပ်'နေကာဟ်'ပြုလေသည်၊အို အမျိုးသမီးတို့၊ အမြဲတဝရ အမှန်စကားကိုသာ ပြောဆိုကြကုန်၊ အကယ်၍ မှားယွင်းမှုအပြစ်တစ်ခုခုဖြစ်သော်'တောင်ဗဟ်' ပြုကြကုန်၊ ထိုအမှားအပေါ် ခေါင်းမာမနေကြနှင့် ၎င်းမိမိ၏အမှားကို ဝန်ခံရာ၌ မောက်မာမှုကို မထားကြနှင့်။

## ၂၂။ ကာရှုန်က မြှောက်ပေးသော သူမ အကြောင်း

မူစာ (အလိုင်ဟစ္စလာမ်) သခင်၏ လက်ထက်တော်က ပစ္စည်းကြွယ်ဝ ချမ်းသာသော နှမြောတွန့်တိုသော ကာရှုန် မည်သော သူတစ်ယောက် ရှိလေသည်၊ မူစာ (အလိုင်ဟစ္စလာမ်) သခင်က 'ဇကာတ်' ဒါနကြေး ပေးဆောင်ရန် ဟောပြောတော်

မူသောအခါ ၎င်းသည် မနှစ်မြို့သည့်ပြင် မူစာ (အလိုင်ဟစ္စလာမ်) သခင်အား အမုန်းထားလေသည်၊ ၎င်းယုတ်မာသူသည် မူစာ (အလိုင်ဟစ္စလာမ်) သခင့်ကို ဂုဏ်သရေပျက်အောင်ပင် ကြံစားလေသည်၊ အကျင့်စာရိတ္တ မကောင်းသော သူမတစ်ယောက်ကို ရွှေ,ငွေများပေးပြီး မူစာ (အလိုင်ဟစ္စလာမ်) သခင်သည် ၎င်းနှင့် ပျော်ပါးသည်ဟူ၍ ပြောဆိုရန် လှုံ့ဆော် မြှောက်ပေးလေသည်၊ ၎င်းသူမသည် ငွေယူ၍ သဘောတူသွားလေသည်။

တစ်ခါက မူစာ (အလိုင်ဟစ္စလာမ်) သခင်သည် 'ဝအဇ်'ပြု,တရားဟောနေစဉ် 'ဇနာ' ကာမဂုဏ် ကျူးလွန်သူသည် ဤသို့ ဤသို့ အပြစ်ဒဏ်ခံရမည်ဟု မိန့်လေရာ ကာရူန်သည် ထိုင်ရာမှထ၍ 'အကယ်၍ ခင်ဗျားကျူးလွန်လျှင် မည်သို့ပါနည်း'ဟု အော်ဟစ်၍ မေး၏၊ မူစာ (အလိုင်ဟစ္စလာမ်) သခင်က 'ကျွန်ုပ် ကျူးလွန်လျှင်လည်း ဤသို့ပင် ပြစ်ဒဏ်ခံရမည်'ဟု မိန့်၏၊ ထိုအခါ ကာရူန်က 'မည်သူမသည် ခင်ဗျားနှင့် ပျော်ပါးခဲ့သည်' ဟု ဆိုသည်၊ ထိုသူမသည်း ထိုပရိသတ်တွင် ရှိနေခဲ့သည်၊ မူစာ (အလိုင်ဟစ္စလာမ်) သခင်က ထိုသူမကို 'ကဆမ်' ကျိန်ခိုင်းပြီး အမှန်ကိုပြောရန် မိန့်သည်၊ ထိုသူမသည် အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့ပြီး လျှောက်သည်မှာ အို...အလ္လာဟ်အသျှင်မြတ်၏ နဗီ၊ သခင်သည် သန့်ရှင်းတော်မူပါသည်၊ ကာရူန်က ကျွန်တော်မျိုးမကို ဤမျှ ရွှေ,ငွေပေး၍ သခင်၏ နာမည်ကို ပြောရန် ခိုင်းပါသည်၊ ယခု ကျွန်တော်မျိုးမ 'တောင်ဗဟ်' ပြုပါသည်၊ ၎င်း မွတ်စလင်မ် ဖြစ်ပါပြီ၊ ထိုအခါ မူစာ(အလိုင်ဟစ္စလာမ်) သခင်သည်အလှန်စိတ်ဆိုးတော်မူပြီး အလ္လာဟ်အသျှင်မြတ်ထံ 'ဘဒ်ဒိုအာ' ပြုတော်မူသည်၊ ကာရူန်သည် ၎င်း၏ပစ္စည်း, စည်းစိမ်များနှင့်အတူ မြေမြှုပ်ပြီး'ဂျဟန္နမ်' အပါယ်ငရဲဘုံ သို့ ရောက်သွားလေသည်။

**အကျိုးကျေးဇူး ။** အလ္လာဟ်အသျှင်မြတ်သည် 'ဟေဒါယတ်' လမ်းမှန်ပေးလိုတော်မူလျှင် 'တောင်ဗဟ်' နှင့် ကောင်းသောလမ်းကို ပြုလိုသောကိစ္စ ဖြစ်ပေါ်စေတော်မူသည်၊ တရားလမ်းမှန်နှင့် 'တောင်ဗဟ်' ပြုနိုင်သော စွမ်းအားသည် အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့မှသာလျှင် ရရှိပေသည်၊ အို....အမျိုးသမီးတို့၊ အလ္လာဟ်အသျှင်မြတ်ကို ကြောက်ရွံ့သောစိတ်ကို မွေးမြူကြကုန်၊သို့မှသာ အားလုံးသော ကိစ္စများ ဖြောင့်ဖြူးသွားပေမည်။

## ၂၃။ မိမိ၏ ဂိုနာဟ်ပြစ်မှုကို ဝန်ခံသော သူမ အကြောင်း

ကျွန်ုပ်တို့၏ ရစူလ်မုဟမ္မဒ် (ဆွလလ္လာဟု) ကိုယ်တော်၏ ထံတော်သို့ အမျိုးသမီးတစ်ဦးသည်အခ,စားဝင်လေသည်၊ 'ရှိုင်တွာန်'မိစ္ဆာ၏နှောင့်ယှက်မှုဖြင့် 'ဇနာ'ကာမဂုဏ်ကျူးလွန်မှုပြုခဲ့မိသည်၊'ရှရီအတ်'တရားတော်မြတ်၏အမိန့်မှာ ခင်ပွန်းဖြစ်စေ၊ဇနီးဖြစ်စေ

ဤသို့ ဖောက်ပြားမှုပြုခဲ့လျှင်၊ ကျောက်ခဲနှင့်ပေါက်၍ သတ်ပစ်ရမည်ဟု ပါရှိပေသည်၊ ထိုသူမသည် ဤမတ်စ်အလဟ်ကိုသိသည်၊ သေရမည်ကိုလည်းသိသည်၊ နောင်အာခေရတ်၏ အသာဗ်ပြစ်ဒဏ်ကို ကြောက်ရွံ့သဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ရှေ့တော် မှောက်သို့ လာရောက်ဝန်ခံခြင်းဖြစ်သည်၊ အပြစ်ခံပြီး သန့်ရှင်းသွားရန်အတွက်ဖြစ်သည်။

ရှရီအတ် တရားတော်မြတ်ကလည်း 'ဇနာ' ကိစ္စမှာ ဝန်ခံလျှင် ပယ်ချရမည်ဟု ရှိသည်၊ ထို့ကြောင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ပယ်ချခဲ့သည်၊ သို့သော် ထိုအမျိုးသမီးသည် မကြာခဏ လာ၍ ဝန်ခံပြီး 'အပြစ်ပေးပါ'ဟု တောင်း ဆိုနေသည်၊ 'ကိုယ်ဝန်ရှိနေသဖြင့် မွေးဖွားပြီးမှ အပြစ်ပေးမည်'ဟု မိန့်ကာ ပြန်လွှတ် လိုက်သည်။ ကလေးဖွားပြီး မဆင့်ခေါ်ဘဲ ရောက်လာပြန်ကာ အပြစ်ပေးရန်တောင်းဆို သည်၊ နောက်ဆုံး ရှရီအတ်တရားတော်မြတ်က သတ်မှတ်ထားသောပြစ်ဒဏ်ကို ပေးလိုက် လေသည်။

တစ်ဦးသောသူက ထိုအမျိုးသမီးနှင့်ပတ်သက်၍ မကောင်းသော စကားကို သုံး လိုက်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ.... ထိုသူမကို မကောင်းမပြောနှင့်၊ ထိုသူမ၏ 'တောင်ဗဟ်'အမှားဝန်ခံမှုသည် အလ္လာဟ်အသျှင်မြတ်ထံ မည်မျှ ကြီးသနည်း ဆိုသော် 'ဂိုနာဟ်ဂါရ်' မကောင်းမှု ကျူးလွန်သူ (၇၀) အား သူမပြုသော တောင်ဗဟ်အမှားဝန်ခံမှုကို ဝေငှပေးလိုက်ပါက၊ အားလုံးသည် လွတ်ငြိမ်း ချမ်းသာမှုရရှိနိုင်ကြပေသည်၊ ထိုအမျိုးသမီးသည် အလ္လာဟ်အသျှင်မြတ်အတွက် ရယ်မောပျော်ရွှင်စွာ မိမိ၏အသက်ကို ပေးလှူခဲ့သည်။

**အကျိုးကျေးဇူး။** အမှန်မှာ အလ္လာဟ် အသျှင်မြတ်အား ကြောက်ရွံ့ခြင်းသည် အံ့ဖွယ် စည်းစိမ်ဖြစ်သည်၊ ထိုအမျိုးသမီးသည် အပြစ်လွတ်ရန် အတွက် ဤဒုက္ခကိုခံခဲ့သည်၊ အလ္လာဟ်အသျှင်မြတ်သည် ကျွန်ုပ်တို့ကိုလည်း ဂိုနာဟ်များကို စွန့်လွှတ်နိုင်သော စွမ်းအား နှင့် တောင်ဗဟ်ပြုနိုင်သော စွမ်းအား ပေးတော်မူပါစေ သတည်း ။ အစ္စလာမ်ဥပဒေနှင့် နိုင်ငံတွင် မအုပ်ချုပ်သော် ရှရီအတ်တရားတော်မြတ်က ပြဋ္ဌာန်းထားသော အပြစ်ကို မပေးနိုင်ကြသဖြင့် ဂိုနာဟ် ကျူးလွန်မိလျှင် အလ္လာဟ် အသျှင်မြတ်ထံ 'တောင်ဗဟ်' ပြု၊ အမှားဝန်ခံကြရန် ထိုက်သည်၊ ၎င်းတင်ပြပါအချက်ဖြင့် 'တောင်ဗဟ်' ပြုပြီးသူကို သေးသိမ်သူဟု မထင်မှတ်ရဟူ၍ သိရပေသည်၊ ထိုသူ့အား လွန်ခဲ့သောပြစ်မှုဖြင့် ကဲ့ရဲ့ခြင်း မပြုကြရ၊ ဤသို့ ပြစ်တင်ခြင်းသည် အပြစ် ဂိုနာဟ် အလွန် ကြီးပေသည်။

## ၂၄။ ခိုးပြီး တောင်ဗဟ်ပြု သူမတစ်ဦး အကြောင်း

အာအေရှဟ် (ရသွေ့) သခင်မက အကြောင်းပြု ခဲ့ သည် ၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အမျိုးသမီးတစ်ဦးအား ခိုးဝှက်မှုဖြင့် လက်ဖြတ်ခဲ့သည်၊ ထိုနောက် ထိုအမျိုးသမီးသည် ကျွန်မအိမ်သို့ ဝင်ထွက်လေ့ရှိသည်၊ ရစူလ်ကိုယ်တော်

အား မေးလိုသောအကြောင်းကို ကျွန်ုပ်မှတဆင့် မေးမြန်းလေ့ရှိပေသည်၊ အချုပ်မှာ.... ထိုအမျိုးသမီးသည် စိတ်ရောကိုယ်ပါ ဂိုနာဟ်မှ တောင်ဗဟ်ပြုပြီး ဖြစ်ပေသည်။

**အကျိုးကျေးဇူး။** အဘယ်မျှ စိတ်ထားကောင်းမွန်ဘိသနည်း၊ ကြီးစွာဒုက္ခခံရပြီး နောက်လည်း ရစူလ်နှင့် ရှရီအတ် တရားတော်ကို မကောင်း မထင်ခဲ့ပေ၊ သို့ရှိရာ အီမာန်နှင့်တောင်ဗဟ်မှာ ဤသို့ စိတ်ဖြူစင်စွာ ထားရန် ထိုက်သည်၊ ရှရီအတ် တရားတော်မြတ်နှင့် ပတ်သက်၍ စိတ်၌ မည်သို့သော ညိုငြင်မှုမှ မထားရပေ၊ အကယ်၍ 'ဂိုနာဟ်' အကုသိုလ် ကျူးလွန်မှုကြောင့် 'ဝဗာလ်' ဒုက္ခရောက်လျှင်လည်း အလ္လာဟ် အသျှင်မြတ်အား စိတ်ကွက်မှု မဖြစ်စေရ၊ မိမိ၏ ကျူးလွန်မှုကို သတိရပြီး အရှက်ရနေရန်ထိုက်သည်။

## ၂၅။ စရိဂျာဟ် ၏ အကြောင်း

ဤသူမ သည် နေယင်း ထိုင်ယင်း ရစူလ္လလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် 'ဝဖွာတ်'ဖြစ်, ကွယ်လွန်တော်မူပြီးနောက် မိမိကိုယ်ကို နဗီရစူလ်ဟူ၍ ကြွေးကြော်သည်၊ အသိတရား ခေါင်းပါးသော သူများသည် သူမနောက်သို့ လိုက်ကြသည်၊ ထိုသူမနှင့် ပတ်သက်၍ အကြောင်းအရာများ များစွာလာရှိသည်၊ နောက်ဆုံး မွတ်စလင်မ်စစ်သည် တော်များမှ ကြောက်၍ပြီး မွတ်စလင်မ် ပြန်၍ဖြစ်သွားလေသည်၊ ၎င်းမိမိ၏ မှားယွင်း သောကိစ္စမှ အမှားဝန်ခံ 'တောင်ဗဟ်' ပြုလေသည်။

**အကျိုးကျေးဇူး။** စွမ်ဟာနလ္လာဟ် တောင်ဗဟ်သည် အရေးကြီးသော ကိစ္စ ဖြစ် သည်၊ နဗီရစူလ် ဖြစ်သည်ဟု ကြွေးကြော်သော ဂိုနာဟ်ထက် ကြီးမားသော အပြစ်ကား မရှိပေ၊ သို့သော် တောင်ဗဟ်ပြု၍ မွတ်စလင်မ်ဖြစ်သွားလျှင် လည်း၊ ဤသည်ကိုလည်း အလ္လာဟ်အသျှင်မြတ်က ခွင့်လွှတ်တော်မူလေသည်။

" အို....အမျိုးသမီးတို့၊ တောင်ဗဟ်ပြု, အမှားဝန်ခံရန်ကို နှောင့်နှေးမနေကြနှင့်၊ တင်ပြပါအချက်ဖြင့် မိမိကိုယ်ကို ကြီးကျယ်သည်ဟု တင်ခြင်းသည် အလွန် ဒုက္ခရောက် စေသော အချက်ဖြစ်သည်၊ ထိုသို့ ကြီးချင်မှုဖြင့် လူများအပေါ် အုပ်ချုပ်နိုင်ရန် နဗီ ရစူလ်ဖြစ်သည်ဟု လိမ်လည် ကြွေးကြော်ခဲ့သည်၊ ဤသို့ မကောင်းမှုမှ အလ္လာဟ်အသျှင် မြတ်ထံ လွတ်ကင်းရန် ဆုပန်ပါ၏။ မိမိကိုယ်ကို အခြားသူများထက် နိမ့်ကျသည်ဟုယူဆ ခြင်းသည် အကောင်းဆုံး ဖြစ်ပေသည်။

ဤသည်မှာ တောင်ဗဟ်ပြု,အမှားဝန်ခံသူမ(၅)ဦးဖြစ်သည်၊ ၎င်းမကောင်းသော သူမ(၂၀)အကြောင်းကိုရေးခဲ့ပေပြီ၊ အားလုံးပေါင်း(၂၅)ဦးဖြစ်သည်၊ ယခု နိဒါန်း တွင် ရေးခဲ့သည့်အတိုင်း သတိပေးချက်နှင့် မှတ်စုကို ရေးမည်။

بسم الله الرحمن الرحيم      نحمده ونصلي على رسوله الكريم

# သတိပေးချက်။

အောက်တွင် ရေးသားမည့် ''မှတ်စု'' သည် အားလုံးသော အမျိုးသမီးများ အတွက် မဟုတ် သာမက ဆိုးသွမ်းသော အမျိုးသမီးများ အတွက် သက်သက်ပင် ဖြစ်သည်၊ ထိုသူမများ နှင့် ဆန့်ကျင်ဘက် ဖြစ်သော အလ္လာဟ်အသျှင်မြတ် အလိုတော်နှင့် ကောင်းသော အမျိုးသမီးများလည်းရှိပေသည်၊ ထိုအမျိုးသမီးများသည် ဤအာယတ်တော်နှင့် ကိုက်ညီကြသည်၊ (မွတ်စလင်မ် 'မုအ်မင်န်' သူမများ ဖြစ်ကြသည်၊ သည်းခံ မျိုသိပ်ကြသည်၊ တောင်ဗဟ် ပြုကြသည်၊ အမလ် အေဗာဒတ် ဆောက်တည်ကြသည်၊ ရက်ရောသော သူမများဖြစ်ကြသည်။) ဤဆိုပင် အချို့ယောကျ်ားများသည် ညှဉ်းပန်း နှိပ်စက်ခြင်း၊ လင့်ဝတ် မကျေပွန်ခြင်း၊ အငှလလိုက်ခြင်းများ ပြုရာတွင် စံတင်လောက် ပေသည်၊ ထိုမကောင်းသောသူများ၏ ဇနီးများသည် မိမိတို့ဂုဏ်ကို ထိန်းကာ သည်းခံ နေကြသည်။

نه هر زن زن است و نه هر مرد مرد ؛ خدا پنج انگشت یکسان نکرد

အဓိပ္ပါယ်... မိန်းမတိုင်းသည် မိန်းမဆိုးများ မဟုတ်ကြ၊ ယောကျ်ားတိုင်းသည် ယောကျ်ားဆိုးများမဟုတ်ကြပေ၊ အလ္လာဟ်အသျှင်မြတ်သည် လက်ချောင်းများကို တစ်ခု နှင့်တစ်ခု အညီအမျှ ဖန်ဆင်းထားတော်မမူပေ။

ဤကိစ္စတွင် ကျမ်းကျင်ဘုံ၏ ရေးသားချက်များကို ဖေါ်ပြရခြင်း အကြောင်းမှာ အကယ်၍ အမျိုးသမီးတစ်ဦးဦးတွင် ဖေါ်ပြမည့်အပြစ်များရှိနေပါက မိမိကိုယ်ကို ဆုံးမ ပြုပြင်ရမည်၊ သို့တည်းမဟုတ် ခင်ပွန်းဖြစ်သူက ချိုသာစွာဆုံးမပြုပြင်ပေးရမည်၊ အဘယ့် ကြောင့်ဆိုသော် ဆိုဆုံးမသူတွင် ပြစ်မှုကို သိထားရန် အရေးကြီးပေသည်၊ (အလ္လာဟ် အသျှင်မြတ်သာလျှင် ပို၍သိတော်မူသည်၊) ယခုထိုရေးသားချက်ကို တင်ပြမည်။

## မှတ်စု

အမျိုးသမီးတို့၏အသိတရားခေါင်းပါးခြင်းသည် အဆမတန်များပြားနေပေသည်၊ ကျွန်ုပ်သိထားသလောက် ဆုံးမသောအနေဖြင့် ရေးပြမည်၊ ဆိုးသွမ်းသမျှကို ဖွင့်ချရန် မသင့်ဟုယူဆသည်၊ နမူနာအဖြစ် ထိုသူမများ နားသို့ ရောက်သွားအောင်ရေးသားမည်၊

၁။ ဤသို့သော အမျိုးသမီးများသည် အများအားဖြင့် ခင်ပွန်းသည်၏ ဂုဏ် သရေကို မိမိထက်နိမ့်ကျအောင်ပြုကြသည်၊ ခင်ပွန်းအပေါ်နိုင်ထက်စီးနင်းပြုသည်၊ ပမာ ဆိုသော် ယောကျ်ားများက မိန်းမဖြစ်၍၊ မိန်းမများက ယောကျ်ားသဖွယ်ဖြစ်နေသည်။

၂။ အမျိုးသမီးများသည် နေကာဟ်ပြု၊ လက်ထပ်သောရက်ကတည်းက တစ်သီး တစ်ခြားနေမည်ဟုစိတ်ပိုင်းဖြတ်ထားကြသည်၊ ယောက္ခမအိမ်ရောက်ရောက်ခြင်း ယောက္ခမ အထီး၊ အမနှင့်ယောင်းမစသည်များနှင့် ရန်ပွဲဆင့်လေသည်၊ ၎င်းကိုယ်တိုင်အိမ်၌ဆူဆူညံညံ မသင့်မတင့်ဖြစ်နေကြရန် နေ့စဉ်အကြံထုတ်နေကြသည်။

၃။ ယောက္ခမအထီး၊ အမတို့သည် များစွာသာယာမှုကိုရှေ့ရှု၍ ချွေးမကို လက် ထပ်ရှယူဆောင်ခဲ့ကြသည်၊ ချွေးမသည် ယောက္ခမတို့၏ဆန္ဒကိုပျက်စေပြီး၊ လက်ထပ်ပေး သည့်အတွက် ပူပင်သောကပင် ရောက်ကြရလေသည်။

၄။ ချွေးမသည် သည်းခံစိတ် လုံးဝမထား၊ အချိန် ကျရောက်လျှင် ခွဲမည်ဟု သင့်တော်ချိန်ကို စောင့်ဆိုင်း၍မနေပေ၊ အကယ်၍လောကတွင် ဤသို့ခွဲ၍နေသူ မရှိပါက မြို့များ၊ ရွာများ အဘယ်ကဲ့သို့ဖြစ်မည်ကို မစဉ်းစား၊ အသိဉာဏ်ခေါင်းပါးသဖြင့် ခွဲသင့် သော အချိန်ကိုမစောင့်ဘဲ အခြေအနေကိုမကြည့်ဘဲ ခွဲနေဖို့ပင် ကြိုးစားနေသည်။

၅။ ခင်ပွန်းသည်ကို နည်းမျိုးစုံဖြင့် စိတ်ရှုပ်အောင်ပြုသည်၊ အမျိုးမျိုးသော စကားများကိုပြောသည်၊ ခင်ပွန်းသည်မှာ ပြောဖန်များသောအခါ စူးရှမှု ဖြစ်လာရလေ သည်၊ အချိန်မရွေး ယောက္ခမအထီး၊ အမနှင့်ယောင်းမ ၎င်းအတူနေသူများ၏ မကောင်း ကြောင်းများကို ရိုးမယ်ဖွဲ့၍ပြောသည်၊ စိတ်ကြိုက်ခွဲနေစေရန် ဤသို့ မသင့်မြတ်အောင် (တမင်)အတလိပြုခြင်းဖြစ်သည်၊ သို့ရှိရာ ဇနီးသည်၏စိတ်တိုင်းကျ တစ်သီးတစ်ခြားခွဲနေရ လေတော့သည်၊ အဘယ့်ကြောင့်ဆိုသော် ခိုက်ရန်ဖြစ်မှုကို လူတိုင်းရှောင်ရှားရန် လိုလား ကြသည်။

၆။ ဇနီးက ခင်ပွန်းသည်ကိုအမျိုးမျိုးသော မခံချင်သည့်စကားများပြောဆိုသည်၊ ထိုစကားများကိုကြားပြီး ခင်ပွန်းဖြစ်သူမှာ ချွေးစီးပြန်ရသည်၊ ဆိတ်ဆိတ်ပင် နားပိတ် နေသည်၊ အကယ်၍ နှုတ်လျှာဖြင့်၊ မျက်လုံးဖြင့်၊ လက်ဖြင့် ဇနီးအားဆုံးမလိုက်လျှင် အိမ်သူ အိမ်သားများနှင့်အရပ်သားများသည် ပွဲပမာကြည့်ကြရလေသည်၊ ဇနီးကငိုယိုပြီး တစ်အိမ် သားလုံးနှင့် တစ်ရပ်လုံးကို စုရုံးစေပြီး ခင်ပွန်း၏ ဂုဏ်သိက္ခာကိုချသည်။

၇။ အမျိုးသမီးများသည်အကယ်၍ လက်ထပ်သောနေ့ကစပြီး အိမ်သူအိမ်သား များ၊ ခင်ပွန်းသည်နှင့် ယောက္ခမတို့၏စကားကို နာခံလိုက်နာလျှင် ထိုသို့နာခံသူမသည် အပြစ်တင်ဖွယ်ကိစ္စမဟုတ်ပေ၊ နာခံလိုက်နာရန် ဖယ်ထားဘိဦး၊ ခင်ပွန်းကိုဒုက္ခပေးသည်၊ ခင်ပွန်းသည်က ရန်ရှောင်၍ အပြင်သို့ထွက်သွားလျှင် အသိဉာဏ်မရှိသော သူမများသည် ငါ့ကိုကြောက်သည်ဟု ယူဆကြသည်၊ ရှေ့တွင် ပို၍ဆိုးလာကြသည်။

၈။ ယောကျ်ားကို အလ္လာဟ်အသျှင်မြတ်ဇာ ရဲရင့်သတ္တိရှိသူ၊ စစ်မြေပြင်၏ သူရဲ ကောင်း အဖြစ် ဖန်ဆင်းထားတော်မူသည်၊ ၎င်းတို့သည် အမျိုးသမီးများအား ကြောက် ကြသည်မဟုတ်ပေ၊ သို့သော် မသင့်တော်၍ ရှောင်သွားကြလျှင် အမျိုးသမီးများက ဂရု ပင်မစိုက်ကြပေ၊ ထိုသူမများ၏ ရန်မူ ရန်စောင်ခြင်းများသည် လက်ထပ်သော နေ့မှစ၍ တိုးတက်မြဲပင် ရှိနေကြသည်။

၉။ ဤအကြင်နာမရှိသော သူမများသည် ခင်ပွန်းသည် ဒုက္ခအမျိုးမျိုးခံ၍ ရှာဖွေပြီး ကျွေးနေသည်ကို ဂရုမစိုက်ကြပေ၊ ထိုသို့ဒုက္ခခံပြီး ရှာဖွေကျွေးနေသည့်ကို ကျေးဇူးတင်ရမည်ဟူ၍ ဘယ်သောအခါမှ စိတ်ကူးပင် မသည့်ကြသည်မှာ စဉ်းစားရန် အချက်ပင် ဖြစ်သည်။

၁၀။ ခင်ပွန်းသည်မှာ ဇနီးသည်၏ အသိဉာဏ်ခေါင်းပါးခြင်း၊ ရိုင်းပြစွာဆက်ဆံမှုကြောင့် ပြုပြင်သွန်သင်ရန် မဖြစ်နိုင်တော့သည့်အဆုံး စိတ်ထိခိုက်ပြီး တစ်မြို့တစ်ရွာသို့ ထွက်သွားသည်၊ နှစ်ပရိစ္ဆေဒ ကြာမြင့်စွာ အိမ်သို့ပြန်မလာဘဲနေသည်၊ ဇနီးသည်အား ချစ်ခင်မှုမှာ စိတ်သည် ကျောက်ခဲပမာ ဖြစ်သွားသည်၊ တစ်မြို့တစ်ရွာတွင် ဝင်ငွေ လုပ်ငန်းရှိပြီး ချွေးရံသင်းပင်းရှိသည်၊ စိတ်ပျော်ရွှင်စေရန် နည်းလမ်းတစ်ခုခုကို ရှာဖွေသည်၊ ယခုသော်ကား ဇနီးသည့်သည် အိမ်မှာထိုင်ယင်း ယောက်ျားမတို့နှင့်ရန်ဖြစ်သည်၊ ခင်ပွန်းထံ ပို့ပေးရမည်ဟု ပူစာသည်၊ မိမိကိုယ်တိုင် နှင်ထုတ်ထားသည်ကိုမသိ ၎င်းမိမိ၏ ဉာဏ်အမြော်အမြင်မရှိခြင်းအပေါ် နောင်တရခြင်း မရှိဖပ။

၁၁။ အကယ်၍ အမျိုးသမီးများသည် လက်ထပ်ပြီးနောက် ခင်ပွန်းသည်၏ အလိုလိုက်လျှင် ယောက်ျားမအထီး အမ၏ အနွံ အတာခံလျှင် ချွေးမကိုခေါင်းပေါ်တင်ထားကြမည်၊ တစ်အိမ်လုံးအပေါ် ဩဇာညောင်းလာမည်၊ အကယ်၍ခင်ပွန်းနှင့်ယောက်ျားမတို့တွင် သူမသဘောနှင့် ကွဲလွဲသောအချက်များရှိနေလျှင် ချိုသာနူးညံ့စွာဖြင့် ၎င်းတို့မသိအောင်ပင် ပြုပြင်၍ ယူနိုင်သည်၊ ထိုမလိုလားသော အချက်သည် အမှန်ပင် ပပျောက်သွားမည်၊ ကန့်လန့်လုပ်ရန်စောင်နေပါက ဘယ်သောအခါမှ ပပျောက်မည်မဟုတ် သာမက ခင်ပွန်းက ပို၍ပင် ကန့်လန့်ဖီလာ ပြုလာမည်၊ ဤအမျိုးသမီးများသည် ခင်ပွန်းသည်၏ အလိုကို မသိကြ၊ မည်သူ၏ အပြစ်ဖြစ်ပါသနည်း။

၁၂။ အချို့ယုတ်ညံ့သောသူမများက ယူဆကြသည်မှာ ငါတို့သည် သူဌေးသမီးများဖြစ်ကြသည်၊ 'ဂျဟေးဇ်' (သတို့သမီးဘက်ကပေးရသော ခန်းဝင်ကြေး) များကို များစွာယူလာခဲ့သည်၊ ခင်ပွန်းသည်နှင့်ယောက်ျားမစသည်တို့ကို အောက်ကျို့အမိန့်နာခံခြင်းသည် ဂုဏ်ပျက်သည်၊ အချို့သည် ခင်ပွန်းသည်ကိုပင် ဂရုတစ်စိုက် ဆက်ဆံပြောဆိုခြင်း မပြု ဝတ်ကြီး ဝတ်ငယ်လည်း မပြုပေ၊ ခေါင်းအုံးကိုမှီ၍ ထိုင်နေသည်၊ အိပ်နေသည်၊ သို့မဟုတ် နှုတ်ခမ်းစူ၍နေကာ မည်သည့်အလုပ်မှ မလုပ်ကိုင်ဘဲနေသည်။

၁၃။ ယခုခေတ်တွင်အမျိုးသမီးများသည် မှုယာမာယာနှင့် ပစ္စည်းဂုဏ်မောက်ကာ နေမကောင်းဟု အကြောင်းပြပြီး အိပ်ရာကမခွာပေ၊ ခေါင်းအုံသည်ဟုဆိုကာယောက်ျားမတို့ကို ကန့်လန့်လုပ်ကြသည်၊ ဆေးကောင်းများကို ငွေရာနှင့်ချီပြီး စားသည်၊ အချုပ်မှာ ခေါင်းအုံသည် (အလုပ်မလုပ်ချင်၍ ယိုးမယ်ရှာခြင်း)မှာ ပျောက်မလာပေ၊ တစ်ခါ တစ်ရ 'ဂျင်န်' စီးပူးသည်ဟု လုပ်ကြံကြသည်။

၁၄။ ဤအမျိုးသမီးများသည် ခင်ပွန်းသည်ကို အမျိုးမျိုးအဖုံဖုံ ဆွဲဆောင်ရာ ထိုခုများမှာ မစဉ်းစားတတ်တော့ဘဲ ပစ်တိုင်းထောင်ဖြစ်ပြီး ဇနီး၏စကားအတိုင်း အလုပ်တိုင်းတွင် အားလုံးကောင်းပါသည်ဟု ဆိုနေရုံမှအပ အခြားအလုပ် မလုပ်တတ်တော့ပေ၊ သောက်ရေပုလင်းနှင့် သောက်ရေခွက်ကိုကိုင်၍ တစ်ကောက်ကောက် လိုက်နေရသည်၊ လိုအပ်သောအခါ အမိန့်နာခံရန်အတွက်ဖြစ်သည်၊ အချိန်မရွေး နာခံနေမှ တော်ရုံကျသည်၊ သို့တည်းမဟုတ်ပါက ဆူပူမှု ဖြစ်လာမည်။

၁၅။ ဤအသိဉာဏ် ခေါင်းပါးသော သူမများသည် မိမိတို့၏ အလေ့အကျင့်ဖြင့် အိမ်တွင်အမျိုးမျိုးသော ဆူပူမသင့်မြတ်မှုများဖြင့်အိမ်၏‘ဘရိကတ်’မင်္ဂလာအဖြာဖြာကို ဖျက်ဆီးကြသည်၊ ခင်ပွန်းသည်အား ရန်သူပမာဆက်ဆံသည်၊ယခုခေတ်တွင်ယောကျ်ားများသည်မိန်းမ မယူဘဲနေခြင်းကပို၍သက်သာ စိတ်ပျော်ပေလိမ့်မည်၊ခင်ပွန်းသည် အလုပ်ထွက်လုပ်နေသောအခါ စာလာလျှင် ယောက္ခမတို့နှင့် အိမ်ရှိလူများ၏ မကောင်းခြင်းများကို စီကာပတ်ကုံးရေးသည်၊ ၎င်းအသုံးငွေ ပို့ရန်တောင်းသည်၊ ဤသို့ ဤသို့ လုပ်ကြံ၍ ယိုးမယ်ဖွဲ့ကာ ရေးလေရာ ခင်ပွန်းသည်မှာ စိတ်ညစ်ပြီး ထမင်းဝအောင်ပင် ဖြောင့်ဖြောင့် မစားနိုင်ရှာပေ၊ အခြားသူများ မသိစေရန် စာကိုဆုတ်ပစ်လိုက်ရသည်၊ စာကိုလည်း ခေါင်းမကပ်ဘဲထည့်သည်။

၁၆။ ခင်ပွန်းသည်က ငွေများကို ရာချီ၍ မကြာမကြာပို့သည်၊ သို့သော်လည်း အမျိုးသမီးများသည် အမြဲထာဝရ အကြွေးတင်နေသည်ဟုဆိုကာ လိမ်လည်၍ စာရင်းရေးပြီး ငွေတောင်းဖို့ပင် စိတ်ကူးနေကြသည်၊ သူမတို့သည် ခင်ပွန်းက မည်သို့ဒုက္ခအခက်အခဲနှင့် ငွေရှာ၍ပို့နေရသည်ကို ဂရုမစိုက်ကြပေ၊ အိမ်သုံးအတွက် အဝေးမှနေပြီး ပို့ပင်နေသည်၊ ကျွန်မတို့သည် အလဟဿ ငွေတောင်းပြီး စီးပွားပျက်အောင် မပြုသင့်ဟု မယူဆကြ၊ အဝေး၌ မည်သို့သောဒုက္ခနှင့် ရင်ဆိုင်နေရပြီး ‘မနီအော်ဒါ’ ပါဆယ်များ အမျိုးမျိုးသော အသုံးအဆောင်များကို မိမိအနစ်မွန်း အဆင်းရဲခံကာ ပို့နေသည်ဟု မယူဆကြပေ၊ အကယ်၍ ခင်ပွန်းသည်က အပျော်အပါးလိုက်ကာ သုံးစွဲနေလျှင် သင်မတို့ သုံးဖြုန်းကြရန် ငွေအဘယ်ကဲ့သို့ ပို့နိုင်မည်နည်း။

၁၇။ ဤကျေးဇူးကမ်းသူမများသည် မေ့မှား၍ပင် ခင်ပွန်းသည်အား ကျေးဇူးတင် စကား မပြောကြ၊ ၎င်းခင်ပွန်း၏ သားချင်းများ၊ မိတ်ဆွေနှင့် ရန်သူများ ရှေ့မှောက်တွင် ဘယ်သောအခါမှ ခင်ပွန်းသည်ကို ဂုဏ်တင်ပြောဆိုခြင်းမပြု သာမက လိမ်လည်လုပ်ကြံ၍ ထောင်နှင့်ချီသော အကြောင်းအရာများ၊ ဆင်းရဲကျပ်တည်းခြင်းများကို သားချင်း မိတ်ဆွေနှင့် ရန်သူတို့၏ ရှေ့တွင်ပြောဆိုကြသည်၊ အချုပ်မှာ....ခင်ပွန်း၏ ဂုဏ်သိက္ခာကို ဖျက်ပြားအောင်ပြုကြသည်၊ ခင်ပွန်းက ငွေအမြောက်အမြားရှာဖွေ၍အိမ်သို့ ပို့သည်၊ ၎င်းအိမ်လာသောအခါ ဇနီးက ထိုငွေများကို မဖြုန်းဘဲ သုံးသင့်သည်၊ သုံး၍ ချန်ထားခြင်း အိမ်ကို သာယာအောင် ခင်းကျင်းပြီး ငွေချန်ခြင်း၊ ခင်ပွန်းသည် လက်သို့ အပ်ခြင်းများသည် မည်သည့်အမျိုးသမီးမှ လုံးဝတွေ့ရမည် မဟုတ်ပေ။

၁၈။ အိမ်ရောက်လျှင် ရောက်ချင်း ကြွေးတစ်ကြောင်း ပြောပြသည်၊ ကြွေးရှင်ကို ခင်ပွန်းသည်ရှေ့ရန်သူပမာခေါ်ပို့သည်၊ ထို့အတွက် ခင်ပွန်းမှာ အိမ်လာပြီး သေးသိမ်မှု ပူဆွေးမှုဖြစ်ရသည်၊ ဤဒုက္ခနှင့်တွေ့ရန် အဘယ့်ကြောင့် လာသနည်းဟု မိမိကိုယ်ကိုအပြစ်တင်ရသည်အထိ ဖြစ်သည်။

၁၉။ အမျိုးသမီးအများစုသည် ခင်ပွန်းထံ ကြွေးတင်သည်ဟု လုပ်ကြံရေးပြီး ငွေတောင်းသည်၊ ထိုငွေကို တစ်ခြားစုသည်၊ ၎င်းခင်ပွန်းသည်ကို မိမိအထုတ်ဖြည့်ရန်အတွက် တစ်သက်လုံး ခရီးဝေးထွက်၍ ငွေရှာစေသည်။

၂၀။ ယခု ထိုအမျိုးသမီးများကအများအားဖြင့်နည်းလမ်း ထွင်ထားကြသည်မှာ မည်သို့ ဖြစ်နေစေကာမူ ငွေကိုစုကြသည်၊ ၎င်းဖခင်၊ အစ်ကို၊ မောင်နှင့်သားချင်းများထံ သွားသောအခါ ယောက္ခမတို့နှင့် အိမ်ရှိလူများပင် မသိအောင် ငွေများပေး၍ ကူညီကြသည်၊ အချုပ်မှာ....ခင်ပွန်းသည်၏ ရှာဖွေလုပ်ကိုင်ခြင်း၏ ဂုဏ်သရေမှာမည်သို့မှ အကျိုးဖြစ်မလာပေ၊ ခင်ပွန်းသည်မှာ ဆိုးဆိုးလှည့်နွားပမာ ရပ်ဝေးတွင် တစ်နေ့ သေဆုံးသွားရသည်၊ ဇနီးများက ခင်ပွန်းကိုအိမ်၌ သက်သက်သာသာ နေခွင့်မပေးကြပေ။

၂၁။ ခင်ပွန်းသည်မှာရပ်ဝေးတွင် နေထိုင်ရသဖြင့် အိမ်၌မည်သည့်အဝတ်အစား ရွှေ၊ ငွေ၊ ဘယက်တန်ဆာ မည်မျှရှိသည်ကိုမသိ တစ်ခါတစ်ရံမှသာလျှင် အိမ်သို့ဧည့်သည် သဘောဖြင့် အလည်လာသည်၊ ဇနီးက အိမ်ရှိပစ္စည်း ရွှေ၊ ငွေတို့ကို အစ်ကို၊ မောင် စသည့် ပေးလိုသူတို့ကို ပေးပစ်လေသည်၊ မည်သူမျှ ပြောနိုင်သော တားနိုင်သောစွမ်းအား မရှိကြပေ။

၂၂။ အဝတ်အစား ဘယက်တန်ဆာစသည်တို့ကို ခင်ပွန်းက ရပ်ဝေးမှယူလာလျှင် ဤသူမများသည် နှာခေါင်းရှုံ့၍ အပြစ်ရှာကြံထုတ်ကြသည်၊ အကယ်၍ နှစ်သက်လာလျှင်လည်း ထိုပစ္စည်းကိုကိုင်၍ ဝတ်၍ ခင်ပွန်း၊ ၎င်းခင်ပွန်း၏ သားချင်းများရှေ့တွင် ပျော်ရွှင်ခြင်းမပြု၊ ကျေးဇူးတင်ခြင်းမပြု၊ချက်ချင်း သေတ္တာတွင်ထည့်၍ သော့ခတ်ပြီး စိတ်ကြိုက်သလို ပြုမူကြသည်။

၂၃။ ဇနီးက မိမိသားချင်းများ လာရောက်ကြသောအခါတွင်ခင်ပွန်း၊ယောက္ခမ စသည်တို့ကို ဂုဏ်ပျက်အောင် ပြုမူပြောဆိုကြသည်၊ ဤသူမများသည် ထိုသို့သောအခါ၌ ရန်သူများပမာ ဖြစ်သွားကျသည်။

၂၄။ ခင်ပွန်းဖြစ်သူသည် ရပ်ဝေးမှ အစ်ကို၊ ညီ၊ ဆရာသမား စသည်အတွက် တစ်စုံတစ်ခုလက်ဆောင်ယူလာလျှင်ဇနီးကအလျှင်ပေးခွင့်မပြု၊ကျွန်မသဘောတူ ခွင့်ပြုချက်မရဘဲ မပေးရဟုဆိုသည်၊ ဤကိစ္စအပေါ် စကားများကာ တစ်ရပ်လုံးကပွဲပမာဝိုင်းကြည့်ရသောအဖြစ်သို့ ရောက်သွားသည်၊ ဤသို့သောသူမများသည် ရက်အတန်ကြာ ဒေါသဖြစ်လျက် ခင်ပွန်းသည်နှင့်တကွ အိမ်သားများကို ဒုက္ခပေးကြသည်။

၂၅။ ရပ်ဝေးမှ ခင်ပွန်းသည်က ငွေပို့လိုက်လျှင် ဤတန်ဖိုးမသိသောသူမများသည် မိမိ၏အဆင့်အတန်းထက် သာလွန်သော သူဌေး၊ သူကြွယ် များသာ သုံးသည့်

ပစ္စည်းပစ္စယများကို အနှမြောမရှိ ဝယ်ယူသုံးဖြုန်းကြသည်၊ နောက်နေ့တွင် ပို၍သော ငွေကို အကြွေးဆပ်လိုက်ရသည်၊ ယခုစားစရာပင် မရှိတော့၍ ငွေအမြန်ပို့ပါဟု ရေး၍ ခင်ပွန်းသည်အား စိတ်ရှုတ်အောင် ပြုကြသည်။

၂၆။ ယခုခေတ်တွင် အမျိုးသမီးများ၌ အပြစ်တစ်ခုရှိသည်မှာ.... လက်ထပ်ပြီး နောက် မကြေနပ်သောစကားရပ်တို့ကို လိမ်လည်လုပ်ကြံ၍ မိဘကို သွား၍ပြောသည်၊ ၎င်းသူမ၏မိဘက သားချင်းအားလုံးတွင် ပရွက်ဆိတ်ကို ဆင်ဖြစ်အောင် ပြောင်းပြန်သည်၊ အကယ်၍ နှစ်ဘက်သားချင်းများ ဆုံသွားကြသောအခါ မိဘသည် သမီးဘက်မှဝင်၍ ရန်တွေ့သည်၊ ထိုသို့စကားများကြခြင်းဖြင့် တစ်ရပ်လုံးတွင် နာမည်ကျော်ကြား သွားရ လေသည် သာမက တစ်ခါတစ်ရံ လင်မယားကွဲရသည်အထိ ဖြစ်ကြရလေသည်။

၂၇။ ထိုသူမများကိုမေးကုန် သင်မတို့သည် ခင်ပွန်းသည်အား ဝတ်ကြီး ဝတ်ငယ် ပြုခြင်း၊ စိတ်ပျော်စေရန် အပြုအမူများ ပြုပါသလားဟု မေးကြည့်ချင်သည်၊ အလျဉ်း မပြုကြပေ၊ထိုသူမများအား ခင်ပွန်းတို့၏မကိုဋ်ရှင်၊ဘုရင်မများဖြစ်ကြသည်၊ ထိုသူမတို့၏ အမိန့်စကားမှာ ပျက်ပြုန်းခြင်းမရှိ လိုအင်ဆန္ဒမှာ ပြည့်ဝခြင်းမရှိ၊ ၎င်းခင်ပွန်းက မိမိ အလိုနှင့် အလုပ်တစ်ခုခုကိုပြုလုပ်လျှင် ရန်တွေ့ဆူပူလေတော့သည်။

၂၈။ အမျိုးသမီးတို့သည် ခင်ပွန်းသည် စိတ်အလိုကို မေးကြည့်ကြသည်၊ ၎င်း ခင်ပွန်းကလည်း ချစ်ဇနီးအား အယုံအကြည် ပြုထိုက်သည်ဟု ယူဆကာ စိတ်အတွင်း အကြောင်းများကို ပြောပြသည်၊ ထိုအခါ ၎င်းသူမတို့သည် ခင်ပွန်းသည်အပေါ် အနိုင် ကျင့်သည်၊ ခင်ပွန်း၏ဂုဏ်သရေကို ဖျက်ကြသည်၊ အမျိုးသမီးတိုင်းသည် ခင်ပွန်းများကို နိုင်ထက်စီးနင်းပြုရန်ဖိနပ်အောက်ထားရန်ကို အရေးတစ်ကြီးအဖြစ်ကြံစားကြလေသည်။

၂၉။ ဤသူမများသည် ခင်ပွန်း၏ သားချင်း၊ အစ်ကို၊ ညီ၊ အစ်မ၊ နှမ စသည် တို့ကို အလိုအလျောက် မုန်းတီးကြသည်၊ ထိုသူများနှင့် ရောနှောမနေစေရန်ခင်ပွန်းသည် ကို လုပ်ကြံလီဆယ်ပြီး ကုန်းချောသည်၊ အမြဲထာဝရ ဆက်ဆံမှု ပြတ်တောက်သွားအောင် ပြုကြသည်။

၃၀။ ဤသို့သော သူမများသည် ခင်ပွန်းကို ပစ်တိုင်းထောင်ပြု၍ နှာခေါင်းတွင် နဖားကြိုး တတ်ထားကြသည်၊ မိမိတို့စိတ်ကြိုက် ရပ်ဝေးမှာလည်း ခင်ပွန်း၏ နောက်သို့ အမြဲပမာ ကပ်၍လိုက်ကြသည်၊ မီးရထားစီးနင်းခြင်း၊ တိုင်းတစ်ပါးကို ကြည့်ရှုခြင်း အမျိုးမျိုးသော စည်းစိမ်များကို ခံယူကြသည်၊ ခင်ပွန်းသည်က အပျော်အပါးလိုက်၍ ငွေဖြုန်းသည်ဟု အကြောင်းပြကြသည်၊ ကိုယ်တိုင်လိုက်၍ စီမံပြီး ငွေများကိုသိမ်းယူ သည်၊ ခင်ပွန်းကို သက်သာစွာပင် အလုပ်မလုပ်ရပေ၊ လိုက်၍ပင် နှောင့်ယှက်ကြသည်၊ ပမာဆိုသော် အမျိုးသမီးများပင် လခစား လုပ်နေကြသည်၊ အမျိုးသမီးများက မူယာ မာယာတို့ဖြင့် အနိုင်ကျင့်သဖြင့် ခင်ပွန်းသည်တို့သည် ထိုသူမများ ကျော့ကွင်း၌ မိနေ ကြရသည်။

၃၁။ သားချင်းတို့တွင် သာရေးနာရေး၌ စုရုံးမိကြသောအခါ အချင်းချင်း ထိုင်၍ခင်ပွန်းသည်တို့သည် မကောင်းဟူ၍လုပ်ကြံဇာတ်ခင်းကာ မြိန်ရည်ရှက်ရည် ပြောဆိုကြသည်၊ ထိုစကားများကိုဇနီးတို့ကတဖန် ခင်ပွန်းသည်တို့အားပြောကြပြန်သည်၊ ခင်ပွန်းသည်တို့က သူငယ်ချင်း မိတ်ဆွေတို့တွင် ပြောပြရယ်မောကြသည်။ အချုပ်မှာ.... မပြောသင့်သော စကားများကိုလည်း ပြောဆိုကြပေသည်။

၃၂။ ဤသူမများသည် ခင်ပွန်းသည်တို့အတွက် မကောင်းသောတအိဝီးသ်များ ပြုကြသည်၊ သွားလာလှည့်ပတ်နေသောသူမများကိုခေါ်၍ခင်ပွန်းသည်အတွက်တအိဝီးသ် ယူလာရန်မှာသည်၊ အိမ်ရှိဆန်၊ ဂျုံမှုန့်၊ ပဲစသည်တို့ကို ယောကျ်ားမများမသိအောင်ပေးသည်၊ ကျွန်ုပ်သိရသည်မှာ အချို့အမျိုးသမီးများသည် ခင်ပွန်းသည်မှာ မည်မျှပင် ဇနီးစကားနာခံစေကာမူ ဇီးကွက်၏လျှာကို ရှာဖွေကြသည်။

၃၃။ ခင်ပွန်းများက မိမိတို့ဂုဏ်ကိုဖျက်၍ ဇနီးသည်တို့ကို ခေါင်းပေါ် တင်ထားကြသည်၊ အမှန်မှာငင်းတို့သည် ခင်ပွန်းသည်တို့နှင့်ခရီးလှည့်ရပြီး ရဲရင့်လာကြသည်၊ ခင်ပွန်း အကြောင်းကို သိလာပြီး၊ စိတ်အခန့်မသင့်သော အခါ ခင်ပွန်းကို ငေါက်ငမ်းသည်၊ ခင်ပွန်းက 'အားလုံးဟုတ်ပါသည်' ဟု ခေါင်းငုံ့ရသည်၊ သာမက ရယ်မော၍ အောက်ကျို့ကာ တောင်းပန်ရပေသေးသည်။

၃၄။ တင်ပြပါအချက်အလက်များသည် ဆင်းရဲသော ငင်းရွာနေ အမျိုးသမီးများတွင်အလွန်နည်းသည်၊ အဘယ့်ကြောင့်ဆိုသော် ထိုသူမများသည် ဤမျှအသိမရှိကြ၊ ငင်းအိမ်တွင်းလုပ်ငန်းများမှလည်းမအားလပ်ကြပေ၊ သာမက ထိုသူမများသည် စိတ်အေးလက်အေးပျော်ရွှင်စွာနေထိုင်ကြသည်၊ ငင်းအကြင်သူမများတွင်မာနရှိခြင်း၊ ပစ္စည်းရှိခြင်း လွမ်းမိုးလိုစိတ်၊ စည်းစိမ်သာယာမှုရှိပါက ငင်းတို့သည် အမျိုးမျိုးသောဆူပူရန်တွေ့မှုများကိုပြုကြသည်၊ အဘယ့်ကြောင့်ဆိုသော် ငင်းတို့တွင်အခြားလုပ်ကိုင်ဖို့ရန်မရှိ၍ ရန်တွေ့ဆူပူခြင်း မပြုပါက အဘယ်ကိုမျှ ပြုရန်မရှိကြပေ။

၃၅။ ဤသို့သော သူမများသည် ခေတ်ပညာတတ်များ ဖြစ်ကြလျှင် အများအားဖြင့် စာရိတ္တအကျင့်ပါပျက်ကြလေသည်၊ ယခုခေတ်တွင် အချို့တို့သည် အမျိုးသမီးများကို အမျိုးသားများနည်းတူ ခေတ်ပညာသင်ကြရမည်ဟု တိုက်တွန်းနေသည်၊ ထိုသို့ တံတိုက်ကျွမ်းလာသောအခါ စာရိတ္တပျက်ပြားကုန်ကြမည်၊ ထိုသို့ စာရိတ္တပျက်ပြားသည်မှာ ကျွန်ုပ် မျက်မြင်ကိုယ်တွေ့ ဖြစ်သည်။

၃၆။ အမျိုးသမီးတစ်ဦးသည်ခင်ပွန်းသည်အား 'ဟလာလ်' သန့်ပြန့်သောပစ္စည်းသာစားလိုသုံးလိုသည်ဟုဆုံးမခြင်းပြုလျှင်၊ ခင်ပွန်းသည်က ဘယ်သောအခါမှမသမာသောနည်းနှင့်ရှာဖွေခြင်း၊ ငင်းတံစိုးလက်ဆောင် လာဘ်ယူမည်မဟုတ်၊ သာမက အမျိုးသမီး

များသည် မသမာသောနည်းနှင့်ငွေရှာရန် တိုက်တွန်းကြသည်၊ ရှင်ကညာ့ဖျင်းသည်၊ မည်သူ မည်ဝါသည် ရှင်နှင့် လခအတူတူဖြစ်သော်လည်း ပစ္စည်းပစ္စယပေါများသည်၊ ငွေကြေး ဖေါင်းပွသည်ဟု မြှောက်ပင့်ကြသည်၊ အမျိုးသမီးတို့၏ လိုအင်ဆန္ဒကို လိုက်လျောယင်း ခင်ပွန်းသည်မှာ နောက်ဆုံး ထောင်ပင်ကျရလေသည်။

၃၇။ အမျိုးသမီးများသည်ရွှေငွေနှင့်ဇကာတ်ထိုက်သောပစ္စည်းများပိုင်ဆိုင်ကြ သော်လည်း ဇကာတ်သည် 'ဖွရ်သွ' မဖေးမနေရဖြစ်၍ မပေးလျှင် စစ်မေးခြင်းခံရမည်ကို ဂရုမစိုက်ကြ၊ အကယ်၍ ခင်ပွန်းကပေးရန်ပြောလျှင် အလျင်းနားမထောင်ကြ၊ ကျွန်မ စုထားသည်ကို လျော့အောင် ပြုသလားဟု ဆိုသည်၊ ခင်ပွန်းက ရှာဖွေလေလေ ထို သူမတို့မှာ အရနည်းသည် ထင်ကြသည်။

၃၈။ ခင်ပွန်း အချို့ကား ရပ်ဝေးတွင်နေ၍ အလုပ်လုပ်ကြသည်၊ အိမ်တွင် ကျန်ရစ်သော သူမများသည် လွတ်လပ်စွာနေ၍ စည်းစိမ်ခံလွန်းကြသည်၊ ခင်ပွန်းသည် အိမ်သို့ အလည်လာရောက်လျှင် ဝတ်ကြီး ဝတ်ငယ် ပြုရန် ၎င်းအချိန်နှင့် ထမင်းပူပူပင် မကျွေးလိုကြပေ၊ သာမက ခင်ပွန်းဆိုသည်မှာ ရပ်ဝေးမှာနေပြီး ငွေရှာရန်ဖြစ်သည်၊ အိမ်တွင်ထိုင်နေရန်မဟုတ်ဟု ဆိုကြပေသေးသည်။

၃၉။ ဝမ်းနည်းဖွယ်ကောင်းသည်မှာ ယခုခေတ်ရှိ အချို့အမျိုးသားများသည် ယောကျ်ားဂုဏ်အင်္ဂါနှင့် သိက္ခာမှာ ယခုခေတ်၏ အမျိုးသမီးများရှေ့တွင် ပျောက်ကွယ် သွားလေပြီ၊ ယောကျ်ားဖြစ်ပါလျက် စိတ်ဓါတ်နုသူများ ဖြစ်ကုန်ကြပေပြီ။

၄၀။ အကယ်၍ ဤသို့သော အမျိုးသမီးသည် စာတတ်ပါက ထိုသူမထံ တစ်ဦးဦးက တိတ်တိတ်ပုန်း ချစ်သဝဏ်လွှာ ပေးပါက ၎င်းသူမသည် စာမပြန်ဘဲ နေ မည်လော၊ အကယ်၍ စာမပြန်ဘဲနေပါကလည်း ထိုပေးစာကို ဂရုစိုက်၍ ဖတ်ပေမည်၊ အဆုံးတွင် စာပေး-စာယူ ပြုကြကာ မဖြစ်သင့်သည်များ ဖြစ်ကုန်ကြပေမည်။

၄၁။ ယခုခေတ်အခါသမယတွင် စာတတ်သော အမျိုးသမီးများသည် ဈေးမှ ဝတ္ထုစာအုပ်ကြီးများကို ဝယ်၍ နေ့-ည ဖတ်ကြသည်၊ ထိုဖတ်ချင်ဇောဖြင့် နေ့-ည ဝတ္ထု တစ်အုပ်အုပ် ရရေးအတွက် ကြိုးစားနေကြသည်။

## "တောင်းပန်လွှာ"

တင်ပြပါ "မှတ်စု" ကို မရေးမီ နိဒါန်းအနေဖြင့် 'သတိပေးချက်' ကို ရေးသားခဲ့ သည်၊ ထိုသတိပေးချက်ကို ပြန်လည်၍ ဖတ်စေလိုသည်၊ အကျဉ်းချုပ်မှာ....

نہ ہر زن زنست و نہ ہر مرد مرد ÷ خدا پنج انگشت یکساں نہ کرد

အဒိပ္ပါယ်.... မိန်းမတိုင်းသည် မိန်းမဆိုးများ မဟုတ်ကြ၊ ယောကျ်ားတိုင်းသည် ယောကျ်ားဆိုးများမဟုတ်ကြပေ၊ အလ္လာဟ်အသျှင်မြတ်သည် လက်ချောင်းများကို တစ်ခုနှင့်တစ်ခု အညီအမျှ ဖန်ဆင်းထားတော်မမူပေ။

ဤတွင်၍ကား ဘဟစ်ရှိတီ ဇေဝရ်ကျမ်း အဋ္ဌမတွဲ၏
ဒုတိယ နောက်ဆက်တွဲ ပြီး၏။

မုဟမ္မဒ် မူစာ [မဇ္ဇာဟေရီ]

# သတိပြုတော်မူပါရန်

ဤတွင် ဘဟစ်ရှိတီ ဇေဝရ်ကျမ်းမှာ ပထမတွဲ မှ အဋ္ဌမတွဲ ထိ ပြီးပေပြီ၊ ယခု နဝမတွဲနှင့်ဒသမတွဲ ရေးရန် ဖြစ်သော်လည်း ထိုနှစ်တွဲသည် ဆေးဝါးနှင့် စီးပွားရေးကဏ္ဍများ ဖြစ်သဖြင့် မလိုအပ်ဟု ယူဆကာ ချန် ထားခဲ့ပြီး၊ ကောဒသမတွဲကို ဆက်၍ ရေးမည် ဖြစ်ပါကြောင်း။

အကယ်၍ ဤကျမ်းကို နောက်တစ်ကြိမ် ထုတ်ဝေဖြစ်ခဲ့သော် အများဆန္ဒရှိပါက ထိုနှစ်တွဲကို 'အင်နှ်ရှာအလ္လာဟ်' ထည့်သွင်း ပေးပါမည်။

မုဟမ္မဒ် မူစာ (မဇ္ဇာဟေရီ)

# ဘဟာစ်ရှိတီဇေဝရ်ဂေါင်ဟာရ်ကျမ်း

## ဧကောဒသမတွဲ

بسم الله الرحمن الرحيم

باسمه تعالى حامدا ومصليا ومسلما

## နိဒါန်း [အသစ်]

ဤဘဟာစ်ရှိတီ ဂေါင်ဟာရ်သည်၊ သီးခြား ကျမ်းတစ်အုပ် မဟုတ်ပေ၊ သာမက မောင်လာနာ အဗ်ဒွရ်ရှကူရ် ဆွာဟိဗ်၏ 'အင်လ်မွလ်ဖွေကဟ်' ကျမ်းမှ ကောက်နုတ်ချက် ဖြစ်သည်၊ ဤသည်ကို နိဒါန်းအဟောင်းဖြင့် သိရပေသည်၊ သို့သော် ဤတစ်ကြိမ်တွင် အချို့ 'မတ်စ်အလဟ်'ပြဿနာများကို'အင်လ်မွလ်ဖွေကဟ်'ကျမ်းနှင့်တိုက်၍ စီစစ်ကြည့်ရာ 'မတ်စ်အလဟ်' အချို့ ကွဲလွဲနေသည်ကို တွေ့ရသည်၊ ထိုအခါ ဘဟာစ်ရှိတီ ဂေါင်ဟာရ် ကျမ်း၏ လက်ရေးစာမူကို မည်သို့ကွဲလွဲရသည်ကို သိရန် ရှာဖွေခဲ့သည်။ ကောက်နုတ်ချက် ရေးစဉ်က ကွဲလွဲခဲ့သလော့၊ သို့တည်းမဟုတ် နောက်ပိုင်းမှ စက်တင်ပုံနှိပ်သူများမှ မှား ယွင်းသလော့ဟု သိလိုခဲ့သည်၊ သို့သော်လည်း လက်ရေးစာမူမှာ မတွေ့ရတော့ပေ။

ထို့ပြင်လည်း မူရင်း 'အင်လ်မွလ်ဖွေကဟ်' ကျမ်းမှာပင် အချို့မတ်စ်အလဟ်များ သည် ဆန်းစစ်ရန်လိုခဲ့သည်ဟု တွေ့ရသည်၊ ထို့ကြောင့် ဘဟာစ်ရှိတီ ဂေါင်ဟာရ်ကျမ်းကို စ,ဆုံး ထပ်မံစစ်ကြည့်ရန် လိုအပ်လာခဲ့သည်၊ နောက်ဆုံး ကျွန်ုပ်၏ တိုက်တွန်းချက်အရ မောင်လာနာ အရှ်ရဖ် အလီ ထာနဝီ (ရဟမတွလ္လာဟ်) သခင်က မအားမလပ်ဘဲလျက် စ,ဆုံး စီစစ် ကြည့်ရှုတော်မူသည်၊ ဤကျမ်းတွင် သံသယ ဖြစ်သော 'မတ်စ်အလဟ်' များကို အမှတ်အသားပြု၍ ထားသည်၊ ထို့နောက် မောင်လာနာ အရှ်ရဖ်အလီ ထာနဝီ သခင်၏ စေခိုင်းချက် အရ ထိုအမှတ်အသား ပြုထားသော နေရာများရှိ 'မတ်စ်အလဟ်' များကို ဖွေကဟ် ကျမ်းကြီးများ နှင့် တိုက်ကြည့်ပြီး ပြင်ဆင်ရန် မောင်လာနာ ဇွဖွရ် အဟ်မဒ် ဆွာဟိဗ်ထံ သွားပို့ခဲ့သည်၊ သို့ရှိရာ မောင်လာနာကလည်း ဤကိစ္စကို ကြိုး

စား၍ ဆောင်ရွက်ခဲ့သည်၊ လိုအပ်သောအခါတွင် မောင်လာနာ အရှ်ရဖ်အလီ ထာနဝီ (ရဟာမှတွလ္လာဟ်)သခင်နှင့် တိုင်ပင်ခဲ့သည်၊ဤသို့ဖြင့် မှတ်သားထားသော'မတ်စ်အလဟ်' များကို မှန်အောင်ပြုပြင်ခဲ့သည်။ (အလ္လာဟ်အသျှင်မြတ် အစားပေးတော်မူပါစေ။)

ဤတစ်ကြိမ်တွင် ဘဟစ်ရှိတီဂေါ်ငါ်မာရ်ကျမ်းကို ကြည့်ခြင်းဖြင့် ကိုးကားချက်မပါသော မတ်စ်အလဟ်များစွာကိုတွေ့ရပေသည်၊ ထို့ကြောင့် မောင်လာနာ ဝစ္စီယ္ဒလ္လာဟ် နှင့် မောင်လာနာ အဗ်ဒွလ်ကရီးမ်ဆွာဟိဗ်တို့က ဂရုတစ်စိုက် စစ်ဆေးပြီး ဖွေ့ကဟ်ကျမ်း တော်များမှ ကိုးကားချက်များကို ထည့်သွင်းခဲ့သည်၊ ပထမကတည်းက ကျမ်းညွှန်းပါပြီး စာမျက်နှာနံပါတ် မပါသည်တို့ကို စာမျက်နှာရှာပြီး နံပါတ်များထည့်ခဲ့သည်၊ ကျမ်းကိုးကားချက် ထည့်သွင်းထားသော်လည်း ရှာဖွေသောအခါ မတွေ့ရလေသောနေရာတွင် အခြား ကျမ်းများမှ ရှာဖွေ၍ ကျမ်းညွှန်း ထည့်ခဲ့သည်၊ လိုအပ်သော နေရာများတွင် တိုင်ပင် ဆွေးနွေးပြီးနောက် စာသားများကိုလည်း ပြောင်းပစ်ခဲ့သည်။

အချုပ်မှာ.... ဤတစ်ကြိမ်တွင် ဤမျှ ပြင်ဆင်မှုများ ပြုရလေရာ၊ ဘဟစ်ရှိတီ ဂေါ်ဟရ်ကျမ်းကို အသစ်တဖန် ရေးသည်ကဲ့သို့ ဖြစ်သွားသည်၊ ၎င်းဘဟစ်ရှိတီ ဇေဝရ် ကျမ်းတွင် လိုတိုး-ပိုလျှော့ ပြုသည်ကို သိသာရန် 'ဟာရှိယဟ်' တွင် မှတ်ချက် ရေးခဲ့ သည်၊ သို့တစေ ဘဟစ်ရှိတီဂေါ်ငါ်ဟရ်ကျမ်းတွင် ပြောင်းလဲမှု များလေရာ၊ မှတ်ချက် ရေးမဖြစ်တော့ပေ၊ သာမိက အလျင် ထုတ်ဝေခဲ့သော ဘဟစ်ရှိတီဂေါ်ငါ်ဟရ် လက်ဝယ် ရှိသူများသည် ဤကျမ်းနှင့် တိုက်ယူ စစ်ဆေးကြည့်ကြစေလိုသည်၊ အဘယ့်ကြောင့် ဆိုသော် ဤထပ်မံထုတ်ဝေသောကျမ်း၏ မတ်စ်အလဟ်များသည် မှန်ကန်တိကျပြီး ယခင် ထုတ်ဝေသည့်ကျမ်းတွင် အချို့မတ်စ်အလဟ်ပြဿနာများမှာ မှားယွင်းလေသည်။

**တောင်းပန်ချက်။** ဘဟစ်ရှိတီဇေဝရ်ကျမ်း နှင့် ဂေါ်ငါ်ဟရ်ကျမ်းကို အထက်ပါ ပုဂ္ဂိုလ်များကဒုတိယမှိစစ်ဆေးကြည့်ရှုခဲ့ကြသည်၊မောင်လာနာ အရှ်ရဖ်အလီထာနဝီသခင်က ရိုးရိုးပင် အပေါ်ရိကကြည့်ရှုခဲ့သည်၊ထို့ကြောင့် လစ်ဟင်းမှု များပါလျှင်(ကျွန်ုပ်အနေနှင့်လစ်ဟင်းမှုတစ်ခုမှမပါစေရန်ကြိုးစားခဲ့သည်၊)ဤသည်ကို မောင်လာနာ အရှ်ရဖ်အလီထာနဝီသခင်၏ဘက်သို့ စပ်လျဉ်းခြင်းမပြုစေလို၊ ဟုတ်ပါ၏၊ အကယ်၍ အမှန်တိကျစွာသိလို၍ မေးလျှင်-မေးနိုင်သည်၊ သို့တစေ မေးခွန်းဖြင့် အမှန်ကို သိလို၍လော့၊ ရှုတ်ချပြစ်တင်လို၍လော့ ဟူသည်ကို သိသာနိုင်ပါသည်။

မောင်လာနာ မုဟမ္မဒ်ရှဖီးရ်အလီ။

## နိဒါန်း [အဟောင်း]

မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်အား ချီးမွမ်း ထောပနာ ပြုပြီး ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အပေါ် 'စွလဝါးတ်စလာမ်' ပို့ပါ၏၊ ဤ ဘဟစ်ရှိတီဂေါ်ငါ်ဟရ်ကျမ်းသည် ဘဟစ်ရှိတီဇေဝရ်ကျမ်း၏ နောက်ဆက်တွဲ ဖြစ်သည်။

အလျင် ၁၀-တွဲရေးခဲ့သည်၊အဆုံးတွင်ဤနောက်ဆက်တွဲ၏ အရေးကြီးပုံကိုဖေါ်ပြခဲ့သည်၊ သို့သော် အချိန်နည်းသောကြောင့် ဖွေကဟ်ကျမ်းကြီးများမှ ထုတ်မယူဘဲ၊ လခ်နော့င်မှ ထုတ်သော အင်လ်မွလ်ဖွေကဟ်ကျမ်းမှ ယူခဲ့သည်၊ များစွာသော နေရာများတွင် မူရင်းကျမ်းကို ညွှန်းခဲ့သည်၊ ဖတ်ရှု စိစစ်ပြီးနောက်ဆက်တွဲ နှင့် လျော်ညီအောင် (ဝါ) အမျိုးသားများအတွက် အရေးကြီးသော မတ်စ်အလဟ်များကို မူရင်းနှင့် ကူးယူခြင်းများဖြင့်၊ စုစည်းပေါင်းစပ်ခြင်းဖြင့် လုံလောက်သည်ဟုယူဆသည်၊ သို့ရာတွင်မူရင်းကျမ်းများဖြင့်၊ တိုက်ကြည့်သည်၊ စာမူနှင့်ကိုးကားချက် မှားယွင်းနေသည်တို့ကို မှန်အောင် ပြင်ဆင်ခဲ့သည်၊အချို့အချို့နေရာများတွင် လိုတိုး-ပိုလျော့များပြုခဲ့သည်၊ထို့ကြောင့်ဤစုပေါင်းချက်သည် မူရင်းနှင့် တူသည်ဟုလည်း ဆိုနိုင်သည်၊ မတူဟုလည်း ဆိုနိုင်ပေသည်။

၎င်းအရေးကြီးသော မတ်စ်အလဟ်များကို 'စွဖွာအိမို့အာမလာတ်'မှ ယူခဲ့သည်၊ သို့သော်လည်း အချို့ မတ်စ်အလဟ် များ ကျန်နေကောင်း ကျန်နေပေမည်၊ စာဖတ်သူများအနေဖြင့် မပါသေးသောမတ်စ်အလဟ်များကို မေးခွန်းအနေနှင့် ပို့ကြစေလိုသည်၊ နောက်တစ်ကြိမ် ထုတ်ဝေရာတွင် ထည့်သွင်းပေးမည်၊ အာလင်မ် ဓမ္မပညာရှင်များအနေနှင့်ကား လိုအပ်သော မတ်စ်အလဟ်များ ကျန်ရှိနေခဲ့သော် ဒသမတွဲ နောက်ဆက်တွဲပမာ ဤကျမ်း နောက်ဆုံးပိုင်းတွင် ထည့်သွင်းပေးကြစေလိုသည်၊ ဤနောက်ဆက်တွဲများတွင် မတ်စ်အလဟ်မျိုးစုံ အခန်းများပါဝင်သည်၊ တတိယတွဲ၏ နောက်ဆက်တွဲမှာ အများဆုံးဖြစ်သည်၊ ထို့ကြောင့် ဘဟစ်ရှိတီဇေဝရ်ကျမ်းတော် မည်သည့်အတွဲ၏ နောက်ဆက်တွဲဖြစ်ကြောင်းကိုသိသာရန် စာလုံးမဲဖြင့်ရေးကာ၊ ဆုံးလျှင် မည်သည့်အတွဲ၏နောက်ဆက်တွဲဆုံးသွားကြောင်းကို ရေးသားထားသည်၊ သို့ရှိရာ လွယ်ကူသော အကျိုးသက်ရောက်သောအချက်မှာ ကလေး-လူကြီးတို့သည် ဤကျမ်းကို ဖတ်လျှင်၊ သင်ပြပေးလျှင် ၎င်းအတွဲနောက်ဆက်တွဲ ဤကျမ်းတွင် ရေးသားထားသည်ကို ဖတ်ပြီးမှ အခြားအတွဲကို ဆက်၍ဖတ်စေလိုသည်၊ ဤသို့ပင် နောက်အတွဲများကိုလည်း ဖတ်ကြစေလိုသည်။

မောင်လာနာ အဍ်ရှရဖ် အလီ ထာနဝီ။

## ဘဟစ်ရှိတီ ဇေဝရ်ကျမ်း ပထမတွဲ၏ နောက်ဆက်တွဲ အရေးကြီးသော အသုံးအနှုန်းများအကြောင်း

သိမှတ်ထားကြရမည်မှာ 'ဇန္နတ်' လူသားများ၏ ပြုမူချက်နှင့် 'အမလ်' များတွင် အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်မှာ (၈)မျိုးရှိသည်၊ (၁)ဖွရ်သွ်၊ (၂)ဝါဂျစ်ဗ်၊ (၃)စွန္နတ်၊ (၄)မွတ်စ်တဟဗ်၊ (၅)ဟရာမ်၊ (၆)မတ်ကရူးဟ်တဟ်ရီမီ၊ (၇)မတ်ကရူးဟ်တန်ဇီဟီ၊ (၈)မိုဗာဟ်။

၁။ 'ဖွရ်သွ'သည် ဒလီးလ်ကတွ အီနှင့် အတည်ဖြစ်သောအရာကိုခေါ်ဆိုသည်၊ အ္ဒသ်ရ် ခွင့်မရှိဘဲ ဖွရ်သွကို လွှတ်သူသည် ဖွာစစ်က် ၎င်းအသာဗ်ပြစ်ဒဏ်ထိုက်သက်သူဖြစ်သည်၊ ဖွရ်သွကို ငြင်းပယ်သူသည် 'ကာဖွင်ရ်'ဖြစ်သည်။

(ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၇)

ဖွရ်သွနှစ်မျိုးရှိသည်(၁)ဖွရ်သွအိုင်န်၊ (၂)ဖွရ်သွကေဖွာယဟ်။ ဖွရ်သွအိုင်န်သည် အားလုံးအပေါ်လိုက်နာရန် အရေးကြီးသောအချက်ကိုခေါ်ဆိုသည်၊ ၎င်းအကြွင်သူတစ်ဦးတစ်ယောက်သည် 'အ္ဒသ်ရ်'ခွင့်မရှိဘဲလွှတ်လျှင်၊ ထိုသူသည် အသာဗ်ပြစ်ဒဏ်ထိုက်သက်သူ၊ ၎င်း 'ဖွာစစ်က်' ဖြစ်သည်။ ဥပမာ.... နမာဇ်ငါးကြိမ်၊ ဂျု့မို့အဟ် နမာဇ် စသည်များ။ဖွရ်သွကေဖွာယဟ်သည်အားလုံးအပေါ်အရေးမကြီးပေ၊သာမကလူအချို့လိုက်နာဆောက်တည်ခြင်းဖြင့် အခြားသူများအပေါ်မှ တာဝန်ကျသွားသည်၊ အကယ်၍သိလျက် တာဝန်ချ, လိုက်နာသူမရှိလျှင် အားလုံး'ဂိုနာဟ်ဂါရ်' ပြစ်ဒဏ်သင့်သူများ ဖြစ်ကြသည်။ ဥပမာ.... ဂျနာဇဟ် နမာဇ် စသည်များ။

(ရှာမီကျမ်း အတွဲ-၁၊စာမျက်နှာ-၉၀၆၊၉၀၇)

၂။ 'ဝါဂျစ်ဗ်'သည် ဒလီးလ်ဇွာန်နီဖြင့် အတည်ဖြစ်သော အရာကို ခေါ်ဆိုသည်၊ အ္ဒသ်ရ် ခွင့်မရှိဘဲ ဒ္ဒိဟာသံသယမရှိဘဲ လိုရာဆွဲခြင်းမပြုဘဲ လွှတ်သူသည် အသာဗ်ပြစ်ဒဏ်ထိုက်သူ ၎င်း'ဖွာစစ်က်' လူဆိုးဖြစ်သည်၊ အကယ်၍ ငြင်းပယ်လျှင် ဖွာစစ်က်ဖြစ်သည်၊ ကာဖွင်ရ်ကား မဖြစ်ပေ။ (ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၇)

၃။ စွန္နတ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ၎င်းဆွဟာဗဟ် (ရသေ့)သခင်များက ပြုမူခဲ့ကြသည်ကို ခေါ်ဆိုသည်၊ စွန္နတ်သည် နှစ်မျိုးရှိလေသည်၊ ၁။ စွန္နတ်မို့အတ်ကဒဟ်၊ ၂။ စွန္နတ်ဂိုင်ရ်မို့အတ်ကဒဟ်။ စွန္နတ်မို့အတ်ကဒဟ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ၎င်းဆွဟာဗဟ် (ရသေ့) သခင်များက အမြဲထာဝရပြုမူကြသည်၊ အ္ဒသ်ရ်ခွင့်မရှိဘဲ ဘယ်သောအခါမှမလွှတ်ကြ၊ စွန့်လွှတ်သူကိုလည်း ခေါက်ငမ်းခြင်း၊ သတိပေးခြင်း မပြုကြသည်ကို ခေါ်ဆိုသည်၊ ထိုအရာ၏ အမိန့်သည် 'အမလ်'အားဖြင့် ဝါဂျစ်ဗ်ပင်ဖြစ်သည်။ ဆိုလိုသည်မှာ.... အ္ဒသ်ရ် ခွင့်မရှိဘဲ လွှတ်သူ၊ ၎င်းစွန့်လွှတ်လေ့ရှိသူသည် 'ဖွာစစ်က်' ၎င်း အသာဗ် ပြစ်ဒဏ် ထိုက်သက်သူ ဖြစ်သည်၊ ၎င်း ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ 'ရှဖွာအတ်' လွှတ်ငြိမ်း ချမ်းသာ ခွင့်တောင်းပေးမှု ရမည်မဟုတ်ပေ၊ ရှဖွာအတ် မရဆိုသည်မှာ ဂိုနာဟ်ဂါရ်များ အတွက်ပြုပေးမည့် ရှဖွာအတ်ကိုမဆိုလို၊ သာမက စွန္နတ်တော်ကို လိုက်နာသည့်အတွက် ရရှိသည့် အကျိုးအမြတ် ရှဖွာအတ်ကို ဆိုလိုသည်။ (ရှာမီကျမ်းအတွဲ-၅၊စာမျက်နှာ-၃၃၀)

ဟတ်ပါ၏၊ အကယ်၍တစ်ခါတစ်ရံလွှတ်သွားလျှင် ကိစ္စမရှိပေ၊ သို့သော် ဝါဂျစ်ဗ်ကိုလွှတ်ခြင်းသည် ဤသည် မို့အတ်ကဒဟ်ကို လွှတ်ခြင်းထက် ပို၍ အပြစ်ကြီးလေသည်၊ စွန္နတ်ဂိုင်ရ်မို့အတ်ကဒဟ်သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ၎င်းဆွဟာဗဟ် (ရသေ့)သခင်များကပြုမူကြသည်၊ ၎င်းအ္ဒသ်ရ်ခွင့်မရှိဘဲနှင့်လည်း တစ်ခါတစ်ရံစွန့်လွှတ်

ကြသည်ကို ခေါ်ဆိုသည်၊ ဤသည်ကို ပြုမူဆောက်တည်လျှင် ကုသိုလ်'သ၀ါဗ်'ရသည်၊ လွှတ်သူသည် 'အသာဗ်'ပြစ်ဒဏ်မသင့်ပေ၊ ဤသည်ကို စွန္နတ်ဇာအေ့ဒဟ် ၎င်း စွန္နတ်အာဒိယဟ်ဟုလည်း ခေါ်ဆိုကြသည်။

(ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၀၆။ အတွဲ-၅၊ စာမျက်နှာ-၃၇၃)

၄။ မွတ်စ်တဟာဗ်သည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် ၎င်းဆွဟာဗဟ်(ရုံသွ)သခင်များက ပြုခဲ့သည်၊ သို့ရာတွင် အမြဲမဟုတ် တစ်ခါတစ်ရံပြုသည်၊ အများအားဖြင့် ပြုသည်ကိုခေါ်ဆိုသည်၊ ဤသည်ကိုလိုက်နာပြုမူလျှင် သ၀ါဗ် ကုသိုလ်ရသည်၊ မပြုသူသည် ဂိုနာဟ်ပြစ်ဒဏ်မသင့်ပေ၊ ဤသည်ကို ဖွေကဟ်ကျမ်းရှင်များက နဖ်လ်မန်ဒူးဗ်နှင့် တတောင်ဝွအ်ဟုလည်း ခေါ်ဆိုကြသည်။ (ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၉၁)

၅။ 'ဟရာမ်'သည် ဒလီးလ်ကတ္တ`အီဖြင့် အတည်ဖြစ်သည်ကို ခေါ်ဆိုသည်။ ဟရာမ်ကိုငြင်းပယ်သူသည် ကာဖွင်ရ်ဖြစ်သည်၊ အုဇ္ဇင်ရ် အခွင့်မရှိဘဲ ကျူးလွန်သူသည် ဖွာစစ်က် ၎င်းဂိုနာဟ်ပြစ်ဒဏ် ထိုက်သက်သူဖြစ်သည်။

(ရှာမီကျမ်းအတွဲ-၅၊ စာမျက်နှာ-၃၃၀)

၆။ 'မတ်က်ရူးဟ် တဟ်ရီမီ' သည် ဒလီးလ် ဇွာန်နီဖြင့် အတည် ဖြစ်သည်ကို ခေါ်ဆိုသည်၊ ဤသည်ကို ငြင်းပယ်သူသည် ၀ါဂျစ်ဗ်ကို ပယ်သူကဲ့သို့ ဖွာစစ်က် ဖြစ်သည်၊ အုဇ္ဇင်ရ် ခွင့်မရှိဘဲ လွှတ်သူသည် ဂိုနာဟ်ဂါရ် ၎င်းအသာဗ်ပြစ်ဒဏ် ထိုက်သက်သူဖြစ်သည်။ (ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၃၀)

၇။ 'မတ်က်ရူးဟ်တန်ဇီဟီ'သည် မပြုမူလျှင် သ၀ါဗ် ကုသိုလ်ရသည်၊ ပြုလျှင် အသာဗ်ပြစ်ဒဏ်မထိုက်သည်ကို ခေါ်ဆိုသည်။ (ရှာမီကျမ်းအတွဲ-၅၊ စာမျက်နှာ-၃၂၉)

၈။ 'မို့ဗာဟ်'သည် ပြုလျှင် သ၀ါဗ် ကုသိုလ်မရ၊ မပြုလျှင်လည်း အသာဗ်ပြစ်ဒဏ်မသင့်သည်ကိုခေါ်ဆိုသည်။ (ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၂၉)

## ကိုယ်လက် သန့်ပြန့်ခြင်း အကြောင်း

### ရေသုံးစွဲသော ပြဿနာချက်များ

၁။ မတ်စ်အလဟ် ပြဿနာ။ ဤသို့သောရေကို သုံးစွဲခြင်း၊ အကြင် ရေတွင် သုံးမျိုးသော အရသာ၊ အနံ့၊ အရောင်သည် မသန့်ကြောင့် ပြောင်းလဲနေလျှင် ထိုကဲ့သို့ ရေကို မည်သို့မျှသုံးပိုင်ခွင့်မရှိ၊ တိရစ္ဆာန်များကိုလည်း တိုက်ကျွေးခြင်းမပြုရ၊ မြေ စသည်တွင်ထည့်၍နယ်ကာ အိုးခွက်စသည်များမပြုရ၊ ၎င်းအကယ်၍ သုံးမျိုးစလုံးမပြောင်းလဲမူ ထိုရေကို တိရစ္ဆာန်များကို တိုက်နိုင်သည်၊ မြေစသည်တွင်ထည့်၍ အိုးခွက်များပြုနိုင်သည်၊ အိမ်မှာလည်း ပက်ဖြန်းနိုင်သည်၊ သို့သော် ဤသို့ရေဖြင့်နယ်ထားသောပစ္စည်းကို ဗလီ၀တ်ကျောင်းတော်၌ သုတ်လိမ်းခြင်း၊ ကြန်ခြင်းများ မပြုရပေ။

(အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄)

၂။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်ပိုင်မဟုတ်သောမြစ်၊ မြောင်း၊ အိုင် ၎င်းဝပ်ကဲ့ဖိုလ်ထားသောရေတွင်း၏ရေများကို လူအများသုံးစွဲနိုင်ကြသည်၊ မည်သူမည်ဝါကို ထိုရေများ မသုံးစွဲရဟု မည်သူ တစ်ဦးတစ်ယောက်မှ တားမြစ်ပိုင်ခွင့်မရှိပေ၊ အများသူတို့ ဒုက္ခရောက်လောက်အောင်လည်း မသုံးစွဲရ၊ ဥပမာ တစ်ဦးသောသူသည် မြစ်၊ အိုင်မှ မြောင်းတူး၍ ရေယူလေရာ မြစ်၊ အိုင်မှာ ခြောက်သွေ့သွားသော် ၎င်းရွာနှင့် ကိုယ်ပိုင်မြေများ ရေနစ်မည်ကို စိုးရိမ်ရသော် ဤသို့ ကိုယ်ကျိုးအတွက် သုံးစွဲခြင်းမပိုင်ပေ၊ ၎င်းမည်သူမဆို ဤမတရားသော သုံးစွဲနည်းကို တားမြစ်ပိုင်ခွင့်ရှိလေသည်။

(တန္ဝီရွလ်အဗ်စွာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၅၇)
(ရှာမီကျမ်း အတွဲ-၅၊ စာမျက်နှာ-၃၀၇)

၃။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦး တစ်ယောက် ပိုင်မြေ၌ ရေတွင်း၊ စမ်းရေကန်၊ မြောင်းရှိမူ အခြားသူများအား ရေသောက်ခြင်း၊ ၎င်းတိရစ္ဆာန်များကို ရေတိုက်ခြင်း၊ ဝိုသူ ရေသန့်စင်ခြင်း၊ ဂွတ်စ်လ် ရေချိုးခြင်း၊ ဖွတ်လျှော်ရန်အတွက် ရေယူခြင်း၊ အိုးနှင့်ရေယူပြီး အိမ်ရှိသစ်ပင်များကိုလောင်း၍ ရေဘေးမြောစီး ပြုခြင်းများမှ တားမြစ်ပိုင်ခွင့်မရှိပေ၊ သို့သော် အကယ်၍ တိရစ္ဆာန်များ များပြားလွန်းသောကြောင့် ရေခမ်းသွားမည်ကိုစိုးရလျှင် မြောင်း စသည် ပျက်စီးမည်ကိုစိုးရသော် တားမြစ်နိုင်သည်၊ ၎င်းအကယ်၍ မိမိပိုင်မြေပေါ်တွင် မလာရန် တားမြစ်မူ ကြည့်ရမည်မှာ—

ရေယူလိုသူသည် အခြားနေရာမှ လွယ်လင့်တစ်ကူ ရနိုင်လျှင် ဥပမာ အခြား ရေတွင်း စသည်မှာ 'ရှရီအတ်' ၏ မိုင်တစ်မိုင်အတွင်း၌ရှိလျှင် ၎င်းထိုရေတွင်း စသည်မှာ မည်သူပိုင်မြေ၌ မဟုတ်သော် ၎င်း ရေမရလျှင် ၎င်း၏ အလုပ်မှာ ရပ်စဲသွားမည်၊ ဒုက္ခရောက်မည်၊ အကယ်၍ ထိုရေရရေးမှာ အခြားနေရာမှရနိုင်လျှင် ကောင်းပေစွ၊ သို့တည်းမဟုတ် မရနိုင်ပါက ရေတွင်းပိုင်ရှင်အား ၎င်းသူကို ရေတွင်း၊ မြောင်း စသည်ကို မပျက်စီးအောင် ဂရုစိုက်၍ခတ်ပါမည်၊ တိုက်ပါဟု ကတိယူ၍ ရေသုံးခွင့် ပြုရမည်၊ ဤသို့လည်း ပိုင်ရှင်ကခွင့်မပြုလိုသော် ထိုသူလိုအပ်သည်ခန့် ကိုယ်တိုင်သော်လည်းကောင်း၊ အခြားသူမှ သော်လည်းကောင်း ရေငင်ပြီးပေးရမည်၊ သို့ရာတွင် မိမိပိုင် လယ်မြေ၊ ဥယျာဉ်ကို ရေပေးလိုမူ ရေတွင်း စသည်၏ ပိုင်ရှင်သဘောမတူဘဲ ရေယူပိုင်ခွင့်မရှိ၊ ပိုင်ရှင်က ယူသူကို မယူရန် တားမြစ်နိုင်သည်။

အလိုအလျောက် ပေါက်ရောက်သော မြက်များလည်း ဤအမိန့်အတိုင်းပင်ဖြစ်သည်၊ ပင်လုံးမရှိသော အပင်အားလုံးသည် မြက်ကဲ့သို့ပင် ဖြစ်သည်၊ သို့သော် ပင်လုံးရှိသော အပင်များကို မြေရှင်ကသာ ပိုင်ဆိုင်လေသည်။

(ဘဲဟ်ရွရ်ရာအစ်က်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၄၇)
(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၃၅၇)
(ဇိုင်လအီကျမ်း အတွဲ-၆၊ စာမျက်နှာ-၄၄၀)

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် အခြားတစ်ဦး၏ ရေတွင်း, ရေမြောင်းမှ မိမိလယ်မြေကို ရေပေးလိုလျှင် ၎င်းထိုရေတွင်း, ရေမြောင်း ပိုင်ရှင်က အခကြေးငွေယူမှု ပိုင်ပါသလား၊ ဤကိစ္စတွင်ကွဲလွဲမှုရှိသည်၊ ဗလခ်၏ မရှာအစ်ခ် အာလင်မ်များက အခယူပိုင်သည်ဟု 'ဖွာတ်ဝါ' ပေးထားကြသည်။

(ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၅၀။)

(ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၉၅)

၅။ မတ်စ်အလဟ်ပြဿနာ။ မြစ်, ရေအိုင်, ရေတွင်း စသည်မှ တစ်ဦးသောသူ သည် မိမိအိုးခွက်, ရေအိုး, ရေသားရေအိတ်ပုံးကဲ့သို့ဖြင့် ရေဖြည့်ယူလာမှုထိုရေကို ၎င်းယူ လာသူက ပိုင်ဆိုင်လေသည်၊ ထိုယူလာသောရေကို ၎င်းသူခွင့်မပြုဘဲ မည်သူမှသုံးပိုင်ခွင့်မရှိ သို့သော် အကယ်၍ ရေငတ်မွတ်သဖြင့် မချိမဆန့်ဖြစ်နေမှု ရေရှင်မှာလည်း လိုအပ်သည် ထက်ပိုနေပါက အခမဲ့ယူ၍ သောက်သုံးနိုင်သည်၊ သို့သော် ထိုရေအတွက် အဖိုးငွေပေး ရမည်။

(ဇိုင်လဒ်ဂီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၄၀)

(ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၃၉၀)

၆။ မတ်စ်အလဟ်ပြဿနာ။ လူတို့သောက် ရန် အတွက် ရေ အိုး တည် ထားမှု နွေရာသီ၌ လမ်းများတွင် ရေအိုးတည်လေ့ရှိကြသည်၊ ထိုရေဖြင့် ဝိုသွူ ရေသန့်စင်ခြင်းနှင့် ဂွတ်စ်လ်ရေချိုးခြင်းမပြုပိုင်၊ ဟုတ်ပါ၏ အကယ်၍ရေမှာများလျှင်ကိစ္စမရှိပေ၊ ၎င်းဝိုသွူပြု သန့်စင်ရန်အတွက် ထားသောရေကို သောက်ပိုင်ခွင့်ရှိသည်။

(ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၅။)

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေတွင်း၌ သိုး, ဆိတ်တို့၏ ချေးတစ်လုံး နှစ်လုံး ရေတွင်းထဲသို့ကျပြီး အကောင်းတိုင်း ပြန်၍ဆယ်ယူရရှိသော် ရေတွင်းမသန့် မဖြစ်ပေ၊ ထိုရေတွင်းသည် တောမှဖြစ်စေ၊ ရွာမှဖြစ်စေ ၎င်းရေသည် 'စေးရ်'လေးဆယ် (၃၂-ပိဿာခန့်)ရှိသည်ဖြစ်စေ ထိုမျှမရှိသည်ဖြစ်စေ အတူတူပင်ဖြစ်သည်။

(မွန်ယဟ်ကျမ်း စာမျက်နှာ-၄၅။)

# အချို့သော သန့်မသန့် မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ နွားဖြင့် သီးနှံနယ်သောအခါ အကယ်၍ နွားက သီးနှံအပေါ် သေးပေါက်လိုက်လျှင် မရှောင်သာသဖြင့် ကင်းလွတ်ခွင့်ရသည်၊ ဆိုလို သည်မှာ သီးနှံအည် မသန့်မဖြစ်ပေ၊ ၎င်းအကယ်၍ ထိုသို့နယ်သည်မဟုတ်ဘဲ သေးပေါက် ခဲ့သော် မရှောင်သာသော အချိန်မဟုတ်သဖြင့် မသန့်ဖြစ်သွားလေသည်။

(အာလမ်ဂီရိကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၄။)

၂။ မတ်စ်အလဟ်ပြဿနာ။ ကာဖွင်ရ်များက စားသောက်ရန် ချက်ပြုတ်သော အရာများ၊ ၎င်းထိုသို့ပင် ထိုကာဖွင်ရ်တို့၏ အိုး,ခွက်,အဝတ်အထည်စသည်များကိုမသန့်ဟု မဆိုနိုင်၊ ထိုအရာများ၏ မသန့်ဖြစ်ခြင်းကို အထောက်အထား၊ ၎င်းအရိပ်နိမိတ်ဖြင့် သိရမှသာ မသန့်ဟု ဆိုနိုင်သည်။ (အာလမ်ဂီရီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၄၇။)

၃။ မတ်စ်အလဟ်ပြဿနာ။ အချို့သူတို့သည် ကျားစသည်၏ အဆီကို သုံးစွဲကြသည်၊ ၎င်းသန့်သည်ဟုံ ယူဆကြသည်၊ ဤသို့ယူဆကြခြင်းသည်မှားသည်၊ ဟုတ်ပါ၏ အကယ်၍ အစ္စလာမ် သာသနာတော်ကို လိုက်စားဆောက်တည်သော သမားတော်က ဖြစ်ပေါ်နေသော ရောဂါမှာ ဤအဆီအပြင် အခြားဆေးမရှိတော့ဟုဆိုလျှင် အချို့အာလင်မ်များထံတွင် သုံးပိုင်ခွင့်ရှိသည်၊ သို့သော် 'နမာဇ်' ဝတ်ပြုသောအချိန်တွင် ဆေးကြောပစ်ရန် အရေးကြီးသည်။ (ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၈။)
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၁၉၄။)

၄။ မတ်စ်အလဟ်ပြဿနာ။ လမ်းတွင်ရှိသော ရွှံ့နှင့် မသန့်သော ရေသည် ကင်းလွတ်ခွင့်ရှိသည်၊ သို့သော် ကိုယ်နှင့်အဝတ်များတွင် မသန့်စွန်းထင်မနေစေရ၊ ဤသည် အပေါ် 'ဖွာတ်ဝါ'ရှိသည်၊ 'အဲဟ်တေယာတ္တ' ရှောင်ကြဉ်သင့်သည်မှာ အကြင်သူသည် ဈေးနှင့် လမ်းများတွင် အသွားအလာ မများသော် ရွှံ့ရေထိခြင်းဖြင့် မသန့်စွန်းထင်ခြင်း မရှိသော်လည်း ကိုယ်နှင့်အဝတ်ကို သန့်ရှင်းအောင် ဆေးကြောပစ်ရမည်။
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၉၉။)

၅။ မတ်စ်အလဟ်ပြဿနာ။ နဂျာစတ် မသန့်သောအရာကို မီးရှို့မှုထွက်သော မီးခိုးမှာ သန့်သည်၊ အကယ်၍ မီးခိုးမှာစု၍ခဲသွားလျှင် ၎င်းထိုအရာဖြင့် တစ်ခုခု ပြုလုပ်ပါက သန့်သည်၊ ဥပမာ 'နော်ရှာဒရ်' (ဖုန်းမသေ) ရွှေ,ငွေကို အရည်ပျော်စေသော ဆားတစ်မျိုးဖြစ်သည်၊ ဤသည်ကို မသန့်၏မီးခိုးဖြင့် ပြုလုပ်ကြသည်။
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၀၀။)

၆။ မတ်စ်အလဟ်ပြဿနာ။ နဂျာစတ် မသန့်အပေါ်တွင် မြူမှုန်စသည်တင်နေသော ထိုမြူမှုန် စသည်မှာ သန့်သည်၊ သို့သော်မသန့်၏ စိုထိုင်းမှုက ထိုမြူမှုန် စသည်ကို စွတ်စိုမသွားစေရ၊ စွတ်စိုသွားခဲ့သော် မသန့်ပင်ဖြစ်သည်။
(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၅။)
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၀၀။)

၇။ မတ်စ်အလဟ်ပြဿနာ။ နဂျာစတ်,မသန့်များမှအခိုးထွက်လျှင်ထိုအခိုးသည် သန့်သည်၊သစ်သီးဝလံ စသည်များတွင်ပိုးဝင်ပါကထိုးပိုးသည်သန့်သည်၊သို့သော် အသက်ဝင်နေပါက စားခြင်းမပိုင်၊ ၎င်းရေသဖန်းသီးဆံ စသည့် သစ်သီးများ၏ ပိုးများလည်း ဤအမိန့်အတိုင်းပင်ဖြစ်သည်။
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ- ၂၂၃၊ ၂၆၇၊ ၂၉၉။)

၇။ မတ်စ်အလဟ်ပြဿနာ။ စားဖွယ်၊ ပစ္စည်းများသည် သိုးသွားလျှင်ငင်းအနံ့ထွက်လာလျှင်မသန့်မဖြစ်ပေ၊ ဥပမာ အသား၊ ဟလ်ဝါ စသည်များ၊ အို့ရာတွင် ဆုံရှုံးဝေဒနာဖြစ်မည်ကို စိုးရသောကြောင့် စားပိုင်ခွင့် မရှိပေ။

(ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၂၃၊ ၂၆၇၊ ၂၉၉။)

၉။ မတ်စ်အလဟ်ပြဿနာ။ ကတိုး နှင့် ကတိုးအလုံးမှာ သန့်သည်၊ ဤသို့ပင် အို့ဘ စသည်များလည်း သန့်သည်။ (ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ- ၁၉၃။)

၁၀။ မတ်စ်အလဟ်ပြဿနာ။ အိပ်နေသောအခါတွင် လူ၏ပါးစပ်မှ ထွက်သောအာရေသည်သန့်သည်။ (အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄။)

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဟလာလ် စားပိုင်သော တိရစ္ဆာန်၏ ပုတ်နေသောဥသည် ကွဲမနေပါက သန့်သည်။ (အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၁။)

၁၂။ မတ်စ်အလဟ်ပြဿနာ။ မြွေရေ လဲထားသောအရေသည် သန့်သည်။

(အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၆။)

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကြင် ရေဖြင့် မသန့်သော အရာကို ဆေးကြောလျှင် ထိုဆေးကြောပြီး ရေသည် မသန့်ပင်ဖြစ်သည်၊ ထိုရေသည် ပထမအကြိမ်၊ ၎င်းဒုတိယအကြိမ်၊ ၎င်းတတိယအကြိမ် ဖြစ်သော်လည်း အတူတူပင် ဖြစ်သည်၊ သို့သော် ထိုရေများတွင် ဤမျှ ခြားနားချက်ရှိသည်၊ အကယ်၍ ပထမအကြိမ်ရေသည် အဝတ်တွင် လူးထိမူ ထိုအဝတ်သည် သုံးကြိမ်ဆေးကြောမှသာ သန့်မည်၊ ၎င်းအကယ်၍ ဒုတိယအကြိမ်ရေထိမူ နှစ်ကြိမ် ဆေးကြောမှ သန့်မည်၊ ၎င်းအကယ်၍ တတိယအကြိမ်ရေလူးထိမူတစ်ကြိမ်ဆေးကြောပစ်လျှင် သန့်လေသည်။ (အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၁။)

၁၄။ မတ်စ်အလဟ်ပြဿနာ။ သေသူကို ချိုးပြီးရေသည် မသန့်ဖြစ်သည်။

(အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ- ၂၃၊၄၆)

၁၅။ မတ်စ်အလဟ်ပြဿနာ။ မြေနှင့် ဆက်တွဲလျက်ရှိသော မြေရေသည် မသန့်ဖြစ်သည်၊ အပေါ်မှလဲပြီး ရေပါးသည် သန့်သည်။

(အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ- ၄၆။)

၁၆။ မတ်စ်အလဟ်ပြဿနာ။ သေသူ၏ပါးစပ်မှလျှာရည်သည် မသန့်ဖြစ်သည်။

(အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၆။)

၁၇။ မတ်စ်အလဟ်ပြဿနာ။ အဝတ်စ ပိုင်းတွင် ကင်းလွတ်ခွင့် ရသည်အခန့်လူးထိလျှင် ၎င်းမသန့်သည် အခြားဘက်သို့လည်း ပြန့်သွားသော် ၎င်းဘက်ဟူသမျှရှိမသန့်သည် သတ်မှတ်ထားသည်ထက် လျော့နေသည်၊ သို့သော် နှစ်ရပ်ပေါင်းမသန့်မှာ သတ်မှတ်ထားသည်ထက်ပိုမူ လျော့နည်းသည်ဟုပင် ယူဆရမည်၊ ၎င်းကင်းလွတ်ခွင့်ရသည်

ဟုတ်ပါ၏၊ အကယ်၍ အဝတ်သည် နှစ်ထပ်ဖြစ်လျှင်၊ ၎င်းအဝတ်နှစ်စကို ပေါင်းလျှင် သတ်မှတ်သည်ထက် ပို သွား သော် များသည်ဟု ယူဆရမည်၊ ၎င်း ကင်း လွတ် ခွင့် မရပေ။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၉၂။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၄။

၁၈။ မတ်စ်အလဟ်ပြဿနာ။ နို့ညှစ်သောအခါ၊ သိုး၊ ဆိတ် ချေးတစ်လုံး နှစ်လုံးကျသွားလျှင်၊ သို့မဟုတ် ထိုတစ်လုံးနှစ်လုံးခန့် နောက်ချေးကျသွားလျှင် ကင်းလွတ် ရသည်၊ မသန့်မဖြစ်၊ သို့သော် ကျကျချင်း ဆယ်ယူမှုပြုရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၈။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၄၀။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ၄-၅နှစ် ကလေးသည်'ဝိုဇူ'မပြုတတ်ဘဲ၊ဝိုဇူ ပြုလျှင်၊ ၎င်းစိတ်မန္တသူ၏ 'ဝိုဇူ'ပြုပြီးရေသည် 'မွတ်စ်တအ်မလ်' သုံးပြီးရေ မဟုတ်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၃။

၂၀။ မတ်စ်အလဟ်ပြဿနာ။ သန့် ပြန့် သော အဝတ် အထည် အိုးခွက်နှင့် အခြားသော သန့်နေသည့် အရာများကိုဆေးပြီးရေဖြင့် ဝိုဇူ နှင့် ဂွတ်စ်လ် ပြုနိုင်သည်၊ သို့သော်ရေသည်ပစ်ချုံနေခြင်းမရှိစေရ၊အခေါ်အဝေါ်မှာထိုရေကို မာအေ့မွတ္တလပ်က် ရိုးရိုးရေဟုခေါ်သည်၊ ၎င်းအကယ်၍ အိုးခွက်စသည်တွင် စားသောက်ဖွယ်များလူးပေနေ ပါက ဝိုဇူနှင့်ဂွတ်စ်လ်ပိုင်ရန် 'ရှရတ္တ'နည်းလမ်းမှာ ရေ၏အမိန့် သုံးမျိုးအနက် နှစ်မျိုး ကျန်ရှိနေရမည်၊ တစ်မျိုးပြောင်းခြင်းဖြင့် ကိစ္စမရှိပေ၊ အကယ်၍ အနံ့၊ အရသာ၊ အရောင် အနက် နှစ်မျိုးပြောင်းသွားသော် မပိုင်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၇။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၀၆၊၁၀၄။

၂၁။ မတ်စ်အလဟ်ပြဿနာ။ မွတ်စ်တအ်မလ် သုံးပြီး ရေကို သောက်ခြင်း၊ စားရန်ပစ္စည်းများတွင် ထည့်သုံးခြင်းသည် 'မတ်ကရူးဟ်' အပြစ်ဖြစ်သည်၊ ၎င်းဝိုဇူနှင့် ဂွတ်စ်လ် ရေချိုးခြင်းလည်း မပိုင်ပေ၊ ဟုတ်ပါ၏၊ ဤသို့ သုံးပြီးရေဖြင့် မသန့်ကိုကား ဆေးကြောပိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၃၇။

၂၂။ မတ်စ်အလဟ်ပြဿနာ။ ဇမ်ဇမ်ရေဖြင့်ဝိုဇူရေသန့်စင်မှုမရှိသူသည်ဝိုဇူ ပြုရန်မထိုက်၊ဤသို့ပင် အကြင်သူသည် ကိုယ်မသန့်သဖြင့် ရေချိုးရန်ရှိနေရာ၊ ဇမ်ဇမ်ရေနှင့် မချိုးရ၊ ဤရေဖြင့်မသန့်သောအရာများကို ဆေးကြောခြင်းနှင့် 'အစ်တင်န်ဂျာ' ကျင် ကြီးကျင်ငယ် စွန့်ပြီး ရေကိုင်ခြင်းများသည် 'မတ်ကရူးဟ်' အပြစ်ဖြစ်သည်။ ဟုတ်ပါ၏၊

အကယ်၍ မတတ်နိုင်သည့်အဆုံးတွင် ရေသည် ၁-မိုင်ပတ်လည်အတွင်း မရနိုင်လျှင်၊ သန့်ပြန့်အောင်ပြုရန် အခြားနည်းမရှိခဲ့သော် ဇမ်ဇမ်ရေဖြင့်အားလုံးအမှုကိုသုံးပိုင်ခွင့်ရှိသည်။

ကဗီရီကျမ်း စာမျက်နှာ-၆၁၀။

၂၃။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး၏ ဝိုသူ့ ရေသန့်စင်မှု နှင့် ဂွတ်စ်လ်ရေချိုးပြီး ကျန်နေသောရေဖြင့် အမျိုးသားများအဖို့၊ ဝိုသူ့နှင့် ဂွတ်စ်လ်ပြုကြရန်မထိုက်၊ သို့သော်ကျန်ပ်တို့အေမာမ်အခင်ထံတွင် ထိုကျန်ရစ်သောရေဖြင့် ဝိုသူ့ စသည် ပိုင်သော်လည်း အေမာမ် အဟ်မဒ် သခင် ထံတွင် မပိုင်ပေ၊ ၎င်း ကွဲလွဲမှုမှ ရှောင်ခြင်းသည် ကောင်းသည်။

ခွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၄။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။

၂၄။ မတ်စ်အလဟ် ပြဿနာ။ အကြင်နေရာဒေသများတွင်အမျိုးသားအုပ်စုတစ်စုစုအပေါ် အလ္လာဟ်အသျှင်မြတ်၏ 'အသာဗ်'ပြစ်ဒဏ် ကျရောက်လာလျှင်၊ ဥပမာ သမူးဒ်နှင့်အားဒ်၊ ထိုသို့သောနေရာ၏ရေဖြင့် ဝိုသူ့နှင့် ဂွတ်စ်လ် မပြုကြရန်ထိုက်သည်၊ အထက်ပါမတ်စ်အလဟ်ကဲ့သို့ ဤနေရာတွင်လည်း ကွဲလွဲမှုရှိသည်၊ ထို့ကြောင့် ကွဲလွဲမှုမှ ရှောင်ခြင်းသည် ပို၍ကောင်းသည်၊ မတတ်သာသည့်အဆုံးတွင် ဇမ်ဇမ်ရေ သုံးနိုင်သကဲ့သို့ သုံးပိုင်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၂။

၂၅။ မတ်စ်အလဟ် ပြဿနာ။ မုန့်ဖိုသည် အကယ်၍ မသန့်ဖြစ်သွားခဲ့သော် မီးလောင်ခြင်းဖြင့် မသန့်ပဖပျောက်သွားပါက သန့်သွားလေ၏။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၉၁။

၂၆။ မတ်စ်အလဟ် ပြဿနာ။ မသန့်သောမြေအပေါ်တွင်မြေမှုန့်စသည်များဖြူးချ၍ မသန့်၏ အနံ့ အသက် မပေါ်တော့လျှင်၊ ထိုမြေ အပေါ်ပိုင်သည်၊ သန့်လေသည်။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၂။

၂၇။ မတ်စ်အလဟ် ပြဿနာ။ မသန့်သော ဆီနှင့်အဆီကို ဆပ်ပြာ ချက်လိုက်လျှင် သန့်သွားသည်။

၂၈။ မတ်စ်အလဟ် ပြဿနာ။ တွင်စုတ်သောနေရာနှင့် အခြား အဆစ်အပိုင်းတစ်ခုခုတွင် သွေးသို့မဟုတ်ပြည်ထွက်ခြင်းဖြင့် မသန့်ဖြစ်သွားလျှင် ဆေးကြောပါက ဘေးဥပဒ်ဆုံးရှုံးမှုဖြစ်မည်ကိုစိုးရိမ်ရပါက အဝတ်ကို ရေစွတ်၍ ပွတ်သပ်ခြင်းဖြင့် လုံလောက်ပေသည်၊ သက်သာပြီးနောက် ထိုနေရာကိုဆေးကြောရန် အရေးမကြီးပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၄။

၂၉။ မတ်စ်အလဟ် ပြဿနာ။ မသန့်သောအရောင်သည် အကယ်၍ ကိုယ်ကာယ၊ ၎င်းအဝတ်အထည်တွင်လူးပေပေါလျှင် ၎င်းဆံပင်သည် ထိုမသန့်သောအရောင်ဖြင့်စွန်းထင်ပါက အရောင်လုံးဝပျောက်မသွားသော်လည်း ဆေးသောရေမှာ ကြည်လင်လာလျှင် လုံလောက်ပေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆။

၃၀။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကျိုးသွားသောသွားသည်၊ ကျိုး၍ တစ်ခြားဖြစ်သွားပြီးနောက် ထိုကျိုးသောနေရာ၌ပင် စိုက်၍ မြဲသွားစေရန် သန့်သောပစ္စည်းနှင့်ဖြစ်စေ၊ မသန့်သောပစ္စည်းနှင့်ဖြစ်စေ မြဲခိုင်သွားအောင်ပြုလျှင်၊ ၎င်း၏သို့ပင် အဆစ်အပိုင်းတစ်ခုခုကျိုးသွားလျှင် ထိုအစား မသန့်သော အရိုးကိုဆက်လျှင် ၎င်းအနာဒဏ်ရာတွင် မသန့်သောအရာသိပ်၍ ပျောက်ကင်းသွားကြလျှင် ထိုမသန့်သောအရာများကို ထုတ်ဖယ်ပစ်နေရန် မလိုပေ၊သာမက ထိုမသန့်သည် အလိုအလျောက် သန့်သွားမည်ဖြစ်ပေသည်။ ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၁။

၃၁။ မတ်စ်အလဟ် ပြဿနာ။ ဤသို့ မသန့်သော အရာ စီးထိုင်းသော အရာဖြစ်လျှင်၊ ပမာဆိုသော် ဆီ၊ထောပတ်၊အသေကောင်၏အဆီသည် အကယ်၍ အရာတစ်ခုခုတွင် လူးပေပါက၊ ရေကြည်၍လာအောင် ဆေးကြောခြင်းဖြင့် သန့်လေ၏၊ အကယ်၏ ထိုမသန့်၏ စီးထိုင်းမှု ကျန်ရှိနေသော်လည်း ကိစ္စမရှိပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၂။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၆။

၃၂။ မတ်စ်အလဟ် ပြဿနာ။ မသန့်သောအရာသည် ရေ၌ ကျလေရာ၊ ရေပေါက်များသည်လွင့်၍ တစ်ဦးဦးအားလူးထိလျှင်ထိုမသန့်၏ အစက်များ ထိုရေပေါက်၌ မရှိခဲ့သော် သန့်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၁။

၃၃။ မတ်စ်အလဟ် ပြဿနာ။ အဝတ်နှစ်ထပ်၊၎င်း၊ဝါဂွမ်းထည်သည် အကယ်၍ တစ်ဖက်တွင် မသန့်လူးပြီး၊ တစ်ဖက်မှာ သန့်နေလျှင်လည်း မသန့်ဟုပင် ယူဆရမည်၊ ထိုအထည်ပေါ်တွင် နမာဇ် မပိုင်ပေ၊ သို့သော် အဝတ်နှစ်ထပ်မှာ တစ်ထပ်နှင့်တစ်ထပ် ရောချုပ်ထားလျှင် မသန့်သောဘက်မှ နမာဇီ၏ ရပ်ခြင်းနှင့် စုဂ်ဒဟ် ဦးချသောနေရာ ဖြစ်မှသာ မပိုင်ဖြစ်သည်၊ ၎င်းအကယ်၍အထည်မှာ ရော၍ချုပ်မထားလျှင် တစ်ထပ်မသန့်ဖြစ်ခြင်းဖြင့် အခြားတစ်ထပ်မှာမသန့်မဖြစ်ပေ၊သာမက အခြားတစ်ထပ်ပေါ်တွင် နမာဇ် ပိုင်သည်၊ သို့တစေအပေါ်ရှိ အဝတ်သည် အောက်အဝတ်တွင်ရှိသော မသန့်၏ အရောင်နှင့်အနံ့ မရောက်မှသာ ပိုင်သည်။ ကဗီရီကျမ်း စာမျက်နှာ-၁၉၇။

၃၄။ မတ်စ်အလဟ် ပြဿနာ။ ကြက် စသည် သားငှက်များကို ဝမ်းဗိုက် ခွဲ၍ အညစ်အကြေးများမထုတ်မီ အကောင်လိုက် ရေနွေးဖျောခြင်း၊ ယခုခေတ်တွင် အင်္ဂလိပ်နှင့် ဗိုလ်ဆန်သူများ ပြုလေ့ရှိကြသည့်အတိုင်း ပြုကြလျှင်၊ မည်သည့်နည်းနှင့်မှ ထိုသားငှက်သည် သန့်ရှင်းခြင်း မဖြစ်ပေ။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၀၀။

၃၅။ မတ်စ်အလဟ် ပြဿနာ။ လဲ့နေဘက်သို့ ကျင်ကြီးကျင်ငယ် စွန့်သောအခါ မျက်နှာလှည့်၍ ထိုင်ခြင်းသည် 'မတ်က်ရူးဟ်' ဖြစ်သည်၊ ၎င်းရေမြောင်း, ရေအိုင်စသည့်ဘေးတွင် ကျင်ကြီးကျင်ငယ်စွန့်ခြင်း ရေအတွင်းသို့ မသန့်မကျသော်လည်း 'မတ်က်ရူးဟ်' အပြစ် ဖြစ်သည်။

ဤသို့ပင် သီးပွင့်သော သစ်ပင်အောက် ဆောင်းရာသီ၌ နေစာလှုံသော နေရာ တိရစ္ဆာန်များ၏အလည်တွင် ဗလီဝတ်ကျောင်းတော်နှင့် အီးဒ်ဂါဟ်အနီးတွင် ထိုအနံ့ဖြင့် နမာဇီများမှာဒုက္ခရောက်လျှင်၊ကဗရ်သုသာန်၊ ၎င်းလူတို့ ဝိုဇ္ဇူရေသန့်စင်ခြင်းနှင့်ဂွတ်စ်လ် ရေချိုးသောနေရာ၊ လူသွားလမ်း၊ လေတိုက်နေသောဘက်သို့ လူသွားလမ်းအနီးရှိ တွင်းပေါက်များ၊ ခရီးသည်တို့ စခမ်းချသောနေရာနှင့် လူများ စုရုံးကြသော နေရာတို့တွင် ကျင်ကြီး ကျင်ငယ် စွန့်ခြင်းတို့သည် 'မတ်က်ရူးဟ် တဟ်ရီမဟ်' ဖြစ်သည်၊ အချုပ်မှာ.... လူတို့သွားလာရာထိုင်ရာနေရာဖြစ်ပြီး လူတို့မှာဒုက္ခရောက်နိုင်လျှင်၊၎င်းမသန့်သည် လွင့်စင်စီးဘွေ၍ လူတို့ဘက်ရောက်မည်ဖြစ်လျှင် 'မတ်က်ရူးဟ်' ဖြစ်ပေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၇။

## ကျင်ကြီး ကျင်ငယ် စွန့်သောအခါ ရှောင်ကြဉ်ရန် အချက်များ အကြောင်း

စကားပြောခြင်း၊ အကြောင်းမဲ့ ချောင်းဟန့်ခြင်း၊ အာယတ်တော် ၎င်းဟဒီးသ်တော်နှင့်မွန်မြတ်သောဒိုအာကိုဖတ်ခြင်း၊ အလ္လာဟ်အသျှင်မြတ်၏နာမံတော် ၎င်းနဗီရစူလ် ဖွရစ်ရှ်တဟ်တစ်ပါးပါး၊ ၎င်းမွန်မြတ်သော ပုဂ္ဂိုလ်တစ်ပါးပါး၏ နာမံတော်၊ ၎င်းအာယတ်တော်၊ ဟဒီးသ်တော် ရေးထားသည်ကို မိမိနှင့်အတူ ဆောင်ထားခြင်းတို့သည် 'မတ်က်ရူးဟ်' ဖြစ်သည်၊ သို့သော် အကယ်၍ ဖေါ်ပြပါအရာများ အိပ်ထောင်တွင်း၌ ထည့်ထားလျှင် ၎င်းတအ်ဝီးသ်ဒိုအာကို အဝတ်စသည်ဖြင့်ရစ်ပတ်ထားလျှင် 'မတ်က်ရူးဟ်' မဖြစ်ပေ၊ အကြောင်းမဲ့ ရပ်လျက် လျောင်းလဲလျက် ကျင်ကြီးကျင်ငယ်စွန့်ခြင်း၊ ဝတ်လစ် စလစ် ကျင်ကြီးကျင်ငယ်စွန့်ခြင်းနှင့် လက်ယာလက်ဖြင့် 'အင်တင်န်ဂျာ' ဆေးကြောခြင်းတို့သည် 'မတ်က်ရူးဟ်' ဖြစ်သည်။

မွန်ယတွလ်မိုဆွာလ်လီကျမ်း စာမျက်နှာ-၁၇။
ကဗီရီကျမ်း စာမျက်နှာ-၅၈။

## အစ်တင်န်ဂျာ သန့်ပြန့်အောင်ပြုခြင်း မပိုင်သော အရာများ အကြောင်း

အရိုး, စားဖွယ်အရာများ၊မြင်းချေးခြောက်၊ ၎င်းမသန့်သောအရာပစ္စည်းများတစ်ခါ သန့်ရှင်းမှုပြုပြီး မြေစိုင်ခဲနှင့် ကျောက်ခဲ၊ အုပ်ကျက်၊ အိုးခြမ်းပဲ့၊ ဖန်ခွဲ၊ မီးသွေး၊ ထုံး၊ သံ၊ ငွေစ, ရွှေစ, စသည်များ၊ ၎င်းသန့်ပြန့်မှု မဖြစ်နိုင်သော စရ်ကာဒရည်စသည် များ၊ တိရစ္ဆာန်များစားသော မြက်, ကောက်ရိုး စသည်များ၊ အဖိုး နည်း,များမဆို တန်သော မသန့်သုတ်ပြီး ဖွတ်လျှော်ပါက တန်ဖိုးလျော့သွားမည့် ပိုးပြောင်ထည် စသည် နှင့် ချေးထုတ်ထားသော အရာများ (ဥပမာနှင်းရည်) လူ၏အဆစ်အပိုင်း၊ အရိုး၊ အမွေး အမြှင်နှင့်အသား စသည်များ၊ ဗလီဝတ်ကျောင်းတော်၏ဖျာ၊ ၎င်းအမှိုက်နှင့် တံပျက်စီး စသည်များ၊ သစ်ရွက်များ၊ စာရေးစာရိုက်ပြီး စက္ကူနှင့် အဖြူရိုးရိုး၊ ဇမ်ဇမ်ရေ၊ အခြားသူပိုင်ရေ၊ အဝတ်နှင့် အခြားအရာများ၊ ၎င်းသူ၏ ခွင့်ပြုသဘောတူချက်မရဘဲ သုံးစွဲသောရေ၊ ဝါဂွမ်း၊ ၎င်းလူသားနှင့် တိရစ္ဆာန်များအသုံးပြု အကျိုးဖြစ်ထွန်းသည့် အရာပစ္စည်းများ ထိုအရာအားလုံးဖြင့် 'အစ်တင်န်ဂျာ' သုတ်သင်ဆေးကြောမှု ပြုခြင်း တို့သည် 'မတ်က်ရူးဟ်' ဖြစ်သည်။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၅၀။)
(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၅၁။)

## မတ်က်ရူးဟ်မဖြစ်ဘဲ အစ်တင်န်ဂျာ ပိုင်သော အရာများ အကြောင်း

ရေ၊ မြေစိုင်ခဲ၊ ကျောက်ခဲ၊ အဖိုးမတန်တော့သည့် အဝတ်အထည်၊ ၎င်းမသန့်ကို သန့်ရှင်းအောင် ပြုနိုင်သည့် သန့်ပြန့်သောပစ္စည်းများ၊ သို့တစ်စေ ၎င်းပစ္စည်းသည်တန်ဖိုး မရှိသောအရာ ၎င်းမွန်မြတ်သောအရာများ မဖြစ်စေရ။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၆။)
(ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၁).

## ဝိသွူ ရေသန့်စင်ခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မုတ်ဆိတ်ကို 'ခေလာလ်' လက်ချောင်းများဖြင့် ပွတ်သတ်ရမည်၊ ၎င်းမျက်နှာကို (၃) ကြိမ်သစ်ပြီးမှ 'ခေလာလ်' ပြုရမည်၊ 'ခေလာလ်' ကို (၃) ကြိမ်ထက်ပို၍ မပြုရ။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၂။)

၂။ မတ်စ်အလဟ်ပြဿနာ။ မုတ်ဆိတ်ပေါက်သည်ဖြစ်စေ၊ မပေါက်သည်ဖြစ်စေ၊ နားနှစ်ဘက်၏ အလယ်မျက်နှာတစ်ပြင်လုံးကို ဆေးခြင်းသည် ဖွရ်သွ် ဖြစ်သည်။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉။)

၃။ မတ်စ်အလဟ်ပြဿနာ။ မေးရိုးပေါ်တွင် မုတ်ဆိတ်မရှိလျှင် ၎င်းရှိသော်လည်း နည်းပြီး အသားမြင်နေရသော် ထိုမေးရိုးကို ဆေးခြင်းသည် ဖွရ်သွ် ဖြစ်သည်။

၄။ မတ်စ်အလဟ်ပြဿနာ။ ပါးစပ်ပိတ်ထားပြီးနောက် မြင်နေရသောနှုတ်ခမ်းသားကို ဆေးကြောရန် ဖွရ်သွ် ဖြစ်သည်။

၅။ မတ်စ်အလဟ်ပြဿနာ။ မုတ်ဆိတ် နှုတ်ခမ်းမွေး နှင့် မျက်ခုံးမွေးများသည် အသားမမြင်ရလောက်အောင် ထူထဲနေလျှင် ထိုအမွေးများဖုံးနေသည့် အောက်တွင် ရေရောက်စေရန် ဖွရ်သွ်မဟုတ်ပေသာမက ထိုအမွေးများသည်အသား၏ကိုယ်စား ဖြစ်သည်၊ ထိုအမွေးများအပေါ် ရေရောက်စေခြင်းဖြင့် လုံလောက်ပေသည်။

(တနွီရုလ်အဗ်စွာရ်ကျမ်း အတွဲ- ၁၂၊ စာမျက်နှာ-၁၉။)

၆။ မတ်စ်အလဟ်ပြဿနာ။ မျက်ခုံးမွေး မုတ်ဆိတ်နှင့် နှုတ်ခမ်းမွေးများသည် အောက်ပိုင်းရှိ အသားမမြင်ရလောက်အောင်များပြားပြီးဖုံးနေလျှင် ထိုအဖြစ်၌မျက်နှာပြင်၌ရှိသော အမွေးများကိုသာ ဆေးရန်ထိုက်သည်၊ မျက်နှာပြင်ထက် ပိုလွန်နေသော အမွေးများတွင် ရေရောက်စေရန် မလိုအပ်ပေ။

(ဘဲဟ်ရှရိရာအစ်က်ကျမ်း။)

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်၏ ဆက်တွဲလျက်ရှိသော အဆစ်အပိုင်း တစ်ခုခုမှ အရာတစ်ခုခု ထွက်လာလျှင် အသုံးအနှုန်းမှာ ဖင်နီတာထွက်သည်ဟုခေါ်သည်၊ ထိုသို့ထွက်လာခြင်းဖြင့် 'ဝိုသွူ'ရေသန့်စင်ထားမှုပျက်သွားသည်၊ အလိုအလျောက် ပြန်ဝင်သွားသည်ဖြစ်စေ၊ တုတ်၊ အဝတ်၊ လက် စသည်ဖြင့် သွင်းသည်ဖြစ်စေ အတူတူပင်ဖြစ်သည်၊ ဝိုသွူပျက်၏။

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၅။)

၈။ မတ်စ်အလဟ်ပြဿနာ။ မနီသုက်ရည်သည် အကယ်၍ ရှဟ်ဝပ်တ် အရသာမပါဘဲ အလိုအလျောက် အရသာမပါဘဲ ထွက်လာလျှင်ဝိုသွူပျက်သည်၊ ဥပမာ တစ်ဦး တစ်ယောက်သည် လေးလံသော ဝန်ကို ထမ်းမ၍ ၎င်းအမြင့်မှ လိမ့်ကျရာ ထိုဒါဏ်ဖြင့် အရသာမပါဘဲ သုက်ရည်ထွက်သွားသောအခါ ဝိုသွူသာလျှင်ပျက်၏၊ ဂွတ်စ်လ်မထိုက်ပေ။

(ဖွတာဝါကာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၉။)

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦး တစ်ယောက်သည် စိတ်ထိခိုက်သွားလျှင် ထိုစိတ်ထိခိုက်မှုသည် သူရူးပမာ သတိလစ်သူပမာ မဖြစ်ခဲ့သော် ဝိုသွူမပျက်ပေ။

၁၀။ မတ်စ်အလဟ်ပြဿနာ။ နမာဇ် ဖတ်ရာတွင်အကယ်၍ တစ်ဦးတစ်ယောက်သည် အိပ်ပျော်သွားလျှင် ၎င်းအိပ်ပျော်နေစဉ် ဟက်ဟက်ပက်ပက်ရယ်မောပါက နမာဇ်သာလျှင် ပျက်သည် ဝိုသွူမပျက်ပေ။

(မွန်ယတွလ် မို့စွာလ်လီကျမ်း စာမျက်နှာ-၄၇။)

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဂျိနာဇဟ် နမာဇ် နှင့် တေလာဝပ်တ်၏ စစ်ဂျိဒဟ် ဦးချမှုငင်းစစ်ဂျိဒဟ်စဟ်စ်တွင်ရယ်မော့ပါကအရွယ်ရောက်သူဖြစ်စေမရောက်သေးသူဖြစ်စေ ဝိုသွု မပျက်ပေ။

(မွန်ယတွလ်မို့စွာလ်လီကျမ်း စာမျက်နှာ-၄၇။)

## ခြေအိတ်များအပေါ် မတ်စ်ဟ် ပြုခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ သားရေခြေအိတ် အပေါ်တွင်'မတ်စ်ဟ်' ခေါ် ရေစိုသောလက်ဖြင့် သုတ်သပ်ခြင်းပိုင်သည်၊ သို့သော် ခြေကို ခြေမျက်စေ့ ပါ ဖုံးအုပ်နေစေရမည်၊ ၎င်းခွဲထားသောနေရာကို မတ်စ်ဟ် မပိုင်လောက်အောင် အသားမြင်နေရခြင်းလည်း မရှိရစေရန် ကြိုးဖြင့် ချီနှောင်ထားခြင်း ရှိစေရမည်။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၆)။

၂။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူသည် 'တယမ်မွမ်' မြေဖြင့်သန့်စင်သောအဖြစ်၌သားရေခြေအိတ်ဝတ်သော်ဝိုသွုရေဖြင့် သန့်စင်သောအခါခြေအိတ်အပေါ်တွင် 'မတ်စ်ဟ်' သုတ်သပ်ခြင်းမပြုနိုင် ချွတ်၍ဆေးရမည်၊ အဘယ့်ကြောင့်ဆိုသော် 'တယမ်မွမ်' သည် ပြည့်စုံသော သန့်ပြန့်မှုမဟုတ်ပေ၊ ပြုထားသော 'တယမ်မွမ်' သည် ဂွတ်စ်လ် ရေချိုးရန်အတွက်ဖြစ်စေ၊ ဝိုသွုနှင့် ဂွတ်စ်လ် နှစ်ရပ်စလုံးအတွက်ဖြစ်စေ၊ ဝိုသွုအတွက်ပင်ဖြစ်စေ အတူတူပင်ဖြစ်၏။

(အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၃။)

၃။ မတ်စ်အလဟ်ပြဿနာ။ ဂွဘ်စ်လ် ရေချိုးသူမှာ ဖွရ်သွ် အတွက် ၎င်းစွန္နတ်အတွက် ချိုးသည် ဖြစ်စေ၊ မတ်စ်ဟ် မပြုပိုင်ပေ၊ ပမာ ဆိုသော် တစ်ဦးသော သူသည် ခြေကိုအမြင့်တွင်တင်၍ထိုင်ကာ ခြေအပြင် တစ်ကိုယ်လုံးရေလောင်း၍ချိုးသည်၊ပြီးနောက်မှ ခြေထောက်ကို ရေမလောင်းမဆေးဘဲ မတ်စ်ဟ် ပြုမှုမပိုင်ပေ။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၇။)

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၄၅-၂၄၆။)

၄။ မတ်စ်အလဟ်ပြဿနာ။ 'မအ်သူရ်' အခွင့်ရှိသူ၏ ဝိုသွုသည် နမာဇ် အချိန်ကုန်လွန်သွားသောအခါတွင် ပျက်သွားသကဲ့သို့ ၎င်းသူ၏ 'မတ်စ်ဟ်' ပြုခြင်းမှာလည်း ထိုနည်းအတိုင်းပင် နမာဇ် အချိန်ကုန်ပါက ပျက်လေ၏၊ ဟုတ်ပါ၏၊ ထိုသူ၏ မအ်သူရ်ဖြစ်ရသောရောဂါသည် ဝိုသွု ပြုသောအခါ ၎င်းခြေအိပ်ဝတ်သောအခါတွင် မဖြစ်ပေါ်သေးပါက ထိုသူ့ကို လူကောင်းများပမာ ယူဆရမည်။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၉။)

(ဂွန်ယတွလ်မွတ်စ်တမ်လီကျမ်း စာမျက်နှာ-၁၀၆။)

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၅၀။)

မှတ်ချက်။ ။ဤမတ်စ်အလဟ်၏အလိုမှာ 'မအ်သူရ်' သည်နှစ်မျိုးနှစ်စားရှိသည်၊ ပထမမှာ ဝိုသွူပြုသော ခြေအိတ်ဝတ်သောအချိန်တွင် 'မအ်သူရ်'ဖြစ်လောက်သောရောဂါ မရှိခဲ့၊ ဒုတိယမှာ ရောဂါသည် ဝိုသွူမပြုမီကပင် တစ်ချိန်လုံးရှိနေခဲ့သည်၊ ပထမအဖြစ်၏ အမိန့်မှာ 'နမာဇ်' အချိန်ကုန်လွန်သွားသောအခါ ၎င်းသူ၏ ဝိုသွူမှာ ပျက်သွားသည်၊ ၎င်းထိုသူသည် ပြည့်စုံစွာ သန့်ပြန့်မှုတွင် ခြေအိတ်ဝတ်ခဲ့သဖြင့် 'မတ်စ်ဟ်' ကားမပျက်ပေ၊ ကျန်းမာသော သူများကဲ့သို့ မှီနေအဖြစ်တွင် တစ်နေ့နှင့်တစ်ည၊ ၎င်းခရီးသည်အဖြစ်တွင် သုံးနေ့နှင့် သုံးည 'မတ်စ်ဟ်' ပြုနိုင်သည်၊ ဒုတိယအဖြစ်၏ အမိန့်မှာ 'နမာဇ်'အချိန် ကုန်လွန်သွားသောအခါ ၎င်း၏ ဝိုသွူ ပျက်သကဲ့သို့ မတ်စ်ဟ်လည်း ပျက်သွားသည်၊ ၎င်းသည် သားရေခြေအိတ်ကိုချွတ်၍ ဆေးကြောသမှု ပြုရမည်၊ ဤမတ်စ်အလဟ်သည် ဂွန်ယတွလ်မွတ်စ်တမ်လီကျမ်း စာမျက်နှာ ၁၆၀ တွင်ပါရှိသည်။

၅။ မတ်စ်အလဟ်ပြဿနာ။ ခြေ၏ အများစုသည် ပေါ်သွားခဲ့သော် ထိုအဖြစ်၌ သားရေခြေအိတ်ကိုချွတ်ပြီး ခြေကိုဆေးကြောရမည်။

(ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၉။)

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၅၆)

## ဟာဒ်သိ အတ်စွဂ်ဂရ် ဝိုသွူမရှိသောအဖြစ်၏ အမိန့် ပညတ်တော်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ကုရ်အာန် ကျမ်းတော်မြတ် ၎င်းစေပါရဟ်ခွဲထားသည်များကို ဝိုသွူမရှိဘဲ ကိုင်တွယ်ခြင်းသည် မတ်ကရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ အာယတ်တော် ရေးနှိပ်ထားသောနေရာကိုကိုင်သည်ဖြစ်စေ၊ လွတ်နေသောနေရာကိုကိုင်သည်ဖြစ်စေ အတူတူပင် ဖြစ်လေ၏၊ ၎င်းအကယ်၍ ကုရ်အာန်ကျမ်းတော်မဟုတ် သာမက စက္ကူရွက်၊ ၎င်းအစတ်ပျဉ်ပြားပေါ်တွင် ကုရ်အာန်ကျမ်းတော်၏ အာယတ်တော် အပြည့်အစုံ ရေးထားပြီး အခြားနေရာများက လွတ်နေသော် အာယတ်တော် ရေးထားသည့်အပေါ် မကိုင်ဘဲ လွတ်နေသောနေရာတွင် ကိုင်တွယ်ပိုင်ခွင့်ရှိသည်။

(ကဗီရီကျမ်း စာမျက်နှာ-၅၆။)

(ဘဲဟ်ရွရ်ရာအစ်က်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၆။)

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၇၀။)

၂။ မတ်စ်အလဟ်ပြဿနာ။ ဝိုသွူ မရှိဘဲ ကုရ်အာန် ကျမ်းကိုရေးရာ၌ လွတ်သော နေရာကိုသာ လက်နှင့်မထိဘဲရေးလျှင် 'မတ်ကရူးဟ်' မဖြစ်၊ သို့သော် အေမာမ် မုဟမ္မဒ် (ရဟမတွလ္လာဟ်) သခင့်ထံတော်တွင် လွတ်နေသော နေရာကိုပင်လက်ထိခြင်း မပိုင်ပေ၊ ဤသည်ပင် အလုံလောက်ဆုံးအဆိုဖြစ်သည်၊ ပထမအဆိုသည် အေမာမ်အဘူယူစွဖ်

(ရဟမ်တုလ္လာဟ်) သခင်၏ အဆိုဖြစ်သည်၊ အထက်ပါ မတ်စ်အလဟ်လည်း ဤသို့ပင် ကွဲလွဲမှုရှိသည်၊ ဤအမိန့်သည် ကုရ်အာန်ကျမ်းတော် ၎င်းစေပါရဟ်များမှတစ်ပါး စက္ကူ ၎င်းအဝတ် စသည်များ၌ အာယတ်တော် ရေးထားပြီး အချို့နေရာ လွှတ်နေသည်တွင် သာ ဖြစ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၅၆။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ကျမ်းစာများတွင် အာယတ်တော် အပြည့်မဟုတ်ဘဲ တစ်ပိုင်းတစ်စရေးခဲ့သော် 'မတ်က်ရူးဟ်'မဖြစ်ပေ၊ ၎င်းကုရ်အာန်ကျမ်း တော်မြတ်၌ကား တစ်အာယတ်ထက် လျော့၍ ရေးခြင်း မပိုင်ပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၁။

၄။ မတ်စ်အလဟ် ပြဿနာ။ အရွယ် မရောက်သေးသော ကလေးများသည် ဝိုသွူမရှိဘဲ ကုရ်အာန်ကျမ်းတော်ကို ကိုင်တွယ်ခြင်း၊ ကိုင်တွယ်စေခြင်းသည် 'မတ်က်ရူး တဟ်ရီမဟ်' မဖြစ်ပေ။

ကဗီရီကျမ်း စာမျက်နှာ-၅၇။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉။

၅။ မတ်စ်အလဟ် ပြဿနာ။ ကုရ်အာန် ကျမ်းတော်မြတ်အပြင် အခြားသော မိုးပေါ်ကျ ကျမ်းများ၊ တောင်ရာတ်၊ အင်န်ဂျီလ်၊ ဇဘူရ်၊ စသည်တို့ကို အက္ခရာစာလုံး ရေးထားသောနေရာ၌သာကိုင်တွယ်ခြင်း'မတ်က်ရူးဟ်'ဖြစ်သည်၊ လွှတ်နေသောနေရာတွင် ကိုင်တွယ်ခြင်း မတ်က်ရူးဟ်မဖြစ်၊ ကုရ်အာန်ကျမ်းတော်၏ 'မန်ဆူးခ်' ရုပ်သိမ်းပြီး ဖြစ် သော အာယတ်တော်များလည်း ဤအမိန့်အတိုင်းပင်ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၇၀။

၆။ မတ်စ်အလဟ် ပြဿနာ။ ဝိုသွူပြုပြီးနောက် အဆစ်အပိုင်းတစ်ခုခု မဆေး ရသေးဟု ဒွိဟသံသယဖြစ်လျှင်၊ သို့သော် မည်သည့်အဆစ်အပိုင်းဟု အတည်မသိရသော် ဤသို့သောအဖြစ်၌ သံသယ ကင်းသွားစေရန် ဘယ်ခြေကို ဆေးလိုက်ရမည်၊ ဤသို့ပင် အကယ်၍ ဝိုသွူပြုနေယင်း အဆစ်အပိုင်းတစ်ခုခုအပေါ် သံသယဖြစ်မှု၊ ပြီးသွားသော အဆစ်အပိုင်းကို ဆေးလိုက်ရမည်၊ ပမာဆိုသော် တတောင်ဆစ်ပါ လက်ဆေးပြီးနောက် သံသယရှိမှု မျက်နှာသစ်လိုက်ရမည်၊ ၎င်း အကယ်၍ ခြေဆေးပြီးနောက် သံသယရှိမှု လက်ကိုတတောင်ဆစ်ပါဆေးရမည်၊ ဤသည်မှာ တစ်ခါတစ်ရံမှ သံသယဒွိဟဖြစ်တတ်သူ အတွက်သာလုပ်ဆောင်ရမည့်အချက်ဖြစ်သည်၊အကယ်၍ တစ်ဦးတစ်ယောက်သည် အများ အားဖြင့် ဤနည်းမျိုး ဒွိဟသံသယ ဖြစ်တတ်သူ ဖြစ်လျှင် ဤဒွိဟသံသယ ဖြစ်မှုကို ဂရု မစိုက်ဘဲ မိမိ၏ဝိုသွူမှာ ပြည့်စုံသည်ဟု ယူဆရမည်။

ဒုရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၀။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၉။

၇။ မတ်စ်အလဟ် ပြဿနာ။ ဗလီ ဝတ်ကျောင်းတော် အခင်းပေါ်တွင် ဝိုသွူ ပြုခြင်းမပိုင်ပေ၊ မတ်ကရူးဟ်ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ဝိုသွူ ပြုရာတွင် ရေမှာ ဗလီတွင်းသို့ မရောက်လျှင် တော်သေးသည်၊ ဝိုသွူပြုရာတွင် အများအားဖြင့် ဂရုမစိုက်ကြပေ၊ ဝိုသွူရေ ဗလီတွင်းသို့ ရောက်အောင် ပြုကြလေသည်။ ဤသည်မှ ရှောင်ကြဉ်ကြရမည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၀။

## ဂွတ်စ်လ် ရေချိုးခြင်း အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ဟဒ်သ်အတ်ကဗရ် မသန့်ကြီးမှ သန့်ရှင်းသွားစေရန်အတွက် 'ဂွတ်စ်လ်'ရေချိုးခြင်း၊ 'ဖွရ်သွ'မပြုမနေရဖြစ်သည်၊ မသန့်ကြီး ဖြစ်ပေါ်လာခြင်းမှာ အကြောင်းအချက် (၄)မျိုး ရှိသည်။

ပထမအချက်။

'မနီ' သုက်ရည်ထွက်ခြင်း၊ ဆိုလိုသည်မှာ.... 'မနီ'သည် မိမိတည်နေရာမှ ကာမဂုဏ်စိတ်ဖြင့် ကိုယ်ကာယမှ ထွက်ခြင်း၊အိပ်ပျော်နေသောအခါ ဖြစ်စေ၊ နိုးကြားလျက်ရှိသောအခါဖြစ်စေ၊ သတိလစ်နေသောအခါဖြစ်စေ၊ သတိရနေသောအခါဖြစ်စေ၊ သံဝါသမှုကြောင့်ဖြစ်စေ၊ သံဝါသမှုမဟုတ်ဘဲ စိတ်ကူးယဉ် စဉ်းစား၍ဖြစ်စေ၊ လိင်ကို လှုပ်ရှား၍ဖြစ်စေ၊ အခြား မည်သည့်နည်းနှင့်ဖြစ်စေ ကာမဂုဏ်အရသာဖြင့် 'မနီ' သုက်သွေးထွက်ပါက ဂွတ်စ်လ် ရေချိုးရန်'ဖွရ်သွ'ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၄။
ကဗီရီကျမ်း စာမျက်နှာ-၄၃။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ 'မနီ'သုက်သွေးသည် မိမိတည်နေရာမှ ကာမဂုဏ် အရသာဖြင့် ထွက်သည်၊ သို့သော် လိင်အင်္ဂါမှ အပြင်သို့ ထွက်သော အခါ ကာမဂုဏ်အရသာဖြင့် မဟုတ်ခဲ့သော်လည်း ဂွတ်စ်လ်ဖွရ်သွပင်ဖြစ်၏၊ ဥပမာ သုက်ရည်သည် မိမိတည်နေရာမှ ကာမဂုဏ်အရသာဖြင့်ထွက်သည်၊ သို့သော် ၎င်းသူက လိင်အင်္ဂါပေါက်ကို လက်နှင့်ပိတ်ထားသည်၊ ၎င်းဝါဂွမ်း စသည်သွင်း၍ပိတ်ထားသည်၊ အတန်ကြာသောအခါ ကာမဂုဏ်အရသာမရှိတော့မှ၎င်းက အင်္ဂါဇာတ်မှ လက်ဖယ်လိုက်သည်၊ ၎င်း ဝါဂွမ်း စသည် သွင်းထားသည်ကို ဖယ်ရှားလိုက်သည်၊ ထိုအခါ 'မနီ' သုက်ရည်သည် အရသာကင်းမဲ့စွာ ထွက်လာခဲ့သော်လည်း ဂွတ်စ်လ်ရေချိုးရန် ဖွရ်သွ မပြုမနေရဖြစ်သည်။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်၏ လိင်အင်္ဂါဇာတ်မှ မနီ သုက်ရည်ထွက်၍ ၎င်းက ဂွတ်စ်လ် ပြုလိုက်သည်၊ ဂွတ်စ်လ် ပြုပြီးနောက် အရသာမပါဘဲ သုက်ရည်ထွက်လာခဲ့ပြန်သော် ၎င်းသုက်ရည်သည် မအိပ်မီ၊ ကျင်ငယ်မစွန့်မီ၊ ၎င်း

ခြေလှမ်းလေးဆယ် မလျှောက်မီ၊ ၎င်းလေးဆယ်ထက် ပို၍မလျှောက်မီ ထပ်မံ ထွက်လာပါက ပထမဂွတ်စ်လ်ပြုထားခြင်းပျက်သည်၊ ထပ်၍ရေချိုးရဦးမည်၊ သို့သော် ထိုအကြွင်းအကျန်သုက်ရည်ထွက်မလာမီအလျင် အကယ်၍နမာဇ်ဖတ်ခဲ့သော် ထိုနမာဇ်မှာ ပိုင်သည်၊ ပြန်လည်၍ ဖတ်ရန် မလိုပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၄။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူ၏ အင်္ဂါဇာတ်မှ ကျင်ငယ်စွန့်ပြီးနောက် ကာမဂုဏ်အရသာဖြင့် သုက်ရည်ထွက်ခဲ့သော် ဂွတ်စ်လ်ပြုရန် ဖွရ်သ္ဇ်ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ယောကျ်ား-မိန်းမတို့သည် ကိုယ်ကာယ ၎င်းအဝတ်တွင် အိပ်ရာမှ ထပြီးနောက် စွတ်စိုနေသည်ကိုတွေ့ရမှု၊ ဤသည်တွင် အချက်များစွာရှိသည်၊ (၈)မျိုးသောအချက်တွင် 'ဂွတ်စ်လ်'ရေချိုးရန် ဖွရ်သ္ဇ် ဖြစ်လေ၏။

(၁) မနီ သုက်ရည်ပင်ဖြစ်ကြောင်း ယုံကြည်လျှင်၊ ၎င်းအထင်များလျှင်၊ ၎င်း 'အဲဟ်တေလာမ်' အိပ်မက်ကို သတိရလျှင်။
(၂) မနီသုက်ရည် ဖြစ်သည်ကို ယုံကြည်သည်၊ ၎င်း'အဲဟ်တေလာမ်'ကို သတိမရလျှင်။
(၃) အဲဟ်တေလာမ် ဖြစ်သည်ကို ယုံကြည်သည်၊ ၎င်း 'မဿီ' အရေကြည် ဖြစ်ကြောင်း သိသည်။
(၄) အဲဟ်တေလာမ် ကိုကား ယုံကြည်သည်၊ 'မနီ' သုက်ရည်လော၊ 'မဿီ' အရေကြည်လော ဟူသည်တွင် ဒွိဟသံသယရှိသည်။
(၅) အဲဟ်တေလာမ်ကိုကား သတိရသည်၊ 'မနီ' သုက်ရည်လော၊ 'ဝဒီ'ဝလော ဟူသည်မှာ ဒွိဟသံသယရှိသည်။
(၆) အဲဟ်တေလာမ် ကိုကား သတိရသည်၊ 'မဿီ' အရေကြည်လော၊ 'ဝဒီ' လော ဟူသည်မှာ ဒွိဟသံသယရှိသည်။
(၇) အဲဟ်တေလာမ် ကိုကား သတိရသည်၊ 'မနီ' သုက်ရည်လော၊ 'မဿီ' အရေကြည်လော၊ 'ဝဒီ'လော ဟူသည်မှာ ဒွိဟသံသယရှိသည်။
(၈) အဲဟ်တေလာမ်ကို သတိမရ၊ မနီ သုက်ရည်လော၊ မဿီ အရေကြည်လော ဟူသည်မှာ ဒွိဟသံသယရှိသည်၊ ဤအဖြစ်အားလုံးတွင်ဂွတ်စ်လ် ရေချိုးရန် ဖွရ်သ္ဇ် ဖြစ်သည်၊ (လှုပ်ရှား၍ အရသာမပါဘဲ ထွက်သော သုက်ရည်ကို 'မဿီ'ဟု ခေါ်သည်၊ လှုပ်ရှားခြင်း မပါဘဲ ထွက်သည်ကို 'ဝဒီ'ဟု ခေါ်သည်။)

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅။
ကဗီရီကျမ်း စာမျက်နှာ-၁၄။

**မှတ်ချက်**။ ရှာမီကျမ်းရှင်က နံပါတ် (၈) ပါ 'မတ်စ်အလဟ်' တွင် ဂွတ်စ်လ် ရေချိုးရန်မလိုဟု ရေးသားထားသည်၊ သို့သော်လည်း ကျွန်ုပ်သည် 'အဲဟ်တေယာ:တွင်' ရှောင်ရှားလိုသော သဘောဖြင့် ရေချိုးရမည်ဟူသော ကဗီရီကျမ်း၏ အဆိုကိုယူ၍ ရေး ခြင်း ဖြစ်သည်။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်သည် ခတ္တနာမပြု၊ ၎င်းထိုသူ၏ မနီ သုက်ရည်သည် လိင်အင်္ဂါမှထွက်၍ ခတ္တနာပြုရာတွင် ဖြစ်ရသော အရေ အတွင်း၌ရှိပြီး အပြင်သို့ ထွက်မလာသော်လည်း ထိုသူ့အပေါ် ဂွတ်စ်လ်ပြုရန် ဖွရ်သွ် ဖြစ်သည်။

ဒုတိယအချက်။

အီလား:ဂ် (၀၁) ကာမစိတ် ရှိသောသူ၏ လိင်၏ ကွမ်သီးလုံးသည် အသက်ရှင် လျက်ရှိသော အမျိုးသမီး၏ အင်္ဂါဇာတ်တွင်းသို့၊ ၎င်းအခြားရှင်လျက်ရှိသူ၏ စအိုတွင်းသို့ သွင်းလျှင်၊ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ 'ခွန်စာ' ယောကျ်ားအင်္ဂါ နှင့် မိန်းမအင်္ဂါ နှစ်မျိုးစလုံးပါသူဖြစ်စေ၊ မနီ သုက်ရည်ထွက်သည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ၊ နှစ်ဦး နှစ်ဝသည် အရွယ်ရောက်ပြီးသူများဖြစ်ပါက နှစ်ဦးစလုံးအပေါ် ဂွတ်စ်လ်ပြုရန် ဖွရ်သွ် ဖြစ်သည်၊ သို့တည်းမဟုတ်ပါက အရွယ်ရောက်ပြီးသူ အပေါ်သာလျှင် ဂွတ်စ်လ် ပြုရန် ဖွရ်သွ်ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍အမျိုးသမီးတစ်ဦးသည် အရွယ်မရောက် သေးဘဲအသက်ငယ်လျှင် သံဝါသပြုပါက အင်္ဂါဇာတ်နှင့်စအိုမှာ ဆက်သွားမည်ဟု မစိုး ရိမ်ရသော် ထိုမိန်းကလေး၏ အင်္ဂါဇာတ်တွင် ယောကျ်ား လိင်၏ ကွမ်းသီးလုံး ဝင်ပါက ယောကျ်ားသည် အရွယ်ရောက်သူဖြစ်ပါက ၎င်းအပေါ် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ် ဖြစ်သည်။ ဒုရ်ရေ မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁။

၈။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူ၏ ကတ်ပယ်အိပ် သည် ပြတ်နေလျှင် ထိုသူ့ လိင်၏ကွမ်းသီးလုံးသည် အကယ်၍ တစ်ဦးဦး၏ စအို၊ ၎င်းအမျိုးသမီး၏ အင်္ဂါ ဇာတ်တွင်းသို့ ဝင်သွားသော်လည်း နှစ်ဦးစလုံး အရွယ်ရောက်ပြီး ဖြစ်ပါက နှစ်ဦးစလုံး အပေါ် ဂွတ်စ်လ်ပြုရန် ဖွရ်သွ်ဖြစ်သည်၊ သို့တည်းမဟုတ်ပါက အရွယ်ရောက်သူအပေါ် သာလျှင် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ်ဖြစ်၏။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၃။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးသောသူ၏ လိင် အဖျားမှာ ပြတ်တောက်သွားလျှင် ကျန်နေသောအတန်မှ ကွမ်းသီးလုံးကိုခန့်မှန်းယူရမည်၊ အကယ်၍ ကျန်အပိုင်းမှ ကွမ်းသီးလုံးခန့် ဝင်သွားလျှင် ဂွတ်စ်လ် ထိုက်သည်၊ ထိုမျှခန့် မဝင်လျှင် မထိုက်ပေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားတစ်ဦးသည် မိမိ၏လိင်ကို အဝတ်စသည်နှင့် ရစ်ပတ်၍သွင်းမှု အကယ်၍ သုက်ရည်မထွက်သော်လည်း၊ ထိတွေ့မှုကို ခံစားရလျှင် ဂွတ်စ်လ် ဖွရ်သွ်င ဖြစ်သည်၊ သို့သော် အဲဟ်တေယာတွင် ရှောင်ကြဉ်အပ်သော သဘောမှာ ထိတွေ့ခံစားရမှု ရှိသည်ဖြစ်စေ၊ မခံစားရသည်ဖြစ်စေ၊ ဂွတ်စ်လ် ဖွရ်သွ်င ဖြစ်၏။

(ဖွာတာဝါဟင်န်ဒိယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄။)

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အမျိုးသမီးသည် ကာမဂုဏ်ပြင်းထန်လာသဖြင့် မိမိ၏ အင်္ဂါဇာတ်အတွင်းသို့ ကာမဂုဏ်မရှိသေးသော ယောကျ်ား၏လိင်၊ ၎င်းတိရစ္ဆာန်၏လိင်နှင့် တုတ်စသည်၊ ၎င်းလက်ကိုသွင်းမှု မနီသုက်ရည်ထွက်သည်ဖြစ်စေ၊ မထွက်သည်ဖြစ်စေ၊ ဂွတ်စ်လ် ဖွရ်သွ်င မပြုမနေရဖြစ်သည်၊ ဤသည်မှာ မွန်ယဟ်၏ဟာရှိယဟ် အကျယ်ပြန် ပုဂ္ဂိုလ်၏ ထင်မြင်ချက်ဖြစ်သည်၊ 'ရှရီအတ်' တရားတော်၏ တိကျစွာ ဆုံးဖြတ်ချက်မှာမနီသုက်ရည် မထွက်ပါက ဂွတ်စ်လ်ရေချိုးရန် ဖွရ်သွ်င မဖြစ်ပေ။

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၁။)

(ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၁၅၄။)

တတိယအချက်။

ဟိုင်သွ်ငရာသီ ဓမ္မတာသွေးကျဆင်းမှုမှ သန့်ရှင်းခြင်း။

(ကဗီရီကျမ်း စာမျက်နှာ-၄၀။)

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၂။)

စတုတ္ထအချက်။

နေဖွာ်းစ် သားဖွားပြီး သွေးလာမှုမှ သန့်ရှင်းခြင်း။ (ဤအချက် နှစ်ရပ်စလုံးကို အကျယ်တစ်ဝင့် ဘဟစ်ရှိတိဇေဝရ်ကျမ်း ပထမတွဲတွင် ရေးခဲ့ပေပြီ။)

(ကဗီရီကျမ်း စာမျက်နှာ-၄၀။)

(ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၂။)

## ဂွတ်စ်လ် ဖွရ်သွ်င မဖြစ်သောအချက်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မနီ သုက်ရည်သည် အကယ်၍ မိမိ တည်နေရာမှ ကာမဂုဏ် အရသာမပါဘဲထွက်ပြီး လိင်အပြင်သို့ ထွက်ကျလာသော်လည်း ဂွတ်စ်လ်ရေချိုးရန် ဖွရ်သွ်င မဖြစ်ပေ၊ ပမာဆိုသော်....တစ်ဦးသောသူသည် ဝန်ထုတ်ဝန်ပိုးမ,သည်၊ ၎င်းအမြင့်မှလိမ့်ကျသည်၊ ၎င်းတစ်ဦးဦးမှ အရိုက်ခံရသည်၊ ထိုဒဏ်တို့ဖြင့် မနီသုက်ရည်သည် အရသာမပါဘဲ ထွက်လာသော် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ်င မဖြစ်ပေ။

(ကဗီရီကျမ်း စာမျက်နှာ-၃၉။)

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားတစ်ယောက်သည် အသက်ငယ်ရွယ်သောမိန်းကလေးအား သံဝါသပြုလျှင်'မနီ'သုက်ရည်မထွက်၊ ၎င်းထိုမိန်းကလေးသည် ငယ်လွန်း၍ သံဝါသမှု ပြုပါက အင်္ဂါဇာတ်နှင့် စအိုမှာ ဆက်သွားမည်ကို စိုးရိမ်ရသော် တို့သူ့အပေါ် 'ဂွတ်စ်လ်' ရေချိုးရန် ဖွရ်သွ်မဟုတ်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားတစ်ဦးသည် မိမိ၏ လိင်ကို အဝတ်ထူထူဖြင့် ရစ်ပတ်ပြီး သံဝါသမှုပြုလျှင် ထိတွေ့မှုနှင့် သံဝါသ၏အရသာမခံစားရလျှင် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ်မဟုတ်ပေ၊ သို့သော်အမှန်မှာ ကွမ်းသီးလုံးဝင်သဖြင့် ဂွတ်စ်လ် ထိုက်လေ၏။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၁။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားတစ်ဦးသည် မိမိ၏ လိင်ကို ကွမ်းသီးလုံးထက်လျော့၍ သွင်းခဲ့မူ ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ်မဟုတ်ပေ။

၅။ မတ်စ်အလဟ်ပြဿနာ။ 'မသီ' အရေကြည်နှင့် ဝဒီ ထွက်ခြင်းဖြင့် ဂွတ်စ်လ် မထိုက်ပေ၊ ဝိုသွူသာလျှင် ထိုက်သည်။

ဟေဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၂။

၆။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီးများမှာ အစ်တေဟာသွာဟ် ရောဂါ သွေးဖြင့် ဂွတ်စ်လ် မထိုက်ပေ၊ 'နမာဇ်'အချိန်တွင် ဝိုသွူသာ ပြုရမည်၊ အစ်တေဟာသွာဟ် ရောဂါသွေးလာခြင်းဖြင့် 'နမာဇ်' ရိုဇဟ်ကိုမလွတ်ရ၊ သံဝါသမှုလည်း ပြုနိုင်သည်။

မုအတ်တွာအေမာမ် မုဟမ္မဒ် စာမျက်နှာ-၆၆။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၈။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်မှာ 'မနီ' သုက်ရည် ကျဆင်းနေသော ရောဂါရှိမူ၊ ထိုသူ့မှာ ထိုသုက်ရည်ထွက်ခြင်းဖြင့် ရေချိုးရန်မထိုက်ပေ။

ကဗီရီကျမ်း စာမျက်နှာ-၃၉။

၈။ မတ်စ်အလဟ်ပြဿနာ။ အိပ်ရာမှ ထပြီးနောက် အဝတ် အထည် များတွင် စွပ်စိုမှု တွေ့ရှိရသော် ထိုအဖြစ်များ၌ ဂွတ်စ်လ် ရေချိုးရန် မထိုက်ပေ။

(၁) အဲဟ်တေလာမ် ကိုကား သတိမရ၊ မသီ အရည်ကြည်ဟု ယုံကြည်သည်။

(၂) အဲဟ်တေလာမ် ကိုကား သတိမရ၊ မနီလော၊ ဝဒီလောဟု ဒွိဟသံသယ ဖြစ်သည်။

(၃) အဲဟ်တေလာမ် ကိုကား သတိမရ၊ မသီ အရေကြည်လော့၊ ဝဒီလော့ဟု ဒွိဟသံသယဖြစ်သည်။

(၄) အဲဟ်တေလာမ် ကိုကား သတိမရ၊ မသီလော့၊ ဝဒီလော့ဟုဒွိဟသံသယ ရှိသည်။

(၅) အဲဟ်တေလာမ် ကိုကား သတိမရ၊ 'ဝဒီ' ဟုကားယုံကြည်သည်။

(၆) အဲဟ်တေလာမ် ကိုကား သတိမရ၊ မနီလော့၊ မသီလော့၊ ဝဒီလော့ဟု ဒွိဟသံသယရှိသည်။

ပထမ,ဒုတိယ နှင့် ဆဋ္ဌမအချက်တို့တွင် 'အဲဟ်တေ့ယာတွာန်' ရှောင်ကြဉ်သော သဘောဖြင့် ဂွတ်စ်လ်ရေချိုးရန် 'ဝါဂျစ်ဗ်' ထိုက်သည်၊ အကယ်၍ မချိုးခဲ့သော် 'နမာဇ်' မပိုင်သာမက ပြင်းထန်သော 'အသာဗ်' ဖြစ်ဒဏ်ကို ခံရမည်၊ အဘယ့်ကြောင့်ဆိုသော် ဤအချက်တွင် အေမာမ်အဘူယူစွဖ် (ရဟတုလ္လာဟ်) သခင် နှင့် အေမာမ်အဘူဟာနီဖွာဟ်၊ ၎င်းအေမာမ်မုဟမ္မဒ်(ရဟမတုလ္လာဟ်) သခင်တို့တွင်ကွဲလွဲမှုရှိလေသည်၊ အေမာမ်အဘူယူစွဖ် (ရဟမတုလ္လာဟ်) သခင်က ရေချိုးရန်မလိုဟု မိန့်ဆိုတော်မူသည်၊ အေမာမ်အဘူဟာနီဖွာဟ် နှင့် အေမာမ်မုဟမ္မဒ် (ရဟမတုလ္လာဟ်) သခင်နှစ်ပါးက ရေချိုးရန် 'ဝါဂျစ်ဗ်' ဖြစ်သည်ဟု မိန့်တော်မူကြသည် 'ဖွာတ်ဝါ' ဆုံးဖြတ်ချက်သည် ဤသခင်နှစ်ပါး၏ အမိန့်အပေါ်တွင် ရှိသည်။ ဟေဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၂။

၉။ မတ်စ်အလဟ်ပြဿနာ။ ဟွပ်က်နဟ် အင်္ဂါဇာတ် နှင့် စအိုဆက်စပ်လျက် ရှိသောသူမသည် ဝမ်းခြူတန်ကို သွင်းခြင်းဖြင့် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ် မဖြစ်ပေ။ နူရွလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၈။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ား တစ်ဦးသည် မိမိလိင်ကို မိန်းမ၊ ၎င်းယောကျ်ားတစ်ဦးဦး၏ချက်၌ သွင်းခဲ့သော် 'မနီ' သုက်ရည်မထွက်ပါကဂွတ်စ်လ် ဖွရ်သွ် မဖြစ်ပေ။ ကဗီရီကျမ်း စာမျက်နှာ-၄၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးသောသူသည်အိပ်မက်၌ 'မနီ' သုက်ရည်ထွက်သည်ဟု မြင်မက်ပြီး သုက်ရည်ထွက်သော အရသာကိုလည်းခံစားရသည်၊ သို့သော် အဝတ်များတွင် စွတ်စိုခြင်း၊ ၎င်းမည်သည့် နိမိတ်လက္ခဏာမှ မတွေ့ရသော် 'ဂွတ်စ်လ်' ရေချိုးရန် ဖွရ်သွ် မဖြစ်ပေ။

ဖွတာဝါ ဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃။

# ဂွတ်စ်လ် ဝါဂျစ်ဗ် ဖြစ်သော အချက်များ အကြောင်း

၁။ အကယ်၍ ကာဖွင်ရ် တစ်ဦးတစ်ယောက်သည် အစ္စလာမ် သာသနာတော်ကို သက်ဝင်ယုံကြည်လျှင် ၎င်းသည် 'ကွဖ်ရ်' အဖြစ်၌ မသန့်ကြီး (ဟဒ်သ်အပ်က်ဗရ်) ဖြစ်ခဲ့ပြီး ရေမချိုးခဲ့၊ ၎င်းချိုးခဲ့သော်လည်း 'ရှရီအတ်' တရားတော်အတိုင်း မချိုးခဲ့သော် ထိုသူ အပေါ် အစ္စလာမ် သာသနာတော်ကို သက်ဝင်ပြီး ဂွတ်စ်လ် ရေချိုးရန် 'ဝါဂျစ်ဗ်' ဖြစ်သည်၊ အမျိုးသမီးသည် ရာသီလာသောအခါ သာသနာကို လက်ခံခဲ့သော် သန့်ရှင်းပြီး ရေချိုးရန် 'ဝါဂျစ်ဗ်' ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂။
ကဗီရီကျမ်း စာမျက်နှာ-၄၀။

၂။ အကယ်၍ တစ်ဦးသောသူသည် အသက် (၁၅) နှစ်မပြည့်မီ အရွယ်ရောက်ပြီး အဲဟ်တေလာမ် သုက်ရည်ထွက်ခဲ့သော် ပထမသုက်ရည်ထွက်ရာ အဲဟ်တေယာ်တွာန် ရှောင်ကြဉ်အပ်သော သဘောဖြင့် ဂွတ်စ်လ် ရေချိုးရန် ဝါဂျစ်ဗ် ဖြစ်သည်၊ ပထမအကြိမ်ပြီးနောက် အဲဟ်တေလာမ် သုက်ရည်ထွက်သော် ၎င်း အသက် (၁၅) နှစ်တွင် အဲဟ်တေလာမ် ဖြစ်သော် ထိုသူ့အပေါ် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ် ဖြစ်သည်။

(ကဗီရီကျမ်း စာမျက်နှာ-၄၅။)

၃။ သေသူ မွတ်စလင်မ်ကို ရေချိုးပေးရန် မွတ်စလင်မ် များအပေါ် ဖွရ်သွ် ကေဖွာယဟ် ဖြစ်သည်။

(ကဗီရီကျမ်း စာမျက်နှာ-၅၃)

## ဂွတ်စ်လ် စွန္နတ် ဖြစ်သော အချက်များ အကြောင်း

၁။ ဂျုံမ်မိုအဟ် သောကြာနေ့တွင် ဖွဂျ်ရ်'နမာဇ်'ပြီးနောက် ဂျုံမ်မိုအဟ်'နမာဇ်' အချိန်ထိ ဂျုံမ်မိုအဟ် 'နမာဇ်' ဖတ်ထိုက်သူများအပေါ် ဂွတ်စ်လ် ရေချိုးရန် စွန္နတ် ဖြစ်သည်။ (နူရွလ်အီသွာဟ်ကျမ်း၊ စာမျက်နှာ-၃၉။)

၂။ အီးဒ် နမာဇ် ဖတ်ထိုက်သူများအပေါ် အီးဒ်နေ့ ဖွဂျ်ရ် နမာဇ် ပြီးနောက် ရေချိုးရန် စွန္နတ် ဖြစ်သည်။ (နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၃၉။)

၃။ ဟဂျ်နှင့် အွမ်ရဟ် အတွက် အဲဟ်ရာမ် ခြုံထည် ဝတ်သောအခါ ရေချိုးရန် စွန္နတ် ဖြစ်သည်။ (နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၃၉။)

၄။ ဟဂျ်ပြုမူဆောင်ရွက်သူသည် 'အရ်ဖွာတ်' နေ့၌ မွန်းတိမ်းပြီးနောက်ရေချိုးရန် စွန္နတ် ဖြစ်သည်။ (နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၃၉။)

## ဂွတ်စ်လ် မွတ်စ်တဟဗ် ဖြစ်သော အချက်များ အကြောင်း

၁။ ဟဒ်သ်အပ်ကဗရ် မသန့်ကြီးမှ သန့်ရှင်းခဲ့သော် အစ္စလာမ် သာသနာတော်ကို သက်ဝင်ရန်အတွက် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

(အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆။)

၂။ ယောက်ျားကလေးနှင့် မိန်းကလေးတို့သည် အသက် (၁၅) နှစ်ပြည့်သော်လည်း အရွယ်ရောက်ခြင်း၏ အထိမ်းအမှတ် လက္ခဏာ တစ်ခုတစ်လေမျှ မပေါ်ပေါက်သေးလျှင် ၎င်းတို့အတွက် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

(အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆။)

(ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၆။)

၃။ တွင်စုတ်ပြီးနောက် ရှုးသွတ်ခြင်း ပျောက်ပြီးနောက် မူးဝေခြင်းမှ သတိမေ့ခြင်း ပျောက်ပြီးနောက် ရေချိုးရန် မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၄။ သေသူကို ရေချိုးပြီးနောက် ရေချိုးပေးသူများမှာ ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။ နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၅။ ရှဗေ့ဘာရာအတ် (ဝါ) ရှအ်ဗာန်လ (၁၅) ရက်ညကိုရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၆။ လိုင်လတွလ်ကဒ်ရ် ညဥ့်မြတ်ကို နိမိတ်ဖြင့် သိကြသော သူတော်စင်များမှာ ထိုညဥ့် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။ နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၇။ မဒီနာမြို့သို့ ဝင်သောအခါ ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၈။ မွဇ်ဒလေဖ္ဖာဟ်တွင် ဆိုင်းငံ့ရန်အတွက် သင်လ်ဟဂ်ျလ (၁၀) ရက်နေ့ နံနက် ဖဂ်ျရ်နမာဇ်အချိန် ရောက်သောအခါ ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

ဤသို့ ဆိုင်းငံ့ရခြင်းသည်'ဟဂ်ျ' အချိန်အခါတွင် ဖြစ်သည်၊ မွဇ်ဒလေဖ္ဖာဟ်သည် မတ်ကါကဟ်မြို့တော်အနီးရှိ နေရာတစ်ခု၏ အမည်ဖြစ်သည်။

၉။ 'ဟဂ်ျ' ပြုရာ၌ တဝါဖ့်ဇေယာရတ် အတွက် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၁၀။ 'ဟဂ်ျ' ပြုမူရာတွင် ကျောက်ခဲပစ်ရသောအခါ ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၁၁။ နေကြပ်သောအခါ၊ လကြတ်သောအခါ၊ မိုးဆုတောင်းသော အခါ 'နမာဇ် ဝတ်ပြုရန်အတွက် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၁၂။ ကြောက်ရွံ့ခြင်း ဒုက္ခရောက်သောအခါ ဖတ်ရသော 'နမာဇ်' အတွက် ရေချိုးခြင်း မွတ်စ်တဟဗ် ဖြစ်သည်။

နူရှုလ်အီသွားဟ်ကျမ်း စာမျက်နှာ-၄၀။

၁၃။ ဂိုနာဟ် အကုသိုလ် တစ်ခုခုမှ အပြစ်ချမ်းသာရရန် 'ဒိုအာ' ပြု ဆုမွန်ပြုရန် အတွက် ရေချိုးခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃။

၁၄။ ခရီးသွားသူသည် မိမိအိမ်သို့ ပြန်ရောက်လာသောအခါ ရေချိုးခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။ ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၂။

၁၅။ လူထုပရိသတ်သို့ သွားသောအခါ အဝတ်သစ် ဝတ်သောအခါ ရေချိုးခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။ (ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၂။)

၁၆။ အသတ်ခံရမည့်သူအတွက် ရေချိုးခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၂။

# ဟဒ်သ်အတ်က်ဗရ်၊ မသန့်ကြီး၏ ပညတ်ချက်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဂွတ်စ်လ် ရေချိုးရန် ဖွရ်သ် ဖြစ်သော အချိန်တွင် ဗလီဝတ်ကျောင်းတော်သို့ဝင်ခြင်း၊ 'ဟရာမ်' ကြီးလေးသော အပြစ်ဖြစ်သည်၊ ဟုတ်ပါ၏၊ အကယ်၍ ပြင်းပြစွာ လိုအပ်မှုရှိလျှင် ပိုင်သည်၊ ဥပမာ တစ်ဦးသောသူ၏ အိမ်တံခါး ပေါက်သည် ဗလီတွင်းမှဖြစ်လျှင် အခြားထွက်ရန် လမ်းမရှိလျှင် ၎င်းထိုနေရာမှတစ်ပါး အခြားနေစရာမရှိသော် ထိုသူသည် ဗလီဝတ်ကျောင်းတော်တွင်းသို့ တယမ်မွမ် မြေဖြင့် သန့်စင်၍ သွားပိုင်သည်၊ ၎င်းမည်သည့်ဗလီ၌ ရေတွင်း၊ စမ်းရေ၊ ရေကန် ရှိနေပြီး ထိုနေရာမှ တစ်ပါး အခြားနေရာတွင် ရေမရနိုင်သော် ထိုဗလီတွင်းသို့ တယမ်မွမ် ဖြင့် သွားပိုင်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၉။

၂။ မတ်စ်အလဟ်ပြဿနာ။ ကိုယ်မသန့်သောအဖြစ်နှင့်အီးဒ်ဂါဟ်၊ ကျောင်းနှင့် ခါန်ကာဟ် စသည်တို့တွင် သွားပိုင်သည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၉။

၃။ မတ်စ်အလဟ်ပြဿနာ။ ဟိုင်သ်ရာသီနှင့် နေဖွားစ်သားဖွား သွေးလာသော အခါ ဇနီးသည်၏ ချက်မှဒူးအထိ ၎င်းမိမိ၏ ကိုယ်ကာယ၊ ထိုအဆစ်အပိုင်းကို ကြား တွင် အဝတ်မပါဘဲ ကြည့်ခြင်း၊ ထိတွေ့ခြင်း ၎င်းသံဝါသမှု ပြုခြင်းတို့သည် 'ဟရာမ်' ကြီးလေးသော အပြစ်ဖြစ်သည်။ ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၅၁။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၉၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ဟိုင်သ် နှင့် နေဖွားစ်၊ ရာသီနှင့် သားဖွား သွေး လာသောအခါ ဇနီးအား နမ်းခြင်း၊ ဇနီး၏ သောက်ကြွင်း ရေစသည်ကိုစားသောက်ခြင်း၊ ပွေ့ဖက်၍အိပ်ခြင်း၊ အဝတ်မပါဘဲ ချက်နှင့်ချက်၏အထက်ပိုင်း၊ ၎င်းဒူး နှင့် ဒူး၏အောက် ပိုင်းကို မိမိကိုယ်ဖြင့်ထိခြင်း၊ ၎င်းချက်မှဒူးအထိ အဝတ်ပါသော်ထိတွေ့ခြင်းများပိုင်သည်၊

သာမက ရာသီအတွက် ဇနီးနှင့် သီးခြားအိပ်ခြင်း၊ ၎င်းဖော်ရွေစွာ ရောနှော နေထိုင်မှု ကိုစွန့်ခြင်းတို့သည် မတ်က်ရူးဟ် အပြစ်ဖြစ်သည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၉၀။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် အိပ်ရာမှထသော အခါ မိမိ၏လိင်တွင် စွတ်စိုနေမှု တွေ့မြင်ရသော် ၎င်းမအိပ်မီ လိင်မှာ ထကြွနေသော် ထိုသူ့အပေါ် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ် မဖြစ်ပေ၊ အဲဟ်တေလာမ်ကို သတိမရလျှင် ၎င်းမနီဟု အထင်မများသော် ထိုစွတ်စိုမှုကို 'မသီ'ဟု ယူဆရမည်၊ ၎င်းအကယ်၍ ပေါင် စသည်၊ ၎င်းအဝတ်များတွင်လည်း စွတ်စိုမှု တွေ့ရှိရသော် ဂွတ်စ်လ် ရေချိုးရန် 'ဝါဂျစ်ဗ်' ဖြစ်လေသည်။ ဖွတာဝါဟဗ်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ယောကျ်ားနှစ်ဦး၊ ၎င်းမိန်းမနှစ်ဦး၊ ၎င်းယောကျ်ားတစ်ဦးနှင့်မိန်းမတစ်ဦးတို့သည် အိပ်ရာခင်းတစ်ခုအပေါ်တွင်အိပ်ကြသည်၊ အိပ်ရာမှ ထသောအခါ အိပ်ရာခင်းတွင် 'မနီ' သုက်ရည်ကွက်များ တွေ့ရမှု၊၎င်းမည်သူ၏ သုက်ရည်ဖြစ်ကြောင်းမသိရလျှင် ထိုအိပ်ရာခင်းပေါ်တွင်မည်သူမျှမအိပ်ခဲ့သေးသော်နှစ်ဦး စလုံးအပေါ် ဂွတ်စ်လ် ရေချိုးရန် ဖွရ်သွ် ဖြစ်သည်၊ ၎င်းအကယ်၍ ထိုသူတို့အလျှင် အခြားတစ်ဦးဦးသည် ထိုအိပ်ရာခင်းပေါ်တွင် အိပ်ခဲ့သည်၊ ၎င်း 'မနီ' သုက်ရည်သည် ခြောက်သွေ့နေသော် ဤဖြစ်ရပ် နှစ်ခုစလုံးတွင် နောက်အိပ်သူများအပေါ်၌ ဂွတ်စ်လ် ဖွရ်သွ် မဖြစ်ပေ။ ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၁။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၂။

၇။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူအပေါ် ရေချိုးရန် ဖွရ်သွ် ဖြစ် လာသည်၊ ၎င်းရေချိုးရန် အကာအကွယ် လုံခြုံသောနေရာမရှိမှု ဤသို့ပြုကြရမည်၊ ယောကျ်ားဖြစ်လျှင် ယောကျ်ားများရှေ့၌ ဝတ်လစ်စလစ် ရေချိုးပိုင်သည်၊ ဤသို့ပင် အမျိုးသမီး ဖြစ်ပါက အမျိုးသမီးများ ရှေ့တွင် ဝတ်လစ်စလစ် ရေချိုး ပိုင်သည်၊ ၎င်းယောကျ်ားသည် အမျိုးသမီးများရှေ့၌ ၎င်းအမျိုးသမီးသည် ယောကျ်ားများရှေ့၌ ဝတ်လစ်စလစ်ရေချိုးခြင်း 'ဟရာမ်' ကြီးလေးသော အပြစ်ဖြစ်သည်သာမက 'တယမ်မွမ်' မြေဖြင့် သန့်စင်မှု ပြုရမည်။ ဒွရ်ရေမွခ်တာရ်ကျမ်း စာမျက်နှာ-၂၉။

# တယမ်မွမ် မြေဖြင့် သန့်စင်ရခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ရေတွင်းမှ ရေငင်ရန် မည်သည့်ပစ္စည်းမှ မရှိလျှင် ၎င်းအဝတ်ကို ရေတွင်း၌ချ၍ စွတ်စိုစေကာ အဝတ်ကိုရေညှစ်ပြီး သန့်စင်ရအောင် အဝတ် လည်းမရှိလျှင် ၎င်းရေသည် အိုးစသည်တွင်ရှိသည်၊ ရေခပ်ယူရန် ဘာတစ်ခုမှမရှိလျှင်

အိုးကြီးကိုစောင်း၍လည်း ရေမယူနိုင်သော် ၎င်းလက်မှာ မသန့်ဖြစ်နေသည်၊ ရေခပ်ပေးမည့်သူလည်းမရှိ၊ လက်ကိုဆေးရန် ရေလောင်းပေးမည့်သူလည်းမရှိသော် ဤကဲ့သို့အဖြစ်မျိုး၌ မြေဖြင့် တယမ်မွမ် သန့်စင်မှု ပြုနိုင်လေသည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၂။

၂။ မတ်စ်အလဟ်ပြဿနာ။ တယမ်မွမ် ပြုခွင့်မရှိသောအဖြစ်၌ တယမ်မွမ်ဖြင့် ဖတ်ခဲ့သော 'နမာဇ်' များကို ပြန်လည်၍ဖတ်ရမည်၊ ဥပမာ တစ်ဦးသောသူသည်အကျဉ်းကျနေသည် ထောင်လုပ်သားများက ရေမပေး၊ ၎င်းတစ်ဦးသောသူက ဝိုသွူ ပြုလျှင် သတ်ပစ်မည်ဟုဆိုသဖြင့် ကြောက်ပြီး မပြုဘဲ တယမ်မွမ်ဖြင့် ဖတ်သည်၊ ဤသို့တယမ်မွမ်ဖြင့် ဖတ်သော 'နမာဇ်' များကို ပြန်လည်၍ ဖတ်ကြရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၁၇။

၃။ မတ်စ်အလဟ်ပြဿနာ။ တစ်နေရာတည်းမှ မြေစိုင်ခဲ တစ်ခဲဖြင့် လူအချို့ တစ်ယောက်ပြီးတစ်ယောက် တယမ်မွမ် ပြုကြလျှင် ပိုင်သည်။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၅။

၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် ရေ, ၎င်းမြေ, နှစ်ရပ်စလုံးမပြုနိုင်လျှင် ရေ, မြေမရှိ၍ဖြစ်စေ ရောဂါကြောင့် မသုံးနိုင်၍ဖြစ်စေ ထိုသူသည်သန့်စင်မှုမပြုဘဲ 'နမာဇ်' ဖတ်ရမည်၊ ထို့နောက် သန့်စင်မှု ပြုနိုင်သောအခါ ပြန်၍ 'နမာဇ်' ဖတ်ရမည်၊ ဥပမာ တစ်ဦးသောသူသည် မီးရထားစီးသည်၊ နမာဇ်' အချိန် ရောက်လာသော အခါ ရေ ၎င်းတယမ်မွမ် ပြုနိုင်သော မြေ, မြေအိုး၊ ၎င်းမြူမှုန့် စသည်များမရှိ၊ 'နမာဇ်'အချိန်က ကုန်တော့မည် ဖြစ်နေသော် ဤအတိုင်းပင်သန့်စင်မှုမပြုဘဲ 'နမာဇ်' ဖတ်လိုက်ရမည်၊ ဤသို့ပင် တစ်ဦးသောသူသည် ထောင်အကျဉ်းကျနေသည်၊ သန့်သောရေနှင့်မြေကို မရနိုင်သော် ဝိုသွူ၊ ၎င်းတယမ်မွမ် မပါဘဲ 'နမာဇ်' ဖတ်ရမည်၊ ဤဖြစ်ရပ် နှစ်ခုစလုံးတွင် ရေရနိုင်သောအခါ 'နမာဇ်' ကို တစ်ဖန်ပြန်၍ ဖတ်ကြရမည်။

ဘဲဟ်ရွရ်ရာအစ်က်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၁၅၁။

၅။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် 'နမာဇ်' နောက်ဆုံး အချိန်အထိ ရေရနိုင်မည်ဟု အထင်များလျှင် ယုံကြည်လျှင် ထိုသူ့အတွက် 'နမာဇ်'နောက်ဆုံး အချိန်ထိ ဆိုင်း၍ဖတ်ခြင်း၊ မွတ်စ်တဟာဗ် ဖြစ်သည်၊ ဥပမာ ရေတွင်းမှ ရေငင်ရန် ဘာတစ်ခုမျှမရှိသို့သော် နောက်ဆုံး မွတ်စ်တဟာဗ် အချိန်တွင် ရေပုံးကြိုး ရမည်ဟုယုံကြည်လျှင် ၎င်းအထင်များလျှင် ၎င်းမီးရထားစီးရာတွင် နောက်ဆုံးအချိန်၌ ရေရနိုင်သော ဘူတာသို့ ရောက်မည်ဟုယုံကြည်လျှင်၊ အထင်များလျှင် မွတ်စ်တဟာဗ်အချိန်ထိဆိုင်း၍ဖတ်ခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ဟောဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၆။
ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၄။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် မီးရထားစီးသည်၊ ထိုသူသည် ရေမရသဖြင့် မြေဖြင့် တယမ်မွမ်ပြုသည်၊ လမ်း၌ ရေမြောင်း, အိုင်များကိုတွေ့မြင်ရမူလည်း ထိုသူ၏ တယမ်မွမ်မှာ မပျက်ပေ၊ အဘယ့်ကြောင့်ဆိုသော်.... ထိုသူသည် ရေကိုသုံးစွဲနိုင်သူမဟုတ်၊မီးရထားက ရပ်ပေးမည်မဟုတ်၊ဎင်းသွားနေသောရထားမှလည်း မဆင်းနိုင်ပေ။

ကဗီရီကျမ်း စာမျက်နှာ-၈၃။

ဤတွင်၍ကား ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း ပထမတွဲ၏
နောက်ဆက်တွဲ ပြီး၏။

## ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း ဒုတိယတွဲ၏ နောက်ဆက်တွဲ

# နမာဇ် အချိန်များ အကြောင်း

မွဒ်ရစ်က်.... နမာဇ် စ,သုံး ဂျမာအတ် နှင့် မှီသူကိုခေါ်သည်၊ ဤသို့သောသူကို ‘မွပ်ဒ်တဒီ’ ဎင်း‘မုအ်တမ်’ဟုလည်း ခေါ်ကြသည်။

မတ်စ်ဘူးက်.... ဂျမာအတ်တွင် နမာဇ် ၁-ရကအတ်၊ ဎင်းထိုထက် ပို၍ နောက်ကျမှ ဝင်ရောက်လာသူကို ခေါ်သည်။

လာဟာစ်က်.... အေမာမ်၏နောက်မှ နမာဇ်ဖတ်နေစဉ် ရကအတ် အားလုံးဖြစ်စေ၊ အချို့ ရကအတ်တွင် ဖြစ်စေ လွတ်သွားလျှင်၊ အိပ်ပျော်သွား၍ ဖြစ်စေ၊ ဎင်းဝိုသွူ ပျက်၍ ဖြစ်စေ လွတ်သွားသူကို ခေါ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၆။

၁။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသားများအတွက် ဖွဂျ်ရ်နမာဇ်ကို အလင်းရောင် ပြန့်သွားသော အခါတွင် ဖတ်ခြင်း ‘မွတ်စ်တဟာဗ်’ ဖြစ်သည်၊ ဎင်းအချိန်မှာ ဤမျှခန့် ကျန်ရှိနေရမည်၊ နမာဇ် ဖတ်သောအခါ အာယတ်တော် (၄၀-၅၀) ကို ကောင်းစွာဖတ်နိုင်ရမည့်အပြင် အကယ်၍ အကြောင်းတစ်ခုခုကြောင့် နမာဇ်ကို ပြန်လည်ဖတ်ရသော် အာယတ်တော် (၄၀-၅၀)ဖတ်နိုင်လောက်အောင် အချိန် ကျန်ရှိနေရမည်။ ဎင်းအမျိုးသမီးများသည် အမြဲ နှင့် အမျိုးသားများသည် ဟာဂျ် ပြုမူဆောင်ရွက်သော အခါ၊ မွဇ်ဒလေဖွာဟ်၌ မှောင်နေချိန်တွင် ဖွဂျ်ရ်နမာဇ်ဖတ်ခြင်း မွတ်စ်တဟာဗ်ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၃၉။

၂။ မတ်စ်အလဟ်ပြဿနာ။ ဂျိုမို့အဟ် နမာဇ်ချိန်သည်ဇွဟ်ရ်နမာဇ်ချိန်ပင် ဖြစ်သည်၊ သို့သော် ဤမျှပင်ကွာခြားသည်၊ ဇွဟ်ရ်နမာဇ်ကို နွေရာသီတွင် အပူရှိန်ပြင်း

သည်ဖြစ်စေ၊ မပြင်းသည်ဖြစ်စေ ဆိုင်း၍ဖတ်ခြင်းသာမြတ်သည်၊ ၎င်းဆောင်းရာသီတွင် စောလျင်စွာ ဖတ်ခြင်း မွတ်စ်တဟဗ် ဖြစ်သည်၊၎င်းဂျို့မို့အဟ် နမာဇ်ကို အချိန်ဦးတွင် ဖတ်ခြင်းစွန္နတ်တော်ဖြစ်သည်၊ 'ဂျမ်ဟူရ်'အများစုအာလင်မ်များက ဤသို့ပင်မိန့်ကြသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၂၊ ၁၄၆။

ဂျောင်ဟရတ်နိုင်ယေရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၀၉။

၃။ မတ်စ်အလဟ်ပြဿနာ။ အီးဒ် နှစ်အီးဒ် ၏ နမာဇ် အချိန်သည် နေ ကောင်းစွာ ထွက်ပြူလာပြီးမှ စ၍ မွန်းမတည့်မီထိ ရှိလေသည်၊ နေကောင်းစွာ ထွက် ပြူလာပြီး ဟု ဆိုသည်မှာ.... ဝါကျင့်ရောင် ပျောက်ကွယ်သွားပြီး မကြည့်နိုင်လောက် အောင် လင်းဝင်းလာသည်ကို ဆိုလိုသည်၊ ဖွေကဟ် ကျမ်းရှင်များက နေသည် လှံ တစ်ထောက်စာခန့် မြင့်တက်လာလျှင် အီးဒ် နမာဇ်ချိန် တော်ပြီဟု သတ်မှတ်ကြသည်၊ အီးဒ် နှစ်အီးဒ်၏ နမာဇ်ကို စောလျင်စွာဖတ်ခြင်း မွတ်စ်တဟဗ် ဖြစ်သည်၊ သို့သော် 'အီဒွလ်ဖွစ်တ်ရ်' ဝါကျုတ် အီးဒ်ကို အချိန်တော်လျှင်တော်ခြင်း မဖတ်ဘဲ အနည်းငယ် ဆိုင်း၍ ဖတ်ရန် ထိုက်သည်။

ဟောဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၃။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၉။

ကဗီရီကျမ်း စာမျက်နှာ-၅၃၀။

၄။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ရှေ့ဆောင် ဆရာသည် 'ခွတ္တ်ဗဟ်' ဖတ်ရန်အတွက် 'မိမိနေရာမှ ထလာလျှင် ၎င်းခွတ္တ်ဗဟ်သည် ဂျို့မို့အဟ်နမာဇ်၊ ၎င်း အီးဒ်နှစ်အီးဒ်၊ ၎င်းဟဂ်ျ စသည် အတွက် ဖြစ်မူ၊ ထိုအချိန်၌ နမာဇ် ဖတ်ကြခြင်းသည် 'မတ်က်ရူးဟ်' ဖြစ်သည်၊ ၎င်းနေကာဟ် ခွတ္တ်ဗဟ်နှင့် ကုရ်အာန်ခတမ်တွင် ခွတ္တ်ဗဟ် စသောအခါ နမာဇ်ဖတ်ခြင်း 'မတ်က်ရူးဟ်' ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၃။

ဟောဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၅။ မတ်စ်အလဟ်ပြဿနာ။ ဖွရ်သ္တ် နမာဇ် အတွက် 'တပ်က်ဗီးရ်' ဆိုလျှင် ထိုအချိန်၌လည်း အခြား နမာဇ်များ ဖတ်ခြင်း၊ မတ်က်ရူးဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ဖွဂ်ျရ် နမာဇ်၏ စွန္နတ်မဖတ်ရသေးလျှင် ၎င်းဂျမာအတ်နှင့် နမာဇ် တစ်ရအာတ် ရမည်ဟု ယုံကြည်လျှင်၊ အထင်များလျှင်၊ ၎င်းအချို့ အာလင်မ်များ၏ အဆို အရ၊ 'တရှဟ်ဟွဒ်'တွင် မှီမည်ဟု ယူဆသော် ဖွဂ်ျရ်၏ စွန္နတ်ကိုဖတ်ခြင်း မတ်က်ရူးဟ် မဖြစ်ပေ၊ ၎င်းစွန္နတ်မို့အတ်ကဒဟ် စမိခဲ့သော် ပြည့်စုံအောင် ဖတ်လိုက်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၂။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၁။

**မှတ်ချက်။** သို့သော်ထင်ရှားသော မသဟဗ်မှာ အကယ်၍ ဖွရ်သွ ိနမာဇ်နှစ်ရကာ အတ်ဇလုံး လွှတ်သွားမည်ကိုစိုးရလျှင်၊ တရှဟ်ဟွဒ် ရမည်ဟု ယုံကြည်သော်လည်း ဖွရ်ဂျ်ရ်ိ စွန္နတ်ကို မဖတ်ရဟု နဟ်ရ်ကျမ်းရှင်က ရေးသားထားသော်လည်း၊ ဖွာတ်ဟွလ်ကဒီးရ်ိ ကျမ်းရှင်က အထက်တင်ပြပါ ဖတ်ရမည်ဆိုသောအချက်ကို ထောက်ခံထားသည်။

၆။ မတ်စ်အလဟ် ပြဿနာ။ အီးဒ်နှစ်အီးဒ်၏ နမာဇ်အလျှင် အိမ်မှာဖြစ်စေ၊ ဗလီမှာဖြစ်စေ၊ အီးဒ်ဂါဟ်မှာဖြစ်စေ နဖိလ်နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ်ဖြစ်သည်၊ ၎င်း အီးဒ်နှစ်အီးဒ်နမာဇ်ပြီးနောက် ဗလီနှင့်အီးဒ်ဂါဟ်တွင်သာ မတ်က်ရူးဟ်ဖြစ်သည်၊ အိမ်၌ ဖတ်ခြင်း မတ်က်ရူးဟ် မဖြစ်ပေ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

# အသာန်၏ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အဒါ နမာဇ်အတွက် အသာန် ဆိုမှု ဖတ်မည့် နမာဇ်မှာ အချိန်တော်နေရန် အရေးကြီးသည်၊ အကယ်၍ အချိန် မတော်မီ အသာန်ဆိုခဲ့သော်မပိုင်သာမက၊အချိန်တော်သောအခါပြန်လည်၍အသစ်တဖန်ဆိုရမည်၊ ထိုအသာန်သည် ဖွရ်ဂျ်ရ်အတွက်ဖြစ်စေ၊ အခြားနမာဇ်အတွက်ဖြစ်စေ အတူတူပင်ဖြစ်သည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၄။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၂။ မတ်စ်အလဟ် ပြဿနာ။ အသာန် နှင့် အေကာမတ်ကို အရဗီဘာသာဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အမိန့်အတိုင်း မလွဲမသွေ ဆိုကြရမည်၊ အကယ်၍ အခြားဘာသာစကားဖြင့် ၎င်းအရဗီဘာသာ ဖြစ်သော်လည်း အခြားစကားရပ်များဖြင့် အသာန် ၎င်းအေကာမတ်ဆိုခဲ့သော် လူတို့က ထိုအသံကိုကြားပြီး အသာန်အေကာမတ်ဟု ယူဆကြပြီး အသာန်အေကာမတ်၏ သဘော သက်ရောက်သော်လည်း မပိုင်ပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၅၆။
ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၂။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅။

၃။ မတ်စ်အလဟ် ပြဿနာ။ မုအသ်သင်န်မှာ ယောက်ျားဖြစ်ရန် အရေးကြီးသည်၊ အမျိုးသမီး အသာန်ဆိုခြင်းမပိုင်၊ အကယ်၍ အမျိုးသမီးတစ်ဦးတစ်ယောက်သည် အသာန်ဆိုခဲ့သော် ပြန်ဆိုရမည်၊ ပြန်၍မဆိုဘဲ နမာဇ်ဖတ်ခဲ့ပါက ပမာဆိုသော်....အသာန် မဆိုဘဲ နမာဇ်ဖတ်သည်ပင်ဖြစ်၏။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။

ဘဲဟ်ရှရ်ရာအစ်က်ကျမ်းစာမျက်နှာ-၂၆၃၊ ၂၆၄။

၄။ မတ်စ်အလဟ် ပြဿနာ။ မုအသ်သင်န်မှာ အသိဉာဏ်ရှိသူ ဖြစ်ရန် အရေးကြီးသည်၊ အကယ်၍ နားမလည်သေးသောကလေး ၎င်းသူရူးနှင့် မူးနေသူသည် အသာန် ဆိုပါက မပိုင်ပေ။ ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၄။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၅။

၅။ မတ်စ်အလဟ် ပြဿနာ။ အသာန်ဆိုခြင်း၏ စွန္နတ်တော်မှာ ဤသို့ရှိသည်၊ အသာန်ဆိုသောသူသည် မသန့် အကြီး-အသေး နှစ်မျိုးစလုံးမှ သန့်ရှင်းနေရမည်၊ ဗလီမှ အပြင်ဘက် မြင့်သောနေရာတစ်ခုခုတွင် 'ကစ်ဗ်လဟ်' ဘက်သို့ မျက်နှာမူ၍ရပ်ရမည်၊ ၎င်း မိမိ၏ လက်ညှိုးနှစ်ခုကို နားပေါက်တွင်ပိတ်၍ အသံကျယ်စွာ ဆိုရမည်၊ သို့သော် ဒုက္ခ ရောက်လောက်အောင် အော်ဟစ်ခြင်းမပြုရ၊ ဤစာလုံးများကို ဆိုရမည်။

اَللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ اَشْهَدُ اَنْ لَّا
اِلٰهَ اِلَّا اللّٰهُ اَشْهَدُ اَنْ لَّا اِلٰهَ اِلَّا اللّٰهُ اَشْهَدُ اَنَّ مُحَمَّدًا
رَسُوْلُ اللّٰهِ اَشْهَدُ اَنَّ مُحَمَّدًا رَسُوْلُ اللّٰهِ حَيَّ عَلَى الصَّلٰوةِ
حَيَّ عَلَى الصَّلٰوةِ حَيَّ عَلَى الْفَلَاحِ حَيَّ عَلَى الْفَلَاحِ اَللّٰهُ اَكْبَرُ
اَللّٰهُ اَكْبَرُ لَا اِلٰهَ اِلَّا اللّٰهُ

ဟိုက်ယအလပ်စွ ေစွလားဟ်....ဆိုသောအခါ မိမိ၏ မျက်နှာကို လက်ယာဘက်သို့ လှည့်ရမည်၊ သို့သော် ရင်ဘတ် နှင့် ခြေမှာ 'ကစ်ဗ်လဟ်' ဘက်မှ လှည့်မသွားစေရ၊ ၎င်းဟိုက်ယအလလ်ဖွလားဟ် ဆိုသောအခါ မိမိမျက်နှာကို လက်ဝဲဘက်သို့ လှည့်ရမည်၊ သို့သော် ရင်ဘတ်နှင့်ခြေမှာ 'ကစ်ဗ်လဟ်'ဘက်မှ လှည့်မသွားစေရ၊ ၎င်းဖွဂျ်ရ်နမာဇ်၏ အသာန်တွင် ဟိုက်ယအလလ်ဖွလားဟ်၏ နောက်....

اَلصَّلٰوةُ خَيْرٌ مِّنَ النَّوْمِ

အတ်စွ ေစွလာတို့ ခိုင်ရွမ်၊ မေ့နန်နောင်မ်....ကို ၂-ကြိမ် ဆိုမည်။

အသာန်၏ စာလုံးပေါင်းသည်(၁၅)လုံးရှိသည်၊ ၎င်းဖွဂျ်ရ်၏အသာန်တွင်(၁၇) လုံးရှိသည်၊ အသာန်၏စာလုံးများကို သီချင်းသံ့ကဲ့သို့ မဆိုရ၊ ၎င်းအချို့ကို အသံနိမ့်ဖြင့် အချို့ကို အသံကျယ်စွာဖြင့် သံနိမ့်-သံမြင့်မဆိုရ၊ ၎င်းအလ္လာဟ်တို့အတ်က်ဗရ် ၂-ကြိမ်ဆိုပြီး နောက်၊ နားထောင်သူ အဖြေပေးနိုင်ရန်အချိန်မျှ ဆိုင်းရမည်၊ ၎င်းအလ္လာဟ်တို့အတ်က်ဗရ် အပြင်၊ အခြားစာလုံးများတွင်လည်း နားထောင်သူများ အဖြေပေးနိုင်စေရန် ဆိုင်းငံ့ ပြီးမှ ရှေ့စာလုံးကို ဆက်၍ဆိုရမည်။

ရှာမီကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၆။
ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၇။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၊၅၄၊၅၅။

၆။ မတ်စ်အလဟ်ပြဿနာ။ အေကာမတ်လည်း ဤနည်းလမ်း အတိုင်းပင် ဖြစ်သည်၊ ဤမျှသာ ကွာခြားသည်၊အသာန်သည် ဗလီ့မ၏ ပြင်ဘက်မှ ဆိုရသည်၊ ဤအချက်မှာ အကောင်းဆုံးဖြစ်သည်၊ ၎င်းအေကာမတ်သည် ဗလီတွင်း၌ ဆိုရသည်၊ အသာန်သည် အသံကျယ်စွာ ဆိုရသည်၊ အေကာမတ်မှာ အသံနိမ့်ဖြင့်ဆိုရသည်၊ ၎င်းအေကာမတ်တွင် အတ်စွ်ဲစွလာတို့ ခိုင်ရွန်မေ့နန်နောင်မ် မဆိုရ၊ သာမက ထိုအစား ငါးကြိမ်စလုံးတွင် 'ကဒ်ကာမ၊ တစ်စွလားဟ်' (၂) ကြိမ် ဆိုရသည်။

၎င်း 'အေကာမတ်' ဆိုသောအခါ နားနှစ်ဘက်ကို ပိတ်ရန်မလိုပေ၊ အဘယ့်ကြောင့်ဆိုသော်နားနှစ်ဘက်ပိတ်ခြင်းမှာ အသံကျယ်လောင် စူးရှစေရန်အတွက်ဖြစ်သည်၊ ဤနေရာတွင် အသံကျယ်ရန်မလိုပေ၊ ၎င်း 'အေကာမတ်' တွင် ဟိုက်ယအလပ်စွ်ဲစွလားဟ်နှင့် 'ဟိုက်ယအလလ်ဖွလားဟ်' ဆိုရာတွင် လက်ဝဲ့ လက်ယာ လှည့်ရန်လည်း မလိုအပ်ပေ၊ ဆိုလိုသည်မှာ- အရေးမကြီးပေ၊ သို့သော် အချို့ 'ဖွေကဟ်' ကျမ်းရှင်များက လှည့်နိုင်သည်ဟုကား ရေးကြသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၃။
ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၆၀။

# အသာန် နှင့် အေကာမတ်၏ အမိန့်ပညတ်ချက်များ

## အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဖွရ်သွ်ဲအိုင်န်'နမာဇ်'အားလုံးတွင်ယောကျ်ားများအပေါ် 'အသာန်' တစ်ကြိမ်ဆိုခြင်း စွန္နတ်မို့အပ်က်ကဒဟ် ဖြစ်သည်၊ ခရီးသည်ဖြစ်စေ၊ မြို့နေ့ အိမ်နေဖြစ်စေ၊ ဂျမာအတ် 'နမာဇ်' အတွက်ဖြစ်စေ တစ်ကိုယ်တည်း အဒါ နမာဇ်ဖြစ်စေ၊ ကသွာ နမာဇ်ဖြစ်စေ အတူတူပင်ဖြစ်သည်၊ ၎င်းဂျို့မို့အဟ် သောကြာ နမာဇ်အတွက် အသာန် (၂) ကြိမ်ဆိုခြင်း စွန္နတ်မို့အပ်က်ကဒဟ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၃၅၇။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၂။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍'နမာဇ်'သည် အားလုံးရော၍ 'ကသွာ' ဖြစ်သွားလျှင် ထိုအတွက် 'အသာန်' ကို ကျယ်လောင်စွာ ဆိုရမည်၊၎င်းအကယ်၍သီးခြားသောအဖြစ်နှင့် 'ကသွာ'ဖြစ်ခဲ့မူ၊ တိုးတိုးစွာ 'အသာန်' ဆိုရမည်၊ သို့မှသာ လူတို့သည် အသာန် ဆိုသံကြား၍ ကသွာ ဖြစ်ခဲ့ကြောင်း မသိကြပေမည်၊ အဘယ့်ကြောင့် ဆိုသော် နမာဇ် 'ကသွာ' ဖြစ်ခြင်းသည် မေ့လျော့ပေါ့ဆခြင်း၊ ပျဉ်းရိခြင်း အတွက်တို့ကြောင့် ဖြစ်သည်၊ သာသနာရေးအလုပ်တွင် မေ့လျော့ ပေါ့ဆခြင်း၊ပျဉ်းရိခြင်းတို့သည်'ဂိုနာဟ်' ဖြစ်ပေသည်၊ ၎င်း'ဂိုနာဟ်'ကို ထင်ပေါ်အောင် ပြုခြင်းသည် မကောင်းပေ။

၎င်း အကယ်၍ 'နမာဇ်'များစွာ ကဇ္ဇာ ဖြစ်ခဲ့လျှင် ထိုနမာဇ်များကို တစ်ခါတည်း ဖတ်လိုမူ ပထမ နမာဇ် အတွက် အဿာန်ဆိုရန်သာ စွန္နတ် ဖြစ်သည်၊ ကျန် နမာဇ် များ အတွက် အေကာမတ်သာလျှင် ဆိုရမည်၊ ဟုတ်ပါ၏ 'နမာဇ်' တိုင်းအတွက် အဿာန် ဆိုခြင်းသည် မွတ်စ်တဟာဗ် ဖြစ်သည်။

နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၆၀။

၃။ မတ်စ်အလဟ်ပြဿနာ။ ခရီးသည် များ လည်း အဿာန် ကိုလည်းကောင်း၊ အေကာမတ်ကိုလည်းကောင်း ရွတ်ခြင်း မတ်ကရူးဟ် ဖြစ်သည်၊ သာမက အဿာန်နှင့် အေကာမတ်ဆိုရန် စွန္နတ်မို့ အပ်ကဒဟ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄။

၄။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် မိမိအိမ်တွင်ပင်တစ်ယောက်တည်း ဖြစ်စေ၊ ဂျမာအတ်နှင့်ဖြစ်စေ၊ နမာဇ်ဖတ်လျှင် အဿာန်နှင့် အေကာမတ်ဆိုရန် မွတ်စ် တဟာဗ် ဖြစ်သည်၊ အရပ်ဗလီ၊ ၎င်းရွာဗလီမှ အဿာန် နှင့် အေကာမတ် ဆိုပြီးမှသာ ဖြစ် သည်၊ အဘယ့်ကြောင့်ဆိုသော် အရပ်ဗလီ ၎င်းရွာဗလီ၏ အဿာန်နှင့် အေကာမတ် သည် တစ်ရပ်လုံးအတွက် လုံလောက်လေသည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၃။

၅။ မတ်စ်အလဟ်ပြဿနာ။ အကြင် ဗလီ ဝတ်ကျောင်း တော် တွင် အဿာန် နှင့် အေကာမတ်ဖြင့် နမာဇ်ဖတ်ပြီးနေသော် နောက်ကျသူက အဿာန် နှင့် အေကာမတ် ဆို၍ ဖတ်ပါက မတ်ကရူးဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ထိုဗလီတွင် မုအဿင်နှင့် ၎င်းအေမာမ်ဆရာကို အတည်တကျ ခန့်ထားခြင်းမရှိပါက အဿာန်နှင့်အေကာမတ်ဆို၍ ဖတ်ခြင်း မတ်ကရူးဟ် မဖြစ် သာမက ပို၍ပင်မြတ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၆။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၂။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော သူသည် 'ဂျို့မို့အဟ်' ပိုင်သော 'ရှရတွ' စည်းမျဉ်းများရှိကာဂျို့မို့အဟ်နမာဇ်ဖတ်သောနေရာဒေသတွင် ဇွဟ်ရ် နမာဇ်ဖတ်မူ ထိုသူ့အတွက် အဿာန်နှင့် အေကာမတ်ဆိုခြင်း 'မတ်ကရူးဟ်' ဖြစ်သည်၊ ထိုသူသည် ဇွဟ်ရ် နမာဇ်ကို အွဇ်ရ် ခွင့်ရှိ၍ ဖတ်သည်ဖြစ်စေ အွဇ်ရ်မရှိဘဲ ဖတ်သည် ဖြစ်စေဂျို့မို့အဟ်နမာဇ် ဖတ်ပြီးကြမှ ဖတ်သည်၊ မဖတ်ကြသေးမီ ဖတ်သည်ဖြစ်စေ အတူတူပင် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၆၃။

အာလမ်ဂီရီကျမ်း စာမျက်နှာ-၁၅၅။

၇။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီးများသည် ဂျမာအတ်ပြု၍ ဖတ်ကြသည် ဖြစ်စေ တစ်ကိုယ်တည်း ဖတ်သည်ဖြစ်စေ အဿာန်နှင့်အေကာမတ်ဆိုခြင်း မတ်ကရူးဟ် ဖြစ်သည်။

ဒုရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၄။

ဂ။ မ်တ်စ်အလဟ်ပြဿနာ။ 'ဖွရ်သွ်အိုင်န်' နမာဇ် များအပြင် အခြား နမာဇ်များ၌ အသာန်နှင့် အေကာမတ်သည် စွန္နတ် မဟုတ်ပေ၊ 'ဖွရ်သွ်ကေဖွာယဟ်' ဖြစ်စေ ဥပမာ ဂျနာဇဟ် နမာဇ်၊ ဝါဂျစ်ဗ် ဖြစ်စေ၊ ဥပမာ- ဝစ်တ်ရ် နှင့် အီးဒ်နှစ်အီးဒ်၊နဖ်လ်နမာဇ်ဖြစ်စေ ထိုသို့ အခြား နမာဇ် များ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၅ဂ။
အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၃။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၂။

၉။ မတ်စ်အလဟ်ပြဿနာ။ အကြွင် သူ သည် အသာန် ဆိုသံကို ကြား လျှင် ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ ကိုယ်ကာယသန့်ရှင်းသူဖြစ်စေ 'ဂျိုနုဗ်' ကိုယ်မသန့်သူဖြစ်စေ ထိုသူတို့အပေါ် အသာန်ကို 'ဂျဝါဗ်'ပေးရန် 'မွတ်စ်တဟဗ်' ဖြစ်သည်၊အချို့က ဝါဂျစ်ဗ်ဟုလည်း ဆိုကြသည်၊ သို့သော် ခိုင်ပာသော ထင်ရှားသော အဆိုမှာ 'မွတ်စ်တဟဗ်' ဖြစ်သည်၊ ဆိုလိုသည်မှာ 'မုအသ်သင်န်' က ဆိုသော စာလုံးကိုလိုက်၍ ဆိုရမည်၊ သို့သော် ဟိုက်ယအလတ်စွ်စွလားဟ် နှင့် ဟိုက်ယအလလ်ဖွလားဟ်တွင် 'လာဟောင်လ၊ ဝလာကုဝတ၊ အစ်လ္လာ ဗစ်လ္လာဟ်'ဟုလည်း ထည့်သွင်းဆိုကြရမည်၊ ၎င်း 'အတ်စွ်စွလာတို၊ ခိုင်ရွမ်မေ့နန်နောင်မ်' တွင် စွဒပ်က်တ၊ ဝဗရင်ရိတ ဟုဆိုရမည်၊ ၎င်း အသာန် ဆိုပြီး 'ဒရူးဒ်ရှရီးဖ်' ဖတ်ပြီးသောအခါ ဤ'ဒိုအာ' ကိုဖတ်ရမည်။

اَللّٰهُمَّ رَبَّ هٰذِهِ الدَّعْوَةِ التَّامَّةِ وَالصَّلٰوةِ الْقَائِمَةِ اٰتِ سَيِّدَنَا
مُحَمَّدَنِ الْوَسِيْلَةَ وَالْفَضِيْلَةَ وَابْعَثْهُ مَقَامًا مَّحْمُوْدَنِ الَّذِيْ وَعَدْتَهٗ
اِنَّكَ لَا تُخْلِفُ الْمِيْعَادَ

အလ္လာဟွမ္မ၊ ရဗ်ဗ၊ ဟာသေ့ဟစ်ဒ်ဒအ်ဝတစ်တာမ်မတေ့ ဝတ်စ်စွလာတင်လ်ကာအေ့မတေ့၊ အာတေ့စိုက်ယေ့ဒေ့နာ၊ မုဟမ္မဒနင်လ်၊ ဝစီလတ၊ ဝလ်ဖွသွီလတ၊ ဝဗ်အသ်ဟို၊မကာမန်၊မဟ်မူဒနင်လ္လသီ၊ဝအာဒ်တဟူ၊ အင်နကလာတွခ်လေ့ဖွလ်မီအားဒ်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၄။

မှတ်ချက်။ ။အတ်စွ်စွလာတို့ခိုင်ရွမ်၊မေ့နန်နောင်မ်၏'ဂျဝါဗ်'ကို ခိုင်မာသော ဖေ့ကဟ်ကျမ်းများအရ ဤသို့ဆိုရမည်၊ စွဒပ်က်တ၊ ဝဗရင်ရိတ၊ ဝဗင်လ်ဟပ်က်ကေ့၊ နတ္တာက်တ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၉။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ဂျိ.မို.အဟ်၏ ပထမ အဿာန် ဆိုသံကြားသော အခါ အလုပ်အားလုံးကိုလွှတ်ပြီး 'ဂျိ.မို.အဟ်' နမာဇ်အတွက် ဗလီဝတ်ကျောင်းတော်သို့ သွားရန် 'ဝါဂျစ်ဗ်' ဖြစ်သည်၊ ရောင်း, ဝယ် ဖောက်ကားခြင်း၊ ၎င်းအလုပ် တစ်ခုခု၌ မွေ့လျော်နေခြင်းတို့သည် 'ဟရာမ်' ဖြစ်သည်။

ဟေဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အေကာမတ်ကို'ဂျဝါဗ်' ပေးရန် 'မွတ်စ်တဟဗ်' ဖြစ်သည်၊ ဝါဂျစ်ဗ်မဟုတ်ပေ၊၎င်းကဒ်ကာမတစ်စွလားဟ်ဆိုသောအခါအကာမဟလ္လာဟို၊ ဝအဒါမဟာ ဟုဆိုကြရမည်။

အစလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆။

၁၂။ မတ်စ်အလဟ်ပြဿနာ။ (၈)မျိုးသောအဖြစ်၌အဿာန်ကို 'ဂျဝါဗ်' ပေးရန်မထိုက်၊ ထို (၈) မျိုးကား.....

၁။ နမာဇ် ဖတ်သောအဖြစ်၌။
၂။ ခုဘွာဗဟ် နားထောင်နေသောအဖြစ်၌၊ ထိုခုတ္တာဗဟ်သည်၊ ဂျိ.မို.အဟ် အတွက်ဖြစ်စေ၊ အခြားအရာအတွက်ဖြစ်စေ အတူတူပင် ဖြစ်သည်။
၃-၄။ ဟိုက်သွ ၎င်း နေဖွားစ် သွေးလာသောအခါ ဆိုလိုသည်မှာ'ဂျဝါဗ်'ပေးရန် အရေးမကြီးပေ။
၅။ ဘာသာရေးပညာ ဖတ်နေသော၊ သင်ပြနေသောအခါ၌။
၆။ သံဝါသ ပြုနေသောအခါ။
၇။ ကျင်းကြီး,၎င်းကျင်ငယ် စွန့်သောအခါ။
၈။ ထမင်းစားနေသောအခါ၌ ဆိုလိုသည်မှာ ... 'ဂျဝါဗ်' ပေးရန်အရေးမကြီး ပေ၊ ဟုတ်ပါ၏၊ အကယ်၍ တင်ပြပါ အချက်များ ပြီးစီးပြီး အဿာန်ဆိုပြီး သည်မှာလည်း မကြာသေးသော် 'ဂျဝါဗ်' ပေးရန်ထိုက်သည်၊၊ အကယ်၍ ကြာသွားသော် 'ဂျဝါဗ်'ပေးရန်မလိုပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၆၈။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၄။

# အဿာန် နှင့် အေကာမတ်၏ စွန္နတ်၊ ၎င်း မွတ်စ်တဟဗ်များ အကြောင်း

အဿာန် နှင့် အေကာမတ်တွင် စွန္နတ် နှစ်မျိုးရှိသည်၊ အချို့သည် မုအဿင်န် နှင့်သက်ဆိုင်ပြီး အချို့မှာ အဿာန် ၎င်း အေကာမတ် နှင့် သက်ဆိုင်သည်၊ ထို့ကြောင့် ကျွန်ုပ်သည် နံပါတ်(၁)မှ (၅)ထိ မုအဿင်န်၏ စွန္နတ် များအကြောင်းကို ရေးမည်။

၁။ မုအသ်သင်န်သည် ယောကျ်ားဖြစ်ရမည်၊ အမျိုးသမီး၏ အသာန် ၎င်း အေကာမတ်သည် မတ်က်ရူးဟ်တဟ်ရီမီဖြစ်သည်၊ အကယ်၍ အမျိုးသမီးသည် အသာန် ဆိုခဲ့လျှင် ပြန်လည်၍ဆိုရမည်၊ အေကာမတ် ကိုကား ပြန်၍မဆိုရ၊ အဘယ့်ကြောင့်ဆို သော် အေကာမတ်ကို ပြန်ဆိုရန် တရားတော်တွင်မရှိ၊ အသာန်ကိုကား ပြန်ဆိုနိုင်သည်။

၂။ မုအသ်သင်န်သည် အသိဉာဏ်ရှိသူဖြစ်ရမည်၊ ရူးသွတ်စိတ်မနှံ့သူ၊ မူးနေသူ၊ ၎င်းအသိမရှိသေးသော ကလေး၏ အသာန်နှင့် အေကာမတ် ဆိုခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်၊ ၎င်းထိုသူတို့၏ အသာန်ဆိုခြင်းကို ပြန်လည်၍ဆိုရမည်၊ အေကာမတ် ကိုကား ပြန်မဆိုရပေ။

၃။ မုအသ်သင်န်သည် အရေးကြီးသော မတ်စ်အလဟ်များ နှင့် နမာဇ်အချိန် များကိုသိထားရမည်၊ အကယ်၍ ဂျာဟင်လ်တစ်ယောက်သည် အသာန်ဆိုလျှင် နားလည် သော မုအသ်သင်န်ကဲ့သို့ ကုသိုလ် 'သဝါဗ်'မရပေ။

ဂျာဟင်လ် ဆိုသည်မှာ.... နမာဇ် အချိန်ကို မသိ၊ ၎င်းသိသူကိုမေး၍ မဆိုသူကို ဆိုလိုသည်။

၄။ မုအသ်သင်န်သည် အဖြစ်ရှောင်ကြဉ်သူ၊ ဘာသာရေးရာ လိုက်စားဆောက် တည်သူဖြစ်ရမည်၊ ၎င်းလူတို့၏အဖြစ်များကိုသိရမည်၊ ဒုက္ခပေးမည်ဟူ စိုးရိမ်ခြင်းမရှိလျှင် ဗလီမလာသူများအား သတိပေး တိုက်တွန်းပြောဆိုရမည်။

၅။ မုအသ်သင်န်သည် အသံကျယ်သူ ဖြစ်ရမည်။

၆။ အသာန်ကို ဗလီနှင့်တစ်ခြားမြင့်သောဝနေရာမှဆိုရမည်၊ ၎င်းအေကာမတ်ကို ဗလီတွင်း၌ဆိုရမည်၊ ဗလီတွင်း၌ အသာန်ဆိုခြင်းသည် မတ်က်ရူးဟ် တန်ဇီဟီ ဖြစ်သည်၊ ဟုတ်ပါ၏၊ ဂျုံ့မို့အဟ်၏ ဒုတိယ အသာန်ကို ဗလီတွင်း 'မှင်န်ဗရ်' ရှေ့တွင် ဆိုခြင်း မတ်က်ရူးဟ်မဖြစ်ပေ သာမကေ မွတ်စလင်မ်မြို့များတွင် ဆိုနေကျဖြစ်လေသည်။

(၁) မှ (၆) ထိ၊ ကျမ်းညွှန်း။ မစ်ရှိကာတ်ကျမ်း စာမျက်နှာ-၄၉။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၀။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၂။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၂။

၇။ အသာန်ကိုရပ်၍ဆိုရမည်၊ အကယ်၍ တစ်ဦးတစ်ယောက်သည်ထိုင်၍ အသာန် ဆိုမှု မတ်က်ရူးဟ်ဖြစ်သည်၊ ပြန်လည်၍ဆိုရမည်၊ ဟုတ်ပါ၏၊ အကယ်၍ ခရီးသည်,သည် မြင်း စသည်စီးလျက်ဖြစ်လျှင် ၎င်းမြို့နေသည် မိမိနမာဇ်အတွက် သက်သက်ဖြစ်မူ ပြန်၍ ဆိုရန် မလိုပေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၂။

၈။ အသာန်ကို အသံကျယ်စွာဆိုရမည်၊ ဟုတ်ပါ၏၊ အကယ်၍ မိမိနမာဇ်အတွက် ဖြစ်မူ ကြိုက်သလိုဆိုနိုင်သည်၊ သို့သော် အသံကျယ်မှသာ သဝါဗ် ပိုရမည်ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။

၉။ အသာန် ဆိုသောအခါ နားနှစ်ဘက်၏ နားပေါက်ကို လက်ချောင်းဖြင့် ပိတ်ထားခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၃။

၁၀။ အသာန်၏ စာလုံးများကို ဆိုင်း၍ဆိုင်း၍ဆိုခြင်း၊ ၎င်းအေကာမတ်တွင် လျှင်မြန်စွာ ဆိုခြင်း စွန္နတ်တော်ဖြစ်သည်၊ ဆိုလိုသည်မှာ... တပ်ကဗီးရ် နှစ်ကြိမ် ဆိုပြီး နားထောင်သူ ဂျဝါဗ်ပေးနိုင်ရန် ထိုမျှခန့် ဆိုင်းရမည်၊ တပ်ကဗီးရ်အပြင် အခြားစာလုံးများတွင်လည်း စာလုံးတစ်လုံးဆိုရာတွင်ထိုမျှခန့်လိုက်ဆိုနိုင်ကြရန် ဆိုင်းပြီးမှအခြားစာလုံးကို ဆက်၍ ဆိုရမည်၊ ၎င်းအကယ်၍ အသာန်ကို မည်သို့သော အကြောင်းကြောင့်ဖြစ်စေ လိုက်၍ဆိုနိုင်ကြလောက်အောင် မဆိုင်းဘဲဆိုခဲ့မူ၊ ထိုအသာန်ကိုပြန်၍ဆိုခြင်း မွတ်စ်တဟာဗ် ဖြစ်သည်၊ ၎င်းအကယ်၍ 'အေကာမတ်'၏စာလုံးများကို ဆိုင်း၍ဆိုခဲ့သော် ပြန်လည်၍ ဆိုရန် မွတ်စ်တဟာဗ် မဟုတ်ပေ။

နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၅၈။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၃။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အသာန်၌ဟိုက်ယအ်လတ်စ္စလားဟ် ဆိုသောအခါ လက်ယာဘက်သို့ မျက်နှာလှည့်ခြင်း၊ ၎င်းဟိုက်ယအလလ်ဖွလားဟ် ဆိုသောအခါ လက်ဝဲဘက်သို့ မျက်နှာလှည့်ခြင်းတို့သည် စွန္နတ်တော်ဖြစ်သည်၊ ထိုအသာန်သည် နမာဇ်အတွက် ဖြစ်စေ၊ အခြားကိစ္စအတွက် ဖြစ်စေ အတူတူပင်ဖြစ်သည်၊ သို့သော် မျက်နှာ လှည့်ရာတွင် ရင်နှင့်ခြေသည် 'ကစ်ဗ်လဟ်'ဘက်မှ လှည့်မသွားစေရ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။

၁၂။ မတ်စ်အလဟ် ပြဿနာ။ အသာန် ၎င်း အေကာမတ်ကို စီးနင်းသော အဖြစ်၌ မဟုတ်ခဲ့သော် ကစ်ဗ်လဟ်ဘက်သို့မျက်နှာမူ၍ ဆိုရမည်၊ ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမမူဘဲ အသာန် ၎င်းအေကာမတ်ဆိုခဲ့သော် မက်ကရူးဟ်တန်ဇီဟီ ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။

၁၃။ မတ်စ်အလဟ် ပြဿနာ။ အသာန် ဆိုသောအချိန်တွင် ဟဗ်သ်အပ်က်ဗရ် မသန့်ကြီးမှ သန့်ရှင်းရန် 'စွန္နတ်' ဖြစ်သည်၊ မသန့်ကြီးနှင့် မသန့်လေး နှစ်ရပ်စလုံးမှ

သန့်ရှင်းနေခြင်း မွတ်စ်တဟာဗ်ဖြစ်သည်၊ ၎င်းအောကာမတ် ဆိုသောအခါ မသန့်အကြီး အသေး နှစ်မျိုးစလုံးမှ သန့်ရှင်းရန် စွန္နတ်ဖြစ်သည်၊ အကယ်၍ မသန့်ကြီးဖြစ်နေသော အခါတွင် အသာန် ဆိုပါက မတ်က်ရူးဟ် တဟ်ရီမီ ဖြစ်သည်၊ ထိုမသန့်ကြီး အဖြစ်နှင့် ဆိုခဲ့သော အသာန်ကို ပြန်၍ဆိုခြင်း မွတ်စ်တဟာဗ်ဖြစ်သည်၊ ထိုသို့ပင် အကြင်သူသည် မသန့် အကြီးအသေးအဖြစ်၌ အောကာမတ် ဆိုခဲ့လျှင် မတ်က်ရူးဟ် တဟ်ရီမ် ဖြစ်သည်။ သို့သော် အောကာမတ်ကို ပြန်လည်၍ ဆိုရန် မွတ်စ်တဟာဗ် မဟုတ်ပေ။

ဟေဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄။

၁၄။ မတ်စ်အလဟ် ပြဿနာ။ အသာန် ၎င်း အောကာမတ်၏ အက္ခရာစာလုံး များကိုအစီအစဉ် သတ်မှတ်ထားသည့်အတိုင်းဆိုခြင်း စွန္နတ်ဖြစ်သည်၊ အကယ်၍ တစ်ဦး သောသူသည် နောက်စာလုံးကို အလျင် ဆိုလိုက်လျှင်၊ ဥပမာ.. အရှ်ဟဒ္ဒို၊ အန်လာအော လာဟ၊ အစ်လလ္လာဟ် ၏ အလျင် အရှ်ဟဒ္ဒို၊ အန္နမုဟမ္မဒရ်၊ ရစူလွလ္လာဟ် ဆိုသော် ၎င်း ဟိုက်ယအလတ်စ္စ်စွလာဟ် အလျင် ဟိုက်ယအလလ်ဖွလာဟ် ဆိုမူ၊ ထိုအဖြစ်များ၌ နောက်စာလုံးကို အလျင်ဆိုခဲ့သည့်အတွက် ထိုစာလုံးကိုပြန်လည်၍ဆိုရန် အရေးကြီးသည်၊

ပထမမှားသောအဖြစ်မှာ အရှ်ဟဒ္ဒို၊ အန်လာအော လာဟ၊ အစ်လလ္လာဟ် ဆိုပြီး နောက် အရှ်ဟဒ္ဒို၊ အန္နမုဟမ္မဒရ်၊ ရစူလွလ္လာဟ် ဆိုလိုက်ရမည်၊ ဒုတိယ မှားသောအဖြစ် မှာ ဟိုက်ယအလတ်စ္စ်စွလာဟ် ဆိုပြီးနောက် ဟိုက်ယအလလ်ဖွလာဟ် ဆိုလိုက်ရမည်၊ အသာန်ကို အသစ်ပြန်လည်၍ ဆိုနေရန် မလိုပေ။

ဖွတာ၀ါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄။

၁၅။ မတ်စ်အလဟ် ပြဿနာ။ အသာန် ၎င်းအောကာမတ် ဆိုသောအချိန်တွင် အခြားစကားများမပြောရ၊ စလာမ်ပေးခြင်း ဂျ၀ါဗ်ပေးခြင်းဖြစ်စေကာမူ မပြောဆိုရ၊ အကယ်၍တစ်ဦးတစ်ယောက်သည် အသာန် ၎င်းအောကာမတ် ဆိုချိန်တွင် စကားပြောလျှင် အကယ်၍ စကားများများပြောခဲ့သော် အသာန်ကို ပြန်လည်၍ ဆိုရမည်၊ အောကာမတ် ကိုကား ပြန်၍မဆိုရပေ။

အာလမ်ဂိရိကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅။

**မှတ်ချက်**။ တင်ပြပါအမိန့်သည် မုအဇ်သင်န်အတွက် ဖြစ်သည်၊ ၎င်း အခြား သူများလည်း အသာန် ၎င်း အောကာမတ် ဆိုနေချိန်တွင် စကားပြောရန် မထိုက်၊ ကုရ်အာန်လည်း ဖတ်မနေရ၊ ဂျ၀ါဗ်လိုက်ခြင်းအပြင် အခြားကိစ္စများ ပြုမူ၍မနေရပေ၊ အကယ်၍ ကုရ်အာန်ကျမ်းတော်ကို ဖတ်ရွတ် သရဇ္ဈာယ်နေလျှင် ရပ်ဆိုင်း၍ အသာန် ၎င်း အောကာမတ်ကို ဂျ၀ါဗ် ပေးရမည်။

အာလမ်ဂိရိကျမ်း။

# မတ်စ်အလဟ် အမျိုးမျိုးများ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးသောသူသည်အသာန်ကို ဂျဝါဗ်ပေးရန်မေ့သွားလျှင်၊ ၎င်းအတလိ(တမင်)မပေးဘဲနေလျှင်၊ ၎င်းအသာန်ဆိုပြီးမှ သတိရလျှင် ဂျဝါဗ်ပေးရန် ကြံရွယ်သော် အကယ်၍ အသာန်ဆိုပြီးသည်မှာ အချိန် ကြံ့ကြာမသွားသေးလျှင် ဂျဝါဗ်ပေးလိုက်ရမည်၊ ကြာသွားခဲ့သော် ပေးရန်မလိုပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၉။
ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၆၄။

၂။ မတ်စ်အလဟ် ပြဿနာ။ အေကာမတ် ဆိုပြီး နောက် အချိန် ကြာသွားသည်၊ ၎င်းဂျမာအတ်မဖြစ်သေးသော် အေကာမတ်ကို ပြန်၍ဆိုရန် ထိုက်သည်၊ ဟုတ်ပါ၏၊ အကယ်၍ အနည်းငယ်သာကြာသွားသော် ပြန်ဆိုရန်မလို၊ အကယ်၍ အေကာမတ် ဆိုပြီးသွားသည်၊ ၎င်းအေမာမ်က ဖွဂျိရ်၏ စုန္နတ်ကို မဖတ်ရသေးသဖြင့် ဖတ်လိုက်သည်၊ ဤသို့ စုန္နတ်ဖတ်လိုက်သည်ကို အချိန် ကြာမြင့်သည်ဟု မယူဆ၊ ၎င်း အေကာမတ်ကို ပြန်ဆိုရန်မလို၊ ၎င်းအကယ်၍ အေကာမတ်ဆိုပြီးနောက် နမာဇ်နှင့်မသက်ဆိုင်သောအလုပ်ကိစ္စများကိုပြုလျှင်၊ ဥပမာ....စားခြင်း၊ သောက်ခြင်း စသည်များပြုမူ၊ ထိုအဖြစ်၌ အေကာမတ်ကို ပြန်၍ဆိုရန် ထိုက်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၃။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မုအသ်သင်န်သည် အသာန်ဆိုနေယင်းသေဆုံးသွားလျှင်၊ ၎င်းသတိမေ့မျောသွားလျှင်၊ ၎င်းအသံမထွက်တော့ဘဲ ဖြစ်သွားလျှင် ၎င်း ဆိုရမည့် အက္ခရာစာလုံးများ မေ့သွားသည်၊ ပြောပြပေးမည့် သူလည်း မရှိလျှင် ၎င်းမသန့်ဖြစ်သွား၍ ထိုမသန့်ကို ဆေးကြောသုတ်သင်ရန်သွားမူ၊ ထိုအသာန်ကို စ,ဆုံးပြန်ဆိုခြင်း စုန္နတ်မို့အတ်ကဒဟ် ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်သည် အသာန် ၎င်း အေကာမတ်ဆိုရာ၌ မသန့်ကလေး (အဂ်စွ ဂရ်)ဖြစ်သွားလျှင်၊ အကောင်းဆုံးအချက်မှာ အသာန် ၎င်းအေကာမတ်ကို ပြည့်စုံအောင် ဆိုပြီးမှ မသန့်ကို ဆေးကြောသုတ်သင်ရန် သွားရမည်။

ဖွတာဝါဟင်ဒိယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃။

၅။ မတ်စ်အလဟ် ပြဿနာ။ မုအသ်သင်န် တစ်ယောက်သည် ဗလီ နှစ်လုံးတွင် အသာန်ဆိုခြင်း မတ်ကရူးဟ်ဖြစ်သည်၊ ဖွရ်သ္ဂ နမာဇ်ဖတ်သောဗလီတွင်သာ အသာန်ဆိုရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၇၆။

၆။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် အသာန်ဆိုလျှင် အောကာမတ်ဆိုရန်လည်း ထိုသူသာ ပိုင်ဆိုင်သည်၊ ဟုတ်ပေါ၏ အကယ်၍ ထိုသူသည်အသာန်ဆိုပြီး တစ်နေရာရာသို့ထွက်သွားလျှင် ၎င်းအခြားတစ်ဦးကို တာဝန်ပေးမှု အခြားသူသည် အောကာမတ် ဆိုနိုင်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၆၇။

၇။ မတ်စ်အလဟ်ပြဿနာ။ လူအများ စုပေါင်း၍အသာန်ဆိုကြလျှင်ပိုင်သည်။

ကိုဒူရီကျမ်း စာမျက်နှာ-၃၀။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇၀။

၈။ မတ်စ်အလဟ်ပြဿနာ။ မုအဇ္ဇင်သည် အောကာမတ်စ၍ ဆိုသောနေရာမှပင် အဆုံးသတ်ရန် ထိုက်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၁၁။

၉။ မတ်စ်အလဟ်ပြဿနာ။ အသာန် ၎င်း အောကာမတ် အတွက် 'နိယတ်'မှာ 'ရှရတ္တ' အဓိက အချက်မဟုတ်ပေ၊ ဟုတ်ပေါ၏ သဝါဗ်သည် နိယတ်မပါဘဲမရနိုင်ပေ၊ ဤသို့ စိတ်၌ နိယတ်ပြုရမည်၊ ဤအသာန်ကိုအလ္လာဟ်အသျှင်မြတ် သဘောတူရန်သက်သက်အတွက်၎င်း 'သဝါဗ်' ကုသိုလ် ရရန်အတွက် ဆိုပါသည်၊ အခြားလိုလားချက်အတွက် မဟုတ်ပါ။

## နမာဇ်၏ ရှရတ္တများ တွဟာရတ် သန့်ပြန့်မှု၏
### မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အခင်းတစ်ခုသည် ဤမျှခန့်ကြီးလျှင် ထိုအခင်း၏ မသန့်နေသောဘက်သည် နမာဇ် ဖတ်သူ၏ ထခြင်း၊ ထိုင်ခြင်းဖြင့်လှုပ်ရှားမှု မဖြစ်သော် ကိစ္စမရှိပေ၊ ဤသို့ပင် နမာဇ် ဖတ်သူမှာ ကိုယ်တိုင်ရပ်တည်နေခြင်း မဟုတ်ဘဲ မ,ထားသောအရာလည်း သန့်ရှင်းရန်ထိုက်သည်၊ ဥပမာ... နမာဇ်ဖတ်သူသည် ကလေးတစ်ယောက်ကို မ,ထားသည်၊ ၎င်းထိုကလေး၏ကိုယ်၊ ၎င်းအဝတ်သည် မသန့်ဖြစ်နေလျှင် ၎င်းထိုကလေးသည် မိမိအားနှင့် ရပ်တည်နေခြင်း မဟုတ်ပါက ထိုကလေး၏ သန့်ပြန့်မှုသည် နမာဇ် ပိုင်ရန်အတွက် 'ရှရတ္တ' စည်းကမ်းချက်ဖြစ်သည်၊ သို့ရှိရာ ထိုကလေး၏ကိုယ်၊ ၎င်းအဝတ်သည် နမာဇ် မပိုင်လောက်အောင် မသန့်လူးပေနေလျှင် ထိုသူ၏ နမာဇ်သည် မပိုင်ပေ၊ ၎င်းအကယ်၍ ကလေးသည် မိမိအားနှင့် ထိုင်နေသော် ကိစ္စမရှိပေ၊ သို့ရှိရာ ကလေးသည် မိမိအားနှင့် ရပ်တည်နေသောကြောင့် ကလေး၏ မသန့်ခြင်းသည် ကလေးနှင့်သာ သက်ဆိုင်ပြီး နမာဇ် ဖတ်သူနှင့် လုံးဝမသက်ဆိုင်ဟု ယူဆရမည်။

ဤသို့ပင် 'နမာဇ်' ဖတ်နေသူ၏ ကိုယ်ပေါ်၌ မသန့်ဖြစ်သောအရာသည် မိမိတည်နေရာတွင်ရှိပြီး အပြင်၌မရှိလျှင် ကိစ္စမရှိပေ၊ ဥပမာ....'နမာဇ်' ဖတ်နေသူအပေါ်၌ခွေးက တက်ထိုင်သည်၊ ၎င်းထိုခွေး၏ လျှာရည်သည် မထွက်သော် ကိစ္စမရှိပေ၊ အဘယ့်ဆိုသော် လျှာရည်သည် ခွေး၏ကိုယ်တွင်း၌ရှိသည်၊ ထိုကိုယ်တွင်းသည်သာ လျှာရည်ရပ်တည်သော နေရာဖြစ်သည်၊ သို့ရှိရာ လူသား၏ ကိုယ်ကာယအတွင်း၌ရှိသော မသန့်ကဲ့သို့ဖြစ်သည်၊ ထိုကိုယ်တွင်းရှိမသန့်မှာ သန့်ရှင်းနေရန် ရှုရတွင် မဟုတ်ပေ။

ဤသို့ပင် အကယ်၍ ဥ၏အဝါရောင်သည် သွေးဖြစ်သွားပြီး ထိုဥသည် နမာဇ်ဖတ်သူ၏ထံရှိနေသော် ကိစ္စမရှိပေ၊ အဘယ့်ကြောင့်ဆိုသော် သွေးသည် ၎င်းတည်နေရာ၌ရှိပြီး အပြင်၌မရှိပေ၊ အကယ်၍ ကျင်ငယ်ရေသည် ပုလင်းငယ်ထဲမှာရှိပြီး ပုလင်းဝ ပိတ်ထားသော်လည်း နမာဇ်ဖတ်သူ၏ထံ ရှိနေသော် မပိုင်ပေ၊ အဘယ့်ကြောင့် ဆိုသော် ကျင်ငယ်ရည်သည် မိမိတည်နေရာတွင် မရှိသောကြောင့်ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၃၇၃၊၃၇၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၅။

၂။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်' ဖတ်သော နေရာသည် 'နဂျာစတ်ဟကီကီယဟ်' ( ကျင်ကြီး, ကျင်ငယ်, မနီ ) စသည်များမှ သန့်ရှင်းရန် ထိုက်သည်၊ ဟုတ်ပါ၏၊ အကယ်၍ မသန့်သည် လွတ်ငြိမ်းခွင့် ရှိသည်ခန့်သာ ရှိနေလျှင် ကိစ္စမရှိပေ၊ 'နမာဇ်' ဖတ်သောနေရာဟုဆိုရာ၌ ခြေ, ဒူး, နဖူး, နှာခေါင်း စသည် ချသောနေရာကို ဆိုလိုသည်။

မွန်ယဟ်ကျမ်း စာမျက်နှာ-၆၀။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၆၀။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ခြေတစ်ဘက် ချရာတွင် သန့်၍ အခြားတစ်ဘက် နေရာမှာမသန့်လျှင် ခြေတစ်ဘက်ကို ကြွထားခြင်းဖြင့်လည်း လုံလောက်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၅။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၉။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အဝတ်ခင်းပေါ်တွင် 'နမာဇ်' ဖတ်မူ 'နမာဇ်' ဖတ်နိုင်လောက်သော နေရာရှိရန် အရေးကြီးသည် အဝတ်အားလုံး သန့်ရန်မလိုပေ၊ အဝတ်သည် ကြီးသည်ဖြစ်စေ၊ သေးသည်ဖြစ်စေ အတူတူပင် ဖြစ်သည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၀။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မသန့်သော နေရာတွင် သန့်သော အဝတ်ကိုခင်း၍ 'နမာဇ်' ဖတ်မူ ဤသည်၌ 'ရှုရတွင်' စည်းကမ်းချက်ရှိသည်မှာ ထိုအဝတ်သည် အောက်တွင်ရှိ မသန့်များ မြင်နေရလောက်အောင် ပါးလွှာခြင်း မရှိစေရ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၁၀။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍နမာဇ် ဖတ်နေသော အဖြစ်၌နမာဇ်ဖတ်သူ၏ အဝတ်သည် မသန့်သောနေရာသို့ ကျသွားလျှင် ကိစ္စမရှိပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း၊ အတွဲ- ၁၊ စာမျက်နှာ-၃၇၄။

မှတ်ချက်။ ။ဆိုလိုသည်မှာ သန့်ရှင်းသောဂနေရာတွင်ရပ်၍ စစ်ဂျိဒဟ်ဦးချသော နေရာ၏ မသန့်သည် ခြောက်သွေ့သည်ဖြစ်စေ၊ စိုသည်ဖြစ်စေ သို့သော် အဝတ်တွင် နမာဇ် မပိုင်လောက်အောင် မသန့်လူးထိခြင်းမရှိလျှင် ကိစ္စမရှိပေ။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အဝတ်အထည်ကို သုံးစွဲရန် လူသား အချင်းချင်း အတွက်ကြောင့် မသုံးနိုင်၍ ဝတ်လစ်စလစ် နမာဇ် ဖတ်ရသော် အဝတ် ရလာသောအခါ ထိုနမာဇ်များကို ပြန်လည်၍ ဖတ်ရမည်၊ ပမာဆိုသော် တစ်ဦးသော သူသည် ထောင်အကျဉ်းကျနေသည်၊ ထောင်လုပ်သားများက ထိုသူ၏ အဝတ်အထည် များကို ချွတ်ယူလိုက်သည်၊ ၎င်းရန်သူ တစ်ဦးဦးက အဝတ်အထည်ကို ချွတ်၍လုယူသွား လျှင် ၎င်းရန်သူက သင် အဝတ် ဝတ်လျှင် သတ်ပစ်မည်ဟုပြောလျှင် ထိုအဖြစ်များ၌ အဝတ်မပါဘဲ နမာဇ် ဖတ်ခဲ့သည်များကို အဝတ်ရသောအခါ ပြန်လည်၍နမာဇ်များကို ဖတ်ရမည်၊ ၎င်းအကယ်၍ လူသားတို့အတွက်ကြောင့် မဟုတ်ခဲ့သော် ၎င်းထံတွင် အဝတ် အထည် လုံးဝမရှိပါက အဝတ်ရလာသောအခါထိုဝတ်လစ်စလစ်နှင့်ဖတ်ခဲ့သော နမာဇ် များကို ပြန်လည်၍ ဖတ်ရန် မလိုပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၇။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၁၇။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူထံတွင် အဝတ်တစ်ထည် ပင်ရှိမူ ၎င်း၍ နမာဇ် ဖတ်လျှင် ဝတ်လစ်စလစ် ဖြစ်မည်ဆိုပါက ထိုသူသည် အဝတ်ကို ဝတ်ထားရမည်၊ ၎င်းနမာဇ်ကို သန့်သော နေရာမရှိပါက မသန့်သောနေရာ၌ပင် ဖတ် လိုက်ရမည်။

ဒွရ်ရေ မွခ်တာရ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၆၆။

## ကစ်ဗ်လဟ်၏ အကြောင်း။

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'ကစ်ဗ်လဟ်' ကို မသိသော အဖြစ်၌ ဂျမာအတ် နှင့် နမာဇ်ဖတ်မှု အေမာမ် နှင့် မွတ်က်တဒီ နောက်လိုက်တို့သည် မိမိတို့အထင် များသောဘက်သို့ ဖတ်ကြရမည်၊ သို့သော် အကယ်၍ မွတ်က်တဒီ တစ်ယောက်ယောက် သည် ၎င်း၏အထင်မှာ အေမာမ်နှင့် ကွဲလွဲမှုရှိနေလျှင် ထိုသူ၏ နမာဇ်သည် အေမာမ်၏ နောက်၌ မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ထိုသူ၏ထံတွင် အေမာမ်သည် မှားနေ သည်၊ ၎င်းတစ်ဦးဦးကို မှားသည်ဟုထင်လျှင် ထိုသူ၏နောက်မှ 'အစ်က်တေဒါ' နောက် လိုက်ပြုခြင်းမပိုင်ပေ။

ဒွရ်ရေ မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၉။

မှတ်ချက်။ ။ထို့ကြောင့် ဤသို့ ထင်မြင်ချက် လွဲကြသောအခါ ထို 'မွတ်က်တဒီ' သည် တစ်ကိုယ်တည်း မိမိစိတ်ထင်ရာဘက်သို့လှည့်၍ နမာဇ် ဖတ်ရမည်။

# နိယတ်အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီ နောက်လိုက်သည် မိမိအေမာမ်ဆရာ၏ အစ်က်တေဒါအတွက် 'နိယတ်' ပြုခြင်း ရှိရတွင့် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၆။

၂။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ရှေ့ဆောင်ဆရာသည် မိမိနမာဇ်အတွက် နိယတ်ပြုရန် ရှိရတွင် ဖြစ်သည်၊ အေမာမ်၏ နိယတ်ပြုရန် ရှိရတွင် မဟုတ်ပေ၊ ဟုတ်ပါ၏၊ အကယ်၍ အမျိုးသမီးတစ်ဦးသည် အေမာမ်၏ နောက်မှ ဖတ်လိုပြီး ယောကျ်ားများနှင့် တန်းတူရပ်လျှင် ၎င်းဂျနာဇဟ်ဂျို့မို့အဟ်၊ အီးဒ်နှစ်အီးဒ်၏ 'နမာဇ်' မဟုတ်သော် အမျိုးသမီး၏ အစ်က်တေဒါ ပိုင်ရန်အတွက် အေမာမတ်၏ နိယတ်ပြုရန် ရှိရတွင် ဖြစ်သည်၊ ၎င်း အကယ်၍ ယောကျ်ားများနှင့် တန်းတူမရပ်လျှင် ဂျနာဇဟ်၊ ဂျို့မို့အဟ်၊ အီးဒ်နှစ်အီးဒ်၏ 'နမာဇ်' မဟုတ်သော် အေမာမတ်၏ နိယတ်ပြုရန် ရှိရတွင် မဟုတ်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၆-၆၇။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၈။

၃။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီမှာ အေမာမ်ကို မောင်ဖြူ၊ မောင်နီ ဟူ၍ အတည်သတ်မှတ်ရန် ရှိရတွင် မဟုတ်ပေ၊ သာမက ကျွန်တော်ဤအေမာမ်၏နောက်မှ 'နမာဇ်' ဖတ်ပါသည် ဟူ၍ နိယတ်ပြုရုံဖြင့် လုံလောက်ပေသည်၊ ဟုတ်ပါ၏ အကယ်၍ အမည်နာမနှင့် နိယတ်ကို အတည်ပြုခဲ့သော် အေမာမ်မှာ အခြားသူတစ်ဦးဖြစ်သွားပါက ထိုသူ၏ 'နမာဇ်' မပိုင်တော့ပေ၊ ဥပမာဆိုသော် တစ်ဦးသောသူက မောင်ဖြူ၏ နောက်မှ နမာဇ် ဖတ်ပါသည်ဟု နိယတ်ပြုလိုက်သည်၊ ၎င်းဖတ်ပေးသူ အေမာမ်သည် မောင်နီ ဖြစ်နေခဲ့သော်ထိုသူ၏ နမာဇ် မပိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၇။
ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၈။

၄။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ် နမာဇ် တွင်ကျွန်တော်မျိုးသည်အလ္လာဟ် အသျှင်မြတ် သဘောတူတော်မူရန်၊ ၎င်းဤသေသူအား 'ဒိုအာ' ပေးရန်အတွက် ဖတ်ပါသည်ဟု နိယတ်ပြုရန် ထိုက်သည်၊ ၎င်းအကယ်၍ မွတ်က်တဒီ သည်သေသူမှာ ယောကျ်ားလော၊ မိန်းမလော ဟူသည်ကို ခွဲခြားမသိလျှင် အေမာမ် ဖတ်သောသူအတွက် ကျွန်တော်မျိုးလည်း ဖတ်ပါသည်ဟု နိယတ်ပြုလျှင် လုံလောက်ပေသည်။

အချို့ အာလင်မ်များက ဖွရ်သ်၊ ၎င်းဝါဂျစ်ဗ် နမာဇ်များအပြင် အခြားနမာဇ် များတွင် နမာဇ် သက်သက်ပင် နိယတ်ပြုခြင်း လုံလောက်သည်ဟု မိန့်ကြသည်၊ စွန္နတ်၊ ၎င်း မွတ်စ်တဟဗ်၊ ဖွဂျ်ရ်အချိန်၏ စွန္နတ်၊ ၎င်းဇွဟ်ရ်ချိန်၊ ၎င်းတဟဂ်ဂျွဒ် စွန္နတ်၊ ၎င်းတရာဝီးဟ်၊

ရင်း နေကြွက်ခြင်း၊လကြွက်ခြင်း အတွက် ဖြစ်သည်ဟူ၍ ခွဲခြားရန်မလိုဟု မိန့်ကြသည်၊ သို့သော် ထင်ရှားသောအဆိုမှာ တစ်သီးတစ်ခြားစီခွဲ၍ နိယတ်ပြုကြရမည်။

မွန်ယတွလ်မို့စ္စာလ်လီကျမ်း။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

## တတ်က်ဗီးရ် တဟ်ရီမဟ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အချို့ မသိ နားမလည်သူတို့သည် ဗလီ ဝတ်ကျောင်းတော်သို့ လာသောအခါ၊ အေမာမ် ရှေ့ဆောင်ဆရာကို 'ရိုကူအ်'ဦးညွှတ်လျက် တွေ့ကြမူ နမာဇ်မီစေရန်အတွက် လျင်မြန်စွာ ကုန်းလိုက်ကြသည်၊ ထိုသို့ကုန်းလျက်ပင် 'တတ်က်ဗီးရ်တဟ်ရီမဟ်' ဆိုလိုက်ကြသည်၊ ထိုသို့ပြုမူသူ၏ နမာဇ် မပိုင်ပေ။

အဘယ့်ကြောင့်ဆိုသော် ... 'တတ်က်ဗီးရ်တဟ်ရီမဟ်'သည် နမာဇ် ပိုင်ရန်အတွက် 'ရှရတ္တ်'စည်းကမ်းချက် ဖြစ်သည်၊ ၎င်း တတ်က်ဗီးရ်တဟ်ရီမဟ် အတွက် 'ကေယာမ်' ရပ်ခြင်းသည် 'ရှရတ္တ်'ဖြစ်သည်၊ 'ကေယာမ်'မပြုလေရာ တဟ်ရီမဟ်မပိုင်ပေ၊ တဟ်ရီမဟ် မပိုင်လေရာ၊ နမာဇ် အဘယ်မှာလျှင် ပိုင်မည်နည်း။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၇။

## ဖွရ်သွ် နမာဇ် ၏ အချို့ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အာမီန်၏'အလစ်ဖ်'ကို ဆွဲ၍ဖတ်ရန် ထိုက်သည်၊ ထို့နောက်မှ ကုရ်အာန်ကျမ်းတော်၏ စူရဟ် တစ်ခုခုကို ဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅၉။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ခရီးသွားနေရစဉ် နှင့် အရေးကြီးသော ကိစ္စတစ်ခုခုရှိမူ၊ စူရဟ်ဖွာတေဟဟ်ဖတ်ပြီးနောက် ကြိုက်ရာ စူရဟ်ကိုဖတ်ရမည်၊ အကယ်၍ ခရီးသွားနေခြင်း၊ ၎င်းအရေးကြီးသောကိစ္စမရှိမူ၊ ဖွဂျ်ရ် ၎င်းဇွဟ်ရ်နမာဇ်ကို ဟ္ဂိုဂျို့ရာတ် ၎င်းဘွိုရှူးဂျ်၊ ၎င်း ထိုစူရဟ်နှစ်ပုဒ်အတွင်းရှိ ကြိုက်ရာ စူရဟ်များကို ဖတ်ရမည်၊ ဖွဂျ်ရ်၏ ပထမ ရကအတ်တွင် ဒုတိယ ရကအတ်ထက် စူရဟ်ရှည်ရန် ထိုက်သည်၊ ကျန်အချိန်များတွင် နှစ်ရကအတ်စလုံး၏ စူရဟ်များ ညီမျှနေရန် ထိုက်သည်၊ အာယတ်တော် တစ်ပိုဒ်နှစ်ပိုဒ် အပိုအလျော့ရှိနေလျှင်ကိစ္စမရှိပေ၊ အတ်စွ်ရ် ၎င်းအေရှာအ်နမာဇ်တွင်၊ ဝတ်စ်စမာအေ့၊ ဝဖ်တွ်တွာရေ့ကေ့၊ ၎င်း လမ်ယကွန်၊ ၎င်း ထိုစူရဟ် နှစ်ခုအတွင်းရှိ စူရဟ်များကိုဖတ်ရန်ထိုက်သည်၊ မဂ်ရစ်ဗ်တွင် အေဿာဇွလ်ဇေလ္လတ္တ်မှ အဆုံးထိ ဖတ်ရန် ထိုက်သည်။

ကဗီရီကျမ်း၊ စာမျက်နှာ-၃၀၂၊ ၃၀၃၊ ၃၀၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ရိုကူအ်မှ ဖြောင့်မတ်စွာ ထသောအခါ အေမာမ်သည် 'စမေ့အလ္လာဟိုလေ့မန်ဟမေ့ဒဟ်'ဟု ဆိုရမည်၊ မွတ်က်တဒီ နောက်လိုက်သည် 'ရဗ်ဗနာလကလ်ဟမ်ဒ်'ဟု ဆိုရမည်၊ မွန်ဖွရစ်ဒ် တစ်ယောက်တည်း ဖတ်သူသည် နှစ်ရပ်စလုံးကိုဆိုရမည်၊ ထို့နောက် လက်နှစ်ဘက်ကို ဒူးဆစ်များအပေါ်ထားကာ စစ်ဂျ်ဒဟ်သို့ သွားရမည်၊ တတ်က်ဗီးရ်အဆုံး နှင့် စစ်ဂျ်ဒဟ်အစ အညီဖြစ်ရမည်၊ ဆိုလိုသည်မှာ.... စစ်ဂျ်ဒဟ်သို့ ရောက်လျှင်ရောက်ချင်း တတ်က်ဗီးရ် ဆုံးသွားစေရမည်။

ကဗီရီကျမ်း စာမျက်နှာ-၃၀၉၊၃၁၂။

၄။ မတ်စ်အလဟ် ပြဿနာ။ စစ်ဂျ်ဒဟ် ပြုရာတွင် ပထမ ဒူးနှစ်ဖက်ကို မြေပေါ်သို့ချရမည်၊ ထို့နောက် လက်နှစ်ဖက်, နှာခေါင်း, နဖူး, ချရမည်၊ မျက်နှာသည် လက်နှစ်ဖက် အလည်၌ ရှိနေရန် ထိုက်သည်၊ ၎င်းလက်ချောင်းများသည် ပူးကပ်လျက် 'ကစ်ဗ်လဟ်'ဘက်သို့ ရှိနေရန်ထိုက်သည်၊ ခြေနှစ်ဖက်သည် ခြေချောင်းကလေးများဖြင့် ထောင်ထားရမည်၊ ၎င်းခြေချောင်းလေးများ၏ အပေါ်ဘက်သည် ကစ်ဗ်လဟ် ဘက်သို့ လှည့်နေရန်ထိုက်သည်၊ ဝမ်းဗိုက်သည် ပေါင်နှင့် တစ်ခြားစီဖြစ်ပြီး၊ လက်မောင်းသည် နံဘေးနှင့်တစ်ခြားဖြစ်နေစေရမည်၊ ဝမ်းဗိုက်သည် ဆိတ်ငယ်ကလေးဝင်နိုင်လောက်အောင် မြေနှင့် ကွာခြားနေစေရန်ထိုက်သည်၊ ပြန်ထသောအခါ ပထမ နဖူး, ၎င်း နှာခေါင်း, လက်, ဒူး, အစဉ်လိုက် ကြွရမည်။

ကဗီရီကျမ်း စာမျက်နှာ-၃၁၃။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၈။

ရှရ်ဟ္ဂတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅၊၇၆။

၅။ မတ်စ်အလဟ် ပြဿနာ။ ဖွဂ္ဂျ်ရ်၊မဂ္ဂ်ရစ်ဗ်၊အေရှာအ်နမာဇ်တွင်အေမာမ်သည် ပထမ နှစ်ရကအတ်တွင် စူရဟ်ဖွာတေဟာဟ်၊ ၎င်း အခြားစူရဟ်၊ ၎င်း စမေ့အလ္လာဟို၊ လေ့မန်ဟမေ့ဒဟ် နှင့် တတ်က်ဗီးရ် အားလုံးကို အသံ နှင့် ဆိုရမည်၊၎င်း မွန်ဖွရစ်ဒ် တစ်ယောက်တည်းဖတ်သူသည် ကေရာအတ်ကို ကြိုက်သလိုဖတ်နိုင်သည်၊ သို့သော် စမေ့အလ္လာဟို၊ လေ့မန်ဟမေ့ဒဟ် နှင့် တတ်က်ဗီးရ် အားလုံးကိုကား တိုးတိုးစွာ ဆိုရမည်၊ ၎င်းဇုဟ်ရ်နှင့်အတ်စွ်ရ်နမာဇ်တွင် အေမာမ်သည် စမေ့အလ္လာဟို၊လေ့မန်ဟမေ့ဒဟ်နှင့် တပ်က်ဗီးရ် အားလုံးကိုသာ အသံကျယ်စွာဖြင့် ဆိုရမည်၊ ၎င်းမွန်ဖွရစ်ဒ်နှင့် မွတ်က်တဒီတို့သည် တပ်က်ဗီးရ် စသည် အားလုံးကို တိုးတိုးစွာ ဆိုကြရမည်။

ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၉၆။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၃။

၆။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်ပြီးနောက်လက်နှစ်ဖက်ကို ရင်ဘတ်အထိမြှောက်ပြီး၊ အလ္လာဟ်အသျှင်မြတ်ထံ မိမိအတွက်လည်းဒိုအာတောင်းရမည်၊ ၎င်းအေမာမ်ဖြစ်မူ မွတ်က်တဒီ အားလုံးအတွက် တောင်းရမည်၊ ဒိုအာ တောင်းပြီး လက်နှစ်ဖက်ကို

မျက်နှာသို့ သုပ်သပ်ရမည်၊ မွတ်က်တဒီတို့သည် မိမိတို့ဘာသာ ဒိုအာတောင်းလျှင်၊ ၎င်း အေမာမ်၏ ဒိုအာအပေါ်ဖြစ်စေ 'အာမိန် အာမိန်'ဟု တီးတိုးဆိုကြရမည်။

တွာဟ်ဘွာဝီကျမ်း စာမျက်နှာ-၁၈၄၊၁၈၅။

၇။ မတ်စ်အလဟ်ပြဿနာ။ စွန္နတ် နမာဇ် ရှိသော နမာဇ်များ၊ ဥပမာ.... ဇွဟ်ရ်၊မဂ်ရစ်ဗ်၊အေရှာအ် နမာဇ်ပြီးနောက် ရှည်စွာဒိုအာမတောင်းရ၊ သာမက ခပ်တိုတို တောင်းပြီး စွန္နတ်နမာဇ်များကို ဖတ်ကြရမည်၊ ၎င်းစွန္နတ်ဖတ်ရန် မရှိသော နမာဇ်များ ဥပမာ...ဖွဂျ်ရ်၊ အတ်စွ်ရ် ပြီးနောက် ခပ်ရှည်ရှည် ဒိုအာတောင်းနိုင်သည်၊ အေမာမ် ဖြစ် ခဲ့သော် မွတ်က်တဒီတို့၏ လက်ဝဲ-လက်ယာဘက်တွင် လှည့်၍ထိုင်ရမည်၊ ထို့နောက် ဒိုအာ တောင်းရမည်၊ သို့သော် အေမာမ်သည် နောက်ကျသူ 'မတ်စ်ဘူးက်'နှင့် မျက်နှာချင်းဆို လှည့်မထိုင်ရ။ အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇။

၈။ မတ်စ်အလဟ်ပြဿနာ။ ဖွရ်သွ်နမာဇ်ပြီးနောက် စွန္နတ်နမာဇ် မရှိလျှင် ရှိပါက စွန္နတ်ဖတ်ပြီးသော် မွတ်စ်တဟာဗ် ဖြစ်သည်မှာ....

أَسْتَغْفِرُ اللهَ الَّذِي لَا إِلٰهَ إِلَّا هُوَ الْحَيُّ الْقَيُّوْمُ

အတ်စ်တဂ်ဖွေရှလ္လာ၊ ဟလ္လသိ၊ လာအေ့လာဟ၊ အစ်လ္လာ၊ ဟွိုဝလ်ဟိုက်ယွလ်၊ ကိုက်ယူးမ် ၃-ကြိမ်၊ အာယတွလ်ကူရ်စီ၊ ကွလ်ဟွိုလ္လာဟို၊ အဟာဒ်၊ ကွလ်အအူသွ့်၊ ဗေ့ရဗ်ဗင်န်နားစ် ၁-ကြိမ်စီဖတ်ပြီး စွဗ်ဟာနလ္လာဟ် ၃၃-ကြိမ်၊ အလ်ဟမ်ဒွိုလစ်လ္လာဟ် ၃၃-ကြိမ်၊ အလ္လာဟို့အာတ်ကဗ်ရ် ၃၄-ကြိမ် ဖတ်ရမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၈၃။

၉။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီးများလည်း တင်ပြပါအတိုင်း နမာဇ် ဖတ်ကြရမည်၊ အချို့နေရာများတွင် ကွဲလွဲမှုရှိသည်၊ ထိုကွဲလွဲမှုသည် အောက်ပါအတိုင်း ဖြစ်သည်။

၁။ 'တပ်က်ဗီးရ် တဟ်ရီမဟ်' ဆိုသော အခါ ယောက်ျားများသည် လက်ကို စောင်, စသည်မှ ထုတ်၍ အေးခြင်း စသည် လိုအပ်မှု မရှိခဲ့လျှင် နားအထိ မြှောက်ရန် ထိုက်သည်၊ ၎င်းအမျိုးသမီးများသည် အဖြစ်ဟူသမျှ၌ လက်မထုတ်ဘဲ ပခုံးထိမြှောက်ရန် ထိုက်သည်။ ကဗီရီကျမ်း စာမျက်နှာ-၂၉၃၊၃၉၂။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၂။

၂။ တပ်က်ဗီးရ်တဟ်ရီမဟ် ဆိုပြီးနောက် ယောက်ျားများသည် ချက်အောက်၌ လက်ပိုက်ရမည်။ အမျိုးသမီးများသည် ရင်တွင်ပိုက်ရမည်။

ကဗီရီကျမ်း စာမျက်နှ-၂၉၃၊၂၉၄။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၀။

၃။ ယောကျ်ားများသည် လက်မနှင့် လက်သန်း အဝိုင်းပြုကာ ကျန်လက်သုံးချောင်းကို ဆန့်ထားပြီး လက်ဝဲဘက် လက်ကောက်ဝတ်ကို ကိုင်ထားရန် ထိုက်သည်၊ အမျိုးသမီးများသည် ညာလက်ဝါးကို ဘယ်ဘက် လက်ဖမိုးပေါ် ထားရန် ထိုက်သည်၊ လက်ကို ရိုင်းစေ၍ လက်ကောက်ဝတ်ကို ကိုင်ရန်မလိုပေ။

ကဗီရီကျမ်း စာမျက်နှာ-၂၉၃၊ ၂၉၄။
တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၀။

၄။ ယောကျ်ားများသည် ရိုကူအ် ဦးညွှတ်ရာ၌ ခေါင်း, ကျော, တင်ပါးမှာ အညီဖြစ်သွားအောင် ကောင်းစွာကုန်းညွှတ်ရန်ထိုက်သည်။အမျိုးသမီးများသည်ဤမျှခန့် မညွှတ်ရ၊ သာမက လက်နှစ်ဖက် ဒူးဆစ်ထိရောက်လောက်အောင်ဖင် ညွှတ်ရမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၅။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၃။

၅။ ယောကျ်ားများသည် ရိုကူအ် ပြုရာ၌ ဒူးပေါ်တွင် လက်ချောင်းများကို ခွဲထားရန်ထိုက်သည်။ အမျိုးသမီးများသည် လက်ချောင်းများကို ခွဲမထားဘဲ စေ့ထားရန် ထိုက်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၅။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃။

၆။ ယောကျ်ားများသည် 'ရိုကူအ်' ပြုသောအခါ တံတောင်ဆစ်ကို နံဘေးမှ ကွာနေစေရမည်။ ၎င်းအမျိုးသမီးများသည် တံတောင်ဆစ်နှင့် နံဘေး ထိကပ်နေစေရန် ထိုက်သည်။

ကဗီရီကျမ်း စာမျက်နှာ-၃၁၃။
တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၆။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄။
ရှရ်ဟ်ဝေကာယဟ်ကျမ်း စာမျက်နှာ-၁၆၈။

၇။ ယောကျ်ားများသည်'စစ်ဂျ်ဒဟ်'ပြုရာ၌ ဝမ်းဗိုက်သည် ပေါင်နှင့် ၎င်းနံဘေးသည်လက်မောင်းနှင့်တစ်ခြားဖြစ်နေရန်ထိုက်သည်၊ ၎င်းအမျိုးသမီးများမှာ နှစ်ရပ်စလုံး ကပ်နေရန် ထိုက်သည်။

၈။ ယောကျ်ားများသည် 'စစ်ဂျ်ဒဟ်' ပြုရာ၌ တံတောင်ဆစ်သည် မြေ(အခင်း) နှင့်တစ်ခြား ဖြစ်နေရန် ထိုက်သည်။ ၎င်းအမျိုးသမီးများသည် တံတောင်ဆစ်မှာ မြေနှင့် ထိကပ်နေရန် ထိုက်သည်။

ကဗီရီကျမ်း စာမျက်နှာ-၃၁၃။
တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၆။
ရှရ်ဟ်ဝေကာယဟ်ကျမ်း စာမျက်နှာ-၁၆၈။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၄။

၉။ ယောကျ်ားများသည်'စစ်ဂ့ဒဟ်'ပြုရာ၌ ခြေနှစ်ဘက်၏ ခြေချောင်းများကို ခပ်လှန်လှန် ထောင်ထားရန် ထိုက်သည်၊ ၎င်းအမျိုးသမီးများသည်မြေပေါ်တွင်ခင်းထားရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၇၁။

၁၀။ ယောကျ်ားများသည်ထိုင်သောအခါ ဝဲဘက်ခြေအပေါ်ထိုင်ရန်ထိုက်သည်၊ ညာဘက်ခြေကို ခြေချောင်းများလှန်၍ ထောင်ထားရန် ထိုက်သည်၊ ၎င်းအမျိုးသမီးများသည် ဝဲဘက်ပေါင်ဖြင့်ထိုင်ခါ ခြေနှစ်ဘက်ကို ညာဘက်သို့ ထုတ်ထားရန်ထိုက်သည်၊ ဤသို့ဖြင့်ညာဘက်ပေါင်သည် ဝဲဘက်ပေါင်ပေါ်သို့၊၎င်းညာဘက်ခြေသလုံးသည် ဝဲဘက်ခြေသလုံးပေါ်သို့ ရောက်ရှိမည်။

ဟေဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၃။

၁၁။ အမျိုးသမီးများသည် မည်သည့် နမာဇ်၌မဆို 'ကေရာအတ်'ကိုအသံကျယ်စွာဖြင့် ဖတ်ပိုင်ခွင့်မရှိ သာမက အမျိုးသမီးများသည် တိုးတိုးစွာ 'ကေရာအတ်' ဖတ်ကြရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၄၁၇။

# တဟိယတွလ် မတ်စ်ဂျစ်ဒ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဤ 'နမာဇ်' သည် ဗလီဝတ်ကျောင်းတော်၌ ဝင်သူအပေါ် စွန္နတ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉၊၃၃၅၊၃၃၆။

၂။ မတ်စ်အလဟ်ပြဿနာ။ ဤ'နမာဇ်'၏လိုရင်းအချက်မှာ ဗလီဝတ်ကျောင်းတော်ကို အရိုအသေပြုခြင်းဖြစ်သည်၊ အမှန်မှာ အလ္လာဟ်အသျှင်မြတ်ကို အရိုအသေပြုရာပင်ဖြစ်ပေသည်၊ အဘယ်ကြောင့်ဆိုသော် အိမ်ကိုရိုသေခြင်းသည် အိမ်ရှင်အတွက်ကြောင့်ဖြစ်သည်၊ သို့ရှိရာ အလ္လာဟ်အသျှင်မြတ် အပြင် အခြားအရာများကို အရိုအသေပြုခြင်းလုံးဝမဟုတ်ပေ၊ဗလီဝတ်ကျောင်းတော်သို့ ဝင်ရောက်လာသောအခါ မထိုင်မီမတ်က်ရူးဟ်အချိန် မဟုတ်ပါက နမာဇ် နှစ်ရကအတ် ဖတ်ရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၉၊၃၃၅၊၃၃၆။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'မတ်က်ရူးဟ်' အချိန် ဖြစ်နေခဲ့သော် ဤတတ်စ်ဗီးဟ်ကို (၄) ကြိမ် ဆိုလိုက်ရမည်။

စွဗ်ဟာနလ္လာဟေ့၊ ဝလ်ဟမ်ဒို့၊ လၤလာဟေ့၊ ဝလာအေ့လာဟ၊အစ်လလ္လာဟို့၊ ဝလ္လာဟို့၊ အတ်က်ဗရ်။

ထို့နောက် 'ဒရူးဒ်ရှရီးဖ်' တစ်ခုခုကို ဖတ်လိုက်ရမည်၊ ဤနမာဇ်၏ နိယတ်မှာ ဤသို့ရှိသည်။

نَوَيْتُ اَنْ اُصَلِّيَ رَكْعَتَيْ تَحِيَّةِ الْمَسْجِدِ

နဝိုင်တို၊ အန်အို့စွာလ်လေ့ယ၊ ရကအတိုင်၊ တဟိယတင်လ်၊ မတ်စ်ဂျေ့ဒေ့၊ သို့တည်းမဟုတ် မြန်မာလိုဆိုရမည်၊ ၎င်းစိတ်မှ ဆန္ဒပြုလျှင်လည်းပြီး၏၊ ကျွန်တော်မျိုးသည် တဟိယတွလ် မတ်စ်ဂျစ်ဒ် 'နမာဇ်' နှစ်ရကအတ်ဖတ်ရန် ဆန္ဒပြုပါသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၇။၃၃၅။

၄။ မတ်စ်အလဟ်ပြဿနာ။ 'နှစ်ရကအတ်' ဟူ၍ သတ်မှတ်အတည်ပြုထားခြင်းမရှိ အကယ်၍ 'လေးရကအတ်' ဖတ်လျှင်လည်း ကိစ္စမရှိပေ၊ အကယ်၍ ဗလီဝတ်ကျောင်းတော်သို့ ရောက်ရောက်ခြင်းဖွဲ့ရှိသည့် 'နမာဇ်' ဖြစ်စေ၊ စွန္နတ် 'နမာဇ်' ဖြစ်စေဖတ်လိုက်မှုထို ဖွဲ့ရှိသည့် ၎င်း စွန္နတ်ပင် 'တဟိယတွလ် မတ်စ်ဂျစ်ဒ်' ၏ ကိုယ်စား ဖြစ်သွားသည်၊ ဆိုလိုသည်မှာ တဟိယတွလ် မတ်စ်ဂျစ်ဒ်၏ နိယတ်မပြုသော်လည်း ထိုနမာဇ် ဖတ်လိုက်ခြင်းဖြင့် တဟိယတွလ် မတ်စ်ဂျစ်ဒ် နမာဇ်၏ 'သဝါဗ်' လည်း ရရှိပေသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၃၅၊၆၃၆။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဗလီသို့သွားပြီး ထိုင်နေလျှင်၊ပြီးမှတဟိယတွလ် မတ်စ်ဂျစ်ဒ် ဖတ်သော် ကိစ္စမရှိပေ၊သို့သော် မထိုင်မီအလျှင်ဖတ်ခြင်းက ပို၍ကောင်းသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၆၃၅၊၆၃၆။

ဟဒီးသ်တော် .. ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့အနက် တစ်ဦးသောသူသည် ဗလီသို့သွားလျှင် နမာဇ် နှစ်ရကအတ် မဖတ်မီ မထိုင်နှင့်။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဗလီတွင် အကြိမ်ကြိမ်သွားရန်ဖြစ်ခဲ့လျှင် ပထမအကြိမ်မှာဖြစ်စေ၊ နောက်ဆုံးအကြိမ်မှာဖြစ်စေ၊ တဟိယတွလ်မတ်စ်ဂျစ်ဒ် တစ်ကြိမ်ဖတ်ခြင်းဖြင့် လုံလောက်ပေသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၃၅၊၆၃၆။

## ခရီးအတွက် နဖ်လ် နမာဇ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူသည် မိမိနေရပ်ဒေသမှ ခရီးထွက်တော့မည်ဖြစ်လျှင် အိမ်၌ နဖ်လ် 'နမာဇ်' နှစ်ရကအတ်ဖတ်ပြီး ခရီးထွက်ရန်ထိုသူ့အတွက် မုတ်စ်တဟာဗ် ဖြစ်သည်၊ ၎င်းခရီးမှ ပြန်လာသောအခါလည်း ဗလီသို့ ပထမဦးစွာသွားပြီး 'နမာဇ်' နှစ်ရကအတ် ဖတ်ခါ အိမ်သို့လာခြင်း မုတ်စ်တဟာဗ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၃၉။

၄

ဟာဒီးသ်တော်.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ခရီးသွားခါနီး အိမ်တွင် ဖတ်ခဲ့သော 'နမာဇ်' နှစ်ရကအတ် အပြင် ၎င်းသူသည် အိမ်၌ အခြားသော ကောင်းသောအရာ ဘာတစ်ခုမှ မထားခဲ့ပေ။

ဟာဒီးသ်တော်.... ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ခရီးမှ ပြန်ကြွလာတော်မူလျှင် ပထမ ဗလီသို့ သွားတော်မူပြီး နမာဇ် နှစ်ရကအတ် ဖတ်တော်မူသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၄၀။

## အသတ်ခံရမည့်အချိန်တွင် ဖတ်ရသော နမာဇ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မွတ်စ်လင်မ် တစ်ဦး တစ်ယောက်သည် အသတ်ခံရမည်ဖြစ်လျှင် နမာဇ် နှစ်ရကအတ် ဖတ်ရန် မွတ်စ်တဟဗ် ဖြစ်သည်၊ မိမိ၏ 'ဂိုနာဟ်'များမှ အလ္လာဟ်အသျှင်မြတ်ထံ 'မဂ်ဖွဲရတ်' ချမ်းသာရရန် 'ဒိုအာ' ပြုရမည်၊ သို့မှသာ ဒွန္နယာလောက၌ ဤ နမာဇ် နှင့် အစ်တစ်ဂ်ဖွာရ် တောင်းဆိုမှုသည် နောက်ဆုံး 'အမလ်' ဖြစ်ပေမည်။

တွာဟ်တွာဝီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၃၄။

ဟာဒီးသ်တော်.. တစ်ခါက ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ဆွဟာဗဟ် (ရဒွေ့)သခင်များအနက် အချို့ ကာရီများကို ကုရ်အာန်ကျမ်းတော်မြတ် ပို့ချသင်ပြပေးရန် တစ်နေရာသို့ ပို့လွှတ်တော်မူသည်၊ လမ်းတွင် မတ်က်ကဟ်မြို့၏ ကာဖွင်ရ်များက ဖမ်းဆီးပြီး ခဗီးဗ် (ရဒွေ့) သခင်မှတစ်ပါး အားလုံးသော ဆွဟာဗဟ် (ရဒွေ့) သခင်များကို လုပ်ကြံ ရှဟီးဒ် ပြုကြသည်၊၎င်းခဗီးဗ် (ရဒွေ့) ကို မတ်က်ကဟ်မြို့သို့ ခေါ်ဆောင်လာကြပြီး ကြီးကျယ်ခမ်းနားစွာဖြင့် လုပ်ကြံ ရှဟီးဒ် ပြုကြလေသည်၊ သခင်သည် အသတ်ခံရမည်ဖြစ်လေရာ ထိုသူများမှ ခွင့်တောင်းပြီး နမာဇ် နှစ်ရကအတ် ဖတ်တော်မူသည်၊ ထိုအချိန်မှစပြီး ဤနမာဇ်သည် မွတ်စ်တဟဗ် ဖြစ်ခဲ့လေသည်။

## တရာဝီးဟ် နမာဇ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဝစ်ဘ်ရ် နမာဇ် ကို တရာဝီးဟ် ပြီးမှဖတ်ခြင်း ပို၍ ကောင်းသည်၊ အခကယ်၍ အလျှင် ဖတ်လိုက်လျှင်လည်း ပိုင်သည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ- ၁၂၅၊ ၁၂၆။

၂။ မတ်စ်အလဟ်ပြဿနာ။ တရာဝီးဟ်'နမာဇ်'တွင် လေးရကအတ်ဖတ်ပြီးနောက် လေးရကအတ်စာမျှ ဆိုင်းငံ့ နားနေခြင်း မွတ်စ်တဟဗ် ဖြစ်သည်၊ ဟုတ်ပါ၏ အခကယ်၍ ဤမျှခန့် ထိုင်နေခြင်းဖြင့် လူတို့မှာ ဒုက္ခရောက်လျှင် ၎င်းဂျမာအတ် နည်းပါးသွားမည်ကို စိုးရိမ်ပါကလျှော့၍ထိုင်ရမည်၊ ဤသို့နားနေသောအခါ တစ်ကိုယ်တည်းနဖ်လ်နမာဇ်ဖြစ်စေ၊ တတ်စ်ဗီးဟ် စသည်ဖြစ်စေ ဖတ်နေရမည်၊ ဆိတ်ဆိတ် ထိုင်နေလိုကလည်း ထိုင်နေနိုင်သည်။

ဖွာတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၄။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် အေရှာအ် 'နမာဇ်' ပြီးနောက် တရာဝီးဟ် ဖတ်ပြီးမှ အေရှာအ် 'နမာဇ်' သည် အကြောင်းတစ်ခုခုကြောင့် ပျက်သွားခဲ့သည်ကိုသိလျှင် ထိုသူသည် အေရှာအ် 'နမာဇ်' ကို ပြန်လည်ဖတ်ပြီးနောက် တရာဝီးဟ်ကိုလည်း ပြန်ဖတ်ရန် ထိုက်သည်၊ ဝစ်တ်ရ်ကိုကား ပြန်ဖတ်ရန်မလိုပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၄။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အေရှာအ် 'နမာဇ်' ကို ဂျမာအတ်ဖြင့် မဖတ်ခဲ့လျှင်တရာဝီးဟ် ကိုလည်း ဂျမာအတ်ဖြင့် ဖတ်ရန်မထိုက် အဘယ့်ကြောင့်ဆိုသော် တရာဝီးဟ်သည် အေရှာအ်၏ နောက်လိုက်ဖြစ်သည်၊ ဟုတ်ပါ၏ အကြင်သူတို့သည် အေရှာအ်'နမာဇ်'ကို ဂျမာအတ်ဖြင့် ဖတ်ခဲ့ကြပြီး တရာဝီးဟ်ကို ဂျမာအတ်ဖြင့် ဖတ်နေကြသည့်တွင် ဝင်ရောက်ဖတ်ပါက ထိုအေရှာအ်ကို ဂျမာအတ်ဖြင့် မဖတ်ခဲ့သောသူအတွက်လည်း တရာဝီးဟ်ကို ဂျမာအတ်ဖြင့် ဝတ်ရောက်ဖတ်ခြင်းမှာ ပိုင်သွားသည်၊ ဂျမာအတ်ဖြင့် ဖတ်ခြင်း ပိုင်သူများ၏ နောက်လိုက်ဟု ထိုသူ့ကို ယူဆရမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်-၉၉။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဗလီဝတ်ကျောင်းတော်သို့ ရောက်သောအခါ အေရှာအ် 'နမာဇ်' ဖတ်ပြီးနေကြလျှင် ၎င်းသည်ပထမ အေရှာအ် 'နမာဇ်' ကို ဖတ်လိုက်ရမည်၊ ထို့နောက်မှ တရာဝီးဟ်တွင်ရောရှ်ဖတ်ရမည်၊ အကယ်၍ အေရှာအ်ဖတ်နေသဖြင့် တရာဝီးဟ်၏ ရကအတ်အချို့ လွတ်သွားလျှင်ဝစ်တ်ရ် ပြီးမှ ဖြည့်ရမည်၊ ၎င်းသူသည် ဝစ်တ်ရ်ကိုလည်း ဂျမာအတ်ဖြင့် ဖတ်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၇။

၆။ မတ်စ်အလဟ်ပြဿနာ။ တစ်လလုံး တရာဝီးဟ်၌ ကုရ်အာန်ကျမ်းတော်မြတ်ကို အစဉ်အလိုက် စ,ဆုံး ဖတ်ခြင်းသည် စွန္နတ်မို့အတ်က်ကဒဟ် ဖြစ်သည်၊ လူတို့၏ ပျင်းရိခြင်း၊ ပေါ့လျော့ခြင်းဖြင့် စွန္နရ်ရန်မထိုက်ပေ၊ ဟုတ်ပါ၏ အကယ်၍ ကုရ်အာန် စ,ဆုံးဖတ်လျှင် လူတို့သည် ဗလီသို့ လာကြမည်မဟုတ်၊ ဂျမာအတ်ပျက်သွားမည်၊ ၎င်းလူတို့က မကြိုက်ဖြစ်ကြမည်ဆိုလျှင်လူတို့ဝန်မလေးလောက်ရုံပင် ဖတ်ကြရမည်၊ 'အလမ်တရကိုင်ဖ'မှ ဆုံးထိ စူရဟ် (၁၀) ပုဒ်ကို ဖတ်ရမည်၊ တစ်ရကအတ်တွင် စူရဟ်တစ်ပုဒ် ဤသို့ ဖြင့်စူရဟ် (၁၀) ပုဒ်တွင် (၁၀) ရကအတ် ရသွားမည်၊ ၎င်းထိုစူရဟ် များကိုပြန်၍ ဖတ်လိုက်ရမည်၊ သို့ဘည်းမဟုတ် အခြားအလိုရှိသော စူရဟ် များကို ဖတ်နိုင်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၂၆။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၇။

၇။ မတ်စ်အလဟ်ပြဿနာ။ လူတို့၏ ဇွဲလိုလားမှုကို မသိရလျှင် ကုရ်အာန် တစ်'ခတမ်'ထက်ပို၍ မဖတ်ရ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၂၆။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၇။

၈။ မတ်စ်အလဟ် ပြဿနာ။ လူတို့လိုလားစွဲမက် ဝန်မလေးကြလျှင် တစ်ညတည်းတွင် ကုရ်အာန်စ,ဆုံးဖတ်နိုင်သည်၊အကယ်၍ဝန်လေးလျှင်မကြိုက်ဖြစ်ကြသော်ကုရ်အာန်စ,ဆုံးဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ—၁၂၆။

၉။ မတ်စ်အလဟ် ပြဿနာ။ တရာဝီးဟ်၌ 'ခတမ်' ဖတ်ရာတွင် 'ဗစ်မစ်လ္လာ၊ ဟာစ်ရ်ရဟ်မာ၊ နစ်ရဟီးမ်'ကို တစ်ကြိမ် အသံဖြင့် ဖတ်ရန်ထိုက်သည်၊ အဘယ့်ကြောင့်ဆိုသော် ဗစ်မစ်လ္လာဟ်သည် စူရဟ်၏ 'ဂျုဇ်'အဆစ်အပိုင်းမဟုတ်သော်လည်း ကုရ်အာန်ကျမ်းတော်၏ 'အာယတ်'တော် တစ်ပိုဒ် အဖြစ် ပါဝင်လေသည်၊ သို့ရှိရာ အကယ်၍ ဗစ်မစ်လ္လာဟ်ကို လုံးဝမဖတ်ခဲ့လျှင် ကုရ်အာန်ကျမ်းတော် ပြည့်စုံရန် အာယတ်တော်တစ်ပုဒ်လျော့နည်းသွားမည်၊ ၎င်းအကယ်၍ ဗစ်မစ်လ္လာဟ်ကို တိုးတိုးဖတ်ခဲ့သော် မွတ်က်တဒီ နောက်လိုက်များအတွက် ကုရ်အာန်မှာ ပြည့်စုံမလာပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၄၅၈။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၅။

၁၀။ မတ်စ်အလဟ် ပြဿနာ။ တရာဝီးဟ်ကို ရမသွာန်လ တစ်လလုံး ဖတ်ခြင်း စွန္နတ် ဖြစ်သည်၊ အကယ်၍ ကုရ်အာန် 'ခတမ်' ဖတ်ရာတွင် လမကုန်မီ ပြီးသွားသော် ဥပမာ.... (၁၅)ရက်ဖြင့် စ,ဆုံးပြီးသွားသော်လည်း ကျန်ရက်များမှာ တရာဝီးဟ် နမာဇ်ဖတ်ရန် စွန္နတ်မို့ အတ်က့ဒဟ်ပင် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အမှန်မှာ 'ကွလ်ဟို ဝလ္လာဟို' ကို တရာဝီးဟ်၌ ယခုခေတ် ထုံးစံ ပြုထားကြသည့် အတိုင်း တစ်ရကအတ်၌ သုံးကြိမ် ဖတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်။

**မှတ်ချက်။** မတ်က်ရူးဟ်ဖြစ်ခြင်းမှာ ယခုခေတ်အခါတွင် အချို့က ကုရ်အာန် ခတမ်တွင် ဖတ်ရန်အတည်ပြုထားကြလေသည်၊ ထိုသူတို့ပြုလုပ်နေခြင်းဖြင့် ထင်ရှားသည်၊ ထို့ကြောင့် မတ်က်ရူးဟ် ဖြစ်သည်၊ ၎င်းစူရဟ်ကို ထပ်၍ဖတ်ခြင်းပင်လျှင် မတ်က်ရူးဟ် ဖြစ်သည်၊ မောင်လာနာ အရှ်ရဖ်အလီထာနဝီ (ရဟမတွလ္လာဟ်) သခင်က တတိယ နောက်ဆက်တွဲ အင်မ်ဒါဒွလ်ဖွတာဝါကျမ်း စာမျက်နှာ—၁၁၈ တွင် မေးခွန်းတစ်ခုကို ဖြေကြားတားတော်မူသည်၊ သို့ရှိရာ စူရဟ်ထပ်၍ဖတ်ခြင်းသည် ပိုင်သည်ဖြစ်စေ၊ မတ်က်ရူးဟ် ဖြစ်သည် ဖြစ်စေ ဤသို့ပြုကြသော ထုံးစံကို စွန့်လွှတ်ရန် သင့်ပေသည်။

## နေကြတ် လကြတ်သောအခါ ဖတ်ရသော နမာဇ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ 'ကို့စူးဖ်' နေကြတ်သော အခါ နမာဇ် နှစ်ရကအတ် ဖတ်ရန် 'စွန္နတ်'တော် ဖြစ်သည်။ နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၂၂။

၂။ မတ်စ်အလဟ် ပြဿနာ။ နေကြွတ် နမာဇ်ကို ဂျမာအတ်ဖြင့် ဖတ်ရမည်၊ ဂျိ႔မို႔အဟ်အေမာမ်၊ ၎င်းဟာကင်မ့် အာဏာပိုင် ၎င်းထိုသူ၏ကိုယ်စားဖြစ်ရမည်။ ရေဝါယတ် အဆိုတစ်ခုတွင်လာသည်မှာ.... ဗလီဆရာအေမာမ်တိုင်းသည် မိမိတို့ဗလီ၌ နေကြွတ်နမာဇ် ဖတ်နိုင်သည်။

၃။ မတ်စ်အလဟ် ပြဿနာ။ နေကြွတ်သောအခါဖတ်သည့်နမာဇ်မှာ အသာန်၎င်းအေကာမတ်မရှိ၊ သဒမက လူတို့အား စုရုံးရန်ရှိမူ....

اَلصَّلوٰةُ جَامِعَةٌ

'အတ်စ္ဌ‌စ္ဌလာတို၊ ဂျာမေ႔အတွန်' ဟု အသံနှင့် အော်လိုက်ရမည်။

၄။ မတ်စ်အလဟ် ပြဿနာ။ နေကြွတ်နမာဇ်တွင် ရှည်လျားသော စူရဟ်များ စူရဟ်ဗကရဟ် စသည့် ပမာ ဖတ်ခြင်း၊ ၎င်းရိုကူအ် နှင့် စဇ်ဂျဒဟ်များကို ကြာရှည်စွာပြုခြင်းတို့သည် စွန္နတ်တော်ဖြစ်သည်၊ ၎င်းကေရာအတ်ကို တိုးတိုးစွာဖတ်ရမည်။

၅။ မတ်စ်အလဟ် ပြဿနာ။ နမာဇ် ဖတ်ပြီးနောက် အေမာမ် ရှေ႔ဆောင်ဆရာသည် ဒိုအာပြုရမည်၊ မွတ်ကတဒီများက 'အာမီန်-အာမီန်' ဟုဆိုကြရမည်၊ နေကြွတ်ခြင်း ပ႔ပျောက်မသွားသေးသမျှ ဒိုအာပြုရာ၌ မွေ႔လျော်၍ နေကြရမည်။ မာတ်ပဒါ၏အကယ်၍ ထိုအဖြစ်၌ နေဝင်သွားလျှင်၊ ၎င်းနမာဇ်ဖတ်ရန် အချိန်တစ်ချိန်ရောက်လာမူဒိုအာဓောင်းဆိုမှုကို ရပ်ဆိုင်းပြီး နမာဇ်၌ မွေ႔လျော်ကြရန် ထိုက်သည်။

၆။ မတ်စ်အလဟ် ပြဿနာ။ 'ခိုစူးဖ်' လကြွတ်သော အခါလည်း နမာဇ်နှစ်ရကာအတ်ဖတ်ရန် စွန္နတ်တော်ဖြစ်သည်၊ သို့သော်ဤသည်မှာ ဂျမာအတ်ဖြင့် ဖတ်ရန်စွန္နတ်မဟုတ်ပေ၊ အားလုံးသည် တစ်ကိုယ်တည်း နမာဇ်ဖတ်ကြရမည်၊ မိမိတို့အိမ်၌ ဖတ်ကြရမည်၊ ဗလီဝတ်ကျောင်းတော်သို့ သွား၍ဖတ်ကြရန် စွန္နတ်တော်မဟုတ်ပေ။

(၂)မှ(၆)ထိ ကျမ်းညွှန်း။ ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။
ဟေဒါယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၅၆။
ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၈၈၊၇၈၉။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၇၊၁၁၈။

၇။ မတ်စ်အလဟ် ပြဿနာ။ ဤသို့ပင် ကြောက်ရွံ့ထိပ်လန့်မှု၊ ၎င်းဒုက္ခတစ်ခုခုရောက်လျှင် နမာဇ်ဖတ်ရန် စွန္နတ်တော်ဖြစ်သည်၊ ဥပမာ.... လေမုန်တိုင်း ပြင်းထန်စွာတိုက်ခတ်လျှင်၊ ၎င်းမြေလျှင်လှုပ်လျှင်၊ ၎င်းမိုးကြိုးပစ်လျှင်၊ ၎င်းကြယ်နှင့် နက္ခတ်များများစွာပြုတ်ကျလျှင်၊ ၎င်းနှင်းခဲများစွာကျလျှင်၊ ၎င်းမိုးများစွာ ရွာသွန်းလျှင်၊ ၎င်းပလိပ်ရောဂါ၊ ဝမ်းရောဂါ စသည်များ ပြန့်နှံ့လာလျှင်၊ ၎င်းရန်သူ စသည်များမှ စိုးရိမ်ရ

လျင်၊ သို့သော်ထိုသို့သောအဖြစ်၌ နမာဇ်ဖတ်ကြရာတွင် ဂျမာအတ်မပြုရ၊ လူတိုင်းသည် မိမိတို့အိမ်၌ တစ်ကိုယ်တည်း နမာဇ်ဖတ်ကြရမည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ဒုက္ခတစ်ခုခု ငင်းပူပင်သောကတစ်ခုခု ဖြစ်မူ နမာဇ်ဖတ်တော်မူသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

ဒုရ်ရေ မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၁၈။

၈။ မတ်စ်အလဟ် ပြဿနာ။ တင်ပြခဲ့သော နမာဇ်များအပြင် နဖ်လ်များကို ဖတ်နိုင်သရွေ့ ဖတ်ပါက သဝါဗ် ကုသိုလ်များရပြီး 'ဒရိဂျာတ်'အဆင့်အတန်းများ တိုးတက်မည် ဖြစ်ပေသည်၊ သီးခြားရှိ ဟဒီးသ်တော်များ၌ ထွတ်မြတ်သော အချိန်သမယများလာရှိသည့်အချိန်တွင် ဖတ်ပါက ပို၍ ကုသိုလ် သဝါဗ်ရမည်ဖြစ်ပေသည်၊ ထိုအချိန်များ၌ အေဗါဒတ် ပြုကြရန် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူထားလေသည်။ ဥပမာ....ရမသွာန်လမြတ်၏နောက်ဆုံး(၁၀)ရက် ညဥ့်များ၌ ငင်းရှအ်ဗါန်လ (၁၅)ရက်ည၊ ထိုရက်များ၏ထွတ်မြတ်ခြင်းများ အေဗါဒတ်ပြုပါက များစွာ သဝါဗ်ရမည်ဖြစ်ကြောင်း ဟဒီးသ်တော်များ၌လာရှိပေသည်။ ကျွန်ုပ်အနေနှင့် ရှည်လျားသွားမည်စိုးသဖြင့် အကျယ်မရေးတော့ပြီ။

" မှတ်ချက်။ ရမသွာန်လမြတ်၏ နောက်ဆုံး(၁၀)ရက် ညများ၊ ငင်းရှအ်ဗာန်လ (၁၅)ရက်ညမှာ မွန်မြတ်ထူးကဲခြင်းများရှိသည်၊ ငင်းထိုရက်များတွင် 'အေဗါဒတ်'ပြုပါက ကုသိုလ်သဝါဗ် များစွာရလေသည်၊ ထို့ကြောင့် အာအေရှဟ်(ရသွေ)သခင်မက ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်သည် ရမသွာန်လ နောက်ဆုံးညများတွင် အိပ်တော်မမူဘဲ ထတော်မူသည်၊ အိမ်သူ အိမ်သားများကိုလည်း နိှုးတော်မူသည်၊ ထိုသို့ ကြိုးစားခြင်းသည် လိုင်လတွလ်ကဒ်ရ်ညဥ့်မြတ်တွင် အေဗါဒတ် များစွာပြုမိရန် လိုရင်းဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ထိုညသည် လပေါင်းတစ်ထောင်ထက် သာမြတ်လေသည်၊ ငင်းရှအ်ဗာန်လ (၁၅)ရက် ညတွင် အေဗာဒတ် ပြုခြင်းဖြင့် ၁-နှစ်ပတ်လုံး၏ ဂိုနာဟ်များ ကျွတ်လေသည်၊ ထို့ကြောင့် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ... ရှအ်ဗာန်လ (၁၅)ရက် ရောက်မူ ညတွင် အေဗါဒတ် ပြုကြပြီး၊ နေ့တွင် ရိုဇဟ်ဥပုသ်ထားကြကုန်။ (၁၅-ရက်ညဟု ဆိုရာ၌ မြန်မာအခေါ် ၁၄-ရက်ည ဖြစ်သည်)။

မရာကင်လ်ဖွလားဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၀။

## မိုးဆုတောင်းသောအခါ ဖတ်ရသော နမာဇ်အကြောင်း

ရေလိုအပ်ပြီးမိုးမရွာခဲ့သော်ထိုအခါအလ္လာဟ်အသျှင်မြတ်ထံမိုးရွာသွန်းရန်အတွက် ဒိုအာတောင်းခြင်းသည် စွန္နတ်တော်ဖြစ်သည်၊မိုးဆုတောင်းရန်ဒိုအာအတွက် မွတ်စ်တဟဗ်

နည်းလမ်းမှာ မွတ်စလင်မ်အားလုံးသည် စုပေါင်း၍မိမိတို့၏သားငယ်များ အသက်အရွယ်ကြီးရင့်သော သူအိုများ၊ ၎င်းတို့ရစ္စာန်များကိုပါ အတူခေါ်၍ ခြေလျင် ကျိုးငယ် နှိမ့်ချစွာဖြင့် အကောင်းစားမဟုတ်ဘဲ ရိုးရိုးအဝတ်များကို ဝတ်ဆင်ပြီး တောဘက်သို့သွားကြရမည်၊ ၎င်းကျူးလွန်မိခဲ့သော အကုသိုလ် ဂိုနာဟ်များမှ အသစ်တဖန် တောင်ဗဟ်ပြု၊ အမှားဝန်ခံကြရမည်၊ ပေးရန်ရှိသောသူများ၏ တာဝန်ကို ပေးကြရမည်၊ ၎င်းမိမိတို့နှင့် အတူ မည်သည့် ကာဖွင်ရ် တစ်ဦးတစ်ယောက်ကိုမှ ခေါ်မသွားကြရ။

ထို့နောက် နမာဇ်နှစ်ရကအတ် အသာန်နှင့် အေကာမတ်မပါဘဲ ဂျမာအတ်ဖြင့် ဖတ်ကြရမည်၊ အေမာမ်ရှေ့ဆောင်ဆရာသည် အသံဖြင့် ကေရာအတ်ကို ဖတ်ရမည်၊ အီးဒ်နမာဇ်ကဲ့သို့ နမာဇ်ပြီးနောက် ခွတ္တ်ဗဟ်နှစ်ကြိမ်ဖတ်ရမည်၊ ထို့နောက် အေမာမ် ရှေ့ဆောင်ဆရာသည် ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူပြီး ရပ်ကာ မိုးရွာသွန်းစေရန် အလ္လာဟ် အသျှင်မြတ်ထံ လက်နှစ်ဖက်မြှောက်၍ ဒိုအာတောင်းရမည်၊ အသင့်ရှိသူများလည်း ဒိုအာပြုကြရမည်။

(၃)ရက် ဤသို့ ဆက်တိုက်ပြုကြရမည်၊ (၃)ရက်ထက်ပို၍ပြုရန် တရားတော်တွင် မလာရှိပေ၊ အကယ်၍ (၁)ရက်ထည်းဖြင့် မိုးရွာလာသော်လည်း (၃)ရက် ပြည့်အောင် ပြုမူကြရမည်၊ ၎င်းထို(၃)ရက်တွင် ရိုဇဟ်ဥပုသ်ထားခြင်း 'မွတ်စ်တဟဗ်'ဖြစ်သည်၊ ၎င်းတောသို့မသွားကြမီ ဆွဒကဟ် ခိုင်ရာတ် လှူတန်းမှုများ ပြုကြရန်လည်း 'မွတ်စ်တဟဗ်' ဖြစ်လေသည်။

ရှရ်ဟ္ဝတ်ဘန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

## ဖွရ်သွ် ဝါဂျစ်ဗ် နမာဇ်နှင့် ပတ်သက်သော အချို့မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မွဒ်ရစ်က် အပေါ်တွင် ကေရာအတ် ဖတ်ရန် မရှိ၊ အေမာမ်၏ကေရာအတ်ဖတ်ခြင်းသည် မွတ်က်တဒီနောက်လိုက်အားလုံးအတွက် လုံလောက်သည်၊ ၎င်းကျန်ုပ်တို့ 'ဟန္နဖွီ'များထံတွင် အေမာမ်၏နောက် မွတ်က်တဒီများမှာ ကေရာအတ် ဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်သည်။

မို့အတ္တ်တွာအေမာမ် မုဟမ္မဒ် စာမျက်နှာ-၇၆၊၇၉။

၂။ မတ်စ်အလဟ် ပြဿနာ။ မတ်စ်ဘူးက် နမာဇ်၌ အဝင်နောက်ကျနေသူသည် မိမိနောက်ကျခဲ့သော တစ်ရကအတ်၊ နှစ်ရကအတ် အတွက် ကေရာအတ် ဖတ်ရန် ဖွရ်သွ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅၈။

၃။ မတ်စ်အလဟ်ပြဿနာ။ အမှန်မှာ အေမာမ် ရှိပါလျက် မွတ်က်တဒီမှာ ကေရာအတ် ဖတ်ရန် မထိုက်၊ ဟုတ်ပါ၏၊ မတ်စ်ဘူးက်အတွက်မူကား ထိုသူလွတ်ခဲ့သော ရကအတ်များတွင် အေမာမ်မရှိခဲ့ ထို့ကြောင့် ထိုနောက်ကျသူသည် လွတ်သွားခဲ့သော ရကအတ် များအတွက် ကေရာအတ် ဖတ်ရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်-၅၅၀။

၄။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်' ဖတ်ရာတွင် ရပ်သောနေရာမှ စစ်ဂျဒဟ် ပြုသောနေရာသည် တစ်ဂိုက်ဝက်ထက် ပိုမြင့်နေရန် မထိုက်၊ အကယ်၍ ဂိုက်ဝက်ထက် ပိုမြင့်ခဲ့သော် နမာဇ် မပိုင်ပေ။

ဟုတ်ပါ၏ အကယ်၍ လိုအပ်သောအဖြစ်နှင့် ကြုံနေမှု ပိုင်သည်၊ဥပမာဂျမာအတ်မှာ များပြားပြီး လူတို့သည် ပူးကပ်နေ၍ မြေပေါ်တွင် စစ်ဂျဒဟ် မချနိုင်သောနမာဇ် ဖတ်နေသူများ၏ ကျောငပေါ်သို့ စစ်ဂျဒဟ် ချပိုင်သည်၊သို့သော် မိမိက တစ်ဦး၏ ကျောပေါ်သို့ စစ်ဂျဒဟ် ချရာတွင် နှစ်ဦး နှစ်ဝ နမာဇ် တစ်မျိုးတည်း ဖတ်နေသူများ ဖြစ်ကြရပေမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၆၇။

၅။ မတ်စ်အလဟ်ပြဿနာ။ 'အီးဒ်နှစ်အီးဒ်' နမာဇ် တွင်တပ်က်ဗီးရ် ရှိုးရှိုး အပြင် တပ်က်ဗီးရ် (၆) ကြိမ်ဆိုခြင်း ဝါဂျစ်ဗ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၄၀၊၁၄၉။

၆။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ရှေ့ဆောင် ဆရာသည် ဖွဂ်ျရ်နမာဇ်၏ နှစ်ရကအတ် စလုံး၊ ၎င်းမင်ရစ်ဗ်နှင့် အေရှာအ် နမာဇ် ၏ ပထမ နှစ်ရကအတ်တွင် ကသွာ ဖြစ်စေ၊ အဒါဖြစ်စေ၊ ၎င်းဂျို့မို့အဟ် နမာဇ် အီးဒ်နှစ်အီးဒ်၊ တရာဝီးဟ် နမာဇ်များ ၎င်းရမသွာန်လ၏ ဝစ်တ်ရ် တွင်ကေရာအတ် ကိုအသံဖြင့်ဖတ်ရန်'ဝါဂျစ်ဗ်'ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၀၊၇၁။

၇။ မတ်စ်အလဟ်ပြဿနာ။ မွန်ဖွရစ်ဒ် တစ်ယောက်တည်း ဖတ်သူသည် ဖွဂ်ျရ် နှစ်ရကအတ် စလုံး ၎င်းမင်ရစ်ဗ်နှင့် အေရှာအ် ၏ ပထမ နှစ်ရကအတ် တွင် အသံနှင့်ဖြစ်စေ၊ တိုးတိုးဖြစ်စေ ကေရာအတ် ဖတ်နိုင်သည်၊ 'ဖွေကဟ်' ကျမ်းရှင်များက ရေးကြသည်မှာ အသံနှင့်ဟု ဆိုရာ၌ မိမိအပြင် အခြားတစ်ဦးဦး ကြားနိုင်လောက်အောင်ဖြစ်ပြီး တိုးတိုးဆိုရာ၌ မိမိတစ်ဦးတည်း ကြားရုံလောက်ပင် ဖြစ်ပေသည်၊ အဝေးတွင် ရပ်နေသူ မကြားစေရ လုံးဝနီးကပ်နေသူ မကြားစေရဟု မဆိုလိုပေ။

ဖွာတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၀၊၇၁။

၈။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ၎င်းမွန်ဖွရစ်ဒ်သည် ဇွဟ်ရ်၊ အတ်စွင်ရ်၏ ရကအတ် အားလုံး၊ ၎င်းမင်ရစ်ဗ် နှင့် အေရှာအ် ၏ နောက်ဆုံး ရကအတ်များတွင် ကေရာအတ်ကို တိုးတိုးစွာ ဖတ်ခြင်းသည်'ဝါဂျစ်ဗ်'ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၀၊၇၁။

၉။ မတ်စ်အလဟ်ပြဿနာ။ နေ့တွင် ဖတ်သော နဖိလ် များကို ကေရာအတ် တိုးတီးဖတ်ရန် ထိုက်သည်၊ ညမှာဖတ်ခဲ့သော် အသံနှင့်ဖြစ်စေ၊ တိုးတီးဖြစ်စေ ဖတ်နိုင်သည်။

၁၀။ မတ်စ်အလဟ်ပြဿနာ။ 'မွှန်ဖွရစ်ဒ်' တစ် ယောက် တည်းဖတ်သူ သည် အကယ်၍ ဖွဂျ်ရ်၊ မဂ်ရစ်ဗ်၊ အေရှာအ်၏ ကဿာကို နေ့တွင် ဖတ်သော် ကေရာအတ်ကို တိုးတီးဖတ်ရမည်၊ အကယ်၍ ညမှာ ဖတ်ခဲ့သော် ကြိုက်သလို ဖတ်နိုင်သည်။

(၉)၊ (၁၀) ကျမ်းညွှန်း ... အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၁။
ဒွရ်ရေ့မွှခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် မဂ်ရစ်ဗ် ၎င်း အေရှာအ် 'နမာဇ်' ၏ ပထမ နှင့် ဒုတိယ ရကအတ်တွင် စူရဟ် ဖွာတေဟာ ဖတ်ပြီးစူရဟ် တစ်ခုခု တွဲရန် မေ့သွားခဲ့သော် ထိုသူသည် တတိယ ၎င်း စတုတ္ထ ရကအတ်တွင် စူရဟ် ဖွာတေဟာ်ပြီးနောက် စူရဟ် တစ်ခုခု တွဲရန်ထိုက်သည်၊ ၎င်း ထိုရကအတ် များတွင်လည်း အသံနှင့် ကေရာအတ် ဖတ်ရန် ဝါဂျစ်ဗ် ဖြစ်သည်၊ ၎င်းအဆုံးတွင် စစ်ဂျဒဟ်စဟ်ဝိ ပြုရမည်။ အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၉။

## နမာဇ်၏ အချို့သော စွန္နတ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများမှာ 'တပ်ကဗီးရ်တဟ်ရီမဟ်' မဆိုမီ လက်နှစ်ဘက်ကို နားနုအထိ မြှောက်ခြင်း ၎င်းအမျိုးသမီးများမှာ ပခုံးထိမြှောက်ခြင်း တို့သည် စွန္နတ် ဖြစ်သည်၊ 'အွသ်ရ်' မတတ်သာသောအဖြစ်၌ ယောကျ်ားများမှာလည်း ပခုံးထိ လက်မြှောက်သော် ကိစ္စမရှိပေ။

အာလမ်ဂီရီအတွဲ- ၁၊ စာမျက်နှာ-၇၁၊၇၂။

၂။ မတ်စ်အလဟ်ပြဿနာ။ 'တစ်ကဗီးရ်တဟ်ရီမဟ်' ဆိုပြီးပြီးခြင်း ယောကျ်ား များသည် ချက်အောက်၌ အမျိုးသမီးများသည် ရင်တွင်လက်ပိုက်ခြင်း စွန္နတ် ဖြစ်သည်။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၁၊၇၂။

၃။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ား များ သည် ဤသို့ လက်ပိုက် ရမည်၊ ညာလက်ကို ဘယ်လက်ပေါ်သို့ တင်ရမည်၊ ညာလက်မနှင့် လက်သန်းဖြင့် ဘယ်လက် ကောက်ဝတ်ကို ကိုင်ထားပြီး ကျန် လက်သုံးချောင်းသည် လက်ကောက်ဝတ် အပေါ် ခင်းထားခြင်းတို့သည်စွန္နတ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်-၇၁၊၇၂။

၄။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ၎င်း မွှန်ဖွရစ်ဒ် တို့သည် စူရဟ်ဖွာတေဟာ် ဆုံးသွားသောအခါ တိုးတီးစွာ 'အာမီန်' ဟု ဆိုခြင်း၊ အသံနှင့် ဖတ်ရသည်တွင် မွှဘ်ကတဒီ အားလုံးက တိုးတီးစွာ 'အာမီန်' ဟု ဆိုရန် စွန္နတ် ဖြစ်သည်။
အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၁၊၇၂။

၅။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများမှာ 'ရိုကူအ်' ဦးညွှတ်ရာ၌ ကျော, ခါး, တင်ပါးတို့ညီအောင် ကောင်းစွာ ကုန်းညွှတ်ခြင်းသည် စွန္နတ် ဖြစ်သည်။

၆။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများမှာ ရိုကူအ်ဦးညွှတ်ရာ၌ လက်နှစ်ဘက်ကို နံဘေးမှခွာထားခြင်း စွန္နတ် ဖြစ်သည် 'ကောင်မဟ်' ရိုကူအ်မှ အထတွင် အေမာမ် ရှေ့ဆောင်ဆရာသည် (စမေ့အလ္လာဟ္ဟို၊ လေ့မန်ဟမေ့ဒဟ်) ဆိုခြင်း ၎င်းမွတ်က်တဒီသည် (ရဗ်ဗနာ၊ လကလ်၊ ဟမ်ဒ်) ဆိုခြင်း၊ ၎င်းမွန်ဖွရစ်ဒ်သည် နှစ်ရပ်စလုံးဆိုခြင်း စွန္နတ် ဖြစ်သည်။

၇။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများမှာ စစ်ဂျိဒဟ် ဦးချရာ၌ဝမ်းဗိုက်ကို ဒူးဖြင့် ၎င်းနံဘေးကို တစ်တောင်ဆစ်များမှ တစ်ခြားခွဲထားခြင်း၊ ၎င်းလက်မောင်းများကို မြေမှကြွထားခြင်းတို့သည် စွန္နတ် ဖြစ်သည်။

(၅) မှ (၇) ကျမ်းညွှန်း.... တွာဟ်တွာဇ်ကျမ်း စာမျက်နှာ-၁၀၀၊၁၀၁။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၃၊၇၄။

၈။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများမှာ ပထမနှင့် ဒုတိယ 'ကအ်ဒဟ်'၌ ညာဘက်ခြေဖျားထောင်၍ ခြေချောင်းဖျားကလေးများ၏ထိပ်သည် ကစ်ဗ်လဟ်ဘက်သို့ လှည့်နေစေခြင်း၊ ဘယ်ဘက်ခြေ ခင်း၍ ထိုင်ခြင်း၊ လက်နှစ်ဘက် ပေါင်ပေါ်ထားခြင်း၊ လက်ချောင်းဖျားများ ဒူးဆစ်အနီး ရောက်နေစေခြင်းတို့သည် စွန္နတ် ဖြစ်သည်။

၉။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ရှေ့ဆောင်ဆရာသည် 'စလာမ်'ကိုအသံနှင့်ဆိုခြင်း စွန္နတ် ဖြစ်သည်။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ဆရာသည် မိမိ၏ 'စလာမ်' တွင် မိမိ၏နောက်လိုက် မွတ်က်တဒီ အားလုံးအတွက် နိယတ်ပြုခြင်း၊ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကလေးဖြစ်စေ ၎င်းအတူရှိသော ဖွရစ်ရှိတဟ် များအတွက်ပါ နိယတ်ပြုခြင်း၊ ၎င်းမွတ်က်တဒီတို့သည် မိမိနှင့်အတူ ဖတ်သူများ အတူရှိသော ဖွရစ်ရှိတဟ်များ၊ ၎င်းအကယ်၍ အေမာမ်သည် လက်ယာဘက်တွင်ရှိမူ ညာဘက်စလာမ်၌ ၎င်း လက်ဝဲဘက်တွင်ရှိမူဝဲဘက်စလာမ်၌ အကယ်၍ အေမာမ်နှင့် တည့်တည့်မှဖြစ်မူ စလာမ် နှစ်ရပ်စလုံး၌ အေမာမ်၏ အတွက်ပါ နိယတ်ပြုရန် စွန္နတ် ဖြစ်သည်။

(၈) မှ (၁၀) ထိ ကျမ်းအညွှန်း.... တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၅၉။

ဖွာတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၄၊၇၅၊၇၆။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ား များမှာ 'တပ်က်ဗီးရ်တဟ်ရီမဟ်' ဆိုသောအခါ အအေးလွန်ကဲခြင်း စသည့် 'အွသ်ရ်' မရှိခဲ့သော်အင်ကျီလက် ၎င်းခြုံထားသောစောင် စသည်မှ လက်ထုတ်ခြင်းသည် စွန္နတ် ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၂။

## ဂျမာအတ်၏ အကြောင်း

ဂျမာအတ်ဖြင့်'နမာဇ်'ဖတ်ခြင်းသည်အချို့ထံဝါဂျစ်ဗ်၊ ၎င်းအချို့ထံ စွန္နတ်မို့ အပ်ကဒယ်ဖြစ်သည်၊ ထို့ကြောင့် ဤအကြောင်းကို 'နမာဇ်' ၏ ဝါဂျစ်ဗ် စွန္နတ်များ ပြီးနောက် မတ်က်ရူးဟ် စသည်များ အလျင် တင်ပြရန် သင့်သည်ဟု ယူဆမိသည်၊အခြား မတ်စ်အလဟ် များထက်ပို၍ ၎င်းဂရုတစ်စိုက် လိုက်နာရန် ထိုက်သောကြောင့် ထိုအတွက် ခေါင်းစဉ်တစ်ခြား သတ်မှတ်လိုက်သည်။

ဂျမာအတ်သည် အနည်းဆုံး လူနှစ်ယောက်ရှေ၍ နမာဇ် ဖတ်ခြင်းကို ခေါ်သည်၊ တစ်ယောက်က ရှေ့ဆောင်မှုပြုသူ တစ်ယောက်က နောက်လိုက်နာခံသူဖြစ်သည်၊ နောက်လိုက် နာခံသူကို မွတ်က်တဒီ၊ ၎င်းရှေ့ဆောင်မှုပြုသူကို အေမာမ် ဟု ခေါ်သည်။

၁။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် ရှေ့ဆောင်ဆရာ၏အပြင် လူတစ်ယောက် ရှိခြင်းဖြင့် ဂျမာအတ် ဖြစ်ပေသည်၊ ထိုတစ်ယောက်သည် ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ 'ဂိုလာမ်' ကျွန်ဖြစ်စေ၊ အာဇားဒ်' လွတ်လပ်သူဖြစ်စေ၊ အရွယ်ရောက်သူဖြစ်စေ၊ အရွယ် မရောက်သေးသော သိနားလည်သည့် ကလေးဖြစ်စေ၊ ဟုတ်ပါ၏ ဂျို့မို့အဟ်နှင့် အီးဒ်နှစ်အီးဒ်၏ နမာဇ် တွင် အေမာမ် ရှေ့ဆောင်ဆရာအပြင် လူ (၃) ယောက်မရှိပါက ဂျမာအတ် မဖြစ်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၁၊၇၂၊၁၄၆။

၂။မတ်စ်အလဟ်ပြဿနာ။ ဂျမာအတ် ဖြစ်ရန်အတွက် ဖွရ်သွ 'နမာဇ်' ဖြစ်ရန် အရေးမကြီး သာမက အကယ်၍ တစ်ဦးကိုတစ်ဦး ရှေ့ဆောင် နောက်လိုက်ပြု၍ ဖတ်ကြလျှင် ဂျမာအတ် ဖြစ်ပေသည်၊ အေမာမ်နှင့် မွတ်က်တဒီ တို့သည် နဖ်လ်နမာဇ်ဖတ်ကြသည် ဖြစ်စေ ၎င်းမွတ်က်တဒီကသာ နဖ်လ် ဖတ်သည်ဖြစ်စေ၊ သို့သော် နဖ်လ် ကိုဂျမာအတ်ဖြင့် ဖတ်သောအလေ့ပြုခြင်း၊ ၎င်းမွတ်က်တဒီ (၃) ယောက်ပိုခြင်းတို့သည် မတ်က်ရူးဟ် ဖြစ်သည်။

## ဂျမာအတ်၏ ထွတ်မြတ်ခြင်းနှင့် လှုံ့ဆော်ခြင်း အကြောင်း

ဂျမာအတ်၏ ထွတ်မြတ်ခြင်းနှင့် ဖတ်ကြရန် လှုံ့ဆော်သော ခိုင်မာသည့် ဟဒီးသ်တော်များ မြောက်မြားစွာ လာရှိပေသည်၊ အားလုံးကို စုပေါင်းရေးသားမူ ကျမ်းကြီး တစ်စောင် ဖြစ်လာပေမည်၊ (ထို့ကြောင့် အကျဉ်းအားဖြင့် တင်ပြအံ့) ထိုဟဒီးသ်တော်များကို ကြည့်ခြင်းဖြင့် ဂျမာအတ် ပြည့်စုံအောင်ပြုရန် မြင့်မားသော 'ရှရတွ' တစ်ခုဖြစ်ကြောင်း တွေ့ရသည်၊ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ဘယ်သော အခါမှ ဂျမာအတ် လွတ်တော်မမူခဲ့ပေ၊ မမာမကျန်းတော်မူ၍ သွားလာခြင်းမပြုနိုင်သော အခြေ

အနေဥ္စပင် ရစူလ်ကိုယ်တော်သည် ပုဂ္ဂိုလ်နှစ်ပါးဖြင့် တွဲကာ ဗလီဝတ်ကျောင်းတော်သို့ သွားတော်မူပြီး ဂျမာအတ်ဖြင့် နမာဇ်ဖတ်တော်မူသည်၊ ဂျမာအတ် လွတ်သူကို ရစူလ်ကိုယ်တော်သည် လွန်စွာ စိတ်ဆိုးတော်မူသည်၊ ဂျမာအတ် လွတ်သူကို အပြင်းထန်ဆုံး ပြစ်ဒဏ် ပေးလိုတော်မူပေသည်။

ရှရီအတ် တရားတော်တွင် ဂျမာအတ်ဖြင့် ဖတ်ရန် အလေးအနက် ပြဋ္ဌာန်းထားတော်မူသည်၊ ဤသို့ပြဋ္ဌာန်းထားခြင်းပင် အသင့်လျော်ဆုံးဖြစ်သည်၊ နမာဇ်ကဲ့သို့ မြင့်မားသော အေဗာဒတ်တစ်ခုသည် အမြင့်ဆုံးသော ပြည့်စုံသည့် အထွတ်အထိပ်ကို လိုအပ်ပေသည်၊ ကျွန်ုပ်သည် ဤနေရာတွင်အချို့ မို့ဖွာစ်စင်ရ်များနှင့် ဖွေကဟ်ရှင်များက ဂျမာအတ် အတည်ဖြစ်ကြောင်း တင်ပြကြသည့်အာယတ်တော်မြတ်ကိုဖေါ်ပြပြီး ဟဒီးသ်တော်အချို့ကို ရေးမည်။

အာယတ်တော် ဝရ်ကအူ၊ မအရ်ရာကေ့အီးန်။ နမာဇ်ဖတ်သူများနှင့် ရော၍ နမာဇ်ဖတ်ကြကုန်။ ဆိုလိုသည်မှာ ဂျမာအတ်ဖြင့် နမာဇ်ဖတ်ကြကုန်၊ ဤအာယတ်တော်တွင်ဂျမာအတ်ဖြင့် နမာဇ်ဖတ်ကြရန် အမိန့်လာရှိထားပေသည်၊ သို့သော်လည်း ရိုကူအ်၏ အဓိပ္ပါယ်ကို အချို့ မို့ဖွာစ်စင်ရ် သခင်များက ကျိုးငယ်နှိမ့်ချခြင်းဟု ရေးကြသည်၊ ထို့ကြောင့် ဖွရ်သွ် အတည်ဖြစ်မလာပေ။

ဟဒီးသ်တော်....၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မှ အစ်ဗ်နို့အုမရ် (ရသွေ့)သခင်က အကြောင်းပြုခဲ့သည်၊ တစ်ယောက်တည်းဖတ်ခြင်းထက် ဂျမာအတ်ဖြင့် နမာဇ်ဖတ်ခြင်းက ကုသိုလ် သဝါဗ်ပေါင်း ၂၇-ဆ ပို၍ရသည်။

ဟဒီးသ်တော်....၂။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ တစ်ယောက်တည်းနမာဇ်ဖတ်ခြင်းထက် အခြားတစ်ယောက်ဖြင့် ဖတ်ခြင်းက ပို၍ကောင်းသည်၊ နှစ်ယောက်နှင့်ဆိုလျှင် ပို၍ပို၍ပင်ကောင်းသည်၊ ဂျမာအတ်များလေလေ အလ္လာဟ် အသျှင်မြတ်က နှစ်သက်တော်မူသည်ပင် ဖြစ်သည်။

ဟဒီးသ်တော်...၃။ အနတ်စ်ဗင်န်မာလစ်က် (ရသွေ့) သခင်က 'ရေဝါယတ်' ဆင့်ဆိုမှုပြုခဲ့သည်၊ ဘနီစလ်မဟ်အနွယ်ဝင်အုပ်စုတို့က မိမိတို့အိမ်ဟောင်းများသည်(မတ်စ်ဂျစ်ဒ်နဗဗီ) ဗလီ ဝတ်ကျောင်းတော်နှင့် ဝေးကွာသဖြင့် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏အနီးသို့ ရွှေ့ပြောင်းလာရန်ဆန္ဒပြုကြသည်၊ ထိုအခါရစူလ်ကိုယ်တော်က သင်တို့သည် မြေဥ္စကျသော မိမိတို့၏ခြေများကို ကုသိုလ် သဝါဗ် မရဟု ထင်ကြသလော့ဟု ထိုပုဂ္ဂိုလ်များအား မိန့်တော်မူလေ၏။

ဤဟဒီးသ်ဖြင့် သိရသည်မှာ.... အကြင်သူသည် ဝေးလံသောနေရာမှ ဗလီသို့လာလေလေ ကုသိုလ်သဝါဗ်ပို၍ရလေလေပင်ဖြစ်သည်၊သို့သော်အကယ်၍ တစ်ဦးတစ်ယောက်၏ အရပ်တွင်ဗလီရှိမူ ထိုဗလီကိုလွှတ်၍ ဝေးသောဗလီသို့မသွားရပေ၊ အဘယ့်ကြောင့်ဆို

သော် အရပ်ဗလီမှာ ထိုသူ့တွင်တာဝန်ရှိသည်၊ အကယ်၍ ထိုအရပ်ဗလီတွင် ဂျမာအတ်မဖြစ်သော်လည်း သွား၍ အသာန် အေကာမတ် ဆိုကာ တစ်ယောက်တည်း နမာဇ်ဖတ်ရမည်။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၀။

ဟဒီးသ်တော်....၄။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ နမာဇ် ဖတ်ရန် အတွက် စောင့်ဆိုင်းနေရသော အချိန်ကို နမာဇ်၌ပင် ရည်တွက်တော်မူသည်၊

ဟဒီးသ်တော်....၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က တစ်နေ့ အေရှာအ်နမာဇ်အချိန်တွင် ဂျမာအတ်၌ မေ့လျော့နေသော အတ်စ္ဟာဗ်သခင်များကို မိန့်တော်မူသည်၊ လူတို့သည် နမာဇ်ဖတ်၍ အိပ်နေကြသည်၊ ၎င်း သင်တို့ စောင့်ဆိုင်းနေသော အချိန်အားလုံးသည် နမာဇ်၌ ရည်တွက်ခြင်းခံကြရသည်။

ဟဒီးသ်တော်....၆။ ဘိုရိုင်ဒဟ်အတ်စ်လမီ (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... မှောင်သောညများတွင် ဗလီသို့ သွားကြသူများကို ကေယာမတ်နေ့၌ ထိုသူတို့အတွက် လင်းဝင်းခြင်း အတိ ဖြစ်သည်ဟု မကောင်းသတင်း ပေးကြကုန်။

ဟဒီးသ်တော်....၇။ အွသ်မာန်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် အေရှာအ် နမာဇ်ကို ဂျမာအတ်ဖြင့်ဖတ်လျှင် ထိုသူသည် ညတစ်ဝက် အေဗါဒတ်၏ အကျိုးသဝါဗ်ရသည်၊ ၎င်းအကြင်သူသည် အေရှာအ်နှင့်ဖွဂျ်ရ်နမာဇ်ကို ဂျမာအတ်ဖြင့်ဖတ်လျှင် ထိုသူသည် တစ်ညလုံး အေဗာဒတ်၏ သဝါဗ် ကုသိုလ် ရမည်ဖြစ်သည်။

ဟဒီးသ်တော်....၈။ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ တစ်နေ့တွင် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ အမှန် မုချ ငါရစူလ်၏ စိတ်တွင်ဤသို့ပေါ်ပေါက်ခဲ့သည်၊ တစ်ဦးသောသူအား ထင်းများစုရုံးရန် အမိန့်ပေးချင်သည်၊ ထို့နောက် အသာန်ဆိုရန် အမိန့်ပေးချင်သည်၊ ၎င်းတစ်ဦးသောသူအား 'အေမာမတ်'ပြုရန်အမိန့်ပေးချင်သည်၊ ၎င်းငါရစူလ်သည် ဂျမာအတ်သို့ မလာသောသူများ၏ အိမ်သို့ သွားပြီး၊ ထိုသူတို့၏ အိမ်များကို မီးရှို့ပစ်ချင်သည်။

ဟဒီးသ်တော်....၉။ 'ရေဝါယတ်' ဆင့်ဆိုမှုတစ်ခုတွင် လာရှိသည်၊ အကယ်၍ ငါရစူလ်သည် ကလေးငယ်များ၊မိန်းမများကို မထောက်ထားခဲ့လျှင်၊ အေရှာအ်နမာဇ်ကို ကိုယ်တိုင်ဖတ်နေတော်မူပြီး ဂျမာအတ်သို့ မလာသူများကို ၎င်းတို့ပိုင်ပစ္စည်းများနှင့်တကွ အစေခံများအား မီးရှို့ပစ်ရန် အမိန့်ပေးတော်မူမည်။ မွတ်စလင်မ်ကျမ်း။

အေရှာအ်နမာဇ်ကို သီးခြား မိန့်တော်မူခြင်းဖြင့် သိရသည်မှာ.... ထိုအချိန်သည် 'အိပ်စက်သော အချိန်ဖြစ်သည်၊ ၎င်းအများအားဖြင့် လူတို့သည် ထိုအချိန်၌ မိမိတို့နေအိမ်များတွင် ရှိနေကြမည်ဖြစ်ပေသည်။ အေမာမ် တင်ရ်မေသီကျမ်းရှင်က ဤဟဒီးသ်

တော်ကိုဖော်ပြပြီး မိန့်သည်မှာ....ဤအမိန့်အတိုင်းပင် အစ်ဗ်နို့ မတ်စ်အူးဒ်၊ အဘူဒရ်ဒါအ်၊ အစ်ဗ်နို့အဗ်ဗားစ် နှင့် ဂျာဗင်ရ်(ရသွေ့)သခင်များက 'ရေဝါယတ်'ပြုခဲ့ကြသည်၊ ဤပုဂ္ဂိုလ်များသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ထံတော်တွင် အဆင့်အတန်းမြင့်မားသော 'အတ်စ္ဟာဗ်' တပည့်တော်ကြီးများမှ ဖြစ်ကြသည်။

ဟဒီးသ်တော်....၁၀။ အဘူဒရ်ဒါအ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ လူစည်ကားသော ရပ်ကွက်ရှင်းတောတွင်မွတ်စလင်မ်၃-ယောက်ရှိပြီး ဂျမာအတ်ဖြင့်နမာဇ်မဖတ်ကြလျှင်အမှန်မုချပင်ထိုသူတို့အပေါ် 'ရှိုင်တွာန်' မိစ္ဆာသည် လွှမ်းမိုးသွားမည်ဖြစ်သည်၊ သို့ရှိရာ အို...အဘူဒရ်ဒါအ်၊ ဂျမာအတ်ကို မိမိအပေါ် အရေးကြီးသည်ဟု မှတ်ယူကုန်။ ကြည့်ကုန်၊ ဝံပုလွေ (ရှိုင်တွာန်)သည် ထိုဆိတ်(လူသား)ကို စားသည်၊ (လမ်းမှားအောင်ပြုသည်) မိမိ၏ဆိတ်အုပ်(ဂျမာအတ်)မှ တစ်ခြားဖြစ်သူကို။

ဟဒီးသ်တော် ၁၁။ အစ်ဗ်နို့အဗ်ဗားစ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် 'အသာန်' ဆိုသံကိုကြားပြီး ဂျမာအတ်သို့မလာလျှင်၊ ၎င်းမည်သည့်'အွသ်ရ်'မှုလည်း မရှိမူ၊ ထိုသူတစ်ယောက်တည်း ဖတ်သောနမာဇ်သည် 'ကဘူလ်'မဖြစ်ပေ၊ ဆွဟာဗဟ်(ရသွေ့)သခင်များက'အွသ်ရ်'မှာ အဘယ်သို့ပါနည်းဟု မေးလျှောက်ရာ၊ ကြောက်ရွံ့ခြင်းနှင့်ရောဂါဟု မိန့်တော်မူလေ၏။

ဤဟဒီးတော်မြတ်တွင် ကြောက်ရွံ့ခြင်းနှင့်ရောဂါကို အကျယ် ဖွင့်ဆိုမထားပေ၊ အချို့ ဟဒီးသ်တော်များ၌ကား အကျယ်ပါရှိသည်။

မှတ်ချက်။ ဆိုလိုသည်မှာ..., သဝါဗ် ပြည့်စုံစွာ ရမည်မဟုတ်ပေ၊ ဖွရ်သွ် မပိုင်ဟူ၍ဆိုလိုရင်းမဟုတ်၊ တစ်ယောက်တည်းဖတ်ခြင်းဖြင့်နမာဇ်မပိုင်လျှင် နမာဇ်မဖတ်တော့၊ ဖတ်လျှင် အကျိုးမရှိဟူ၍ အလျှင်းစိတ်စွဲမှုမထားကြနှင့်၊ နမာဇ်မပိုင်ဟူ၍မဟုတ်၊ အကျိုးသဝါဗ် နည်းခြင်းသာ ဖြစ်သည်။

ဟဒီးသ်တော်...၁၂။ မဲဟ်ဂျန်(ရသွေ့)သခင်က မိန့်တော်မူသည်၊ တစ်ခါက ကျွန်ုပ်သည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်နှင့်အတူရှိခဲ့သည်၊ ထိုအချိန်၌ အသာန်ဆိုလေသည်၊ ရစူလ်ကိုယ်တော်သည် နမာဇ်ဖတ်တော်မူသည်၊ ကျွန်ုပ်သည် မိမိနေရာတွင်သွား၍ထိုင်နေလိုက်သည်၊ ရစူလ်ကိုယ်တော်က နမာဇ်ဖတ်ပြီးနောက် မိန့်တော်မူသည်မှာ— အို...မဲဟ်ဂျန်၊ သင်ဂျမာအတ်နှင့် အဘယ့်ကြောင့် နမာဇ်မဖတ်သနည်း၊ သင်မွတ်စလင်မ်မဟုတ်သလော့။ ကျွန်ုပ်ကလျှောက်သည်၊ ယာရစူလလ္လာဟ် ကျွန်တော်မျိုး မွတ်စလင်မ်ဖြစ်ပါသည်၊ သို့သော် မိမိအိမ်က နမာဇ်ဖတ်ခဲ့ပါပြီ။ ထိုအခါရစူလ်ကိုယ်တော်ကမိန့်တော်မူသည်မှာ.... ဗလီ၌လာသောအခါ ဂျမာအတ်ဖြစ်နေသည်ကို တွေ့ရမူ၊ နမာဇ်ဖတ်ပြီးခဲ့သော်လည်း အခြားသူများနှင့် ရော၍ နမာဇ်ဖတ်ကုန်။

မှတ်ချက်။ သို့သော် ဖွဂျိရ်၊ အတ်စွ ိရ်နှင့် မဂ်ရစ်ဗ်နမာဇ်ကို တစ်ယောက်တည်း ဖတ်ပြီး၍ ဂျမာအတ်ဖြစ်နေသည်ကို တွေ့ရမူ၊ ဂျမာအတ်နှင့် ရောရှ်၍ဖတ်ရန် မထိုက်၊ အဘယ့်ကြောင့်ဆိုသော် ဖွဂျိရ်၊အတ်စွ ိရ်ပြီးနောက် နဖိလ်ဖတ်ရန်မထိုက်ပေ၊၎င်းမဂ်ရစ်ဗ် သည် ၃-ရကအတ်ဖြစ်၍ နဖိလ်မှာ ၃-ရကအတ် မရှိပေ။

ဤဟဒီးသ်တော်ကို စဉ်းစားကြည့်ကြကုန်၊ ယခု ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် အချစ်တော်'ဆွဟာဗီ' မဲဟ်ဂျန်(ရသွေ့)သခင်အား ဂျမာအတ်နှင့်နမာဇ် မဖတ်သည့်အတွက် မှတ်စလင်မ်မဟုတ်သလောဟူ၍ ပြင်းထန်သော ခြိမ်းခြောက်မှု အတိ ပြီးသောစကားကို ဆိုခဲ့လေသည်။

ဟဒီးသ်တော်အချို့ နမူနာ အဖြစ် တင်ပြခဲ့ပေပြီ၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ် တော်၏ အချစ်တော် ဆွဟာဗဟ်(ရသွေ့)သခင်များ၏ အမိန့်များကိုတင်ပြမည်၊ ထိုသခင် များသည် ဂျမာအတ်ကို အလွန့်အလွန် ဂရုစိုက်တော်မူကြသည်၊ ၎င်းဂျမာအတ် လွတ်သူ ကို မည်သို့ ထင်မြင် ယူဆကြောင်းများ တင်ပြမည်၊ ထိုသခင်များသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်၏ အမိန့်တော်များကို တသဝေမတိမ်း လိုက်နာကြသည်၊ ထို သခင်များထက် မည်သူမျှပို၍ပင် ဂရုစိုက်သူများမရှိကြလေရာ ထိုသခင်များသည် ဂျမာ အတ် လွတ်သူများကို မည်မျှ စက်ဆုပ်ကြပေမည်နည်း။

အသရ်...၁။ (အသရ်သည် ဆွဟာဗီ ၎င်းတာဗေ့အီများ၏ အဆိုကို ခေါ် ဆိုသည်)၊ အတ်စ်ဝဒ်(ရဟေ့)သခင်က မိန့်တော်မူသည်၊ တစ်နေ့ကျွန်ုပ်သည် အွမ်မွလ် မုအ်မေ့နီးန် အာအေရှဟ်(ရသွေ့)သခင်မ ထံတော်တွင် ရှိနေခဲ့သည်၊ နမာဇ်ကို ဂရုစိုက် ရန် ထွတ်မြတ်ခြင်း အကြောင်း ပြောဆိုကြရာတွင် ပေါ်ပေါက်လာသည်၊ ထိုအခါ အာအေရှဟ်(ရသွေ့)သခင်မက ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် 'ဝဖွာတ်'ဖြစ် တော့မည့် ရောဂါအဖြစ်က အကြောင်းကို ပြောပြတော်မူသည်။

တစ်နေ့ နမာဇ်အချိန်ရောက်လာရာ 'မုအဲသ်သင်န်'က အသာန်ဆိုလေသည်၊ ထို အခါ ရစူလ်ကိုယ်တော်က အဘူဗာကရ်ကို နမာဇ်ဖတ်ပေးရန်ပြောကုန်ဟု မိန့်တော်မူသည်၊ ထိုအခါ အဘူဗာကရ်သည် စိတ်အားနည်းသူဖြစ်သည်၊ ရစူလ်ကိုယ်တော်၏နေရာတွင် ရပ် ပါက အားမရှိဘဲဖြစ်မည်၊ နမာဇ်ဖတ်ပေးနိုင်မည်မဟုတ်ဟု လျှောက်တင်ကြသည်၊ ရစူလ် ကိုယ်တော်က ပထမ အမိန့်အတိုင်းပင် မိန့်တော်မူရာ၊ ထိုအတိုင်းပင် လျှောက်ကြပြန်၏၊ ထိုသောအခါ ရစူလ် ကိုယ်တော်က အဘယ်စကားကို ဆိုကြသနည်း၊ ယူစွဖ် (အလိုင် ဟစ္စလာမ်)အား မစ်စွင်ရ်နိုင်ငံ၏အမျိုးသမီးများကဆိုကြသကဲ့သို့ဖြစ်နေသည်၊အဘူဗာကရ် အား နမာဇ်ဖတ်ပေးရန် ပြောကုန်ဟု မိန့်တော်မူလေသည်။

မှတ်ချက်။ ဤနေရာတွင် အာအေရှဟ်(ရသွေ့)သခင်မကို ဇိုလိုင်ခါသခင်မနှင့် နှိုင်းယှဉ်ထားတော်မူသည်၊ နှိုင်းယှဉ်ရခြင်းမှာ ဇိုလိုင်ခါ သခင်မသည် ယူစွဖ် (အလိုင် ဟစ္စလာမ်) သခင်ကို ချစ်ကြိုက်နေခဲ့သည်၊ သခင့်သည် ထိုအခါက ဇိုလိုင်ခါ သခင်မ

အနွယ်၏ ကျွန်တစ်ပါးဖြစ်နေခဲ့သည်၊ ဆိုရှိရာ သခင်မက အမျိုးသမီးများကို ထမင်းကျွေးမွေးသည်၊ အမှန်မှာ အမျိုးသမီးများသည် ယူစွဖ်(အလိုင်ဟစ္စလာမ်)သခင်၏လှပခြင်းကို မြင်ကြပြီး ၎င်းအား ပြစ်တင်ကဲ့ရဲ့ခြင်း မပြုကြရန် ခွင့်လွှတ်ကြရန် ရည်ရွယ် ကျွေးမွေးခြင်းဖြစ်သည်၊ အာအေရှဟ် (ရသွေ့) သခင်မ အကြောင်းပြချက်များမှာလည်း အခြားကိစ္စများ ရှိလေသည်။ အဘူဘကရ် (ရသွေ့) သခင်ကို ရစူလ်ကိုယ်တော်၏ နေရာ၌ရပ်ခြင်းကို 'ဘာဒ်ဖွာလီ' လာဘ်မကောင်းဟု ထင်လာကြမည်၊ ရစူလ်ကိုယ်တော် မရှိပြီးနောက် လူတို့က အဘူဘကရ် (ရသွေ့) သခင်ကို အမုန်းထားကြမည်ကိုစိုး၍ ကာကွယ်လျှောက်တင်ခြင်း ဖြစ်သည်။

အချုပ်မှာ အဘူဘကရ် (ရသွေ့) သခင်သည် 'နမာဇ်' ဖတ်ပေးရန် ထွက်သွားတော်မူသည်၊ ထိုအခါ ရစူလ်ကိုယ်တော်သည် ရောဂါအနည်းငယ် သက်သာလာသည်ထင်ပြီး ပုဂ္ဂိုလ်နှစ်ယောက်ကတွဲ၍ထွက်သွားတော်မူသည်၊ ကျွန်မ၏မျက်စိထဲတွင်ထိုအဖြစ်ယခုတိုင် မြင်ယောင်လျက်ရှိနေသေးသည်၊ ရစူလ်ကိုယ်တော်၏ ခြေတော်သည်မြေနှင့်ဒရွတ်တိုက်နေသည်၊ ခြေတော်သည် ကြွပင် မကြွနိုင်ပေ၊ အဘူဘကရ် (ရသွေ့) သခင်သည် နမာဇ် အစပြုနေပေပြီ၊ နောက်သို့ ဆုတ်ပေးလိုသောအခါ ရစူလ်ကိုယ်တော်က မဆုတ်ရန် တားမြစ်တော်မူပြီး အဘူဘကရ် (ရသွေ့) သခင်အား ရှေ့ဆောင်အဖြစ် 'နမာဇ်' ဖတ်စေတော်မူသည်။

အသရ်....၂။ တစ်နေ့သောအခါ အုမရ် (ရသွေ့) သခင်သည် စိုလိုမာန်ဗင်န် အဗီဟာသ်မဟ် (ရသွေ့) သခင်ကို ဖွဂျ်ရ် 'နမာဇ်' တွင် မတွေ့ရလေရာ သခင်၏အိမ်သို့ လိုက်သွားတော်မူသည်၊ ယနေ့ စိုလိုင်မာန်ကို ဖွဂျ်ရ် 'နမာဇ်' တွင်မတွေ့ရဟု သခင်၏မိခင်အား မေးတော်မူသည်၊ တစ်ညလုံး 'နမာဇ်' ဖတ်နေပြီး ဖွဂျ်ရ် အချိန်လောက်တွင်အိပ်ပျော်သွား၍ မလာရောက်ခြင်း ဖြစ်ပါသည်ဟု မိခင်က လျှောက်သည်၊ ထိုအခါ အုမရ် (ရသွေ့) သခင်က မိန့်သည်မှာ တစ်ညလုံး 'အေဗာဒတ်' ပြုနေခြင်းထက် ဖွဂျ်ရ် နမာဇ်ကို ဂျမာအတ်ဖြင့် ဖတ်သည်ကို ကျွန်ုပ် နှစ်သက်တော်မူသည်။

မုအတ်တွာအေမာမ်မာလစ်ကျမ်း။

ရှိုင်ခ် အဗ်ဒွလ်ဟပ်က် မုဟာဒ်ဒစ်သ် ဒေဟ်လဝီ(ရဟမတွလ္လာဟ်)သခင်က ရေးတော်မူသည်၊ ဤဟဒီးသ်အရ ထင်ရှားသည်မှာ ဖွဂျ်ရ် 'နမာဇ်' ကို ဂျမာအတ်ဖြင့် ဖတ်ခြင်းသည် တဟဂျ်ဂျုဒ် ထက် ပို၍ကုသိုလ် 'သဝါဗ်' များလေသည်၊ ထို့ကြောင့် အာလင်မ်များက ရေးကြသည်၊ ညမအိပ်ဘဲ 'အေဗာဒတ်' ပြုခြင်းဖြင့် ဖွဂျ်ရ် 'နမာဇ်' တွင် လစ်ဟင်းမှုဖြစ်သော် ထို 'အေဗာဒတ်' ကို လွှတ်ပစ်ရန်ကောင်းသည်။

အာရှိအတွလ်လမ်အာတ်ကျမ်း။

အသရ်....၃။ အစ်ဗ်နို့ မတ်စ်အူးဒ် (ရသွေ့) သခင်က မိန့်တော်မူသည်၊ အမှန်မှုချကျွန်ုပ်နှင့် ဆွဟာဗဟ်(ရသွေ့)သခင်တို့သည်ဂျမာအတ်ကိုမလွှတ်ကြ၊ သို့သော် 'မုနာဖွစ်က်'

မွတ်စလင်မ် အယောင်ဆောင်ပြီး ကာဖွင်ရ်ဖြစ်သူတို့သည် ဂျမာအတ်ကို လွတ်ကြသည်၊ ၎င်း မမာမကျန်းသူများလည်းလူနှစ်ယောက်ဖြင့်တွဲ၍ ဂျမာအတ်သို့လာကြသည်၊အမှန်မုချ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ကျွန်ုပ်တို့အား 'ဟေဒါယတ်' တရားလမ်းမှန် ပြတော်မူခဲ့သည်၊ ထိုအထဲတွင် အသာန်ဆိုပြီး ဂျမာအတ် ဖြစ်သောဗလီများသို့ 'နမာဇ်' ဖတ်ကြရန် ပါဝင်သည်။

အခြား 'ရေဝါယတ်' ဆင့်ဆိုမှုတွင် မိန့်တော်မူသည်မှာ အကြင်သူသည် ကေယာမတ် နေ့၌ အလ္လာဟ်အသျှင်မြတ် ရှေ့တော်တွင် မွတ်စလင်မ်အဖြစ်နှင့် သွားလိုလျှင် ထိုသူသည် အသာန်ဆိုသော ဂျမာအတ်ဖြစ်သောဗလီများတွင် ဂျမာအတ်ဖြင့် ငါးကြိမ်'နမာဇ်' ဖတ်ရမည်၊ အမှန်မုချ အလ္လာဟ်အသျှင်မြတ်က သင်တို့၏ နဗီအတွက် ဟေဒါယတ် နည်းလမ်းများ ချပေးတော်မူသည်၊ ထိုနည်းလမ်းများတွင် 'နမာဇ်' လည်း ပါဝင်သည်၊ အကယ်၍ သင်တို့သည် မုနာဖွစ်က်များကဲ့သို့'နမာဇ်' ကို မိမိတို့အိမ်၌ ဖတ်လိုက်ကြလျှင် အမှန်ပင် သင်တို့ နဗီ၏ စွန္နတ်တော်သည် သင်တို့မှလက်လွတ်သွားကြမည်၊အကယ်၍သင်တို့သည် မိမိတို့ နဗီရစူလ်၏ စွန္နတ်တော်ကို လွတ်လိုက်ကြလျှင် အမှန်ပင်သင်တို့ လမ်းမှားသွားကြမည်။

၎င်း မည်သူမဆို ကောင်းစွာ ဝိုသွူ ရေသန့်စင်၍ ဗလီသို့သွားလျှင် ခြေလှမ်း တစ်ခုတွင် ကုသိုလ်သဝါဗ် တစ်ခုကျ ရသည်၊ အဆင့်အတန်း တစ်ခုကျရသည်၊ 'ဂိုနာဟ်' တစ်ခုကျ လွတ်ငြိမ်းချမ်းသာမှု ရလေသည်။ မုနာဖွစ်က်သာလျှင် ဂျမာအတ်ကို လက်လွတ်ကြောင်း တွေ့ရသည်၊ ကျွန်ုပ်တို့မှာကား မမာမကျန်းဖြစ်သော အဖြစ်၌ပင်လျှင် လူနှစ်ယောက်နှင့်တွဲပြီး ဂျမာအတ်သို့ ခေါ်ဆောင်လာခါ ရပ်ပေးကြလေ့ရှိပေသည်။

အသရ်...၄။ တစ်ခါကတစ်ဦးသောသူသည်အသာန်ဆိုပြီးနောက်'နမာဇ်'မဖတ်ဘဲ ဗလီမှ ဆင်းသွားသည်၊ထိုအခါ အဘူဟုရိုင်ရဟ်(ရသွေ့)သခင်ကမိန့်သည်မှာ ထိုသူသည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏အမိန့်ကို ဖီဆန်သူဖြစ်သည်၊၎င်းရစူလ်ကိုယ်တော်၏ မှန်မြတ်သော အမိန့်တော်ကို မနာခံသူ ဖြစ်သည်။

မွတ်စလင်မ်ကျမ်း။

အဘူဟုရိုင်ရဟ် (ရသွေ့) သခင်က ဂျမာအတ် လွတ်သူကို မည်သို့ မိန့်ဆိုတော်မူကြောင်းသိကြရပေပြီ၊ အဘယ် မွတ်စလင်မ် တစ်ဦးသည် ဤသို့အမိန့်ကို သိပြီးနောက်လည်း ဂျမာအတ်ကို လွတ်ကြဦးမည်လော၊ မည်သည့် အီမာန်ရှိသူမှ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ အမိန့်တော်ကို ဖီဆန်မှုပြုကြမည် မဟုတ်ပေ။

မှတ်ချက်။ အသာန်ဆိုပြီးဗလီသို့ ရောက်ပြီးနောက်ထိုဗလီတွင်ပင် 'နမာဇ်' ဖတ်မည်ဖြစ်သော် အပြင်သို့ ထွက်သွားခြင်းမပြုပိုင်၊ ဟုတ်ပါ၏ အကယ်၍ လက်ခံနိုင်လောက်သော အသွင်ရ် အကြောင်းအချက်ရှိနေ၍ ထွက်သွားလျှင် ကိစ္စမရှိပေ။

အသရ် ၅။ အွမ်မေ့ဒရ်ဒါအ်(ရသွေ့)သခင်မကမိန့်သည်၊ တစ်ခါက အဘူဒါရိ ဒါအ်(ရသွေ့)သခင်သည် ဒေါသဖြစ်လျက် ရောက်လာသည်၊ ကျွန်မက အဘယ့်ကြောင့် ဒေါသဖြစ်နေပါသနည်းဟုမေးရာ လူတစ်ယောက်သည်ဂျုမာအတ်နှင့်နမာဇ်မဖတ်သည်ကို မြင်ခဲ့ရ၍ ဒေါသဖြစ်ခြင်း ဖြစ်ပါသည်ဟု ဆိုလေ၏။

အသရ်—၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏မျှားစွာသောဆွဟာဗဟ် (ရသွေ့) သခင်များက မိန့်ကြသည်၊ အကြင်မည်သူမဆိုအသာန်ဆိုသံကြားပြီးဂျုမာအတ်သို့ မလာလျှင် ထိုသူ၏ 'နမာဇ်' ပင်မပိုင်ပေ။

ဤသည်ကို ဖော်ပြပြီး အေမာမ်တင်ရ်မေသီ (ရဟာမတွလ္လာဟ်) သခင်က ရေးသည်မှာ အချို့ အာလင်မ်ပညာရှင်များထံတွင် ဤအမိန့်သည် လေးလေးနက်နက် လိုက်နာကြရန် မိန့်ဆိုခြင်းမျှသာဖြစ်သည်၊ အသ်ရ် အကြောင်းမဲ့ ဂျုမာအတ်ကို လွှတ်ခြင်းမပိုင်ဟု ဆိုလိုရင်း ဖြစ်သည်။

မှတ်ချက်။ ။အသ်ရ် အကြောင်းအချက် ခိုင်လုံစွာ မရှိပါဘဲလျက် တစ်ယောက်တည်း နမာဇ်' ဖတ်လျှင် 'နမာဇ်' ကားပိုင်သည်၊ သို့သော် ကုသိုလ် 'သဝါဗ်' ပြည့်စုံစွာ မရရှိပေ။

အသရ်....၇။ မုဂျာဟစ်ဒ်(ရသွေ့)သခင်ကအစ်ဗ်နို့ အဗ်ဗားစ် (ရသွေ့) အား မေးလျှောက်သည်၊ အကြင်သူတစ်ယောက်သည် နေ့များတွင်'ရိုဇာဟ်'ထားသည်၊ ညများတွင်လည်း 'နမာဇ်' ဖတ်သည်၊ သို့သော် ဂျို့မို့အဟ် ၎င်းဂျုမာအတ်ကိုလွှတ်သည်၊ ထိုသူ့အား အဘယ်သို့ ဆိုပါမည်နည်း၊ သခင်က ၎င်းသူသည် ဂျဟာန္နမ်ငရဲဘုံသို့ ကျမည်ဟု မိန့်တော်မူလေ၏။

အေမာမ်တင်ရ်မေသီ (ရဟာမတွလ္လာဟ်) သခင်က ဤဟဒီးသ်တော်၏ လိုရင်းကို မိန့်တော်မူသည်မှာ ဂျို့မို့အဟ်နှင့် ဂျုမာအတ်၏ အဆင့်အတန်း လျော့နည်းသည်ဟု ယူဆ၍ လွှတ်ခြင်းဖြစ်မူ အထက်အမိန့်အတိုင်းပင် ဖြစ်သည်၊ သို့သော် အကယ်၍ ဂျဟာန္နမ်ငရဲသို့ကျခြင်းမှာ ရက်အနည်းငယ်ဟု ယူဆသော် အကျယ်ရေးပြနေရန်မလိုပေ။

မှတ်ချက်။ ။အဘယ့်ကြောင့်ဆိုသော်'ရှရီအတ်'တရားတော်မြတ်၏အမိန့်ပညတ်များကို ပေါ့လျော့သည်၊ ၎င်းသေးသိမ်ညံ့ဖျင်းသည်ဟု ယူဆခြင်းသည် 'ကွဖ်ရ်' ဖြစ်ပေသည်၊ အဗ်နို့အစ်ဗ်ဗားစ် (ရသွေ့) သခင်က ထိုသို့သောသူသည် အမြဲထာဝရ ဂျဟာန္နမ် ကျမည်ဟု မိန့်မှသာလျှင် ကျွန်ုပ်တို့က ဖြေရှင်းရေးသားရမည် ဖြစ်သည်၊ ယခုသော်ကား ဂျဟာန္နမ် ကျမည်ဟုပင် မိန့်ထားသဖြင့် ရက်အချို့ ဂျဟာန္နမ် ကျမည်ဆိုက ကျနိုင်ပေသည်။

အသရ်....၈။ စလဖ်စွာလေ့ဟီးန်သခင်များသည် ဂျုမာအတ် တစ်ကြိမ်လွှတ်သွားလျှင် (၇) ရက်တိုင်တိုင် ပူဆွေးဝမ်းနည်း၍ နေကြပေသည်။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း။

ဆွဟာဗဟ် (ရှသေ့) သခင်များ၏ အမိန့်အချို့ကို တင်ပြခဲ့ပေပြီ၊ ထိုအမိန့်များသည် အမှန် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အမိန့်ပင်ဖြစ်သည်၊ ယခု သာသနာပညာရှင် အာလင်မ်ကြီးများ၊ ၎င်းမှုဂျ်တဟာစ်ဒ် သခင်ကြီးများသည် ဂျမာအတ်နှင့် ပတ်သက်၍ မည်သို့ယူဆကြပြီး တင်ပြပါ ဟဒီးသ် တော်များကို မည်သို့ နားလည်သဘောပေါက်ကြသည်ကို ရေးသားမည်။

၁။ ဇွာဟေရှိယဟ် ၎င်း အေမာမ်အဲဟ်မဒ် (ရဟမတွလ္လာဟ်) သခင်၏ အချို့တပည့်များ၏ 'မသဟာဗ်' မှာ ဂျမာအတ်သည် 'နမာဇ်'ပိုင်ရန်အတွက် 'ရှရတွ'ဖြစ်သည်၊ ဂျမာအတ် မပြုဘဲနှင့် 'နမာဇ်' မပိုင်။

၂။ အေမာမ်အဟ်မဒ် (ရဟမတွလ္လာဟ်) သခင်၏ 'မသဟာဗ်' မှာ ဂျမာအတ်သည် ဖွရ်သွ အိုင်န်ဖြစ်သည်၊ သို့သော် နမာဇ် ပိုင်ရန်အတွက် 'ရှရတွ' အဓိကအချက်မဟုတ်ပေ၊ အေမာမ်ရှာဖေ့အီ (ရဟမတွလ္လာဟ်) သခင်၏ အချို့ တပည့်များကလည်း ဤသို့ပင် ယုံကြည်ကြလေသည်။

၃။ အေမာမ်ရှာဖေ့အီ (ရဟမတွလ္လာဟ်) သခင်၏ အချို့တပည့်များ၏မသဟာဗ်မှာ ဂျမာအတ်သည် ဖွရ်သွ ကေဖွာယဟ် ဖြစ်သည်၊ ဟနဖွီများအနက် အဆင့်အတန်းမြင့်သော ဖွကီးဟ် မုဟာဒ်ဒစ်သ် ဖြစ်သော အေမာမ်တွဟာဝီ (ရဟမတွလ္လာဟ်) သခင်က ဖွရ်သွ ကေဖွာယဟ်ဟုပင် ယူဆလေသည်။

၄။ အများအားဖြင့် အမှန်ကို ဆန်းစစ်သော ဟနဖွီများထံတွင်ဂျမာအတ်သည် ဝါဂျစ်ဗ် ဖြစ်သည်၊ အစ်ဗ်နို့ဟို့မာမ်၊ ဟလ်ဗီနှင့် ဘဲဟ်ရွရ်ရာအင်က် ကျမ်းရှင်က ဝါဂျစ်ဟုပင် ယူကြသည်။

၅။ အများအားဖြင့် ဟနဖွီများထံတွင် ဂျမာအတ်သည် စွန္နတ်မုအတ်က်ကဒဟ် ဖြစ်သည်၊ သို့သော် ဝါဂျစ်ဗ်၏ အမိန့်၌ရှိသည်၊ ၎င်းအမှန်မှာ ဟနဖွီတို့၏ဤအဆိုနှစ်ရပ်တွင် ကွဲပြားမှု မရှိပေ။

မှတ်ချက်။ ။ဂျမာအတ်နှင့်ပတ်သက်၍ 'ဖေ့ကဟ်' ကျမ်းရှင်များတွင် ကွဲလွဲမှုရှိလေသည်၊ အချို့က ဂျမာအတ်ကို စွန္နတ်မုအတ်က်ကဒဟ် ဟုမိန့်ကြပြီး အချို့က ဝါဂျစ်ဗ်ဟု မိန့်ကြလေသည်၊ ထို့ကြောင့် အချို့ 'ဖေ့ကဟ်' ကျမ်းရှင်များက 'အစ်ခ်တေလာဖ်' ကွဲလွဲသော ပြဿနာစာရပ်အနေဖြင့် ယူဆကြသည်၊ အမှန်ကိုကား ဆန်းစစ်မှု ပြုကြပေ၊ ဆန်းစစ်သူများအနက် အချို့က မိန့်သည်မှာ စွန္နတ်မုအတ်က်ကဒဟ်၏ အဓိပ္ပါယ် မှာ ဝါဂျစ်ဗ်ပင်ဖြစ်သည်၊ ဤသည်မှာ စွန္နတ်တော်နှင့်အတည်ဖြစ်လာခြင်းကြောင့် ဖြစ်သည်။

၎င်းပြင် အချို့က မိန့်သည်မှာ ဂျမာအတ်ဖြင့် အမြဲတစ်စေ ဖတ်ခြင်းသည်စွန္နတ်မုအတ်က်ကဒဟ် ဖြစ်သည်၊ တစ်ခါတစ်ရံ ဂျမာအတ်ဖြင့်ဖတ်ခြင်းဝါဂျစ်ဗ်ဖြစ်သည်ဤသည်တို့မှာ 'ဖေ့ကဟ်' ကျမ်းများ၌ကျွန်ုပ်တွေ့ရှိရချက်များဖြစ်သည်၊ အင်လ်မွလ်ဖေ့ကဟ်ကျမ်းမှ

ဘဟစ်ရှိတီဂေါ်ဒ်ပဟရ်တွင် ကူးပြောင်းလာသော တင်ပြပါအချက်များကို ကျွန်ုပ်(ဟဗီးဗ် အဟ်မဒ်)အနေနှင့် မတွေ့ခဲ့ရ၊ ဆိုလိုရင်းသဘောကိုလည်း ကျွန်ုပ် နားမလည်ပေ၊ ဤ အချက်ကို စဉ်းစား၍ လိုက်နာကြစေလိုသည်၊ ဖွရိသွ်အိုင်နို ၎င်းကေဖွာယဟ် စသည် အဆိုတို့သည် ကျွန်ုပ်တို့ ဟနဖီတို့၏ အဆိုမဟုတ်ပေ။

၆။ ကျွန်ုပ်တို့၏ ဖေ့ကဟ်ကျမ်းရှင်များကရေးကြသည်၊ အကယ်၍ မြို့တစ်မြို့တွင် လူတို့က ဂျမာအတ်ကို လွှတ်ကြသော် ၎င်းပြောဆို ဆုံးမခြင်းဖြင့်လည်း မနာယူကြပါက ၎င်းတို့ကို အစ္စလာမ်ဘုရင်မှာ စစ်တိုက်ပိုင်ခွင့်ရှိသည်။

၇။ ကနိုယဟ်. စသည်တွင် ပါရှိသည်၊ အွသ်ရ် အကြောင်းကြီးငယ် ခွင့်မရှိဘဲ ဂျမာအတ်လွှတ်သူကို လက်ရှိအာဏာပိုင် အေမာမ်က ထိုလွှတ်သူအား အပြစ်ပေးရန် ထိုက် သည်၊ ၎င်းထိုလွှတ်သူ၏ အိမ်နီးနားချင်းများက ထိုမကောင်းမှုအပေါ်တွင် မည်သို့မျှ မပြောကြသော် အားလုံး ဂိုနာဟ်ဂါရ်များ ဖြစ်ကြလေသည်။

မှတ်ချက်။ ထိုဂျမာအတ်လွှတ်သူမှ ရန်မူ ဒုက္ခပေးမည်ကိုစိုးရိမ်ခြင်းမရှိပါဘဲလျက် ဆိုဆုံးမခြင်းမပြုလျှင်၊ အိမ်နီးချင်းများမှာ ဂိုနာဟ်ဂါရ်များဖြစ်ကြပေသည်၊ အကယ်၍ ရန်မူ ဒုက္ခပေးမည်ကို စိုးရသော် မပြောမဆိုဘဲနေက အပြစ်မရှိပေ။

၈။ အကယ်၍ ဗလီသို့ သွားရန်အတွက် အေကာမတ်ဆိုသံကို နားထောင်ပြီး ကြားမှသွားလျှင် ဂိုနာဟ်ဂါရ် ဖြစ်သည်။

အဘယ့်ကြောင့်ဆိုသော် အေကာမတ်ဆိုသံကြားမှသွားလျှင် နမာဇ်တစ်ရကအတ် နှစ်ရကအတ် နှင့် ဂျမာအတ်ပင် လွှတ်သွားမည်ကို စိုးရိမ်ရသည်။ အေမာမ် မုဟမ္မဒ် (ရဟမတွလ္လာဟ်)သခင်က မိန့်တော်မူသည်၊ ဂျုံမိုအဟ်၊ ၎င်းဂျမာအတ်အတွက် ဒုက္ခ မရောက်လောက်အောင် လျင်မြန်စွာသွားခြင်း ပိုင်သည်။

၉။ ဂျမာအတ်ကို လွှတ်သူသည် အမှန်ပင် ဂိုနာဟ်ဂါရ် ဖြစ်သည်၊ အကယ်၍ အွသ်ရ် အကြောင်းကြီးငယ်ခွင့်မရှိဘဲ ပျင်းရိစွာဖြင့် ဂျမာအတ်ကိုလွှတ်သူ၏ သက်သေခံ ခြင်းကို လက်ခံရန် မထိုက်ပေ။

၁၀။ အကယ်၍ တစ်ဦးသောသူသည် 'ဒိန်' ဘာသာရေးရာ မတ်စ်အလဟ် ဖတ် ခြင်း၊ သင်ပြခြင်း၌ နေ့-ညမေ့လျော်နေရ၍ ဂျမာအတ်သို့မလာသော် အွသ်ရ် ခွင့်ရှိသူဟု မယူနိုင်ပေ၊ ထိုသို့ ဂျမာအတ်လွှတ်သူ၏ သက်သေခံခြင်းကိုလည်း လက်မခံနိုင်ပေ။

(ဘဲဟ်ရှရ်ရာအစ်က်) စသည့် ကျမ်းတော်များ။

## ဂျမာအတ်၏ ဟစ်က်မတ် နှင့် အကျိုးကျေးဇူးများ အကြောင်း

ဤအကြောင်းနှင့်ပတ်သက်၍ အိုလမာပညာရှင်(ရဟေမ၊ဟွိမ္မလ္လာဟို၊တအာလာ) သခင်ကြီးများက အတော်အတန်ရေးသားခဲ့ကြသည်၊ ကျွန်ုပ်သိရသလောက် မောင်လာနာ ရှားဟ်ဝလီယွလ္လာဟ် (ရဟမတွလ္လာဟ်) သခင်၏ ရေးသားချက်မှာ အပြည့်စုံဆုံးနှင့်

အကောင်းဆုံးဖြစ်သည်၊ အကောင်းဆုံးမှာ ထိုအတိုင်း ကူးယူဖော်ပြခြင်းသာ ဖြစ်သည်၊ သို့သော်လည်း ရှည်လျားသွားမည်ကိုစိုးသဖြင့် အကျဉ်းအားဖြင့် ဖော်ပြမည်၊ သခင်က ရေးသည်မှာ....

၁။ လုံးဝစွန့်လွှတ်၍မဖြစ်နိုင်လောက်အောင် အေဗာဒတ်တစ်ခုကို လိုက်နာကြစေရန် ထုံးစံတစ်ခုပြုလုပ်ထားချက်ထက် အကျိုးရှိသောအရာမရှိပေ၊ ထိုကိစ္စမှာ နမာဇ်ကို ဂရုတစ်စိုက် ဖတ်ကြရန် ဖြစ်သည်။

၂။ 'မသ်ဟဗ်' သာသနာဝင်များတွင် အမျိုးမျိုးရှိကြသည်၊ ဂျာဟင်လ် မသိနားမလည်သူလည်းရှိသည်၊ အာလင်မ်ပညာရှင်လည်းရှိသည်၊ ထို့ကြောင့် တစ်ယောက်နှင့်တစ်ယောက် ရောရှ၍အေဗာဒတ်ပြုကြခြင်းသည် အကောင်းဆုံးဖြစ်သည်၊တစ်ဦးက မှားယွင်းလျှင်တစ်ဦးက သင်ပြနိုင်သည်၊ပမာဆိုသော်....အလ္လာဟ်အသျှင်မြတ်အား အေဗာဒတ်ပြုခြင်းသည် ဘယက်တန်ဆာတစ်ခု ဖြစ်သည်၊ ဆန်းစစ်လိုသူတိုင်း စစ်ဆေးနိုင်ကြသည်၊ ချွတ်ယွင်းမှုတွေ့လျှင် ထောက်ပြနိုင်ကြသည်၊ ကောင်းမှုတွေ့လျှင် ချီးကျူးကြသည်၊သို့ရှိရာ ဤကောင်းသောနည်းလမ်းတစ်ခုသည် နမာဇ်ပြည့်စုံရန်အတွက်အထောက်အကူဖြစ်သည်။

၃။ မည်သူမည်ဝါ နမာဇ်မဖတ်သည်ကိုလည်း သိလာပေမည်၊ ၎င်းထိုမဖတ်သူများကို ဆိုဆုံးမဩဝါဒပေးရန် အခွင့်အလမ်းလည်း ရှိပေသည်။

၄။ မွတ်စလင်မ်အချို့ စုပေါင်း၍ အလ္လာဟ်အသျှင်မြတ်အား အေဗာဒတ်ပြုခြင်း၊ ဒိုအာ တောင်းခြင်းသည် 'ရဟ်မတ်'တော် သက်ရောက်ရန်နှင့် 'ကဘူလ်'ဖြစ်ရန် သီးခြားသောအချက် ဖြစ်ပေသည်။

၅။ ကျွန်ုပ်တို့ အွမ္မတ်သားများမှ အလ္လာဟ် အသျှင်မြတ်၏ လိုလားချက်မှာ အလ္လာဟ်အသျှင်မြတ်၏ ကလေမဟ်တော် မြင့်မားစေပြီး 'ကွဖိရ်' နိမ့်ကျကာ ပထဝီမြေပေါ်တွင် အစ္စလာမ်သာသနာထက် မည်သူမှ မမြင့်မားစေရန်ဖြစ်သည်၊ ထိုသို့ဖြစ်ရန်မှာ မွတ်စလင်မ် လူနု့လူရင့်များ၊ ခရီးသည်များ၊ မြို့နေ ကလေးလူကြီး တို့သည် မိမိတို့၏ ကြီးကျယ်ထင်ရှားသော အေဗာဒတ်အတွက် စုရုံးကြပြီး အစ္စလာမ်၏ တံခိုးဂုဏ်ကို ထင်ရှားစေကြရမည်၊ ထိုအချက်များကို ထောက်၍ ရှရီအတ် တရားတော်က ဂျမာအတ်နှင့် နမာဇ်ဖတ်ရန် အလေးပေးသည်၊ ဂျမာအတ်နှင့်ဖတ်ကြရန် လှုံ့ဆော်တိုက်တွန်းထားသည်၊ ထို့ပြင် ဂျမာအတ်ကို မလွှတ်ကြရန် ပြင်းပြင်းထန်ထန် တားမြစ်ထားတော်မူသည်။

၆။ ဂျမာအတ်ဖြင့် နမာဇ်ဖတ်ခြင်းမှာ ဤသို့အကျိုးလည်းရှိသည်၊ မွတ်စလင်မ်အားလုံးသည် တစ်ဦး၏အကြောင်းကိုတစ်ဦးက သိခွင့်ရပေသည်၊ တစ်ဦးဦး၏ ဒုက္ခပူပင်မှုတွင် ကူညီဖြေရှင်းပေးနိုင်ပေမည်၊ ထိုသို့ကူညီကြခြင်းဖြင့် နေဝင်အာခေရတ်နှင့် အီမာန်ရှိသူခြင်း၏ချစ်ခင်ခြင်းမှာ ထင်ရှား ခိုင်မာလာပေမည်၊ဤသည်မှာ ရှရီအတ်တရားတော်၏ လိုရင်း အဓိကအချက်ဖြစ်သည်၊ လေးလေးနက်နက် တိုက်တွန်းမှုနှင့် ထွတ်မြတ်ခြင်းများသည် ကုရ်အာန်ကျမ်းတော်နှင့် ဟဒီးသ်တော်များ၌ လာရှိပေသည်။

ယခုခေတ်အခါသမယတွင် ဝမ်းနည်းဖွယ်ကောင်းသည်မှာ ဂျမာအတ်ကို လွှတ်စပြု လာကြသည်၊ ဂျာဟင်လ်များကို ဖယ်ထားဦး၊ အချို့ တတ်သိသောသူများပင်လျှင် ဤ 'ဘလာ'၌ နစ်မွန်းနေကြသည်၊ ဤတတ်သိသောသူများသည် ဟဒီးသ်တော်များ ဖတ်ကြသည်၊အဓိပ္ပါယ်ကိုနားလည်ကြသည်၊ သို့သော် ဂျမာအတ်နှင့် ပတ်သက်၍ လေးလေးနက်နက် မိန့်ဆိုထားချက်များသည် ထိုသူတို့၏ ကျောက်ကဲ့သို့ မာမြင်းသော စိတ်၌ စူးရှထင်ဟပ်ခြင်းမရှိကြပေ၊ ကေယာမတ်နေ့တွင် အကောင်း-အဆိုး စစ်ဆေးရန် အသင့်ရပ်ရသောအခါ ပထမဦးစွာ နမာဇ်ကိုစစ်ဆေးတော်မူမည်၊ နမာဇ်မဖတ်သူနှင့်ဖတ်သော်လည်း ပေါ့ပျက်ပျက် ပြုသူများအား စစ်ဆေး မေးမြန်းသောအခါ ဤသူတို့သည် အဘယ်သို့ အဖြေပေးကြမည်နည်း။

## ဂျမာအတ် ပြုထိုက်သော ရှရတွင်များ အကြောင်း

၁။ ယောကျ်ားဖြစ်ရမည်၊ အမျိုးသမီးများသည် ဂျမာအတ် ပြုရန် မထိုက်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၁။

၂။ အရွယ်ရောက်သူဖြစ်ရမည်၊ အရွယ်မရောက်သေးသောကလေးများအပေါ် ဂျမာအတ်ပြုရန် မရှိ၊

ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၁။

၃။ လွှတ်လပ်သူ'အာဇာဒ်'ဖြစ်ရမည်၊ငွေဝယ်ကျွန်အပေါ်တွင်ဂျမာအတ်မရှိ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၁။

၄။ အုဇ်ရ်.... 'ရှရီအတ်'တရားတော်က ခွင့်ပေးထားသော အချက်အားလုံးမှ လွှတ်ကင်းသူဖြစ်ရမည်၊ အုဇ်ရ်ခွင့်ရှိနေလျှင် ဂျမာအတ်နှင့်မဖတ်ဘဲနေနိုင်သည်၊ သို့သော် ဂျမာအတ်ဖြင့်ဖတ်လျှင် ပို၍ကောင်းသည်၊ မဖတ်ခဲ့သော် ဂျမာအတ်၏ အကျိုးသဝါဗ်ရမည်မဟုတ်ပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၈။

ဂျမာအတ် လွှတ်ပိုင်ခွင့်ရှိသော အုဇ်ရ် (၁၄)မျိုး ရှိသည်။

၁။ အရက် ဖုံးအုပ်နိုင်ရုံပင် အဝတ်အထည် မရှိလျှင်။

၂။ ဗလီ၏လမ်းတွင် များစွာ ဗွက်ရွှံ့များရှိပြီး၊ သွားလာရန် အလွန်ခက်ခဲလျှင်၊ ရွှံ့ဗွက် စသည်နှင့်ပတ်သက်ပြီး ဂျမာအတ်သို့လာရန်ကိစ္စကို သခင် မည်သို့ဆိုပါမည်နည်းဟု အေမာမ်အဘူယူစွဖ်(ရဟမတွလ္လာဟ်)သခင်က အေမာမ်အဘူဟနီဖ္ဖာဟ်(ရဟမတွလ္လာဟ်) အား မေးလျှောက်ရာ၊ ဂျမာအတ်ကိုလွှတ်ခြင်း ကျွန်ုပ် မနှစ်သက်ဟု မိန့်တော်မူလေ၏။

၃။ မိုးအားကြီးစွာ သဲသဲမဲမဲ ရွာသွန်းလျှင် ဤသို့အဖြစ်၌ အေမာမ် မုဟမ္မဒ် (ရဟမတွလ္လာဟ်)သခင်က မုအတ္တာကျမ်းတွင် ရေးထားသည်၊ ဂျမာအတ်ဖြင့် နမာဇ်

ဖတ်ရန်မသွားလျှင်ပိုင်သည်၊ သို့သော် ထိုမိုးသည်းထန်သောအဖြစ်၌လည်း ဂျမာအတ်ဖြင့် သွား၍ ဖတ်ခြင်းက ပို၍ကောင်းသည်။

၄။ အအေး လွန်ကဲခြင်း၊ အိမ်ပြင်သို့ ထွက်လျှင်လည်းကောင်း၊ ၎င်း ဗလီသို့ သွားလျှင်လည်းကောင်း၊ အအေးမိ၍ ရောဂါဖြစ်မည်ကိုစိုးရိမ်ရလျှင်၊ ရှိရင်းရောဂါတိုး လာမည်ကို စိုးရိမ်ရလျှင်။

၅။ ဗလီသွားပါက ပစ္စည်းပစ္စယ သူခိုး ခိုးမည်ကို စိုးရိမ်ရလျှင်။

၆။ ဗလီသွားပါက စိုးရိမ်ဖွယ်ရန်သူနှင့် တွေ့ရမည်ကို စိုးရလျှင်။

၇။ ဗလီသို့သွားပါက ကြွေးရှင်နှင့်တွေ့ပြီးဒုက္ခရောက်မည်ကိုစိုးရလျှင်၊ အကြွေး မဆပ်နိုင်မှသာဖြစ်သည်၊ အကယ်၍ပေးဆပ်နိုင်ပါလျက် မဆပ်လျှင် ထိုသူသည် 'ဇွာလင်မ်' မတရားသူဖြစ်သည်၊ ထိုသူသည် ဂျမာအတ် လွတ်ပိုင်ခွင့်မရှိ။

၈။ လမ်းမမြင်ရဘဲ အမှောင်လွန်ကဲလျှင်၊ သို့သော် အလင်းရောင် ကရိယာကို အလ္လာဟ်အသျှင်မြတ်က ပေးထားသဖြင့် ဂျမာအတ်ကို လွတ်ရန် မထိုက်ပေ။

၉။ ညအချိန်ဖြစ်ပြီး လေမုန်တိုင်းပြင်းစွာ တိုက်ခတ်လျှင်။

၁၀။ ရောဂါသည်တစ်ဦးဦးကို ကြည့်ရှု စောင့်ရှောက် နေရပြီး ဂျမာအတ်သို့ သွားပါက ရောဂါသည်မှာ ဒုက္ခဖြစ်မည်၊ ချောက်ချားမှုဖြစ်မည်ကို စိုးရလျှင်။

၁၁။ ထမင်းအသင့်ခူးပြီးနေသည်၊ သို့မဟုတ်ကျက်ရန်နီးကပ်နေသည်၊ ဆာလွန်း သဖြင့် ဗလီသို့သွားနေပါက နမာဇ်၌ စိတ်မဝင်စားမည်ဖြစ်လျှင်။

၁-မှ ၁၁-ထိ ကျမ်းညွှန်း.... ရှာမိကျမ်းအတွဲ-၁၊ စာမျက်နှာ-၅၂၊ ၅၁၉။
မုအတ္တ ါတွာအေမာမ် မုဟမ္မဒ်ကျမ်း စာမျက်နှာ-၉၉၊ ၁၀၀။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၉၊၀၂။

၁၂။ ကျင်ကြီးကျင်ငယ် အလွန်အမင်း သွားချင်နေလျှင်။

၁၃။ ခရီးထွက်မည့်ဆဲဆဲဖြစ်သည်၊ နောက်ကျသွားမည်ကိုစိုးရိမ်လျှင်၊ သို့မဟုတ် ခရီးသည်များ ထွက်သွားမည်ကိုစိုးရလျှင်၊ မီးရထားကိုလည်း ဤအပေါ် 'ကေယားစ်' ပြုနိုင်သည်၊ သို့သော် ဤမျှခန့်ကွာခြားသည်၊ အစုလိုက်ကုလားအုတ်၊ ၎င်းခြေလျှင်သွား ကြသော ခရီးသည်များကို ရက်အတန်ကြာမှ တွေ့ရတတ်သည်၊ ၎င်း မီးရထားမှာကား တစ်နေ့တည်းတွင် အကြိမ်များစွာသွားသည်၊ ပထမရထားကိုမမှီလိုက်လျှင် နောက်ရထား နှင့်သွားနိုင်သည်။ ဟုတ်ပါ၏၊ အကယ်၍ ပြင်းပြသော အရေးကြီးမှုရှိလျှင် ကိစ္စမရှိ၊ ဂျမာအတ်ကိုလွတ်၍ သွားနိုင်သည်၊ ကျွန်ုပ်တို့၏ 'ရှရီအတ်'တွင် အရေးကြီးမှုကို ခွင့်ပြု ထားပေသည်။

၁၄။ သွားလာခြင်း မပြုနိုင်သော ရောဂါဖြစ်နေလျှင်၊ သို့မဟုတ် မျက်မမြင် ဖြစ်နေလျှင်၊ ၎င်းလက်၊ ခြေ၊ လှုပ်ရှားနိုင်သူ၊ ၎င်းခြေပြတ်နေသူ၊ သို့သော်မျက်မမြင်သည် လွယ်လင့်တကူ ဗလီသို့ရောက်နိုင်လျှင် ထိုသူသည် ဂျမာအတ်ကို လွတ်ရန် မထိုက်ပေ။

# ဂျမာအတ် ပိုင်ရန် ရှရတ္တ်များ အကြောင်း

ရှရတ္တ်....၁။ အစ္စလာမ် ဖြစ်ရမည်၊ ကာဖွင်ရ်၏ ဂျမာအတ် မပိုင်ပေ။

ရှရတ္တ်....၂။ အသိဉာဏ်ရှိသူဖြစ်ရမည်။ မူးနေသူ၊ သတိလစ်နေသူနှင့် သူရူးတို့၏ ဂျမာအတ် ပြုခြင်း မပိုင်ပေ။

ရှရတ္တ်....၃။ မွတ်က်တဒီသည် နမာဇ်၏နိယတ်အပြင် အေမာမ်၏'အစ်က်တေဒါ' နိယတ်လည်းပြုရမည်၊ ဆိုလိုသည်မှာ....ကျွန်တော်သည် ဤအေမာမ်၏နောက်မှ မည်သည့် နမာဇ်ဖတ်ပါသည်ဟု စိတ်၌ စွဲယူမှုပြုရမည်။ နိယတ်၏အကြောင်းကို အထက်တွင် အကျယ် တဝင့် ရေးသားခဲ့ပေပြီ။

ရှရတ္တ်....၄။ အေမာမ် နှင့် မွတ်က်တဒီတို့၏ အဆောက်အအုံသည် ဆက်စပ် လျက်ရှိရမည်။ အမှန်ပင် ဆက်စပ်နေသည်ဖြစ်စေ၊ ပမာဆိုသော်... ဗလီ တစ်လုံးတည်း သို့မဟုတ် အိမ်တစ်အိမ်တည်းမှာ ရပ်နေကြလျှင် (မှတ်ချက်။ ဗလီငင်းအိမ်သည် ကြီးမား ခြင်းမရှိလျှင်၊ အဘယ့်ကြောင့်ဆိုသော် ဗလီကြီးနှင့် အိမ်ကြီး၏ အမိန့် ရှေ့တွင်လာပေ မည်) ၎င်း'ဟွတ်က်မန်'စုရုံးကြလျှင်၊ ၎င်းမြစ်တစ်ခု၏ တံတားပေါ်တွင် ဂျမာအတ်ပြု ကြလျှင်၊ အေမာမ်ရှေ့ဆောင်ဆရာသည် တံတား၏တစ်ဖက်ကမ်းတွင်ရှိနေသည်၊ သို့သော် အလည်၌ တန်းစီမှု အညီအမျှရှိနေမှု၊ ထိုအဖြစ်၌ အကယ်၍ အေမာမ်နှင့် မွတ်က်တဒီတို့၏ ကြားတွင် တံတား၏ တစ်ဖက်ကမ်း ခြားသည်အတွက် နှစ်ခုစလုံးမှာ ဆက်စပ်ခြင်း မရှိ၊ သို့သော် အလည်၌ အညီအမျှ အတန်းများရှိနေသည်၊ ထို့ကြောင့် နှစ်နေရာစလုံးမှာ 'ဟွတ်က်မန်' ဆက်စပ်သည်ဟု ယူဆရမည်၊ ၎င်းအစ်က်တေဒါပြုခြင်း ပိုင်သွားသည်။

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မွတ်က်တဒီ နောက်လိုက်သည် ဗလီ အမိုးပေါ်တွင်ရှိပြီး၊ အေမာမ်မှာ ဗလီတွင်း၌ရှိမှု ပိုင်သည်၊ အဘယ့်ကြောင့်ဆိုသော်.... ဗလီ၏ အမိုးသည် ဗလီ၏ အမိန့်၌ပင် ပါဝင်သည်၊ ဤနေရာနှစ်ရပ်သည် 'ဟွတ်က်မန်' ပညတ်အားဖြင့် ဆက်စပ်သည်ဟု ယူဆရမည်။ ဤသို့ပင် တစ်ဦးတစ်ယောက်၏ အိမ်အမိုး သည် ဗလီအမိုး နှင့် ဆက်နေလျှင် အလည်၌ မည်သည့် အရာမှ ခြားနားခြင်း မရှိသော် ထိုအိမ်မိုးကိုလည်း 'ဟွတ်က်မန်' ဗလီနှင့်ဆက်စပ်သည်ဟု ယူဆရမည်၊ ထိုအိမ်မိုးပေါ်တွင် ရပ်၍ ဗလီတွင်း၌ နမာဇ်ဖတ်နေသော အေမာမ်၏'အစ်က်တေဒါ'ပြုခြင်း ပိုင်သည်။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ဗလီသည်အလွန်ကြီးလျှင်၊ ၎င်းအိမ်သည် အလွန်ကြီးလျှင်၊ ၎င်းတောဖြစ်လျှင် ထိုအဖြစ်၌ အေမာမ်နှင့် 'မွတ်က်တဒီ'တို့၏ ကြား

တွင် နှစ်တန်းစာမျှ လွတ်လပ်နေသော် မွတ်က်တဒီ ရပ်ခြင်းနှင့် အေမာမ် ရပ်ခြင်းမှာ တစ်ခြားစီဟု ယူဆရမည်၊ ၎င်း အစ်က်တေဒါ မပိုင်ပေ။

ရှရတ္ထ ၁-မှ မတ်စ်ဇ္ဇ ဖဲ့ဟ်...၂-ထိ ကျမ်းညွှန်း။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄၀။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၇။
ရှရ်ဟွတ်တန္ဒဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၅။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၈၄၊၈၅၊၈၆။

၃။ မတ်စ်အလဟ် ပြဿနာ။ ဤသို့ပင် အေမာမ်နှင့်မွတ်က်တဒီတို့၏ကြားတွင် လှေ စသည် သွားနိုင်သော မြောင်းရှိလျှင်၊ ၎င်းရှရီအတ်တရားတော်အရ သန့်ဖြန့်သော ရေကန်ရှိလျှင်၊ ၎င်းနွားလှည်း စသည် သွားနိုင်သော လူသွားလမ်းရှိလျှင်၊ ၎င်းအလည်၌ တန်းစီကြမှုမရှိလျှင် ဆက်စပ်သည်ဟု မယူဆနိုင်သဖြင့် 'အစ်က်တေဒါ'မပိုင်ပေ၊ သို့သော် အကယ်၍ ကျဉ်းသော လူသွားလမ်းထက်ပင် သေးငယ်သော အလုံးအဝိုင်း တစ်ခုကြား တွင် ရှိသော် အစ်က်တေဒါ ပိုင်သည်။

၄။ မတ်စ်အလဟ် ပြဿနာ။ ဤသို့ပင် အကယ်၍ အတန်းနှစ်တန်း၏ အလည် တွင် ထိုသို့သောမြောင်း၊ သို့မဟုတ် လမ်းခြားနေပါက ထိုခြားနေသော အတန်းသည် တစ်ဖက်တွင်ရှိသော အေမာမ်၏ အစ်က်တေဒါ ပြုပိုင်ခွင့်မရှိပေ။

၅။ မတ်စ်အလဟ် ပြဿနာ။ ခြေလျင် သွားသူက စီးနင်းသူကို ၊၎င်းစီးနင်း သူက အခြားစီးနင်းသူကို အစ်က်တေဒါ ပြုခြင်း မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် နှစ်ဦးစလုံးသည် တစ်နေရာတည်းမှ မဟုတ်ပေ။ ဟုတ်ပါ၏၊ အကယ်၍ အစီးအနင်းတစ်ခု ပေါ်တွင် နှစ်ယောက်စီးကြသော် ပိုင်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၈၆။

ရှရတ္ထ....၅။ မွတ်က်တဒီနှင့် အေမာမ်၏ နမာဇ်သည် ကွဲလွဲခြင်း မဖြစ်စေရ၊ အကယ်၍ မွတ်က်တဒီ၏နမာဇ်သည် အေမာမ်၏နမာဇ်နှင့် တစ်ခြားဖြစ်သော် မပိုင်ပေ၊ ဥပမာ.... အေမာမ်သည် ဇွဟ်ရ် နမာဇ်ဖတ်သည်၊ မွတ်က်တဒီက အတ်စ္ရ်၏ နိယတ်ပြု သည်၊ ၎င်းအေမာမ်သည် လွန်ခဲ့သောရက်က ဇွဟ်ရ်ကို 'ကသွာ'ဖတ်သည်၊ မွတ်က်တဒီက ယနေ့ဇွဟ်ရ်၏ နိယတ် ပြု[illegible]၊ ဟုတ်ပါ၏၊ အကယ်၍ နှစ်ဦးစလုံးသည် လွန်ခဲ့သော ရက်က ဇွဟ်ရ်ကို 'ကသွာ' ဖတ်ကြလျှင် ၎င်းနှစ်ဦးစလုံး ယနေ့ဇွဟ်ရ်ကို 'ကသွာ' ဖတ် ကြလျှင် ပိုင်သည်၊ သို့ရာတွင် အေမာမ်က ဖွရ်ဇ်ဖတ်ပြီး မွတ်က်တဒီက နဖ်လ်ဖတ်လျှင် 'အစ်က်တေဒါ' ပိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် အေမာမ်၏နမာဇ်သည် အင်အား ကြီးလေသည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၈၅၊၈၇။

၆။ မတ်စ်အလ်ဟ် ပြဿနာ။ မွတ်က်တဒီက တရားဝီးဟ်ဖတ်လိုသည်၊ အေမာမ်ကာ နဖ်လ် ဖတ်နေသော် အစ်က်တေဒါ မပိုင်၊ အဘာယ်ကြောင့် ဆိုသော် အေမာမ်၏ နမာဇ်သည် အားနည်းသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅၂။

ရှရတွဲ....၆။ အေမာမ်၏နမာဇ်သည် ပိုင်ရမည်၊ အကယ်၍ အေမာမ်၏ နမာဇ်သည် မပိုင်သော် မွတ်က်တဒီ အားလုံး၏ နမာဇ်လည်း မပိုင်ဖြစ်သွားသည်၊ မပိုင် ဖြစ်သွားခြင်းမှာ နမာဇ်ဖတ်ဆဲဖြစ်စေ၊ ဖတ်ပြီးမှဖြစ်စေ အတူတူပင်ဖြစ်သည်၊ ပမာဆိုသော် အေမာမ်၏ အဝတ်တွင် 'နဂျာစတ် ဂလီဇာဟ်' မသန့်ကြီး ဒရမ် တစ်ပြားထက် ပို၍ လူးပေသည်၊ နမာဇ်ဖတ်ပြီး နောက်မှာဖြစ်စေ၊ ဖတ်နေဆဲမှာဖြစ်စေ သိရသည်၊ ၎င်း အေမာမ်မှာ ဝှိသွူမရှိ၊ နမာဇ်ဖတ်ပြီးမှဖြစ်စေ၊ ဖတ်ဆဲမှာဖြစ်စေ သိရသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅၃။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆။

၇။ မတ်စ်အလ်ဟ် ပြဿနာ။ အေမာမ်၏ နမာဇ်သည် အကယ်၍ ပျက်သွားလျှင်၊ ၎င်းမွတ်က်တဒီများမှာ မသိရမူ၊ အေမာမ်သည် တတ်နိုင်သည့်ခန့် မွတ်က်တဒီများကို အကြောင်းကြားရန်အရေးကြီးသည်၊ သို့မှသာ ထိုသူတို့သည် မိမိတို့၏ နမာဇ်ကို ပြန်၍ ဖတ်နိုင်ကြမည်၊ အသိပေးရာတွင် လူလွှတ်၍ဖြစ်စေ၊ အဝေးရောက်နေသူကို စာရေး၍ဖြစ်စေ အသိပေးရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၅၃။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၆။

ရှရတွဲ....၇။ မွတ်က်တဒီသည် အေမာမ်၏ရှေ့မှ မရပ်ရ၊ အညီရပ်သည်ဖြစ်စေ၊ နောက်မှ ရပ်သည်ဖြစ်စေ အကယ်၍ မွတ်က်တဒီသည် အေမာမ်၏ရှေ့သို့ ရောက်ခဲ့သော် ထိုသူ၏ အစ်က်တေဒါ မပိုင်ပေ၊ မွတ်က်တဒီ၏ခြေမျက်စိသည် အေမာမ်၏ခြေမျက်စိထက် ရှေ့သို့ရောက်မှသာ အေမာမ်၏ရှေ့မှရပ်သည်ဟု ယူဆရမည်၊ အကယ်၍ ခြေမျက်စိသည် ရှေ့သို့ မရောက် ခြေချောင်းများသာ ရှေ့သို့ရောက်လျှင် ခြေကြီးခြင်းကြောင့် ဖြစ်စေ၊ ခြေချောင်းများရှည်ခြင်းကြောင့်ဖြစ်စေ ရှေ့မှရပ်ခြင်းဟု မယူဆရ၊ ၎င်း အစ်က်တေဒါ ပိုင်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၀။

မရာကင်လ်ဖွလားဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၆။

ရှရတွဲ....၈။ မွတ်က်တဒီသည် တတ်က်ဗီးရ်အင်န်တေကာလာတ်.... အေမာမ်၏ ပြောင်းလဲခြင်းများ၊ ဥပမာ.... ရိုကူအ်၊ ကောင်မဟ်၊ စစ်ဂျဒဟ်များ၊ ကာအ်ဒဟ်များကို သိခြင်း၊ အေမာမ်ကိုမြင်၍ဖြစ်စေ၊ တပ်က်ဗီးရ်ကို ကြား၍ဖြစ်စေ၊ မုကဗ်ဗင်ရ် ထပ်ဆင့်ဆိုသူ၏အသံကိုကြား၍ဖြစ်စေ၊ မွတ်က်တဒီတစ်ဦးဦးကိုမြင်၍ဖြစ်စေ၊ အကယ်၍ မွတ်က်တဒီသည် အေမာမ်၏ အင်န်တေကာလာတ် ပြောင်းလဲခြင်းများကို မသိရလျှင် အရာတစ်ခုခု

ခြား၍ဖြစ်စေ၊ အခြားအကြောင်း တစ်ကြောင်းကြောင့်ဖြစ်စေ မသိရသော် အစ်ကိတေဒါ မပိုင်ပေ၊ ၎င်းအကယ်၍ 'ပရိဒဟ်' လိုက်က၊ ၎င်းတံတိုင်း စသည် ခြားနေသော်လည်း အေမာမ်၏ ပြောင်းလဲမှုများကို သိနေရလျှင် အစ်ကိတေဒါ ပိုင်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၅၊ ၇၄၁။

၈။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အေမာမ်သည် မုစာဖွင်ရှိလော့၊ မုကီးမ်လော့ မသိရလျှင်၊ သို့သော် အရိပ်နိမိတ်ဖြင့် မြို့နေဟု ထင်လျှင်၊ ၎င်းမြို့ရွာတွင် ဖြစ်ပြီး၊ နမာဇ်ကို မုစာဖွင်ရှိကဲ့သို့ ၄-ရကအတ် နမာဇ်ကို ၂-ရကအတ် စလာမ် လှည့်သော ၎င်းမွတ်ကတဒီမှာ ထိုသို့ စလာမ်လှည့်ခြင်းကြောင့် 'စဟ်ဝ်' မှားသည်ဟု ဒွိဟဖြစ်လျှင်၊ ထိုမွတ်ကတဒီသည် မိမိ၏နမာဇ်ကို ၄-ရကအတ် ပြည့်အောင်ဖတ်ပြီး အေမာမ်ကို မှားသည်လော့၊ မုစာဖွင်ရှိ ဖြစ်သည်လော့ ဟူသည်ကို ဆန်းစစ်ရန် ဝါဂျစ်ဗ်ဖြစ်သည်၊ အကယ်၍ ဆန်းစစ်ခြင်းဖြင့် မုစာဖွင်ရှိ ဖြစ်ကြောင်း သိရလျှင် နမာဇ် ပိုင်သွားပေပြီ၊ ၎င်း'စဟ်ဝ်'ဖြစ်ကြောင်းသိသော် နမာဇ်ကိုပြန်ဖတ်ရမည်၊ အကယ်၍ တစ်စုံတစ်ရာ စုံစမ်းခြင်း မပြုသည်သာမက ထိုဒွိဟဖြင့် နမာဇ်ဖတ်ပြီး ပြန်သွားခဲ့သော် ထိုအဖြစ်၌ ထိုသူသည် နမာဇ်ကို ပြန်ဖတ်ရန် ဝါဂျစ်ဗ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၅၊ ၇၄၁။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အေမာမ်ကို မုကီးမ် ဖြစ်သည်ဟု ထင်သည်၊ သို့သော် နမာဇ်ကို မြို့ရွာ၌ မဖတ်သာမက မြို့ရွာအပြင်၌ ဖတ်မူ၊ ၎င်းအေမာမ်က ၄-ရကအတ် နမာဇ်ကို မုစာဖွင်ရှိကဲ့သို့ ဖတ်သည်၊ ၎င်းမွတ်ကတဒီမှာ အေမာမ် 'စဟ်ဝ်' မှားသွားသည်ဟုဒွိဟဖြစ်သည်၊ထိုအဖြစ်၌လည်း မွတ်ကတဒီသည် မိမိနမာဇ်ကို၄-ရကအတ် ပြည့်အောင်ဖတ်ရမည်၊ နမာဇ်ဖတ်ပြီးနောက် အေမာမ်၏အဖြစ်ကို စုံစမ်းလျှင် ကောင်းသည်၊ မစုံစမ်းလျှင်လည်း ထိုသူ၏ နမာဇ် မပျက်ပေ၊ အဘယ့်ကြောင့်ဆိုသော် မြို့ရွာ အပြင်၌ အေမာမ်သည် မုစာဖွင်ရှိ ဖြစ်ကြောင်း ထင်ရှားသည်၊ အေမာမ်နှင့်ပတ်သက်၍ မွတ်ကတဒီက မှားသည်ဟု ထင်ခြင်းသည် ထင်ရှားမှုနှင့် ဆန့်ကျင်သည်၊ ထို့ကြောင့် ထိုအဖြစ်၌ စုံစမ်းရန် အရေးမကြီးပေ။

၂၊ ဤသို့ပင် အကယ်၍ အေမာမ်သည် ၄-ရကအတ် နမာဇ်ကို မြို့ရွာ ၎င်း တော စသည်၌ဖတ်သည်၊ မွတ်ကတဒီ တစ်ဦးဦးမှာ အေမာမ်ကို မုစာဖွင်ရှိဖြစ်မည်ဟု ဒွိဟဖြစ်သည်၊ သို့သော် အေမာမ်က ၄-ရကအတ် အပြည့်ဖတ်မူလည်း နမာဇ် ဖတ်ပြီးနောက် အေမာမ်၏အဖြစ်ကို စုံစမ်းရန် ဝါဂျစ်ဗ်မဟုတ်ပေ၊ ၎င်းပြင် ဖွဂျ်ရ် ဂေါ်ရစ်ဗ် နမာဇ်တွင် အေမာမ်ကို မုစာဖွင်ရှိလော့၊ မုကီးမ်လော့ ဟူသည် စုံစမ်းရန် အရေးမကြီးပေ၊ အဘယ့်ကြောင့်ဆိုသော် ထိုနမာဇ်များတွင် မုစာဖွင်ရှိနှင့်မုကီးမ်မှာ အတူတူဖြစ်သည်။ အချုပ်မှာ အေမာမ်သည် မြို့ရွာနှင့် တစ်နေရာရာတွင် ၄-ရကအတ် အစား ၂-ရကအတ် ဖတ်ပြီး မွတ်ကတဒီက အေမာမ်အပေါ် ဒွိဟဖြစ်မှသာ စုံစမ်းရန် အရေးကြီးသည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၁၅၊ ၇၄၁။

ရှုရတ္တ....၉။ မွတ်က်တဒီသည် 'အရ်ကာန်' အားလုံးတွင် 'ကေရာအတ်' ဖတ်သည်မှတပါး အေမာမ်နှင့် အတူရှိနေရမည်၊ အေမာမ်နှင့် အတူပြုသည်ဖြစ်စေ နောက်မှ ပြုသည်ဖြစ်စေ၊ အလျှင်ပြုသည်ဖြစ်စေ၊ သို့သော် ထို 'ရက္ကန်' အဆုံးတွင် အေမာမ်နှင့် ပေါင်းစပ်သွားစေရမည်၊ ပထမအဖြစ်မှာ အေမာမ်နှင့်အတူ ရိုကူအ်၊ စစ်ဂျဒဟ် စသည်များပြုလျှင် ဒုတိယအဖြစ်မှာ အေမာမ်သည် ရိုကူအ်ပြု၍ ထသွားပြီးမှ မွတ်က်တဒီက ရိုကူအ်ပြုလျှင် တတိယအဖြစ်မှာ အေမာမ်၏အလျှင် ရိုကူအ်ပြုသည်၊ သို့သော် ရိုကူအ်၌ ကြာရှည်စွာနေ၍ အေမာမ်၏ ရိုကူအ်နှင့် ရောသွားလျှင်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'ရက္ကန်' တစ်ခုခုကို အေမာမ်နှင့်အတူ မပြုလျှင် ဥပမာ....အေမာမ်က ရိုကူအ်ပြုသည်၊ မွတ်က်တဒီက ရိုကူအ်မပြု၊ ၎င်းအေမာမ်က စစ်ဂျဒဟ် နှစ်ကြိမ်ပြုရာ မွတ်က်တဒီက တစ်ကြိမ်သာပြုသည်၊ ၎င်း 'ရက္ကန်' တစ်ခုခုကို အေမာမ်၏ အလျှင်ပြုပြီး ထို'ရက္ကန်' အဆုံးထိ အေမာမ် နှင့် မရောစပ်လျှင်ပမာဆိုသော် မွတ်က်တဒီသည် အေမာမ်၏အလျှင် ရိုကူအ်ပြုသည်၊ အေမာမ် ရိုကူအ်မပြုမီ ပြန်ထခဲ့သော် ထိုဖြစ်ရပ် နှစ်ခုစလုံးတွင် 'အစ်က်တေဒါ' မပိုင်ပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁၅။

ရှုရတ္တ....၁၀။ မွတ်က်တဒီ၏ အဖြစ်သည် အေမာမ်ထက် လျော့နည်းခြင်းနှင့် အတူတူဖြစ်ခြင်း၏ ဥပမာများ ...

၁။ ကေယာမ် ရပ်နိုင်သူ၏ အစ်က်တေဒါသည် မရပ်နိုင်သော အေမာမ်၏ နောက်မှ ပိုင်သည်၊ 'ရှရီအတ်' တရားတော်တွင် 'အွသ်ရ်' ခွင့်ရှိသူ၏ ထိုင်ခြင်းသည် ကေယာမ် ရပ်ခြင်းကဲ့သို့ပင် ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၃-ဂ၄။

၂။ ဝိုသူနှင့် ဂွတ်စ်လ်အစား တယမ်မွမ် ပြုသော အေမာမ်၏နောက်မှ ဝိုသူနှင့် ဂွတ်စ်လ် ပြုသူ၏ အစ်က်တေဒါပိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် တယမ်မွမ် ဝိုသူ ဂွတ်စ်လ်တို့သည် သန့်ပြန့်ရာ၌ အတူတူဖြစ်သည်၊တစ်ခုနှင့်တစ်ခု အပိုအလျော့မရှိပေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-ဂ၃၊ဂ၄။

၃။ ခြေအိတ်၊ ပတ်တီး အပေါ် မတ်စ်ဟ် ပြုသူ၏နောက် ဆေးကျောသူ၏ အစ်က်တေဒါပိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် မတ်စ်ဟ် ပြုခြင်းနှင့် ဆေးခြင်းသည် သန့်ပြန့်ရာ၌ အတူတူပင် ဖြစ်သည်။

ဖွာတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၃၊ဂ၄။

၄။ အွသ်ရ် ရှိသူသည် အွသ်ရ် ရှိသူ၏ နောက်တွင် အစ်က်တေဒါ ပိုင်သည်၊ သို့သော် နှစ်ဦးနှစ်ဝသည် တစ်မျိုးတည်းသော အွသ်ရ် ရှိနေကြရမည်၊ ပမာဆိုသော်

နှစ်ဦးသည် ကျင်ငယ် တစ်စက်စက် ကျသောရောဂါနှင့် လေလည်ရောဂါရှိသူခြင်း တူနေကြရမည်။

ဖွာတာဝါဟဝ်န်ဒိယဟ်ကျမ်း စာမျက်နှာ-၈၃၊၈၄။

၅။ အွမ်မီသည် အွမ်မီ၏နောက်တွင် အစ်က်တေဒါ ပိုင်သည်၊ သို့သော် မွတ်က်တဒီများထဲတွင် ကာရီတစ်ယောက်မှ မရှိမှသာ ဖြစ်သည်။

ဂျေဝင်ဟာရဟ်နိုင်ယေရဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၀။

မှတ်ချက်။ ။ကုရ်အာန် အာယတ်တော် တပိုဒ်ပင် မရသေသူကို 'အွမ်မီ' ဟု ခေါ်သည်၊ ဖွရ်သွ ဖြစ်သောအခန်း အာယတ်တော် ဖတ်နိုင်သောသူကို 'ကာရီ' ဟု ခေါ်သည်။

၆။ အရွယ်ရောက်သော ယောကျ်ား၏ နောက်တွင် အမျိုးသမီးနှင့် အရွယ်မရောက်သေးသူ၏ အစ်က်တေဒါ ပိုင်သည်။

ဖွာတာဝါဟဝ်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၄။

၇။ အမျိုးသမီး၏ အစ်က်တေဒါသည် အမျိုးသမီး၏ နောက်တွင် ပိုင်သည်၊ သို့သော် မတ်က်ရှူးဟ်တဟ်ရီမဟ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ၊ ၅၃၉။

၈။ အရွယ်မရောက်သေးသော မိန်းကလေးနှင့် ယောကျ်ားလေးတို့၏ အစ်က်တေဒါသည် အရွယ်မရောက်သေးသော ယောကျ်ားလေး၏နောက်တွင် ပိုင်သည်။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄၀။

၉။ ဝါဂျစ်ဗ် ဖတ်သူ၏နောက်မှ 'နဖ်လ်' ဖတ်သူက အစ်က်တေဒါ ပြုနိုင်သည်။ ပမာဆိုသော် တစ်ဦးသောသူသည် ဇွဟ်ရ် 'နမာဇ်' ဖတ်ပြီး၍ အခြား ဇွဟ်ရ်ဖတ်သူနောက်မှလိုက်၍ဖတ်သည်၊ အီးဒ် 'နမာဇ်' ဖတ်ပြီးသော်လည်း အီးဒ် 'နမာဇ်' ဖတ်သူ၏နောက်မှလိုက်၍ဖတ်လျှင် ပိုင်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄။

၁၀။ နဖ်လ် 'နမာဇ်' ဖတ်သူ၏နောက်တွင် နဖ်လ် 'နမာဇ်' ဖတ်နိုင်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄။

၁၁။ 'ကဆမ်' အတွက် 'နမာဇ်' ဖတ်သောသူသည် နဖ်လ် ဖတ်သူ၏နောက်တွင် အစ်က်တေဒါ ပြုနိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် 'ကဆမ်' နမာဇ်သည်လည်း အမှန်မှာ နဖ်လ် ပင်ဖြစ်သည်၊ ဆိုလိုသည်မှာ တစ်ဦးသောသူက ကျွန်ုပ် 'နမာဇ်' နှစ်ရကအတ်ဖတ်မည်ဟု 'ကဆမ်' ဆိုသည်၊ ထို့နောက် နဖ်လ် ဖတ်သူ၏နောက်မှနှစ်ရကအတ်ဖတ်လိုက်လျှင် 'နမာဇ်' ပိုင်သွားသည်၊ ၎င်း 'ကဆမ်' ပြည့်စုံသွားသည်။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄၃။

၁၂။ 'နသရ်' နမာဇ် ဖတ်သူ၏နောက် 'နသရ်' နမာဇ် အတွက်အစ်က်တေဒါ ပြုလျှင်ပိုင်သည်။ ထိုသို့သော် နှစ်ဦးစလုံး၏ 'နသရ်' သည် တစ်မျိုးတည်း ဖြစ်ရမည်၊ ပမာ ဆိုသော် တစ်ဦးသောသူက 'နသရ်' ပြုသည်ကို တစ်ဦးက ကျွန်ုပ်လည်း မည်သူ'နသရ်' ပြုသကဲ့သို့ 'နသရ်'ပြုပါသည်ဟုဆိုလျှင် အကယ်၍ ဤသို့မဟုတ်လျှင် တစ်ဦးက နှစ်ရက အတ် 'နသရ်' ပြုသည်၊ ပမာဆိုသော် တစ်သီးတစ်ခြား 'နသရ်' ပြုလျှင် ၎င်းတစ်ဦးက တစ်ခြားပြုသော် ထိုသူတို့အနက် တစ်ယောက် တစ်ယောက်၏ အစ်က်တေဒါ ပြုခြင်းမပိုင် ပေ၊ အချုပ်မှာ မွတ်က်တဒီသည် အေမာမ်ထက် လျော့နည်းလျှင် ၎င်းအညီအမျှ ဖြစ်လျှင် အစ်က်တေဒါပိုင်သည်။

ရှာမိကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄၂။
ဖွတာဝါဟာင်နိဒီယဟ်ကျမ်း ၊ အတွဲ- ၁၊ စာမျက်နှာ-၈၅။

ယခု မွတ်က်တဒီသည် အေမာမ်ထက် အမှန် ၎င်းအထင်နှင့်မိုသည်၊ ၎င်းအစ်က် တေဒါ မပိုင်သည်များ ကျွန်ုပ်ရေးပြမည်။

၁။ အရွယ်ရောက်သူ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ ၎င်း၏အက်စ်က်တေဒါ သည် အရွယ်မရောက်သေးသူ၏ နောက်တွင် မပိုင်။

၂။ အမျိုးသမီးသည် အရွယ်ရောက်ပြီးဖြစ်စေ၊ မရောက်သေးသည် ဖြစ်စေ၊ ထိုအမျိုးသမီး၏ နောက်တွင် ယောကျ်ားတစ်ဦးက အစ်က်တေဒါ မပြုပိုင်ပေ။

၃။ 'ခွန်သာ' သည် ခွန်သာ၏နောက်တွင် မပိုင်ပေ၊ ခွန်သာဟူသည် ယောကျ်ား အင်္ဂါနှင့် မိန်းမအင်္ဂါ ရောစပ်နေပြီး ယောကျ်ားလော၊ မိန်းမလောဟု ခွဲခြားရန် ခက်သူ ကို ခေါ်ဆိုသည်၊ ဤသို့သောသူသည် အလွန်ပင် ရှားပါးပေသည်။

၄။ အကြင်အမျိုးသမီးသည် မိမိ 'ဟိုက်သ္' ရာသီလာသောရက်ကို သတိမရလျှင် ထိုသို့သော သူမတစ်ဦး၏နောက်တွင်'အစ်က်တေဒါ' မပိုင်ပေ၊ ဤနှစ်ရပ်စလုံးတွင်မွတ်က် တဒီက အေမာမ်ထက် သာပိုမည်ဆိုက ဖြစ်နိုင်သည်၊ ထို့ကြောင့် အစ်က်တေဒါ မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ပထမအဖြစ်၌ 'ခွန်သာ' အေမာမ်သည် အမျိုးသမီး ဖြစ်နိုင်ပြီး မွတ်က်တဒီ 'ခွန်သာ'သည် ယောကျ်ားဖြစ်နိုင်သည်၊ ဤသို့ပင် ဒုတိယအဖြစ်မှာ အေမာမ် လုပ်သော အမျိုးသမီးသည် 'ဟိုက်သ္' လာသောရက်ပိုင်းဖြစ်နေပြီး မွတ်က်တဒီ အမျိုး သမီးမှာ သန့်ရှင်းသောရက်ပိုင်း ဖြစ်နိုင်သည်။

(၁) မှ (၄) ထိကျမ်းညွှန်း မဂျ်မအွလ်အန်ဟရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၁။
အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၃။

၅။ 'ခွန်သာ' သည် အမျိုးသမီး၏ နောက်မှ အစ်က်တေဒါ မပြုပိုင်၊ အဘယ့် ကြောင့်ဆိုသော် ထို 'ခွန်သာ' သည် ယောကျ်ားဖြစ်နေနိုင်ပေသည်။

၆။ အသိဉာဏ်ရှိသူသည် သူရူး၊ မူးသူ၊ သတိမရှိသူ၊ ဉာဏ်မရှိသူ၏ နောက်တွင် အစ်က်တေဒါ မပိုင်ပေ။

၇။ သန့်ပြန့်သူသည် အွသ်ရ်ရှိသူ ပမာဆိုသော် ကျင်ငယ်တစ်စက်စက် ကျနေသူ၏ နောက်တွင် အစ်က်တေဒါ မပိုင်ပေ။

၈။ အွသ်ရ် တစ်ခုရှိသူသည် အွသ်ရ် နှစ်ခုရှိသူ ပမာဆိုသော်တစ်ဦးမှာ လေလည်သော ရောဂါတစ်ခုသာရှိပြီး လေလည်သောရောဂါနှင့် ကျင်ငယ် တစ်စက် တစ်စက် ကျသော ရောဂါရှိသူ၏နောက်တွင် အစ်က်တေဒါ မပိုင်ပေ။

၉။ အွသ်ရ် တစ်မျိုးရှိသူသည် အခြားသော အွသ်ရ်ရှိသူ ဥပမာကျင်ငယ်တစ်စက် တစ်စက်ကျသော ရောဂါရှိသူသည် နှာခေါင်း သွေးယိုသော ရောဂါရှိသူ၏ နောက်တွင် အစ်က်တေဒါ မပိုင်ပေ။

၁၀။ ကာရီသည် အွမ်မီ၏ နောက်တွင် အက်စ်တေဒါ မပိုင်၊ 'နမာဇ်'ပိုင်လောက် အောင် 'ကုရ်အာန်ကျမ်းတော်မြတ်' ၏ အာယတ်တော်ကို မှန်မှန်ဖတ်နိုင်သူကို 'ကာရီ'ဟု ခေါ်သည်၊ 'နမာဇ်' ပိုင်လောက်အောင် မဖတ်နိုင်သောသူကို 'အွမ်မီ' ဟု ခေါ်သည်။

၁၁။ အွမ်မီသည် အေမာမ်အဖြစ် ဆောင်ရွက်ပြီး မွတ်က်ကဒီများတွင် အွမ်မီ များအပြင် ကာရီလည်းရှိမူ မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် ထိုအဖြစ်၌ အွမ်မီ အေမာမ်၏ 'နမာဇ်' ပျက်သွားသည်၊ ကာရီကို အေမာမ် အဖြစ်တင်ပါက ၎င်းဖတ် သော 'ကေရာအတ်'သည် အားလုံးအတွက် လုံလောက်သည်၊ အေမာမ်၏ 'နမာဇ်' ပျက် လေရာ အွမ်မီများ အပါအဝင် မွတ်က်တဒီ အားလုံး၏ 'နမာဇ်' လည်း ပျက်သွားသည်။

၁၂။ အွမ်မီသည် စကားမပြောတတ်သူ အ,အ၏ နောက်တွင် အစ်က်တေဒါ မပိုင်၊ အဘယ့်ကြောင့်ဆိုသော် အွမ်မီသည် ကေရာအတ် မဖတ်နိုင်သော်လည်း ဖတ်နိုင် သော စွမ်းအားရှိသည်၊ သင်ယူနိုင်သည်၊ စကားမပြောတတ်သူသည် သင်ယူနိုင်သော စွမ်းအားမရှိပေ။

၁၃။ အရှက် လုံခြုံစွာ အဝတ်ဝတ်ထားသူသည် ဝတ်လစ်စလစ်၏ နောက်တွင် အစ်က်တေဒါ မပိုင်ပေ။

၁၄။ ရိုကူအ်၊ စစ်ဂျဒဟ် ပြုနိုင်သူသည် မပြုနိုင်သူ၏နောက်တွင် အစ်က်တေဒါ မပိုင်၊ အကယ်၍ စစ်ဂျဒဟ် တစ်ခုတည်း မပြုနိုင်သော်လည်း ပြုနိုင်သူက အစ်က်တေဒါ မပြုနိုင်ပေ။

၁၅။ ဖွရ်သွ ဖတ်သူသည် နဖ်လ် ဖတ်သူ၏နောက်တွင် အစ်က်တေဒါ မပိုင်ပေ။
(၆) မှ (၁၁) ထိ ကျမ်းညွှန်း။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄၂။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်-၈၄။
ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၄၀။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၃၊၈၄။

၁၆။ နသရ် နမာဇ် ဖတ်သူသည် နဖိလ် ဖတ်သူ၏ နောက်တွင် အစ်က်တေဒါ မပိုင်၊ အဘယ့်ကြောင့်ဆိုသော် နသရ်နမာဇ်သည် ဝါဂျစ်ဗ် ဖြစ်သည်။

၁၇။ နသရ် နမာဇ်ဖတ်သူသည် ကဆမ် နမာဇ်ဖတ်သူ၏ နောက်တွင် အစ်က်တေဒါ မပြုပိုင်၊ ပမာဆိုသော်.... တစ်ဦးသောသူက ယနေ့ ၄-ရကာအတ် ဖတ်မည် ဟု ကဆမ် ဆိုလိုက်သည်၊ ၎င်းတစ်ဦးသောသူက နသရ်ပြုသည်၊ ထိုနသရ် ပြုသူသည် ကဆမ် ဆိုသူ၏ နောက်တွင် နမာဇ်ဖတ်သော် မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် နသရ်၏နမာဇ် သည် ဝါဂျစ်ဗ်ဖြစ်သည်၊ ၎င်းကဆမ်နမာဇ်သည် နဖိလ်ဖြစ်သည်၊ ကဆမ်အတွက် နမာဇ် မဖတ်ဘဲ 'ကတ်ဖွာရဟ်' ပေးလျှင်လည်း ဖြစ်နိုင်ပေသည်။

၁၈။ အကြွင်သူသည် အက္ခရာများကိုရှင်းလင်းစွာမဖတ်နိုင်လျှင်၊ ပမာဆိုသော် 'စီန်'ကို သေ ဖတ်သည်၊ 'ရေ'ကို ဂိုင်န် ဖတ်သည်၊ ၎င်း အခြား အက္ခရာများတွင်လည်း ဤသို့ပင် ပြောင်းလွဲခြင်း ရှိမူ၊ ဤသို့သောသူ၏ နောက်တွင် ရှင်းလင်းစွာ ဖတ်နိုင်သူ၏ နမာဇ် မပိုင်ပေ။ ဟုတ်ပါ၏၊ အကယ်၍ ကေရာအတ် တစ်ခုလုံးတွင် တစ်လုံးတစ်လေ အထက်ပါအတိုင်း မှားသွားပါက အစ်က်တေဒါ ပိုင်သွားပေမည်။

ရှရတ်....၁၁။ အေမာမ်သည် 'ဝါဂျေ့ဗွလ်အဒ်ဖ်န်ဖွေရာတ်' မဖြစ်စေရ၊ ဆိုလိုသည်မှာ မွန်ဖွရစ်ဒ်တစ်ယောက်သည် ဖတ်ရန် အရေးကြီးသူ၏နောက်တွင် အစ်က်တေဒါ မပိုင်ပေ၊ ဥပမာ....မတ်စ်ဘူးက်၊ ၎င်းသည် အေမာမ်က နမာဇ် အဆုံးသတ်ပြီးနောက် မိမိလွတ်ခဲ့သော ရကာအတ်များကို တစ်ယောက်တည်း ဖတ်ရန် အရေးကြီးသည်၊ သို့ရှိရာ မည်သူတစ်ဦးတစ်ယောက်သည် မတ်စ်ဘူးက်၏ အစ်က်တေဒါပြုလျှင် မပိုင်ပေ။

ရှရတ်....၁၂။ အေမာမ်သည် မည်သူ၏မှ မွတ်က်တဒီမဖြစ်ရ၊ ဆိုလိုသည်မှာ.... တစ်ဦးတစ်ယောက်၏ မွတ်က်တဒီဖြစ်နေသော မွဒ်ရစ်က်၊ လာဟစ်က်တို့ကို အေမာမ်အဖြစ် မပြုရ၊ လာဟစ်က်သည် အေမာမ် နှင့် မမှီလိုက်သော ရကာအတ်များတွင် မွတ်က်တဒီ၏ အမိန့်၌ပင်ရှိသည်၊ ထို့ကြောင့် တစ်ဦးသောသူသည် မွဒ်ရစ်က်၊ လာဟစ်က် တစ်ဦးဦး၏ အစ်က်တေဒါ ပြုလျှင် မပိုင်ပေ၊ ဤသို့ပင် မတ်စ်ဘူးက်သည် လာဟစ်က်ကို၊ လာဟစ်က်သည် မတ်စ်ဘူးက်ကို အစ်က်တေဒါပြုလျှင်လည်း မပိုင်ပေ။

ဂျမာအတ် ပိုင်ရန် အတွက် ရှရတ် (၁၂)ချက် ကို တင်ပြခဲ့ပေပြီ၊ အကယ်၍ မွတ်က်ဘဒီ တစ်ဦးတစ်ယောက်တွင် ထိုရှရတ်များအနက် တစ်ခုခု မပါရှိလျှင် ထိုသူ၏ အစ်က်တေဒါ မပိုင်ပေ၊ အစ်က်တေဒါ မပိုင်လေရာ၊ ထိုသူ၏ နမာဇ်လည်း မပိုင်ဖြစ်သွားလေသည်။

၁၆-မှ ၁၈-ထိ၊ ရှရတ်၊ ၁၁-မှ ၁၂-ထိ၊ ကျမ်းညွှန်း။

ရှာမိကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၄၃။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၅။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၅။

# ဂျမာအတ်၏ ပညတ်ချက်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ဂျို မို အဟ်နှင့် အီးဒ်နှစ်အီးဒ်၏ နမာဇ်များတွင် ဂျမာအတ်သည် ရှရတွ ဖြစ်သည်၊ ဆိုလိုသည်မှာ ဤနမာဇ်များသည် တစ်ယောက်တည်း ဖတ်လျှင် မပိုင်ပေ၊ ၎င်းပြင် ငါးကြိမ် နမာဇ်တွင် 'အွသ်ရ်' မရှိပါက ဂျမာအတ်သည် ဝါဂျစ်ဗ် ဖြစ်သည်၊ ၎င်း တရာဝီးဟ် တွင် စွန္နတ်မုအတ်ကဲကဒဟ် ဖြစ်သည်၊ ကုရ်အာန် တစ်ခတမ် ဆုံးသွားသော်လည်း ဆက်၍ ဖတ်ခြင်း စွန္နတ်မုအတ်ကဲကဒဟ်ပင် ဖြစ်သည်၊ ကို စူးဖ် နေကြတ်သောအခါ ဂျမာအတ်ပြုခြင်းလည်း စွန္နတ် မုအတ်ကဲကဒဟ် ဖြစ်သည်။

ဘဲဟ်ရှရ်ရာအစ်ကဲကျမ်းစာမျက်နှာ-၃၄၅။

ဖွတာဝါဟဲင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၆၊၁၈၄။

ရမသွာန်လ၏ 'ဝစ်တ်ရ်'ကို ဂျမာအတ်ဖြင့် ဖတ်ခြင်း 'မုတ်စ်တဟဗ်' ဖြစ်သည်၊ ရမသွာန်လ အပြင် အခြားလများ၌ ဝစ်တ်ရ်ကို ဂျမာအတ်ဖြင့် ဖတ်ခြင်း မတ်ကရူးဟ် တန်ဇီဟီဖြစ်သည်၊ ဆိုလိုသည်မှာ ဆက်တိုက်ဖတ်ကြလျှင် အပြစ်ဖြစ်သည်၊ တစ်ခါတစ်ရံ လူနှစ်ယောက် သုံးယောက် ဂျမာအတ်ဖြင့် ဖတ်လိုက်ကြလျှင် မတ်ကရူးဟ် မဖြစ်ပေ၊ ၎င်းနမာဇ် ခို စူးဖ် လကြတ်သောအခါ ၎င်းနဖ်လ် အားလုံးတွင် ဖွရ်သွ နမာဇ် ကဲ့သို့ အသာန် အေကာမတ်နှင့် ဖတ်ကြသော် ၎င်းအခြားနည်းလမ်းဖြင့် လူစု၍ ဖတ်ကြသော် မတ်ကရူးဟ်တဟ်ရီမဟ်ဖြစ်သည်။ ဟုတ်ပါ၏၊ အကယ်၍ အသာန်အေကာမတ်မပါ၊ ၎င်း မခေါ်ဘဲနှင့် ၂-ယောက်၃-ယောက် ကြုံကြိုက်၍ နဖ်လ်ကို ဂျမာအတ်ဖြင့် ဖတ်ကြသော် ကိစ္စမရှိပေ၊ သို့သော်လည်း အမြဲမပြုကြရ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၆။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၂။

မဂျ်မအွလ်အန်ဟာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၆။

ဤသို့ပင် ဗလီ၌ ဖွရ်သွ နမာဇ်ပြီးနောက် ဒုတိယ ဂျမာအတ်ပြုခြင်း အောက်ပါ ရှရတွ (၄)ချက်နှင့် ကိုက်ညီသော် မတ်ကရူးဟ် တဟ်ရီမာ ဖြစ်သည်။

၁။ အရပ်ဗလီဖြစ်ပြီး လမ်းဗလီ မဟုတ်လျှင် အေမာမ်နှင့် နမာဇီများ အတည် ရှိလျှင် အရပ်ဗလီ ဖြစ်သည်။

၂။ ပထမ ဂျမာအတ်သည် အသာန်အေကာမတ်ကို အသံကျယ်စွာနှင့် ဆိုပြီး ဖတ်ပြီးနေလျှင်။

၃။ ထိုအရပ်တွင်နေပြီး ဗလီကိုစောင့်ရှောက်ရသူများက ပထမ ဂျမာအတ်နှင့် ဖတ်ပြီးနေကြလျှင်။

၄။ ဒုတိယ ဂျမာအတ်သည် ပထမ ဂျမာအတ်ကဲ့သို့ ပြည့်စုံစွာအဖြစ်နှင့် ဖတ် နေကြလျှင်။

ဤစတုတ္ထ ရှရတွ ိသည် အေမာမ်အဘူယူစွဖ် (ရဟမတုလ္လာဟ်) သခင်ထံသာ ဖြစ်သည်၊ အေမာမ်အဘူဟနီဖွာဟ်(ရဟမတုလ္လာဟ်)သခင် ထံတော်တွင် အဖြစ်ပြောင်းလျှင်လည်း မတ်က်ရှုးဟ်ပင်ဖြစ်ပေသည်၊ သို့ရှိရာ ဒုတိယ ဂျမာအတ်ကို ဗလီဌ်မဖတ်ဘဲ အိမ်၌ဖတ်လျှင် မတ်က်ရှုးဟ်မဖြစ်ပေ။

ဤသို့ပင် အကယ်၍ တင်ပြပါ ရှရတွ ိ(၄)ချက် အနက် ကွဲလွဲသော် ဥပမာ.... ဗလီသည် အရပ်ဗလီ မဟုတ်ဘဲ လမ်းဗလီဖြစ်လျှင် (လမ်းဗလီ အကြောင်း အထက်တွင်ရေးခဲ့ပေပြီ၊) ဒုတိယ ဂျမာအတ် သာမက တတိယ စတုတ္ထ ဂျမာအတ် ပြုလျှင်လည်း မတ်က်ရှုးဟ်မဖြစ်ပေ၊ ၎င်းအရပ်ဗလီတွင် ပထမ ဂျမာအတ်သည် အသာန်အေကာမတ်ကို အသံကျယ်စွာမဆိုဘဲ ဖတ်ခဲ့သော် ဒုတိယဂျမာအတ်ပြုခြင်း မတ်က်ရှုးဟ် မဖြစ်ပေ။

သို့မဟုတ် ပထမ ဂျမာအတ်ကို ဖတ်သူများသည် အရပ်နေများ မဟုတ်ကြ၊ ၎င်းဗလီကို အုပ်ချုပ်စောင့်ရှောက်နိုင်သူများ မဟုတ်ကြသော် လက်ရှိ ဂျမာအတ်သားများက ဂျမာအတ်ပြု၍ ဖတ်နိုင်သည်၊ ၎င်းအေမာမ်အဘူယူစွဖ်(ရဟမတုလ္လာဟ်)သခင်၏အဆိုအရ ဒုတိယဂျမာအတ်သည် ပထမ ဂျမာအတ်ကဲ့သို့ ပြည့်စုံစွာအဖြစ်နှင့် မဖတ်ကြလျှင် ပထမ ဂျမာအတ်၏ အေမာမ်ရပ်သောနေရာမှ တစ်ခြားနေရာတွင် ဒုတိယဂျမာအတ်၏အေမာမ်က ရပ်ခဲ့သော် အဖြစ်ပြောင်းခြင်းဖြစ်သွားသည်၊ ၎င်းဂျမာအတ် မတ်က်ရှုးဟ် မဖြစ်ပေ။

သတိပေးချက်။

အချို့သူတို့သည် အေမာမ်အဘူယူစွဖ် (ရဟမတုလ္လာဟ်) သခင်၏ အဆိုအပေါ် လိုက်နာ ပြုမူကြသည်၊ သို့သော်လည်း အေမာမ်အဘူဟနီဖွာဟ်(ရဟမတုလ္လာဟ်)သခင်၏ အမိန့်သည် 'ဒလီလ်' သာမက ခိုင်လုံပြီး အားကောင်းလေသည်၊ ထို့ပြင် ယခုခေတ်အခါသမယတွင် ဘာသာရေးရာ သိးခြား၏ ဂျမာအတ်တွင် ပျင်းရိပေါ့ဆသူ များလေရာ အေမာမ်ဆရာ၏ အဖြစ်ပြောင်းခြင်း (ဝါ) နေရာရွှေ့၍ ရပ်ခြင်းကိုလည်း အေမာမ်အဘူဟနီဖွာဟ်(ရဟမတုလ္လာဟ်)သခင်၏ အမိန့်အတိုင်း မတ်က်ရှုးဟ် ဖြစ်ကြောင်း ဖွာတ်ဝါပေးသင့်လေသည်၊ သို့မဟုတ်ပါက လူအချို့တို့သည် (အတလိ) တမင်တကာ သော်လည်းကောင်း၊ အကြောင်းအချက်ကလေး ပေါ်တိုင်းသော်လည်းကောင်း ပထမ ဂျမာအတ်ကို လွှတ်၍ ဒုတိယဂျမာအတ် ပြုကာ ဖတ်နေကြပေမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၂။
ဖွတာဝါဟင်န်ဒိယယ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၃၊၀၂။

## မွတ်က်တဒီ ၎င်းအေမာမ်နှင့် ပတ်သက်သော မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မွတ်က်တဒီ တို့သည် အသင့် ရှိသူများအနက် အေမာမတ်နှင့် ထိုက်သက်သူ၊ ကောင်းသော အချင်းလက္ခဏာများရှိသူကို အေမာမ် ရွေ့ဆောင်ဆရာအဖြစ် တင်မြှောက်ရမည်၊ အကယ်၍ အေမာမတ်နှင့်ထိုက်သက်သူ ညီတူညီမျှ

ရှိနေလျှင် အများစု နှစ်သက်သည်ကို အတည်ပြုရမည်၊ အကယ်၍ အေမာမ်အဖြစ်နှင့် ထိုက်သက်ဆုံးသူ ရှိပါလျက် ထိုသူထက် အရည်အချင်း လျော့နည်းသူကို တင်လျှင် စွန္နတ်တော် လွတ်ခြင်း၏ အပြစ်ခံကြရပေမည်။

၂။ **မတ်စ်အလဟ် ပြဿနာ။** အေမာမတ်အဖြစ်အထိုက်သက်ဆုံးသူသည် ပြင်ပအမြင်တွင် မကောင်းမှု စသည်များမှ သန့်ရှင်းလျက် နမာဇ်၏ မတ်စ်အလဟ် များကို ကောင်းစွာ နားလည်သူ၊ စွန္နတ်တော်အရ ကေရာအတ်ကို အာဂုံရသူ၊ ကုရ်အာန် ကျမ်းတော်ကို ရှင်းလင်းပီသစွာ ဖတ်နိုင်သူဖြစ်သည်၊ ထို့နောက် ကေရာအတ်၏နည်းလမ်းဖြင့် ကုရ်အာန်ကျမ်းတော်ကို ကောင်းစွာဖတ်နိုင်သူ၊ ထို့နောက် အားလုံးထက် အပြစ် ရှောင်ကြဉ်သောသူ၊ ထို့နောက် အသက်ကြီးဆုံးသူ၊ ထို့နောက် အားလုံးထက်စာရိတ္တကောင်းသောသူ၊ ထို့နောက် အားလုံးထက် ရုပ်ရည် ချောမောသူ၊ ထို့နောက် အားလုံးထက် အမျိုးသန့်သောသူ၊ ထို့နောက် ပင်ကိုယ်အသံကောင်းသောသူ၊ ထို့နောက် အကောင်းဆုံး အဝတ်ကို ဝတ်ဆင်သူ၊ ထို့နောက် ပြေပြစ်စွာ ခေါင်းအကြီးဆုံးသူ၊ ထို့နောက် မုစာဖွင်ရ် ခရီးသည်များထက် မြို့နေဖြစ်သူ၊ ထို့နောက် နဂိုကတည်းက 'အာဇာဒ်' လွတ်လပ်သူ၊ ထို့နောက် မသန့်ကြီးမှ တယမ်မွမ်ပြုသူထက် မသန့်ကလေးမှ တယမ်မွမ်ပြုသူ၊ ရှင်းအချို့က မသန့်ကြီးမှ တယမ်မွမ်ပြုသူကို အသာပေးကြသည်။

အကြင်သူတွင် တင်ပြပါအချင်းလက္ခဏာများ နှစ်မျိုးရှိသော် တစ်မျိုးတည်းရှိသူထက် သင့်တော်သည်၊ ပမာဆိုသော်.... နမာဇ်၏ မတ်စ်အလဟ်များကိုသာ နားလည်သော သူထက် နမာဇ်၏ မတ်စ်အလဟ်ကို နားလည်သည့်ပြင် ကုရ်အာန် ကျမ်းတော်ပါ ကောင်းစွာ ဖတ်နိုင်သူက သင့်တော်ဆုံးဖြစ်သည်။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးတစ်ယောက်၏အိမ်တွင် ဂျမာအတ်ပြု၍ ဖတ်ကြသော် အိမ်ရှင်က အေမာမတ်အတွက် ထိုက်သက်သူဖြစ်သည်၊ ထို့နောက် အိမ်ရှင်က တင်သူသည် ထိုက်သက်သူ ဖြစ်သည်။ ဟုတ်ပါ၏၊ အကယ်၍ အိမ်ရှင်သည် လုံးဝ 'ဂျာဟင်လ်' ဖြစ်လျှင် အခြားသူများက မတ်စ်အလဟ်များသိကြသော် ထိုအသိဆုံးသောသူသာ အေမာမတ်အတွက် ထိုက်သက်သူ ဖြစ်သည်။

၁-မှ ၃-ထိ၊ ကျမ်းညွှန်း။

တ္ဂဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၃၊ ၁၆၄။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂ၆။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-ဂ၂၊ ဂ၃။

၄။ မတ်စ်အလဟ် ပြဿနာ။ အကြင် ဗလီတွင် အေမာမ် ခန့်ထားမှု ရှိလျှင် ထိုဗလီ၌ ထိုအေမာမ် ရှိနေပါလျက် အခြားသူသည် အေမာမ်မဖြစ်ထိုက်။ ဟုတ်ပါ၏၊ အကယ်၍ ထိုလက်ရှိအေမာမ်က တင်မြှောက်လျှင် တက်၍ ဖတ်ပေးနိုင်သည်။

တ္ဂဟ်တွာဝီကျမ်း စာမျက်နှာ-၁၇၄။

၅။ မတ်စ်အလဟ်ပြဿနာ။ 'ရှရီအတ်' တရားတော်အရ ရှိနေသော 'ဟာကင်မ်' အာဏာပိုင် ရှိပါလျက် အခြားသူမှာ အေမာမတ် ပြုပိုင်ခွင့် မရှိပေ။

တွာဟ်တွာစီကျမ်း စာမျက်နှာ-၁၇၄။

၆။ မတ်စ်အလဟ်ပြဿနာ။ ဂျမာအတ် သားတို့၏ သဘောမတူဘဲ 'အေမာမတ်' ပြုခြင်းသည် မတ်က်ရှုးဟ် တဟ်ရီမဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ထိုအေမာမ်သည် အားလုံးထက် အသင့်တော်ဆုံးသူဖြစ်လျှင် အေမာမ် ဖြစ်ထိုက်ရာတွင် ထိုသူနှင့် တူညီသူ မရှိပါက မတ်က်ရှုးဟ် မဖြစ်ပေသာမက ထိုသူ အေမာမတ် ပြုသည်ကို မနှစ်သက်သူများ၏ မှားယွင်းခြင်းသာ ဖြစ်သည်။

တွာဟ်တွာစီကျမ်း စာမျက်နှာ-၁၇၄။

၇။ မတ်စ်အလဟ်ပြဿနာ။ ဖွာစစ်က်နှင့် ဗိဒ္ဒအတီကို အေမာမ် တင်ခြင်း မတ်က်ရှုးဟ်တဟ်ရီမဟ်ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ထိုဗလီတွင် ဖွာစစ်က်နှင့်ဗိဒ္ဒအတီ ချည့်သာ ရှိနေပြီး လူကောင်းများ မရှိသော် မတ်က်ရှုးဟ် မဖြစ်ပေ၊ ဤသို့ပင် ဗိဒ္ဒအတီနှင့် ဖွာစစ်က်တို့ ကြီးစိုးပြီး အားကောင်းနေလျှင်ထိုသူတို့ကို ဖြုတ်မချနိုင်လျှင်၎င်းအကြီး အကျယ် ခိုက်ရန်ဖြစ်မည်ဆိုပါက မွတ်က်တဒီများအပေါ် မတ်က်ရှုးဟ် မဖြစ်ပေ။

တွာဟ်တွာစီကျမ်း စာမျက်နှာ-၁၆၄-၁၆၅။

၈။ မတ်စ်အလဟ်ပြဿနာ။ မိုးခေါင် ရေရှား စသည်ကြောင့် ဖြစ်ရသော ဂိုလာမ်ကျွန်မဟုတ်ဘဲ ဖွေကဟ် ဥပဒေအရ ဖြစ်သော ဂိုလာမ် ငွေဝယ်ကျွန်သည်အာဇာဒ် လွတ်လပ်သူ ဖြစ်သော်လည်း ၎င်းတောသား သန့်မသန့်ကို ဂရုမစိုက်သော မျက်မမြင် ညတွင် ကောင်းစွာမမြင်ရသော မျက်စိမှုန်သူ ဇနာနှင့် မွေးဖွားသူတို့၏အေမာမတ်ပြုခြင်း သည် မတ်က်ရှုးဟ်တန်ဇီဟီ ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ တင်ပြပါသူတို့သည် အသိ ရှိသူများဖြစ်ကြလျှင် ၎င်းတို့ကလည်း အေမာမ်အဖြစ် တင်မြှောက်ရန်တွင် စိတ်ဆိုးမှုမရှိ ကြသော် 'မတ်က်ရှုးဟ်' မဖြစ်ပေ၊ ဤသို့ပင် လုပသော မုတ်ဆိတ် မပေါက်သေးသည့် သူပျို၊ ၎င်းအသိဉာဏ်မရှိသူကို အေမာမ်အဖြစ်တင်ခြင်း မတ်က်ရှုးဟ် တန်ဇီဟီ ဖြစ်သည်။

တွာဟ်တွာစီကျမ်း စာမျက်နှာ-၁၆၄။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၃။

၉။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်'၏ဖွရ်ဇ်နှင့် 'ဝါဂျစ်ဗ်'များတွင်မွတ်က်တဒီ အားလုံးသည် အေမာမ်၏ နောက်လိုက် နာခံရန် 'ဝါဂျစ်ဗ်' ဖြစ်သည်၊ ဟုတ်ပါ၏ စွန္နတ် စသည်များတွင် မလိုက်နာဘဲနေက ကိစ္စမရှိပေ၊ သို့ရှိရာ အေမာမ်သည် ရှာဖွေအီ မသဟဗ် ဖြစ်၍ ရိုကူအ် ကုန်းသောအခါနှင့် ပြန်ထသောအခါ လက်နှစ်ဘက်ကို မြှောက်မှု ဟာနွဖွီ မွတ်က်တဒီများက လက်မြှောက်ရန် မလိုပေ၊ အဘယ့်ကြောင့်ဆိုသော် လက်မြှောက်

ခြင်းသည် ရှာဖွေ့အိမ်များထံတွင် စွန္နတ်ဖြစ်သည်၊ ဤသို့ပင် ဖွဂျိရ် 'နမာဇ်' ၌ ရှာဖွေ့အိမ်အေမာမ်က 'ကိုနူတ်' ဖတ်မူ ဟန္နဖွီ မွတ်က်တဒီများက ဖတ်ရန် အရေးမကြီးပေ၊ ဟုတ်ပါ၏၊ ဝစ်တ်ရ် ''နမာဇ်' တွင် 'ကိုနူတ်' ဖတ်ရန် ဝါဂျစ်ဗ် ဖြစ်သည်၊ ထို့ကြောင့်ရှာဖွေ့အိမ်အေမာမ် သည် မိမိ မသဟဗ် အရ ရိုကူအ် ပြုပြီးနောက် ဖတ်မူ ဟန္နဖွီ မွတ်က်တဒီ များလည်း ရိုကူအ် ပြုပြီးနောက် ဖတ်ရန်ထိုက်သည်။

ကဗီရီကျမ်း စာမျက်နှာ-၄၉၁။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် 'နမာဇ်' ဖတ်ရာတွင် စွန္နတ်တော်အခန့်ထက် ပိုမိုရှည်သော 'စူရဟ်' ဖတ်ခြင်း၊ ၎င်းပြင် 'ရိုကူအ်' စစ်ဂျဒဟ်' စသည်တို့တွင် အလွန်ကြာရှည်စွာ နေခြင်းတို့သည် မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်၊ အေမာမ်သည် မွတ်က်တဒီ တို့၏ လိုအပ်မှု အားအင်ချိနဲ့ခြင်း စသည်တို့ကို ဂရုစိုက်ရမည်၊ အလိုအပ်ဆုံးသောသူကို ထောက်ထားပြီး ကေရာအတ် စသည်ကို ဖတ်ရမည်၊ လိုအွမ်သောအခါစွန္နတ်ဖြစ်သည့် ကေရာအတ်ထက် ပို၍ ဖတ်ခြင်း သာ၍ ကောင်းသည်၊ သို့မှသာ လူတို့က မကျေနပ်၍ ဂျမာအတ် နည်းသွားခြင်း မဖြစ်ပေမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၅၊၁၆၆။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မွတ်က်တဒီ သည် ယောကျ်ားသော်လည်း ကောင်း၊ အရွယ် မရောက် သေး ‌သော ယောကျ်ားလေး သော် လည်း ကောင်း၊ တစ်ယောက်တည်းရှိမူ ထိုမွတ်က်တဒီသည် အေမာမ်၏ လက်ယာဘက်မှအနည်းငယ်နောက်ဆုတ်ရန် ထိုက်သည်၊ အကယ်၍ အေမာမ်၏ ဝဲဘက်၊ သို့မဟုတ် နောက်မှရပ်လျှင် မတ်က်ရူးဟ် ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၆။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မွတ်က်တဒီသည် တစ်ယောက်ထက်ပိုလျှင် ၎င်းတို့သည် အေမာမ်၏နောက်မှ တန်းစီ၍ ရပ်ကြရန် ထိုက်သည်၊ အကယ်၍ မွတ်က်တဒီ နှစ်ယောက်ရှိ၍ အေမာမ်၏ လက်ဝဲ လက်ယာ ရပ်ကြသော် မတ်က်ရူးဟ်တန်ဇီဟီ ဖြစ်သည်၊ အကယ်၍ နှစ်ယောက်ထက်ပို၍ရှိမူ မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် မွတ်က်တဒီ နှစ်ယောက်ထက်ပိုလျှင် အေမာမ်သည်ရှေ့မှရပ်ခြင်း ဝါဂျစ်ဗ်ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၇။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၃။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'နမာဇ်' အစပြုသောအခါ မွတ်က်တဒီ ယောကျ်ားတစ်ယောက်ရှိပြီး အေမာမ် လက်ယာဘက်မှ ရပ်နေရာ 'ထို့နောက် အခြားမွတ်က်တဒီများ ရောက်လာသော် ပထမ မွတ်က်တဒီသည် နောက်သို့ ဆုတ်ပေးရမည်၊

သို့မှသာ အခြား မွတ်က်တဒီများကရော၍ အေမာမ်၏နောက်မှ ရပ်နိုင်ကြမည်၊ အကယ်၍ ပထမ မွတ်က်တဒီက ဆုတ်မပေးလျှင် အစ်က်တေဒါ ပြုမည့်သူများက ၎င်းကိုနောက်သို့ ဆွဲယူလိုက်ကြရမည်၊ ၎င်းအကယ်၍ မတ်စ်အလဟ်ကို မသိဘဲ ထိုမွတ်က်တဒီ တို့သည် အေမာမ်၏ လက်ဝဲ, လက်ယာတွင် ရပ်ကြပြီး ပထမမွတ်က်တဒီကို နောက်သို့ ဆွဲမယူကြသော် အေမာမ်သည် မွတ်က်တဒီ တို့ရော၍ နောက်မှရပ်ကြစေရန် ရှေ့သို့ တက်သွားရမည်။

ဤသို့ပင် အကယ်၍ နောက်သို့ဆုတ်ကြရန် နေရာမရှိမူ အေမာမ်သည် ရှေ့သို့ တိုးသွားရမည်၊ သို့ရာတွင် အကယ်၍မွတ်က်တဒီသည် ကျွန်ုပ်တို့ခေတ်တွင် အများအားဖြင့် မတ်စ်အလဟ် နားမလည်သူများမှဖြစ်လျှင် ထိုမွတ်က်တဒီကို နောက်သို့ဆွဲယူရန် မသင့်ပေ၊ နားမလည်မှုဖြင့် 'နမာဇ်' ပျက်စေသော အပြုအမူကို ပြုလိုက်သော် ခက်ပေသည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၀။

၁၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မွတ်က်တဒီသည် အမျိုးသမီး ဖြစ်နေလျှင်လည်းကောင်း၊ အရွယ်မရောက်သေးသော မိန်းကလေး တစ်ယောက် ဖြစ်လျှင်သော်လည်းကောင်း၊ တစ်ယောက်ထက်ပိုနေမူ ၎င်းတို့သည်အေမာမ်၏နောက်မှသာ ရပ်ရမည်၊ ဘေးမှမရပ်ရ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၇၉။

၁၅။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီများသည် ယောကျ်ား, မိန်းကလေးများရှိနေကြမူ အေမာမ်သည် အစီအစဉ်အတိုင်း တန်းစေရမည်၊ ပထမယောကျ်ားများ ထို့နောက် အရွယ်မရောက်သေးသော ယောကျ်ားလေးများ၊ ထို့နောက် အမျိုးသမီးများ၊ ထို့နောက် အရွယ်မရောက်သေးသော မိန်းကလေးများ စသည်ဖြင့်ရှေ့, နောက် ရပ်ကြစေရမည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၀။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် အတန်းကို ညီစွာတန်းကြစေရမည်၊ လူတို့ ရှေ့, နောက် မညီမညာ ဖြစ်ခြင်းကို တားမြစ်၍ ညီစွာတန်းရန် အမိန့်ပေးရမည်၊ တန်းကြရာတွင် တစ်ယောက်နှင့် တစ်ယောက် နီးကပ်စွာရပ်ရမည်၊ နေရာလွတ်မကျန်စေရန် ဂရုစိုက်ကြရမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၇၀။

၁၇။ မတ်စ်အလဟ်ပြဿနာ။ တစ်ယောက်တည်း အတန်း၏နောက်မှ ရပ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်သာမက ရှေ့တန်းမှ လူတစ်ယောက်ကိုဆွဲယူ၍ မိမိနှင့်အတူ ရပ်စေရမည်၊ သို့သော် ဆွဲယူခြင်းဖြင့် ထိုသူသည်မိမိ၏ 'နမာဇ်' ကိုဖျက်ပစ်လိုက်မည်၊ ၎င်းစိတ်ဆိုးမည်ဖြစ်သော် ဆွဲမယူဘဲ နေရမည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၆၀။

မှတ်ချက်။ ။ဤသို့ ဆွဲယူရာတွင် နှစ်ဦးနှစ်ဝ 'မဟ်စ်အလဟ်' နားလည်ကြရန် အရေးကြီးသည်၊ ယခုခေတ်တွင် မတ်စ်အလဟ် နားလည်မှုနည်းပါးသဖြင့် နောက်သို့ မဆွဲဘဲ နေရမည်။

၁၈။ မတ်စ်အလဟ်ပြဿနာ။ 'မွတ်က်တဒီ' သည်ပထမအတန်းတွင် နေရာရှိပါလျက် နောက်တွင် ရပ်ခြင်း မတ်က်ရူးဟ်ဖြစ်သည်၊ ဟုတ်ပါ၏၊ ရှေ့တန်းတွင်ပြည့်နေသော် နောက်တန်းတွင် ရပ်နိုင်သည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၂၁၁။

၁၉။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားသည် အမျိုးသမီးတို့အား အေမာမတ် ပြုပေးရာတွင် အခြားယောကျ်ားသော်လည်းကောင်း၊ မဟ်ရမ်, ဇနီး, မိခင်, အစ်မ, နှမ စသည် မရှိပါက မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်၊ဟုတ်ပါ၏၊ အကယ်၍ယောကျ်ားတစ်ဦးဦး၊ ၎င်း မဟ်ရမ် နေကာဟ်မပိုင်သူ အမျိုးသမီး တစ်ဦးဦး ရှိနေပါကမဟ်က်ရူးဟ် မဖြစ်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၃။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဖွဂျ်ရ်၊ မဂ်ရစ်ဗ်အေရှာအ် ဖွရ်သွ် 'နမာဇ်' တစ်ခုခုကို တစ်ယောက်တည်း တိုးတိုးစွာ ဖတ်နေသည်၊ ထိုအဖြစ်၌ တစ်ဦးသောသူက ထိုသူအား အစ်က်တေဒါပြုသော် ဖြစ်ရပ်နှစ်ခု ရှိပေသည်။

ပထမ အဖြစ်မှာ ထိုသူသည်'နမာဇ်'ဂျမာအတ် နှင့်ဖြစ်သွားရန်အတွက် ယခုကျွန်ုပ်အေမာမ် ဖြစ်ပြီဟု စိတ်၌စွဲယူမှုပြုလျှင်။

ဒုတိယအဖြစ်မှာ စိတ်၌စွဲယူမှုမပြုသည်သာမက ဤသူ ကျွန်ုပ်နောက်မှလာရပ်သော်လည်း ကျွန်ုပ် အေမာမ်မဟုတ် တစ်ယောက်တည်း ဖတ်နေသည်ဟုယူဆလျှင်။

သို့ရှိရာ ပထမအဖြစ်၌ ထိုသူသည် ထိုအချိန်မှစပြီး ကေရာအတ်ကို အသံနှင့်ဖတ်ရန် 'ဝါဂျစ်ဗ်'ဖြစ်သွားသည်၊ အကယ်၍ စူရဟ် ဖွာတေဟာဟ်၊ ၎င်းစူရဟ် တစ်ခုခုကို တိုးတိုးဖတ်နေမှုကျန်သော စူရဟ်ကိုအသံနှင့်ဖတ်ရမည်၊ အဘယ့်ကြောင့်ဆိုသော 'အေမာမ်'မှာ ဖွဂျ်ရ်, မဂ်ရစ်ဗ်, အေရှာအ်တွင် ကေရာအတ်ကို အသံနှင့်ဖတ်ရန် ဝါဂျစ်ဗ် ဖြစ်သည်၊ဒုတိယအဖြစ်မှာ အသံနှင့် ကေရာအတ်ဖတ်ရန် 'ဝါဂျစ်ဗ်' မဟုတ်ပေ၊ ၎င်းထိုမွတ်က်တဒီ၏ 'နမာဇ်'လည်း ပိုင်သွားသည်၊ အဘယ့်ကြောင့်ဆိုသော်'နမာဇ်'ပိုင်ရန်မွတ်က်တဒီအတွက် အေမာမ်က နီယတ်ပြုရန် အရေးမကြီးပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၇၉။

မှတ်ချက်။ ။ဤမတ်စ်အလဟ်သည် 'ဒွရ်ရေ့မွခ်တာရ်' ကျမ်းတွင် ပါရှိသည်၊ ၎င်းကွဲလွဲမှု အဆိုများရှိသည်၊ သို့သော် ကျမ်းပြုပုဂ္ဂိုလ်က သာသောအဆိုကို တင်ပြခြင်းပင် ဖြစ်သည်။

၂၁။ မတ်စ်အလဟ်ပြဿနာ။ အေမာမ် သည်လည်းကောင်း၊ မွန်ဖွရစ်ဒ်သည်လည်းကောင်း အိမ်တွင်ဖြစ်စေ၊ ကွင်းပြင်၌ဖြစ်စေ 'နမာဇ်' ဖတ်မူ မိမိ၏ ဝဲယာ မျက်ခုံး တစ်ဘက်ရှေ့တွင် တစ်တောင်လည်းကောင်း သို့မဟုတ် ထိုထက်ရှည်သော လက်ချောင်း တစ်ချောင်းခန့်တုပ်သော အရာတစ်ခုခုကို ထောင်ထားရမည်၊ ဟုတ်ပါ၏ အကယ်၍ဗလီဝတ်ကျောင်းတော်၌နမာဇ်ဖတ်လျှင် ၎င်း 'နမာဇ်' ဖတ်ရာတွင် ရှေ့မှ ဖြတ်သွားခြင်းမရှိသောနေရာတွင် ဖတ်ပါက ရှေ့မှအရာတစ်ခုခု ထောင်ထားရန် မလိုပေ၊ ၎င်းအေမာမ်၏ 'စွတ်ရဟ်' အရာတစ်ခုခု ထောင်ထားခြင်းသည် မွတ်က်တဒီ အားလုံးအတွက် လုံလောက်လေသည်၊ 'စွတ်ရဟ်' ထောင်ပြီးနောက်တစ်ဦးဦးသည် 'စွတ်ရဟ်'၏ရှေ့မှဖြတ်သွားလျှင် ကိစ္စမရှိပေ၊ သို့သော် စွတ်ရဟ်အတွင်းမှ ဖြတ်သွားလျှင် 'ဂိုနာဟ်ဂါရ်' ဖြစ်မှုများ ကျူးလွန်သူဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၁၃။

၂၂။ မတ်စ်အလဟ်ပြဿနာ။ ဂျမာအတ်၌ ဝင်ရောက်ပြီးနောက်မှ ရကအတ်အချို့ပျက်သွားသူကို 'လာဟစ်က်' ဟုခေါ်သည်၊ အသိရ်ကြောင့် ပျက်သည်ဖြစ်စေ၊ ဥပမာ 'နမာဇ်' အတွင်း၌ အိပ်ပျော်သွားသည်၊ ထိုသို့အိပ်ပျော်စဉ်အတွင်း ရကအတ် စသည် လွတ်သွားသည်၊ ၎င်းလူတို့ များပြားလွန်းသဖြင့် ရိုကူအ်၊ စစ်ဂျဒဟ် စသည် မပြုနိုင်၍ ဝိုသွူပျက်သွားသည်၊ ဝိုသွူပြုရန် သွားနေစဉ် ရကအတ်အချို့ လွတ်သွားသည်၊ ('နမာဇ်'ခေါင်ဖ်တွင် ပထမအသုတ်သည် 'လာဟစ်က်' ဖြစ်သည်၊ ဤသို့ပင် မုကီးမ်မြို့နေသည်၊ မို့စာဖွင်ရ် ခရီးသည်နောက်မှ အစ်က်တေဒါပြုပြီး မို့စာဖွင်ရ်က 'ကစ္စာရ်' ဖတ်မူ အေမာမ်က 'နမာဇ်' အဆုံးသပ်ပြီး မွတ်က်တဒီက ဆက်၍ ဖတ်ခြင်းလည်း 'လာဟစ်က်' ပင် ဖြစ်သည်။) ၎င်းအသိရ်မရှိဘဲလွတ်သွားလျှင် ဥပမာအေမာမ်၏အလျှင် ရကအတ်တစ်ခုခု၏ ရိုကူအ်၊ စစ်ဂျဒဟ်ကို အလျှင်ပြုမိလျှင် ထိုအလျှင်ပြုမိသော ရကအတ်ကို မရလိုက်ဟုယူဆရမည် ဖြစ်သည့်အတွက် ထိုရကအတ်၌ ထိုသူသည် 'လာဟစ်က်' ဖြစ်သည်ဟု ယူဆရမည်။

သို့ရှိရာ 'လာဟစ်က်' သည် မိမိလွတ်သွားသော ရကအတ်များကို ဖတ်ရမည်၊ လွတ်သွားသော ရကအတ်များကို ဖတ်ပြီးနောက် အကယ်၍ ဂျမာအတ် ကျန်ရှိနေမူ ဂျမာအတ်တွင် ရောရမည်၊ သို့တည်းမဟုတ်ပါက ကျန်'နမာဇ်'ကိုပြည့်စုံအောင်ဖတ်ရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၆။

၂၃။ မတ်စ်အလဟ်ပြဿနာ။ 'လာဟစ်က်' သည် မိမိလွတ်သွားသော ရကအတ်များတွင် မွတ်က်တဒီပင် ဖြစ်သည်၊ ဆိုလိုသည်မှာ မွတ်က်တဒီသည် ကေရာအတ် မဖတ်ရသကဲ့သို့ လာဟစ်က်သည်လည်း ကေရာအတ် မဖတ်ရသာမက တိတ်ဆိတ်စွာ ရပ်နေရမည်၊ ၎င်းမွတ်က်တဒီသည် 'စဟ်ဝ်' ဖြစ်သော် စစ်ဂျဒဟ်စဟ်ဝ် မပြုရသကဲ့သို့လာဟစ်က်မှာလည်း 'စစ်ဂျဒဟ်စဟ်ဝ်' ပြုရန်မလိုပေ။

၂၄။ မတ်စ်အလဟ်ပြဿနာ။ မတ်စ်ဘူးက် (၁-၂) ရကအတ် လွတ်သွားသူသည် ပထမ အေမာမ်နှင့်ရော၍ ကျန်သမျှကို ဂျမာအတ်ဖြင့် ဖတ်ရမည်၊ အေမာမ်က ပြီးဆုံး၍ 'နမာဇ်' အဆုံးသတ်လိုက်သောအခါ မိမိမရခဲ့သော ရကအတ်တို့ကို ထ၍ဖတ်ရမည်။

ရှရ်ဟွတ်တန်ဇီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၆။

၂၅။ မတ်စ်အလဟ်ပြဿနာ။ မတ်စ်ဘူးက်သည် မိမိလွတ်ခဲ့သော ရကအတ်များတွင် မွန်ရဖွစ်ဒ်ကဲ့သို့ 'ကေရာအတ်' ဖတ်ရန်ထိုက်သည်၊ အကယ်၍ မတ်စ်ဘူးက်သည် ထိုရကအတ်များ၌ ဧဟ်ဝ် ဖြစ်ခဲ့သော် စစ်ဂ်ျဒဟ် ဧဟ်ဝ် ပြုရန်အရေးကြီးသည်။

ရှရ်ဟွတ်တန်ဇီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၆။

၂၆။ မတ်စ်အလဟ်ပြဿနာ။ 'မတ်စ်ဘူးက်' သည် မိမိလွတ်ခဲ့သော ရကအတ်များကို အစီအစဉ်အတိုင်း ဖတ်ရန်ထိုက်သည်၊ ပထမ ကေရာအတ်ဖတ်ပြီးမှ ကေရာအတ် မဖတ်ရသော ရကအတ်ကို ဖတ်ရမည်၊၊ ၎င်းအေမာမ်နှင့်အတူ ဖတ်ပြီးသော ရကအတ်များကိုတွက်၍ ကအ်ဒဟ် ထိုင်ရမည်၊ ဆိုလိုသည်မှာ ထိုရကအတ်များကိုတွက်၍ ဒုတိယ ရကအတ်ဖြစ်လျှင် ထိုရကအတ်တွင် ပထမ ရကအတ်ထိုင်ရမည်၊ တတိယ ရကအတ်ဖြစ်မူ နမာဇ် ကလည်း (၃) ရကအတ် 'နမာဇ်'ဖြစ်သော် ထိုရကအတ်၌ နောက်ဆုံး ကအ်ဒဟ် ထိုင်ရမည်၊ ဤနည်းလမ်းအတိုင်း ဖတ်ကြရမည်။

ဥပမာ။ ။ဇွဟ်ရိန်မာဇ်ဇွင်(၃) ရကအတ် ရပြီးနောက်မှ ဝင်ရောက်သော်ထိုသူသည် အေမာမ် စလာမ် လှည့်ပြီးနောက် ထ၍ ကျန်(၃)ရကအတ်ကို ဤနည်းလမ်းအတိုင်း ဖတ်ရမည်၊ ပထမ ရကအတ်တွင် စူရဟ်ဖွာတေဟာဟ်နှင့် စူရဟ် တွဲ၍ ဖတ်ပြီးကာ ရိုကူအ် စစ်ဂ်ျဒဟ် ပြုပြီး ကအ်ဒဟ် ထိုင်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဤရကအတ်သည် အေမာမ်နှင့် ရလိုက်သော ရကအတ်နှင့် ပေါင်းသော် ဒုတိယ ရကအတ်ဖြစ်သည်၊ ထို့နောက် ဒုတိယ ရကအတ်တွင် စူရဟ် ဖွာတေဟာဟ်ဖတ်ပြီး စူရဟ် တွဲရမည်၊ ကအ်ဒဟ် မထိုင်ရ၊ အဘယ့်ကြောင့်ဆိုသော် ဤရကအတ်သည် အေမာမ်နှင့်ရပြီး ရကအတ်နှင့်ပေါင်းသော် တတိယ ရကအတ်ဖြစ်နေသည်၊ ထို့နောက် တတိယ ရကအတ်တွင် စူရဟ် ဖွာတေဟာဟ် ဖတ်ရမည်၊ စူရဟ် မတွဲရ၊ အဘယ့်ကြောင့်ဆိုသော် ဤရကအတ်သည် ကေရာအတ် ဖတ်ရန်မဟုတ် ထိုရကအတ်ပြီးလျှင် ကအ်ဒဟ်ထိုင်ရမည်၊ ဤကအ်ဒဟ်သည် နောက်ဆုံး ကအ်ဒဟ် ဖြစ်သည်။

ရှရ်ဟွတ်တန်ဇီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-ဂ၆။

၂၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် 'လာဟေစ်က်'နှင့် မတ်စ်ဘူးက် နှစ်မျိုးစလုံးဖြစ်နေလျှင် ဝမာဆိုသော် အေမာမ်က ရကအတ် အချို့ပြီးမှ ဝင်ရောက်သည်၊ ဝင်ရောက်ပြီး နောက်လည်း ရကအတ် အချို့လွတ်လျှင် ထိုသူသည်

လာဟစ်က် ဝင်ရောက်ပြီးမှ လွတ်သော ရကအတ်များ ဖတ်ရမည်၊ သို့သော်ထိုရကအတ်များကိုဖတ်ရာ၌ အေမာမ်၏နောက်မှ ဖတ်နေသကဲ့သို့ နေရမည်၊ ဆိုလိုသည်မှာ ကေရာအတ် မဖတ်ရ၊ ၎င်းအေမာမ်၏ အစီအစဉ်ကို ဂရုစိုက်ရမည်၊ ထို့နောက် ဂျမာအတ်ကျန်နေသေးသော် ဂျမာအတ်သို့ ဝင်ရမည်၊ သို့တည်းမဟုတ်ပါက ကျန်'နမာဇ်'ကိုဖတ်လိုက်ရမည်၊ ထို့နောက် မတ်စ်ဘူးက်အဖြစ်နှင့် လွတ်ခဲ့သော ရကအတ်များကို ဖတ်ရမည်။

ဥပမာ။ အတ်စွ်ရ် နမာဇ် တစ်ရကအတ် ရပြီးနောက် လူတစ်ယောက် ဝင်လာသည်၊ ဝင်ပြီးနောက် ဝိုသွူ ပျက်သွားသည်၊ ဝိုသွူပြုရန် သွားနေစဉ် 'နမာဇ်' ပြီးဆုံးသွားသော် ထိုသူသည် ဝင်ပြီးမှ လွတ်သွားသော (၃) ရကအတ်ကို မွတ်က်တဒီ ကဲ့သို့ အလျှင်ဖတ်ရမည်၊ ပြီးနောက် မမှီခဲ့သော ရကအတ်ကို ဖတ်ရမည်၊ ဆိုလိုသည်မှာ ကေရာအတ် မဖတ်ရ။

ထို (၃) ရကအတ် ဖတ်ရာတွင် ပထမ ရကအတ်ပြီးသော် ကအ်ဒဟ် ထိုင်ရမည်၊ အဘယ့်ကြောင့်ဆိုသော်ဤသည်မှာ'အေမာမ်'၏ ဒုတိယရကအတ်ဖြစ်သည်၊၎င်းအေမာမ်က ထိုရကအတ်တွင် ထိုင်ခဲ့သည်၊ ထို့နောက် ဒုတိယ ရကအတ်တွင် ကအ်ဒဟ် မထိုင်ရ၊ အဘယ့်ကြောင့်ဆိုသော် ဤသည်မှာ အေမာမ်၏ တတိယ ရကအတ် ဖြစ်သည်၊ထို့နောက် တတိယ ရကအတ် တွင် ကအ်ဒဟ် ပြုရမည်၊ အဘယ့်ကြောင့်ဆိုသော် ဤသည်မှာ အေမာမ်၏ စတုတ္ထ ရကအတ် ဖြစ်သည်၊ ထိုရကအတ်တွင် အေမာမ်က ကအ်ဒဟ် ပြုခဲ့သည်၊ ထို့နောက် လွတ်ခဲ့သော တစ်ရကအတ် ဖတ်ရမည်၊ ထိုရကအတ် ပြီးနောက်လည်း ကအ်ဒဟ် ထိုင်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဤသည်မှာ ၎င်းသူ၏ စတုတ္ထ ရကအတ် ဖြစ်သည်၊ ထိုရကအတ်တွင် ၎င်းသူသည် ကေရာအတ် ဖတ်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ထိုရကအတ်တွင် ၎င်းသူသည် မတ်စ်ဘူးက် ဖြစ်သည်၊ ၎င်းမတ်စ်ဘူးက်သည် ကျန်ရကအတ်များကို ဖတ်ရာ၌ မွန်ဖွရစ်ဒ် တစ်ယောက်တည်းဖတ်သူနှင့် အမိန့်အတိုင်းပင် ဖြစ်ပေသည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၇၉ ။

၂၈။ မတ်စ်အလဟ်ပြဿနာ။ 'မွတ်က်တဒီ'တို့သည် 'ရကွန်'ဟူသမျှတွင်အေမာမ်နှင့်အတူ မဆိုင်းမတွပြုခြင်း စွန္နတ် ဖြစ်သည်၊ တက်ဗ်ရီမဟ် ကိုလည်း အေမာမ်၏ တက်ဗ်ရီမဟ်နှင့်အတူ ပြုရမည်၊ ရှိကူအ်, ကောင်မဟ်, စစ်ဂျဒဟ် တို့တွင်လည်း အေမာမ်နှင့်အတူ ပြုကြရမည်၊ အချုပ်မှာ... ပြုမူချက်များကို အေမာမ်နှင့်အတူ ပြုကြရမည်၊ ဟုတ်ပါ၏ အကယ်၍ ပထမ ကအ်ဒဟ်တွင် မွတ်က်တဒီများ အတ်တဟိယာတ်မဆုံးမီ အေမာမ်က ထသွားလျှင် မွတ်က်တဒီများသည် အတ်တဟိယာတ် ဆုံးအောင်ဖတ်ပြီးမှထကြရမည်။

ဤသို့ပင် နောက်ဆုံး ကအ်ဒဟ်၌ အကယ်၍ အေမာမ်သည် မွတ်က်တဒီများ အတ်တဟိယာတ် မဆုံးမီ စလာမ်လှည့်လိုက်သော် မွတ်က်တဒီများသည် အတ်တဟိယာတ်

ဆုံးအောင်ဖတ်ပြီးမှ စလာမ်လှည့်ကြရမည်၊ ဟုတ်ပါ၏ အကယ်၍ ရိုကူအ်, စစ်ဂျဒ်ဟ် စသည်များ၌ မှတ်ကတ်တဒီ များသည် တတ်စ်ဗီးဟ် မဖတ်ရသေးသော်လည်း အေမာမ်က ထ,လျှင် အေမာမ်နှင့်အတူ ထကြရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၃၉။

မှတ်ချက်။ အကယ်၍ ပထမကအ်ဒဟ်၌ အေမာမ်သည်ထ၍ ရိုကူအ်သို့ သွားမည် ထင်လျှင် ဤထင်သကဲ့သို့ပင် ဖြစ်ခဲ့သော် မှတ်ကတ်တဒီတို့သည် တရှဟ်ဟုဒ် ပြီးနောက် တတ်စ်ဗီးဟ် (၃) ကြိမ်ခန့် ကေယာမ်ရပ်၍ ရိုကူအ်သို့ လိုက်ရမည်၊ ဤသို့အစဉ်လိုက် အရ်ကာန် များကို လိုက်နာရမည်၊ အေမာမ်ကို မည်မျှကြာမှ သွားရောက် ဆုံသည်ဖြစ်စေကိစ္စ မရှိ၊ ဤသို့နောက်ကျ၍လိုက်ခြင်းဖြင့် အစ်ကတေဒါ၏ နည်းဥပဒေနှင့်ဆန့်ကျင်မှုမဖြစ်ပေ၊ အဘယ့်ကြောင့်ဆိုသော် အစ်ကတေဒါသည် အေမာမ်နှင့် အတူတကွ လိုက်၍ ပြုခြင်းကို ခေါ်သကဲ့သို့ နောက်ချန်၍ လိုက်ခြင်းကိုလည်း ခေါ်ပေသည်၊ အေမာမ်၏အလျင်ပြုခြင်း သည်သာ အစ်ကတေဒါနှင့် ကွဲလွဲသည်။

# ဂျမာအတ်၌ ဝင်သင့် မဝင်သင့်သော မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည်မိမိအရပ်၊ ၎င်းအိမ် အနီးရှိဗလီဝတ်ကျောင်းတော်မှာ ဂျမာအတ်ပြီးမှ ရောက်သွားလျှင်ထိုသူသည် အခြား ဗလီ၌ ဂျမာအတ် ရရန် ရှာဖွေသွားရောက်ခြင်း မုတ်စ်တဟဗ် ဖြစ်သည်၊ ၎င်းမိမိအိမ်သို့ ပြန်လာပြီး အိမ်ရှိလူများကိုစု၍ ဂျမာအတ်ပြုကာ ဖတ်ပိုင်ခွင့်လည်း ရှိပေသည်။

ကဗီရီကျမ်း စာမျက်နှာ-၅၆၉။

ဘဟ်ရွရ်ရာအစ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၄၇။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် မိမိအိမ်၌ 'ဖွရ်သွ' 'နမာဇ်'ကို တစ်ယောက်တည်း ဖတ်ပြီးနေသည်၊ ၎င်းထို 'ဖွရ်သွ' နမာဇ်ပင် ဂျမာအတ် ဖြစ်နေသည်ကို မြင်တွေ့ရမှု ထိုသူသည် ထိုဂျမာအတ်သို့ဝင်၍ ဖတ်ရန်ထိုက်သည်၊ သို့သော် ဇွဟ်ရ်အေရှာအ် 'နမာဇ်' ဖြစ်စေရမည်၊ ၎င်းဖွဂျ်ရ်, အတ်စွရ်, မဂ်ရစ်ဗ်'နမာဇ်'များတွင် တစ်ယောက်တည်းဖတ်ပြီးနေက ဂျမာအတ်သို့ဝင်ဖတ်ရန်မထိုက်၊ အဘယ့်ကြောင့်ဆိုသော် ဖွဂျ်ရ်, အတ်စွရ် 'နမာဇ်'၏နောက် နဖ်လ်ဖတ်ခြင်း မတ်ကရူးဟ် ဖြစ်သည်၊ ၎င်း 'မဂ်ရစ်ဗ်' မှာကား ဝင်ဖတ်သော 'နမာဇ်' သည် နဖ်လ် ဖြစ်မည် ဖြစ်လေရာ နဖ်လ်သည်(၃)ရကာအတ် မရှိပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၄၇။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ် တစ်ဦးသောသူသည် 'ဖွရ်သွ' နမာဇ်ကို ဖတ်လိုက်သည်၊ ထိုအချိန်၌ 'ဖွရ်သွ' နမာဇ်သည် ဂျမာအတ်ဖြစ်မှုအကယ်၍ ထိုဖွရ်သွသည်

ဖွဂ်ျရ်ကဲ့သို့ ၂-ရကအတ်ဖြစ်သော် အမိန့်မှာ... အကာယ်၍ ပထမ ရကအတ်ကို စစ်ဂျ်ဒဟ် မပြုသေးလျှင်၊ ဖျက်၍ ဂျမာအတ်တွင်ပါဝင်ရမည်၊ ပထမရကအတ်၏ စစ်ဂျ်ဒဟ်ပြုပြီး၍ ဒုတိယ ရကအတ်ကို စစ်ဂျ်ဒဟ် မပြုရသေးလျှင်လည်း ဖျက်ပြီး ဂျမာအတ်တွင် ပါဝင်ရမည်၊ အကာယ်၍ ဒုတိယရကအတ်၏ စစ်ဂျ်ဒဟ်ပြုပြီးနေလျှင် ၂-ရကအတ်စလုံးကို ပြည့်စုံအောင် ဖတ်လိုက်ရမည်။

အကာယ်၍ထိုဖွရ်သွ်သည် မဂ်ရစ်ဗ်ကဲ့သို့ ၃-ရကအတ်ဖြစ်လျှင် အမိန့်မှာ....အကာယ်၍ ဒုတိယ ရကအတ်၏ စစ်ဂျ်ဒဟ် မပြုရသေးသော် ဖျက်၍ ဂျမာအတ်တွင် ဝင်ရမည်၊ ၎င်းပြင် ဒုတိယ ရကအတ်၏ စစ်ဂျ်ဒဟ်ပြုပြီးလျှင် မိမိ၏နမာဇ်ကို ပြည့်စုံအောင်ဖတ်လိုက်ရမည်၊ ပြီးနောက် ဂျမာအတ်သို့ မဝင်ရ၊ အဘာယ် ကြောင့်ဆိုသော် နဖ်လ် နမာဇ်သည် ၃-ရကအတ် မပိုင်ပေ။

အကာယ်၍ ထိုဖွရ်သွ်သည်ဇွဟ်ရ်၊ အတ်စွ်ရ်၊ အေရှာအ် ကဲ့သို့ ၄-ရကအတ်ဖြစ်လျှင် အကာယ်၍ ပထမ ရကအတ်တွင် စစ်ဂျ်ဒဟ် မပြုသေးသော် ဖျက်လိုက်ရမည်၊ ၎င်းစစ်ဂျ်ဒဟ် ပြုပြီးသော် ၂-ရကအတ်ပြည့်အောင်ဖတ်ပြီး၊ အတ်တဟိယာတ် စသည်ဖတ်၍ စလာမ် လှည့်ပြီး ဂျမာအတ်တွင်ဝင်ရမည်၊ ၎င်းပြင် အကာယ်၍ တတိယရကအတ်စပြီး ထိုအတွက် စစ်ဂျ်ဒဟ်မပြုရသေးသော် ဖျက်လိုက်ရမည်၊ အကာယ်၍ တတိယရကအတ်တွင် စစ်ဂျ်ဒဟ် ပြုပြီးသော် ပြည့်စုံအောင် ဖတ်ရမည်။

နမာဇ်ကို ပြည့်စုံအောင်ဖတ်လိုက်ရသော အဖြစ်များ၌ မဂ်ရစ်ဗ်၊ ဖွဂ်ျရ်၊ အတ်စွ်ရ် နမာဇ်များတွင် ဂျမာအတ် သို့ မဝင်ရ၊ ၎င်း ဇွဟ်ရ်၊ အေရှာအ် တွင် ဂျမာအတ် သို့ ဝင်ရမည်၊ ၎င်းပြင် နမာဇ်ဖျက်ရသောအဖြစ်များ၌ ရပ်လျက်ပင် စလာမ်တစ်ဖက်လှည့်လိုက်ရမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၆၀၊ ၁၆၁။

၄။ မတ်စ်အလဟ် ပြဿနာ။ အကာယ်၍ တစ်ဦးသောသူသည် နဖ်လ်နမာဇ် အပြုလိုက်သည်၊ ၎င်းဖွရ်သွ် နမာဇ် ဂျမာအတ်ဖြစ်နေမူ၊ နဖ်လ် နမာဇ်ကို မဖျက်ရသည်သာမက အကာယ်၍ ၄-ရကအတ် အတွက် နိယတ်ပြုထားလျှင် ၂-ရကအတ်နှင့် စလာမ် လှည့်ပြီး ဂျမာအတ်သို့ ဝင်ရမည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၀။

၅။ မတ်စ်အလဟ် ပြဿနာ။ ဇွဟ်ရ် နှင့် ဂျုံ မိုအဟ် ၏ စွန္နတ်မုအတ်ကဒဟ်ကို အစပြုပြီးနောက် ဖွရ်သွ်ကလည်းဖြစ်နေမူ 'ဇွာဟင်ရ်မသဟဗ်' ထင်ရှားသော အဆိုမှာ ၂-ရကအတ်ပင် ဖတ်၍ ဂျမာအတ်သို့ဝင်ရမည်၊ ၎င်းပြင် အချို့ဖွေကဟ်ရှင်တို့၏ အဆိုမှာ ၄-ရကအတ် ပြည့်အောင်ဖတ်ရမည်၊ အကာယ်၍ တတိယ ရကအတ်ကို အစပြုမိလျှင်ကား ၄-ရကအတ် အပြည့်ဖတ်ရန် အရေးကြီးသည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၂၀။

၆။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဖွရ်သွ်နမာဇ် ဖတ်နေသော် ရကအတ်အချို့လွတ်သွားမည်ကိုစိုးက စွန္နတ် စသည်များမဖတ်ရ။ ဟုတ်ပါ၏၊ အကယ်၍ မည်သည့်ရကအတ်မှ လွတ်မည်မဟုတ်ဟု ယုံကြည်လျှင်၊ အထင်များလျှင် ဖတ်နိုင်သည်။

ပမာဆိုသော် ဇှုဟ်ရ်နမာဇ်၏ ဖွရ်သွ် စနေရာ စွန္နတ်ဖတ်ပါက ရကအတ်အချို့လွတ်သွားမည်ကိုစိုးရသော် ဖွရ်သွ်အလျင်ဖတ်ရသော စွန္နတ်မုအတ်ကကဒဟ်များကို လွတ်လိုက်ရမည်၊ ထို့နောက် ဇှုဟ်ရ်နှင့် ဂျို့မို့အဟ်တွင် ဖွရ်သွ် ပြီးနောက် အကောင်းဆုံးမှာ စွန္နတ်မုအတ်ကကဒဟ်များကို ပထမ ဖတ်လိုက်ပြီး ထိုလွတ်ခဲ့ရသော စွန္နတ်များကိုနောက်မှ ဖတ်ရမည်၊ ဆိုသော် ဖွဂျ်ရ်၏ စွန္နတ်သည် မြင့်မားသော မုအတ်ကကဒဟ် ဖြစ်သည်၊ ထို့ကြောင့် ဖွရ်သွ် စနေသော်လည်း ဂျမာအတ်နှင့်တစ်ရကအတ်ရနိုင်မည်ဖြစ်ပါက စွန္နတ်ကိုဖတ်ရမည်၊ အကယ်၍တစ်ရကအတ်ပင် မရနိုင်ခဲ့သော် လွတ်လိုက်ရမည်၊ အကယ်၍ ဖတ်လိုလျှင် နေထွက်ပြီးနောက် ထိုစွန္နတ်ကို ဖတ်ရမည်။

မှတ်ချက်။ အေမာမ်အာဇှုဟနီဖွာဟ် နှင့် အေမာမ်အာဇှုယူစွဖ် (ရဟမတုလ္လာဟ်) သခင်နှစ်ပါးထံတွင် ဖွဂျ်ရ်နမာဇ်ပြီးနောက် လွတ်သွားသော စွန္နတ်ကို ဖတ်ပိုင်ခွင့် မရှိတော့ပေ၊ ဤသည်မှာ အမှန်ဆုံး အဆိုဖြစ်သည်။

ရှရိဟ်ဝေကာယဟ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၂၁၂။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ဖွဂျ်ရ် ၏ စွန္နတ်ကို ဖတ်နေရာတွင် စွန္နတ် မွတ်စ်တဟဗ် စသည်များကို ဂရုတစ်စိုက် ပြုမူနေပါက ဂျမာအတ် လွတ်သွားမည်ဖြစ်သော်ဖွရ်သွ် ဝါဂျစ်ဗ်များကိုသာ ပြုမူပြီး စွန္နတ် စသည်များကို လွတ်ပစ်လိုက်ရမည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၇။

၈။ မတ်စ်အလဟ် ပြဿနာ။ ဖွရ်သွ်နမာဇ် ဂျမာအတ်ဖြစ်သောအခါ ဖွဂျ်ရ်၏ စွန္နတ်ဖြစ်စေ၊ အခြား စွန္နတ်များဖြစ်စေ ဖတ်မူ၊ ဗလီ ဝတ်ကျောင်းတော်၏ အပြင်တစ်ခြားသောနေရာတွင် ဖတ်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ဖွရ်သွ် နမာဇ် ဖြစ်သောနေရာတွင် အခြားသော နမာဇ်ဖတ်ခြင်း မတ်ကရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ ၎င်းအကယ်၍ ဤသို့ သီးခြားသောနေရာ မရမူ၊ အတန်းနှင့်တစ်ခြား ဗလီ၏ ဒေါင့်တစ်ဒေါင့်တွင် ဖတ်ရမည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၇။

၉။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရကအတ်များ မရဘဲ ဂျမာအတ်၏ ကအ်ဒဟ်ကို မီလိုက်မူလည်း ဂျမာအတ်၏ အကျိုးသဝါဗ် ရပေမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၆၂။

၁၀။ မတ်စ်အလဟ် ပြဿနာ။ အေမာမ် နှင့် အတူ ရိုကူအ်ကို မီလိုက်လျှင် ထိုရကအတ် ရသည်ဟု ရည်တွက်ရမည်။ ဟုတ်ပါ၏၊ အကယ်၍ ရိုကူအ်ကို မမီလိုက်လျှင် ထိုရကအတ်ကို ရသည်ဟု မရည်တွက်ရပေ။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၉။

# နမာဇ် ပျက်စေသော အရာများ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ နမာဇ်ဖတ်နေသောအခါဖြစ်၍ မိမိအေမာမ်အပြင် အခြားသူကို 'လွှတ်က်မဟ်' ပေးခြင်း၊ ဆိုလိုသည်မှာ ကုရ်အာန်ကျမ်းတော် အမှားဖတ်သည်ကို ထောက်ခြင်းသည် နမာဇ် ပျက်လေသည်။

သတိပေးချက်။ လွှတ်က်မဟ် ပေးသော မတ်စ်အလဟ်သည် ဖွေကဟ် ကျမ်းရှင်များထံတွင် ကွဲလွဲမှုရှိသည်၊ အချို့ အာလင်မ်များက ဤမတ်စ်အလဟ်နှင့် ပတ်သက်၍ သီးသန့် ကျမ်းငယ်များ ရေးကြသည်၊ ထို့ကြောင့် ဤကိစ္စနှင့်ပတ်သက်ပြီး အနည်းငယ် တင်ပြမည်။

၂။ မတ်စ်အလဟ် ပြဿနာ။ အမှန်မှာဤသို့ရှိသည်၊ မွတ်က်တဒီသည် အကယ်၍ မိမိအေမာမ်ကို 'လွှတ်က်မဟ်'ပေးလျှင် နမာဇ် မပျက်ပေ၊ အေမာမ်သည် လိုအပ်သည်ခန့် ကေရာအတ် ဖတ်ပြီးသည်ဖြစ်စေ၊ မဖတ်သေးသည်ဖြစ်စေ အတူတူ ဖြစ်သည်၊ လိုအပ်သည်ခန့် ဆိုသည်မှာ စွန္နတ်ဖြစ်သော ကေရာအတ်ကို ဆိုလိုရင်းဖြစ်သည်၊ ဤကဲ့သို့ အဖြစ်၌ အကောင်းဆုံးမှာ ရိုကူအ်ပြုလိုက်ရမည်၊ (ဤမတ်စ်အလဟ် ရှေ့တွင်လာမည်)။

၁-မှ ၂-ထိ၊ ကျမ်းညွှန်း.... မွန်ယဟ်ကျမ်း စာမျက်နှာ-၁၁၇။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ- ၁၉၁။

၃။ မတ်စ်အလဟ် ပြဿနာ။ အေမာမ် သည် လိုအပ်သည့် ကေရာအတ်ခန့် ဖတ်ပြီးနေမှု ရိုကူအ်ပြုလိုက်ရမည်၊ မွတ်က်တဒီများကို လွှတ်က်မဟ်ပေးရန် အတင်းအကျပ် မပြုရ၊ (ဤသို့ပြုခြင်း မတ်က်ရူးဟ် ဖြစ်သည်)၊ ၎င်း မွတ်က်တဒီ တို့သည် ပြင်းပြစွာ လိုအပ်မှုမရှိဘဲ အေမာမ်ကို လွှတ်က်မဟ်မပေးရ၊ (ပေးသော် မတ်က်ရူးဟ် ဖြစ်သည်)၊ ပြင်းပြစွာ လိုအပ်မှုဆိုသည်မှာ... အေမာမ်က အမှားဖတ်၍ ရှေ့ဆက်ဖတ်လိုသည်၊ ၎င်း ရိုကူအ်မပြု၊ ၎င်းဆိတ်ဆိတ်ရပ်နေသည်ကို ခေါ်ဆိုသည်၊ အကယ်၍ ပြင်းပြစွာလိုအပ်မှု မရှိဘဲ ထောက်ခဲ့လျှင်လည်း နမာဇ် မပျက်ပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၁။

၄။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ တစ်ဦးသောသူက နမာဇ်ဖတ်သူကို 'လွှတ်က်မဟ်' ပေးသည်၊ ၎င်းလွှတ်က်မဟ် ပေးသူသည် ထိုသူ၏ မွတ်က်တဒီ မဟုတ်၊ ထိုပေးသူသည်နမာဇ်ဖတ်နေသည်ဖြစ်စေ၊မဖတ်ဘဲနေသည်ဖြစ်စေ လွှတ်က်မဟ် ယူခဲ့သော် ယူသော အေမာမ်၏နမာဇ် ပျက်သည်။ ဟုတ်ပါ၏၊ အကယ်၍ ထိုသူမှာ အလိုအလျောက် သတိရလာသည်၊ ထိုအပြင်လူက လွှတ်က်မဟ် ပေးခြင်းနှင့် အတူ သတိရသည် ဖြစ်စေ၊ အလျင် ရသည်ဖြစ်စေ၊ နောက်မှရသည်ဖြစ်စေ ထိုထောက်သော လွှတ်က်မဟ်နှင့်မဆိုင်၊ မိမိအသိအပေါ် ယုံကြည်၍ဖတ်မှု လွှတ်က်မဟ်အပေးခံရသူ၏နမာဇ်တွင် မည်သို့မျှ ပျက်ကွက်မှု မရှိပေ။

ဖွတာဝါ ဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၈။

၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူသည် နမာဇ်ဖတ်နေလျက် မိမိ၏ အေမာမ်မဟုတ်သူကို လွတ်က်မဟ် ပေးခဲ့လျှင်၊ ထိုအပေးခံရသူသည် နမာဇ် ဖတ်နေသည် ဖြစ်စေ၊ မဖတ်ဘဲနေသည်ဖြစ်စေ၊ ထိုလွတ်က်မဟ်ပေးသူ၏ နမာဇ် ပျက်သွားလေသည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၈။

၆။ မတ်စ်အလဟ် ပြဿနာ။ မွတ်က်တဒီသည် အခြားသူဖတ်သည်ကိုကြား၍ သော်လည်းကောင်း၊ ကုရ်အာန်ကျမ်းတော်ကို ကြည့်၍သော်လည်းကောင်း အေမာမ်ကို လွတ်က်မဟ် ပေးမူ ထို မွတ်က်တဒီ ၏ နမာဇ် ပျက်သွားသည်၊ အကယ်၍ အေမာမ်က ထိုလွတ်က်မဟ်ထောက်သည်ကို ယူခဲ့သော် အေမာမ်၏ နမာဇ်လည်း ပျက်သည်၊ အကယ်၍ မွတ်က်တဒီသည် ကုရ်အာန်ကျမ်းတော်မှမြင်၍ ၎င်းအခြားသူဖတ်သည်ကိုကြား၍ ကိုယ်တိုင် သတိရလာလျှင်၊ ၎င်းမိမိသတိရချက်အပေါ် လွတ်က်မဟ် ပေးသော် နမာဇ်မပျက်ပေ။

၇။ မတ်စ်အလဟ် ပြဿနာ။ ဤသို့ပင် အကယ်၍ နမာဇ်ဖတ်နေသောအဖြစ်၌ ကုရ်အာန်ကျမ်းတော်ကိုကြည့်ပြီး အာယတ်တော်တစ်ပုဒ်ဖတ်လျှင်လည်း နမာဇ်ပျက်သည်။ အကယ်၍ကြည့်ဖတ်သောအာယတ်တော်သည် အစကတည်းက အာဂုံရထားပါက နမာဇ် မပျက်ပေ၊ ၎င်းပထမကတည်းက အာဂုံမရ၊ သို့သော် တစ်အာယတ်ထက်လျော့၍ ကြည့်ဖတ်မူ နမာဇ် မပျက်ပေ။

မွန်ယဟ်ကျမ်းစာမျက်နှာ-၁၁၉။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၀။

၈။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး၏ အဆစ် အပိုင်း တစ်ခုသည် အမျိုးသားတစ်ဦး၏ အဆစ်အပိုင်းနှင့် ညီနေလျှင် ဤရှရတွင် များဖြင့် နမာဇ် ပျက်သည်၊ အကယ်၍ အမျိုးသမီးခေါင်းသည် အမျိုးသား၏ခြေနှင့် ညီနေလျှင်လည်း နမာဇ် ပျက်လေသည်၊

၁။ အရွယ် ရောက်နေသော မိန်းမ (အရွယ်ကောင်းဖြစ်စေ၊ အဖွားအိုဖြစ်စေ) ၎င်းအရွယ်မရောက်သေးသော်လည်း သံဝါသ ပြုနိုင်သောအရွယ် ဖြစ်လျှင် နမာဇ် ပျက်သည်၊ အကယ်၍ ငယ်သော မိန်းကလေးသည် နမာဇ်၌အတူရပ်လျှင် နမာဇ် မပျက်ပေ။

၂။ အမျိုးသမီးအမျိုးသားတို့သည် နှစ်ဦးစလုံး နမာဇ်၌ရှိပြီး အညီဖြစ်နေကြသော် နမာဇ်ပျက်သည်၊ သို့ရှိရာ အကယ်၍တစ်ဦးက နမာဇ်ဖတ်နေပြီး တစ်ဦးက နမာဇ် မဖတ်သော် ညီမျှနေခြင်းဖြင့် နမာဇ် မပျက်ပေ။

၃။ အမျိုးသမီး နှင့် အမျိုးသားတို့သည် အလည်တွင် ခြားနားမှု မရှိသော် နမာဇ်ပျက်သည်၊ သို့ရှိရာ အကယ်၍ ကြားတွင် ကန့်လန့်ကာ ရှိသည်၊ ၎င်း 'စွတ်ရဟ်' ခြားနေလျှင်၊ ၎င်း အလည်တွင် လူတစ်ယောက် ချောင်လည်စွာ ရပ်နိုင်လောက်အောင် နေရာလွတ်ရှိသော် နမာဇ် မပျက်ပေ။

၄။ အမျိုးသမီးတွင် 'နမာဇ်' ပိုင်သော ရှရတ္တ မျှားရှိနေပါက အမျိုးသားနှင့် အညီရပ်ခြင်းဖြင့် 'နမာဇ်' ပျက်သည်၊ သို့ရာတွင် အကယ်၍ အမျိုးသမီးသည် ရှုးသွတ်နေသည်၊ ၎င်း'ဟိုင်သ္တ်နေဖွားစ်' ရာသီလာနေသော် ထိုသို့သောသူမက အညီရပ်ခြင်းဖြင့် 'နမာဇ်'မပျက်ပေ၊ အဘယ့်ကြောင့်ဆိုသော် ထိုအဖြစ်မျှား၌ ထိုသူမကို 'နမာဇ်'၌ ရှိသည်ဟု မယူဆနိုင်ပေ။

၅။ ဂျနာဇဟ်'နမာဇ်'မဟုတ်သော'နမာဇ်'မျှားတွင် အမျိုးသမီးက အညီလာရပ်ခြင်းဖြင့်'နမာဇ်'ပျက်သည်၊ သို့ရှိရာ ဂျနာဇဟ်'နမာဇ်'တွင် အညီရပ်ခြင်းဖြင့် 'နမာဇ်' မပျက်ပေ။

၆။ ရက္ကန်တစ်ခုခန့် အညီရပ်သော် နမာဇ်ပျက်သည်၊ ထို့ထက် အညီရပ်ခြင်းမှာ လျော့ခဲ့သော် နမာဇ်မပျက် ပမာဆိုသော် ရိုကူအ် စသည်ပြုနိုင်လောက်သောအချိန်ခန့်ပင် အညီမရပ်ခဲ့သော် ဤမျှ တိုတောင်းသော အချိန်ရပ်ခြင်းဖြင့်'နမာဇ်'မပျက်ပေ။

မှတ်ချက်။ ။နမာဇ်တွင်ရက္ကန်(၄)ခုရှိသည်၊ ကေယာမ်၊ကေရာအတ်၊ စစ်ဂျဒဟ်ရိုကူအ်၊ ရက္ကန် တစ်ခုခန့်ဟု ဆိုသည်မှာ 'စွဗ်ဟာနလ္လာဟ်' (၃)ကြိမ်ဆိုနိုင်သောအချိန်ကို ဆိုလိုသည်။

၇။ နှစ်ဦးစလုံး၏တဟ်ရိမဟ်သည် တစ်မျိုးတည်းဖြစ်နေလျှင် 'နမာဇ်'ပျက်သည်၊ ဆိုလိုသည်မှာ ဤမိန်းမသည် ထိုယောကျ်ား၏ မွတ်က်တဒီ ဖြစ်လျှင်၎င်းနှစ်ဦးစလုံးသည် တတိယလူ၏ မွတ်က်တဒီ ဖြစ်ကြလျှင်။

၈။ အေမာမ်က 'နမာဇ် အစပြုသောအခါ ထိုအမျိုးသမီးအတွက် နိယတ်ပြုလျှင် သို့မဟုတ် ထိုသူမ ဝင်လာသောအခါ အေမာမ်က နမာဇ် ဖတ်ယင်း နိယတ်ပြုသော် အညီရပ်သူ၏ နမာဇ်ပျက်သည်၊ အကယ်၍ အေမာမ်က ထိုသူမအတွက် နိယတ်မပြုလျှင် အညီရပ်ခြင်းဖြင့် နမာဇ်မပျက် သာမက ထိုသူမ၏ နမာဇ်သာလျှင် မပိုင်ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၈။

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အေမာမ်သည် 'ဟဒ်သ်'မသန့်ဖြစ်သွား၍ ကိုယ်စားမလွှဲခဲ့ဘဲ ဗလီအပြင်သို့ ထွက်သွားပါက 'မွတ်က်တဒီ' အားလုံး၏ 'နမာဇ်' ပျက်သွားသည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၅။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်က အေမာမ် မဖြစ်ထိုက်သူကို ကိုယ်စားလွှဲခဲ့သော် ဥပမာ....သူရူး၊ အရွယ်မရောက်သေးသော ကလေး၊ မိန်းမတို့ကို လွှဲခဲ့လျှင် အေမာမ်ရော ကိုယ်စား အလွှဲခံရသူနှင့် အားလုံး၏'နမာဇ်'ပျက်သွားသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၆၁။
အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၅။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အမျိုးသားသည် 'နမာဇ်' ဖတ်နေစဉ်တွင်အမျိုးသမီးကနမ်းရှုံ့ခဲ့သော် ထိုအမျိုးသား၏နမာဇ်မပျက်ပေ၊ဟုတ်ပါ၏၊အကယ်၍အနမ်းခံရခြင်းဖြင့် ထိုသူ့မှာ 'ရှဟ်ဝပ်တ်' ရာဂစိတ်ဖြစ်ပေါ်လာသော် 'နမာဇ်' ပျက်သွားသည်၊ အကယ်၍ အမျိုးသမီးသည် 'နမာဇ်' ဖတ်နေရာ အမျိုးသားက နမ်းရှုံ့ခဲ့သော် အမျိုးသမီး 'နမာဇ်' ပျက်သွားသည်၊ အမျိုးသားက ရာဂစိတ်ဖြင့် နမ်းသည်ဖြစ်စေ၊ ရာဂစိတ်မပါဘဲ နမ်းသည်ဖြစ်စေ၊ အမျိုးသမီးမှာ ထိုနမ်းခြင်းဖြင့် ရာဂစိတ်ပေါ်သည်ဖြစ်စေ၊ မပေါ်ဖြစ်စေ နမာဇ် ပျက်လေ၏။

ကဗီရီကျမ်း စာမျက်နှာ-၄၂၄-၄၂၅။

၁၂။ အကယ်၍ တစ်ဦးသောသူသည် 'နမာဇ်' ဖတ်နေရာ 'နမာဇ်' ဖတ်ယင်းပင် ရှေ့မှ ဖြတ်သွားမည့်သူကို ဟန့်တားလိုလျှင် တားပိုင်ခွင့်ရှိသည်၊ သို့သော် ထိုသို့တားရာ၌ 'အမလ်ကသီရ်' မဖြစ်စေရ၊ အကယ်၍ 'အမလ်ကသီရ်' ဖြစ်ခဲ့သော 'နမာဇ်' ပျက်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၉၇။

# နမာဇ် မတ်ကရူးဟ် ဖြစ်သော အရာများ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ နမာဇ် ဖတ်သောအဖြစ်၌ အဝတ်အထည်ကို ဝတ်ရိုးဝတ်စဉ်နှင့် ကွဲလွဲစွာဝတ်ခြင်း၊ ဆိုလိုသည်မှာ ဝတ်ရိုးထုံးစံအတိုင်း ၎င်းလူရည်မွန်များဝတ်သည့် နည်းလမ်းနှင့် ကွဲလွဲစွာဝတ်မှု မတ်ကရူးဟ် တဟ်ရီမဟ် ဖြစ်သည်၊ ဥပမာတစ်ဦးသောသူသည် စောင်ခြုံသည်၊ အဖျားကို ပခုံးပေါ်တွင်မတင်၊ ၎င်းအင်္ကျီဝတ်ရာတွင် လက်ကို အင်္ကျီလက်တွင် မသွင်းဘဲဝတ်သော် ထိုသို့ ကိုရို့ကားယား ဝတ်ခြင်းဖြင့် နမာဇ် မတ်ကရူးဟ် ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၅။

မှတ်ချက်။ ။စောင်၏အဖျားနှစ်ဘက်ကို ချထားလျှင် မတ်ကရူးဟ် ဖြစ်သည်၊ အကယ်၍ တစ်ဘက်ကိုချ၍ အခြားတစ်ဘက်ကို ပခုံးပေါ် တင်ထားသော် 'နမာဇ်' မတ်ကရူးဟ် မဖြစ်ပေ။

၂။ မတ်စ်အလဟ်ပြဿနာ။ ခေါင်းပေါ် ဦးထုပ်၊ဘောင်းထုပ်မပါဘဲ နမာဇ် ဖတ်လျှင် မတ်ကရူးဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ မိမိကိုယ်ကို နှိမ့်ချခြင်း၊ ကျိုးငယ်ခြင်း နိယတ်ဖြင့်ပြုမူ ကိစ္စမရှိပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၅။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော သူ၏ ဦးထုပ်သော်လည်းကောင်း၊ ဘောင်းထုပ်သည်လည်းကောင်း၊ 'နမာဇ်' ဖတ်ယင်းကျသွားသော် ယူ၍ဆောင်း

လိုက်ခြင်းသည် သာမြတ်သည်၊ အကယ်၍ ကြွယ်ယူကောက်ယူပေါင်းခြင်း, ဆောင်းခြင်းဖြင့် 'အမလ်ကာသီရ်' ဖြစ်မည်ဆိုက မဆောင်းဘဲ ဖတ်ရမည်။

ကဗီရီကျမ်း စာမျက်နှာ-၄၁၉။

၄။ မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားများသည် 'စစ်ဂျ်ဒဟ်' ပြုရာ၌ တတောင်နှစ်ဘက်ကို မြေပေါ်သို့ချထားခြင်း မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၉၉၊၁၀၀။

၅။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် မဲဟ်ရာဗ် အတွင်း၌ ရပ်ခြင်းသည် မတ်က်ရူးဟ်တန်ဇီဟီ ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ အပြင်တွင်ရပ်ပြီးမဲဟ်ရာဗ်အတွင်း၌ 'စစ်ဂျ်ဒဟ်' ချမှု မတ်က်ရူးဟ် မဖြစ်ပေ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၀၃။

၆။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် မလိုအပ်ဘဲတတောင်၊ ၎င်းထိုထက်မြင့်သောနေရာတွင်ရပ်ခြင်း မတ်က်ရူးဟ်တန်ဇီဟီ ဖြစ်သည်၊ အကယ်၍ အေမာမ်နှင့်အချို့ မွတ်က်တဒီများပါ အမြင့်တွင်အတူရှိနေကြသော် မတ်က်ရူးဟ်မဖြစ်ပေ၊ အကယ်၍ အေမာမ်နှင့်အတူ မွတ်က်တဒီ တစ်ဦးသာလျှင်ရှိသော် မတ်က်ရူးဟ်ဖြစ်သည်၊ ၎င်းအချို့က မိန့်ကြသည်၊ အမြင့်မှာ တတောင်ထက် လျော့သော်လည်း အပေါ်ရိက ကြည့်ခြင်းဖြင့် မြင့်နေကြောင်း တွေ့ရသော် မတ်က်ရူးဟ်ပင်ဖြစ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၄၀။

၇။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီ အားလုံးသည်မလိုအပ်ဘဲအေမာမ်ထက်မြင့်သောနေရာတွင် ရပ်ခြင်း မတ်က်ရူးဟ်တန်ဇီဟီ ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ လိုအပ်မှုတစ်ခုခုရှိလျှင် ပမာဆိုသော် ဂျမာအတ်မှာ များပြားပြီး နေရာမရှိ၍ရပ်ရသော် မတ်က်ရူးဟ်မဖြစ်၊ ၎င်းအချို့မွတ်က်တဒီသည် အေမာမ်နှင့်အညီရှိပြီး အချို့မှာမြင့်သောနေရာတွင်ရှိမှုပိုင်သည်။

ကဗီရီကျမ်း စာမျက်နှာ-၃၄၀။

၈။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီသည် အေမာမ်၏ အလျှင်ကိစ္စ တစ်ခုကို စတင်ပြုခြင်း မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၄၉။

၉။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီသည် အေမာမ် ကေယာမ် ရပ်၍ ခကရာအတ် ဖတ်နေစဉ် 'ဒိုအာ' စသည် နှင့် ကုရ်အာန်ဖတ်ခြင်း စူရဟ်ဖွာတေဟာဟ်ဖြစ်စေ၊ အခြားစူရဟ် တစ်ခုခုဖြစ်စေ ဖတ်ခြင်းသည် မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၁။

ရှရ်ဟ်ဝေကာယဟ် အွမ်ဒတွရ်ရေ့အာယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၇၃။

# နမာဇ်အတွင်း မသန့်ဖြစ်ပေါ်ခြင်း အကြောင်း

နမာဇ် 'ဟဒ်သ်' မသန့်ဖြစ်သွားသော် အကယ်၍ ဂွတ်စ်လ်, ဝါဂျစ်ဗ် ဖြစ်သော မသန့်ကြီးဖြစ်မှု နမာဇ်ပျက်သွားသည်၊ ၎င်းအကယ်၍ ဝိုသွူပျက်စေသော 'အတ်စ္ဂရ်' မသန့်လေးဖြစ်မှု အလိုမပါဘဲ ၎င်းတမင်ပြုသည် ဟူ၍ နှစ်မျိုးနှစ်စား ရှိပေသည်၊ ဆိုလိုသည်မှာ ထိုသို့ဖြစ်ရခြင်းတွင် လူသား၏ အလိုပါသလော၊ မပါသလော ဟူသည်ကို ကြည့်ရပေမည်၊အကယ်၍ ထိန်းသိမ်းနိုင်ပါလျက် ပြုခဲ့သော် နမာဇ်ပျက်သည်၊ ဥပမာ တစ်ဦးသောသူသည် နမာဇ်၌ ဟက်ဟက်ပက်ပက်ရယ်သည်၊၎င်းမိမိကိုယ်ကို ရိုက်၍ ထို့၍ သွေးထွက်အောင်ပြုသည်၊ ၎င်း ,(အတလိ) တမင်လေလည်ပစ်သည်၊ ၎င်းတစ်ဦးသည် အမိုးပေါ်တက်သည့်အတွက် ခဲစုသည်ကျပြီး နမာဇ်ဖတ်သူမှာ ခေါင်းတွင်ထိ၍ သွေးထွက်သည်၊ ဤအဖြစ်အားလုံး၌ နမာဇ် ပျက်လေသည်၊ အဘယ့်ကြောင့် ဆိုသော် ဤအလုပ်အားလုံးသည် လူသားတို့၏ အလုပ်ဖြင့် ဖြစ်ပေါ် လာလေသည်။

အကယ်၍ အလိုဆန္ဒမပါသော် နှစ်မျိုးနှစ်စားရှိသည်၊ ၎င်းဖြစ်ခဲသော အဖြစ် ဖြစ်ပေါ်လာသည်၊ ပမာဆိုသော် ရူးသွတ်သွားသည်၊ သတိမေ့မြောသွားသည်၊အေမာမ့် သေဆုံးသွားသည်၊ ၎င်းပြင် အဖြစ်များသော ဖြစ်ရပ်များ၊ပမာဆိုသော်လေလည်သည်၊ ကျင်ကြီး,ကျင်ငယ်ထွက်သည်၊ 'မသီ' စသည်ထွက်သည်၊ သို့ရှိရာ အကယ်၍ ဖြစ်ခဲသော ကိစ္စဖြစ်ပေါ်လျှင်နမာဇ်ပျက်သည်၊၎င်းအဖြစ်များသောကိစ္စ၌ နမာဇ် မပျက်ပေ၊သာမက ထိုသူသည် မသန့်စင်ကြယ်စေပြီးနောက် နမာဇ်ကိုဆက်၍ အဆုံးသတ်ရန် 'ရှရီအတ်' တရားတော်က အခွင့်အရေးများ ပေးထားပေသည်၊ ဤသည်ကို 'ဘေနာအ်'ဟု ခေါ်သည်၊ သို့ရာတွင် နမာဇ်ကို အစမှပြန်၍ဖတ်ခြင်း ပို၍ကောင်းပေသည်၊ ဤ 'ဘေနာအ်' ပြုခြင်းဖြင့် နမာဇ် မပျက်သော'ရှရတ္ထ'စည်းကမ်းအချို့ရှိသည်။

၁။ မည်သည့် ရက္ခန်ကိုမှ 'ဟဒ်သ်' မသန့်သောအဖြစ်၌ မပြုမူရ။

၂။ မည်သည့် ရက္ခန်ကိုမှ သွားလာယင်းမပြုမူရ၊ ဥပမာ..... ဝိုသွူပြုရန်သွားသော, လာသောအခါ ကုရ်အာန် အာယတ်တော်ကို မဖတ်ရ၊ အဘယ့်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းတော်ကို ဖတ်ခြင်းသည် နမာဇ်၏ ရက္ခန် ဖြစ်သည်။

၃။ နမာဇ် ပျက်စေသောအမှုကိစ္စကိုမပြုရ၊ ၎င်းရှောင်နိုင်သော အမှုကိစ္စကိုလည်း မပြုရ။

၄။ 'ဟဒ်သ်' မသန့်ဖြစ်ပြီးနောက်ရက္ခန်တစ်ခုပြုမူနိုင်သောအခန့်ထိ အွှသ်ရ်မရှိဘဲ ဆိုင်းငံ့မနေရ သာမက ချက်ချင်း ဝိုသွူ ပြုရန်သွားရမည်၊ ဟုတ်ပါ၏ အကယ်၍ အွှသ်ရ် တစ်ခုခုကြောင့် ကြာသွားလျှင် ကိစ္စမရှိပေ၊ ဥပမာ.... အတန်းများ များနေသည်၊ ရှေ့တန်းမှဖြစ်ပြီးအတန်းများမှ ဖြတ်သန်းလာရန်ခဲယဉ်းနေ၍ ကြာသွားသော်ကိစ္စမရှိပေ၊

မှတ်ချက်။ သို့ရှိရာ ဤသို့သောအဖြစ်၌ အကယ်၍ခဲယဉ်းစွာ အတန်းများမှဖွက်လာရာတွင် 'ရကွန်'ခန့် ကြာသွားလျှင်ကိစ္စမရှိပေ၊ ထိုသူသည် အတန်းများကိုဖြတ်၍ မိမိနေရာတွင် သွားနိုင်သကဲ့သို့ မွတ်ကတဒီ ဖြစ်စေ၊ အေမာမ် ဖြစ်စေ ၀ိုသ္ဂူ ပျက်ခဲ့သော် အတန်းများကို ဖြတ်သန်း၍သွားခြင်း၊ ၎င်းလိုအပ်ပါက အတန်းများရှေ့မှ ဖြတ်သွားခြင်းလည်း ပိုင်သည်။

၁။ မတ်စ်အလဟ် ပြဿနာ။ 'မွန်ဖွရစ်ဒ်' တစ်ယောက်တည်း ဖတ်သူသည် အကယ်၍ ဟဒ်သ်မသန့်ဖြစ်သွားလျှင်ထိုသူသည်အမြန်ဆုံး၀ိုသ္ဂူပြီးမြောက်အောင်ပြုရမည်၊ သို့သော် ၀ိုသ္ဂူ၏ စွန္နတ် မွတ်စ်တဟာဗ်များကို ပြည့်စုံအောင်ပြုရမည်၊ ထိုအတောအတွင်း၌ စကားပြောခြင်း စသည်များမပြုရ၊ ရေသည် အကယ်၍ အနီးတွင်ရနိုင်သော် အဝေးသို့ မသွားရ။ အချုပ်မှာ လိုအပ်သောလှုပ်ရှားမှုများထက် ပို၍မပြုရ၊ ၀ိုသ္ဂူပြုပြီး ထိုနေရာတွင်ပင် ကျန်သောနမာဇ်ကို အဆုံးသတ်ရမည်၊ ဤသည်ပင် သာမြတ်သည်၊ မိမိ ပဌမဖတ်နေသော နေရာတွင် သွား၍ ဖတ်မည်ဆိုကလည်း ဖတ်နိုင်သည်၊ အကောင်းဆုံးမှာ (အတလိ) တမင် မိမိ၏နမာဇ်ကို စလာမ်လှည့်၍ ဖျက်ပစ်လိုက်ရမည်၊ ၎င်း၀ိုသ္ဂူပြုပြီး နမာဇ်ကို အသစ်ပြန်၍ ဖတ်ရမည်။

ရှရ်ဟွတ်တန်၀ီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၇။

၂။ မတ်စ်အလဟ် ပြဿနာ။ အေမာမ် သည် ဟဒ်သ် မသန့် ဖြစ်သွားလျှင် အကယ်၍ နောက်ဆုံးကအ်ဒဟ်မှာ ဖြစ်သော်လည်း ၀ိုသ္ဂူပြုရန် သွားရမည်၊ ကောင်းသည်မှာ မိမိ၏ မွတ်ကတဒီများ အနက် အေမာမ် အဘွက် အသင့်တော်ဆုံးသူကို မိမိနေရာ၌ ရပ်စေခဲ့ရမည်၊ မွဒ်ရစ်ကစ်ဆုံးမှီသူကို ကိုယ်စားလွှဲခြင်း သာ၍ကောင်းသည်၊ အကယ်၍ မတ်စ်ဘူးက်ကို လွှဲခဲ့လျှင်လည်း ပိုင်သည်၊ ထိုမတ်စ်ဘူးက်ကို နိမိတ်ဖြင့် ကျွန်ုပ်အပေါ် ဤမျှ ရကာအတ် စသည် ကျန်နေသည်ဟု ပြသရမည်၊ ရကာအတ်များကို လက်ချောင်းထောင်၍ ပြရမည်၊ တစ်ရကာအတ်ဆိုလျှင် လက်တစ်ချောင်း၊ နှစ်ရကာအတ်ဆိုလျှင် လက်နှစ်ချောင်းထောင်ပြရမည်၊ ရိကူအ်ကျန်နေလျှင် ဒူးကို လက်နှင့်ကိုင်၍ပြရမည်၊ စစ်ဂျဒဟ် ကျန်နေလျှင် နဖူးပေါ် လက်တင်၍ပြရမည်၊ ကေရာအတ်ကျန်နေလျှင် ပါးစပ်ပေါ် လက်တင်၍ပြရမည်၊ စစ်ဂျဒဟ် တေလာ၀ပ်တ် ကျန်နေလျှင် နဖူးနှင့် လျှာကို ညွှန်ပြရမည်၊ စစ်ဂျဒဟ် စဟ်၀် ကျန်နေလျှင် ရင်ဘတ်တွင် လက်တင်ပြရမည်၊ အလွှဲခံရသူသည် ဤသို့ နိမိတ်ဖြင့်ညွှန်ပြသည်ကို နားလည်ရမည်၊ နားမလည်သူကို ကိုယ်စားအဖြစ် မလွှဲပြောင်းရ။

ထို့နောက် ၀ိုသ္ဂူပြုပြီးသော် အေမာမ်သည် ဂျမာအတ် ကျန်ရှိနေသေးက လွှဲခဲ့သော် ကိုယ်စား၏နောက်မှ မွတ်ကတဒီအဖြစ် ဖတ်ရမည်၊ ၎င်း၀ိုသ္ဂူပြုသော နေရာမှပင် ဖတ်လိုသော် အစ်က်တေဒါမပိုင်သော ခြားနားမှုများရှိနေပါက မပိုင်ပေ၊ ပိုင်လောက်

သော နေရာဖြစ်လျှင် ဝိုသ္မုပြုသောနေရာကပင် အစ်က်တေဒါပြု၍ဖတ်နိုင်သည်၊ အကယ်၍ ဂျမာအတ် ပြီးမြောက်သွားလျှင် ဝိုသ္မုပြုသော နေရာတွင်ဖြစ်စေ၊ မိမိဖတ်ခဲ့သော နေရာတွင် ဖြစ်စေ နမာဇ်ကို ပြီးမြောက်အောင် ဖတ်ရမည်။

ကဗီရီကျမ်း စာမျက်နှာ-၄၂၈။
ဒွုရ်ရေ့မွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၈၇။
ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၈၃။

၃။ မတ်စ်အလာဟ် ပြဿနာ။ အကယ်၍ ဝိုသ္မုပြုရန် ရေသည် ဗလီအခင်း၌ပင် ရှိနေမူ၊ ကိုယ်စားလွှဲရန် အရေးမကြီးပေ၊ လွှဲလိုက လွှဲနိုင်သည် သာမက ဝိုသ္မု ပြုပြီး ဆက်၍ အေမာမ်အဖြစ် ဆောင်ရွက်ရမည်၊ ၎င်းမွတ်က်တဒီတို့သည် အေမာမ်ကို စောင့်ဆိုင်းနေကြရမည်။ ရဒ်ဒွလ်မွခ်တာရ်ကျမ်း စာမျက်နှာ-၅၆၂။

၄။ မတ်စ်အလာဟ် ပြဿနာ။ ကိုယ်စားလွှဲပြီးနောက် အေမာမ်သည် အေမာမ်အဖြစ် မရှိတော့သည် သာမက ကိုယ်စား၏ မွတ်က်တဒီ့ ဖြစ်သွားသည်၊ ထို့ကြောင့် အကယ်၍ ဂျမာအတ် ပြီးဆုံးသွားလျှင် အေမာမ်သည် မိမိနမာဇ်ကို လာဟစ်က် ကဲ့သို့ အဆုံးသတ်ရမည်။

အကယ်၍ အေမာမ်သည် မည်သူ့ကိုမှ ကိုယ်စား မလွှဲအပ်ဘဲ မွတ်က်တဒီ တို့က တစ်ဦးဦးကို တင်ကြလျှင်၎င်း မွတ်က်တဒီတစ်ဦးဦးသည် ကိုယ်တိုင်ရှေ့တက်၍ အေမာမ်၏ နေရာတွင်ရပ်ပြီး အေမာမ်အဖြစ်၏ နီယတ် ပြုလျှင်လည်း ပိုင်လေသည်၊ သို့သော် ထိုသို့ လွှဲယူကြသောအချိန်သည် အေမာမ် ဗလီပြင်သို့ မထွက်မီပြုလျှင်၊ ၎င်းနမာဇ်သည် လွင်ပြင်မှာ ဖတ်လျှင် အတန်းများမှ၊ ၎င်း 'စွတ်ရဟ်' မှ မထွက်မီပြုလျှင် ပိုင်သည်၊ အကယ်၍ ထိုစည်းကမ်းသတ်မှတ်ချက်မှ ကျော်လွန်သွားပြီးမှ အေမာမ်အဖြစ်ပြုကြသော် မပိုင် သာမက အားလုံး၏နမာဇ်ပျက်သွားသည်၊ အခြားအေမာမ် တက်၍ဖတ်ပိုင်ခွင့်မရှိတော့ပေ။

ရှာမီကျမ်း အတွဲ ၁၊ စာမျက်နှာ-၅၆၂၊၅၆၃။

မှတ်ချက်။ ဆိုလိုသည်မှာ- အေမာမ်အပြင်ရောက်သွားပြီးမှ ထိုနမာဇ်ကို ကိုယ်စား ပြုပိုင်ခွင့်မရှိတော့၊ ထပ်မံ၍ ဂျမာအတ်ပြုကာ ဖတ်ကြရမည်။

၅။ မတ်စ်အလာဟ် ပြဿနာ။ အကယ်၍ မွတ်က်တဒီသည် 'ဟဒ်သ်' မသန့်ဖြစ်သွားလျှင် ချက်ချင်းဝိုသ္မုပြုရမည်၊ ထိုသို့ဝိုသ္မုပြုပြီးနောက် ဂျမာအတ် ဖြစ်နေသေးလျှင် ဝင်ရောက်ရမည်၊ သို့တည်းမဟုတ်ပါက မိမိ၏နမာဇ်ကို ပြီးမြောက်အောင် အဆုံးသတ်ရမည်၊ အကယ်၍ ဂျမာအတ် ကျန်နေသေးလျှင် မွတ်က်တဒီသည် မိမိနေရာတွင်သွား၍ နမာဇ်ဖတ်ရမည်၊ သို့သော် အေမာမ်နှင့် ဝိုသ္မုပြုသော နေရာမှာ အစ်က်တေဒါအတွက် အဆီး အတား မရှိလျှင် ဝိုသ္မု ပြုသော နေရာကပင် ဖတ်နိုင်သည်၊ ၎င်းအကယ်၍ ဂျမာအတ် ပြီးဆုံးသွားလျှင် မွတ်က်တဒီသည် မိမိဖတ်သောနေရာတွင်ဖြစ်စေ၊ ဝိုသ္မုပြုသော နေရာတွင် ဖြစ်စေ နမာဇ်ကို အဆုံးသတ်နိုင်သည်၊ ဤသည်မှာ ပို၍ကောင်းသည်။

ကဗီရီကျမ်း စာမျက်နှာ-၄၂၇။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အေမာမ်သည် မတ်စ်ဘူးက်ကို မိမိနေရာတွင် ရပ်စေခဲ့သော် ၎င်းသည် အေမာမ်ပြုမှုရန် ကျန်သော ရကာအတ်များကို ဖတ်ပေးပြီး စလာမ်လှည့် အဆုံးသတ်ရန် မွဒ်ရစ်က် တစ်ယောက်ယောက်ကို လွှဲရမည်၊ ၎င်းထိုမတ်စ်ဘူးက်သည် မိမိလွတ်ခဲ့သော ရကာအတ်များကို ဖတ်ရမည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၉၅။

၇။မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော သူသည် နောက်ဆုံး ကအ်ဒဟ်တွင်'အတ်တဟိယာတ်'ခန့်ထိုင်ပြီးမှ ရူးသွားလျှင်၊ ၎င်းဟာဒ်သ်အတ်က်ဗရ် မသန့်ကြီးဖြစ်သွားလျှင်၊ ၎င်းအာလိမပါဘဲ မသန့်လေးအတ်စ္စဂရ်ဖြစ်သွားလျှင်၊ ၎င်းသတိမေ့မျောသွားလျှင် နမာဇ်ပျက်သွားသည်၊ ထိုနမာဇ်ကို ပြန်ဖတ်ကြရမည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၅၆၄။

၈။ မတ်စ်အလဟ်ပြဿနာ။ ဤတင်ပြပါ မတ်စ်အလဟ်များသည် အလွန်နက်နဲသိမ်မွေ့သည်၊ ယခုခေတ်အခါသမတွင် အင်လ်မ် ဘာသာရေး အသိပညာ နည်းပါးကြလေရာ၊ မှားယွင်းမှုဖြစ်သွားပေမည်၊ ထို့ကြောင့် အကောင်းဆုံးမှာ 'ဘေနာအ်' မပြုရသည်သာမက ထိုနမာဇ်ကို စလာမ်လှည့်၍ ဖျက်ပစ်ပြီး အသစ်တဖန် နမာဇ်ကို ပြန်ဖတ်ကြရမည်။

## စဟ်ဝ်၏ အချို့မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တိုးတီးဖတ်ရသော နမာဇ်တွင် အေမာမ်ဖြစ်စေ၊ မွန့်ဖွရစ်ဒ် တစ်ယောက်တည်းဖတ်ရသူဖြစ်စေ အသံနှင့် ကေရာအတ် ဖတ်ခဲ့သော် ၎င်းအသံနှင့်ဖတ်ရသော နမာဇ်တွင် အေမာမ်သည် တိုးတီးဖတ်ခဲ့သော် စစ်ဂျဒဟ်စဟ်ဝ် ပြုရမည်။ (မှတ်ချက်။ မွန့်ဖွရစ်ဒ်မှာကား အသံနှင့်ဖတ်ရသောနမာဇ်ကို တိုးတီးဖတ်လျှင် စဟ်ဝ်ပြုရန်မလို)။ ဟုတ်ပါ၏၊ အကယ်၍ တိုးတီးဖတ်ရသောနမာဇ်တွင် နမာဇ်ပိုင်လောက်အောင် အခန့်မဟုတ်ဘဲ အနည်းငယ် စာလုံး ၂-လုံး ၃-လုံး အသံနှင့်ဖတ်လိုက်လျှင်၊ ၎င်းအသံနှင့် နမာဇ်တွင် အေမာမ်သည် ထိုမျှခန့် ၂-လုံး၃-လုံးကို တိုးတီး ဖတ်လိုက်သော် စစ်ဂျဒဟ် စဟ်ဝ် ပြုရန်မလိုပေ၊ ဤအမိန့်ပင် အမှန်ဆုံးဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၆။

## နမာဇ် ကဿာ ဖြစ်သွားသော မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လူအချို့တို့သည် နမာဇ် တစ်ကြိမ်ကြိမ်ကို 'ကဿာ'ဖြစ်သွားကြလျှင်၊ ထိုသူတို့သည် ထိုနမာဇ်ကို ဂျမာအတ်နှင့် ဖတ်ကြရန်ထိုက်သည်၊ အကယ်၍ အသံနှင့် နမာဇ်ဖြစ်လျှင် အသံနှင့်၊ ၎င်းတီးတိုးနမာဇ်ဖြစ်လျှင် တီးတိုး ဖတ်ကြရမည်။

အာလမ်ဂိရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၀။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍အရွယ်မရောက်သေးသော ယောက်ျားလေးသည့် အေရှာအ် နမာဇ်ဖတ်ပြီး အိပ်ရာ၊ ဖွဂျ်ရ်အချိန်တွင် နိုးပြီး 'မနီ' သုက်ရည်အစအနကို တွေ့ရပြီး အဲဟ်တေလာမ် ဖြစ်ကြောင်း သိရသော် မှန်သောအဆိုအရ ထိုသူသည် အေရှာအ်နမာဇ်ကို ပြန်ဖတ်ရမည်၊ ၎င်းဖွဂျ်ရ်အချိန်မရောက်မီနိုး၍ မနီ သုက်ရည်တွေ့ရမူ အညီအညွတ် အေရှာအ်နမာဇ်ကို ကဿာ ဖတ်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၅။

## ရောဂါသည်၏ အချို့ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ 'မအ်သူရ်'သည့် ရိုကူအ် စစ်ဂျဒဟ်ကို အရိပ် နိမိတ်ဖြင့် ဖတ်သည်၊ ထိုသို့ နမာဇ် ဖတ်နေယင်း ရိုကူအ် စစ်ဂျဒဟ် ပြုနိုင်သော စွမ်းအားရှိလာသော် ထိုနမာဇ်သည်ပျက်သွားသည်၊ ထိုသူ အပေါ် နမာဇ်ကိုအစမှပြန်၍ ဖတ်ရန်ဝါဂျစ်ဗ်ဖြစ်သွားသည်၊အကယ်၍ ရိုကူအ်စစ်ဂျဒဟ်ကို အရိပ်နိမိတ်ဖြင့် မပြုရသေးမီ ကိုယ်လက်အင်္ဂါ ကောင်းသွားလျှင် ပထမ နမာဇ် ပိုင်သည်၊ ထို့အပေါ် (ဘေနာအ်)ပြု၍ ဆက်ဖတ်နိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၅။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍တစ်ဦးသောသူသည် ကေရာအတ် ရှည်လျားခြင်းကြောင့် ရပ်ယင်း ညောင်းညာသွားလျှင်၊ ၎င်း ဒုက္ခ ဖြစ်လျှင် ထိုသူသည် တံတိုင်း၊သစ်ပင်၊တိုင် စသည်ကိုမှီခြင်း မတ်က်ရူးဟ်မဖြစ်ပေ၊ တရာဝီးဟ် နမာဇ်၌ အားနည်းသော၊အသက်အရွယ်ကြီးသောသူများသည် များသောအားဖြင့် ဤသို့မှီရန် လိုအပ်မှု ဖြစ်တတ်ပေသည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၀၃၊၁၀၄။

## ခရီးသည် နမာဇ်၏ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူသည် နှစ်ဌာနတွင် ၁၅-ရက် နေမည်ဟု 'နိယတ်' ဆန္ဒပြုလျှင် ထိုနှစ်ဌာနသည် တစ်နေရာနှင့်တစ်နေရာ အသာန် ဆိုသံ မကြားရလျှင်၊ ဥပမာ....မတ်က်ကဟ်မြို့တော်တွင် ၁၀-ရက်၊ မေနာတွင် ၅ ရက်နေမည်ဟု နိယတ် ပြုလျှင် (မတ်က်ကဟ် နှင့် မေနာသည် ၃-မိုင်ဝေးသည်) သို့ရှိသော် ထိုသူသည် ဤအဖြစ်၌ 'မုစ်ဆာဖွင်ရ်' ခရီးသည်ပင် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၃၈။

၂။ မတ်စ်အလဟ် ပြဿနာ။ တင်ပြပါမတ်စ်အလဟ်အတိုင်း ညတစ်နေရာအိပ်၍ နေ့တွင် တစ်နေရာရာ နေရန် နိယတ်ပြုမူ၊ ညအိပ်ရန် နိယတ်ပြုသော နေရာသည် ဝတွာန်

အောကာမတ် ဖြစ်သွားသည်၊ ထိုနေရာတွင်‘ကစ္စာရ်’ ဖတ်ခွင့်မရှိ နေ့တွင် နေရန်ဒေသသည် ညအိပ်ရာဒေသနှင့် ခရီးအည် ဖြစ်နိုင်သော အခန့်ဝေးလျှင် ထိုနေရာသို့ သွားခြင်းဖြင့် မုစာဖွင်ရ် ဖြစ်သည်၊ သို့တည်းမဟုတ်က မုကီးမ်ပင် ဖြစ်သည်။

ဖွာတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၈။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တင်ပြပါ‘မတ်စ်အလဟ်’၌ တစ်နေရာနှင့် တစ်နေရာသည် နီးကပ်ပြီး တစ်နေရာ၏ အသာန်ဆိုသံကို တစ်နေရာမှ ကြားရလျှင် နှစ်နေရာစလုံးသည် တစ်ဌာနတည်း ဖြစ်သည်ဟု ယူဆရမည်၊ ထိုနှစ်ဌာနတွင် (၁၅) ရက် နေမည်ဟု နိယတ်ပြုလျှင် မုကီးမ် ဖြစ်သွားသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၃၈။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၈။

၄။ မတ်စ်အလဟ်ပြဿနာ။ မုကီးမ်သည် မုစာဖွင်ရ်၏နောက် အဒါဖြစ်စေ ကဿာဖြစ်စေ ပိုင်သည်၊ မုစာဖွင်ရ် အေမာမ် သည်(၂)ရကအတ် ဖတ်ပြီးစလာမ်လှည့်မှု၊ မုကီးမ် မွတ်က်တဒီသည် ထ,၍ မိမိ၏ နမာဇ်ကို ပြည့်စုံအောင် ဖတ်ရမည်၊ ထ,ဖတ်ရာတွင် ကေရာအတ် မဖတ်ရဘဲ ဆိတ်ငြိမ်စွာ ရပ်နေရမည်၊ အဘယ့်ကြောင့်ဆိုသော် ထိုသူသည် လာဟစ်က် သဘောဖြစ်သည်၊ ၎င်းပထမ ကအ်ဒဟ်သည် ထိုမွတ်က်တဒီအပေါ် အေမာမ်၏ နောက်လိုက်ခံယူမှုအတွက် ဖွရ်သ္ပင်ဖြစ်သည်၊ ၎င်း မုစာဖွင်ရ် သည်စလာမ် နှစ်ဘက် လှည့်ပြီးနောက် မိမိမုစာဖွင်ရ် ဖြစ်ကြောင်း မွတ်က်တဒီ များအားပြောပြရန် မွတ်စ်တဟာဗ် ဖြစ်သည်၊ ၎င်းနမာဇ်မစမီမုစာဖွင်ရ်ဖြစ်ကြောင်း ပြောပြခြင်းသည်သာ၍ကောင်းသည်။

ရှုရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၈။

၅။ မတ်စ်အလဟ်ပြဿနာ။ မုစာဖွင်ရ်လည်း မုကီးမ်၏ အစ်က်တေဒါ ပြုနိုင်သည်၊ သို့သော် နမာဇ် အချိန်အတွင်း၌သာ ပြုနိုင်သည်၊ အချိန်ကုန်သွားသော် ဖွဂ်ျရ်နှင့် မဂ်ရစ်ဗ်တွင်သာ အစ်က်တေဒါ ပြုနိုင်သည်၊ ဇွဟ်ရ်၊ အတ်စွ်ရ်နှင့် အေရှာအ်တွင် အစ်က်တေဒါ မပြုနိုင်၊ အဘယ့်ကြောင့်ဆိုသော် မုစာဖွင်ရ်သည် မုကီးမ်၏ အက်စ်က်တေဒါ ပြုရာတွင် အေမာမ်၏ နောက်လိုက်ခံယူမှုအဖြစ်နှင့်(၄)ရကအတ် ဖတ်ရပေမည်၊ ၎င်း အေမာမ်၏ ပထမ ကအ်ဒဟ်သည် ဖွရ်သ္ မဟုတ်ဘဲမုစာဖွင်ရ်အတွက် ဖွရ်သ္ဖြစ်သည်၊ သို့ရှိရာ ဖွရ်သ္ မဖြစ်သူနောက်မှ ဖွရ်သ္ ဖြစ်သူ၏ အက်စ်က်တေဒါ ဖြစ်လေရာ ဤသည်မှာ မပိုင်ပေ။

ရှုရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၈။

မှတ်ချက်။ ။ဖတ်သော ‘နမာဇ်’၏အချိန်အတွင်းမှာကား မုကီးမ်၏နောက်တွင် မုစာဖွင်ရ်က အစ်က်တေဒါ ပြုနိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် အစ်က်တေဒါ ပြုခြင်းဖြင့်မုစာဖွင်ရ်အပေါ်(၄)ရကအတ် ဖွရ်သ္ ဖြစ်သွားသည်၊ ၎င်း‘နမာဇ်’ အချိန်လွန်သွားပါက ဤအမိန့်မရှိတော့ပေ၊ ဤနှစ်ချက်၏ ကွဲလွဲမှုများ ‘ဖွေကဟ်’ကျမ်းများ၌ ပါရှိသည်။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မုစာဖွင်ရ်တစ်ဦးသည် 'နမာဇ်'ဖတ်ယင်း အောကာမတ်၏ နိယတ်ပြုလိုက်လျှင် အစမှာဖြစ်စေ၊ အလယ်မှာဖြစ်စေ၊ အဆုံးမှာဖြစ်စေ သို့သော် စစ်ဂျိဒဟ် စဟ်ဝ် ၎င်းစလာမ်၏ အလျင်ဖြစ်မှု ထိုသူသည်'နမာဇ်'ကိုပြည့်ပြည့်စုံစုံ ဖတ်ရမည်၊ ကစ္စာရ် ဖတ်ပိုင်ခွင့် မရှိတော့ပေ၊ ဟုတ်ပါ၏ အကယ်၍'နမာဇ်အချိန်ကုန်သွားသောအခါ နိယတ်ပြုလျှင် ၎င်းလာဟာစ်က် အဖြစ်၌ နိယတ် ပြုလျှင်ထိုသို့ နိယတ်ပြုခြင်းသည်'နမာဇ်၌ ပြောင်းလဲမှု မဖြစ်ပေ၊၎င်း ဖတ်နေသောနမာဇ် သည်(၄)ရကာအတ်နမာဇ် ဖြစ်မှုလည်း ကစ္စာရ်ပင် ဖတ်ရန်ထိုက်သည်။

ဥပမာ

၁။ မုစာဖွင်ရ် တစ်ဦးသည် 'ဇွဟ်ရ်' နမာဇ်ဖတ်သည်၊ တစ်ရကာအတ် ရပြီးနောက် နမာဇ် အချိန်ကုန်သွားသည်၊ ထိုသို့အချိန်ကုန်ပြီးနောက် အောကာမတ်၏ နိယတ်ပြုလိုက်မှု ဤသို့ နိယတ်ပြုခြင်းဖြင့် 'နမာဇ်'မှာ ပြောင်းလဲမှုမဖြစ် သာမက 'ကစ္စာရ်' ပင်ဖတ်ရမည်။

၂။ မုစာဖွင်ရ်တစ်ယောက်သည်မုစာဖွင်ရ်တစ်ဦး၏မွတ်က်တဒီဖြစ်သည်၊ပြီးနောက် လာဟစ်က် ဖြစ်သွားသည်၊ ထို့နောက် မိမိလွတ်သွားသော ရကာအတ် တို့ကို ဖတ်သည်၊ ထိုလာဟစ်က် ဖတ်နေစဉ် အောကာမတ် နိယတ်ပြုသော် ထိုသို့ နိယတ်ပြုခြင်းဖြင့် 'နမာဇ်'မှာ ပြောင်းလဲမှုမဖြစ်၎င်းထိုသူဖတ်သော'နမာဇ်'သည်(၄)ရကာအတ် 'နမာဇ်'ဖြစ်မှု၎င်းသည် ကစ္စာရ်ပင် ဖတ်ရမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၃၆၊၇၃၇။

# ကြောက်ရွံ့စိုးရိမ်သောအခါ ဖတ်ရသော

## နမာဇ်အကြောင်း

ရန်သူနှင့် ရင်ဆိုင်တွေ့မည်ဖြစ်လျှင် လူသားဖြစ်စေ၊ သားရဲ တိရစ္ဆာန် ဖြစ်စေ၊ မြွေနဂါး စသည်ဖြစ်စေ၊ ဤသို့သောအဖြစ်၌ မွတ်စလင်မ်များ၊ ၎င်းအချို့သည်ရော၍ ဂျမာအတ်ဖြင့် 'နမာဇ်'မှုဖတ်နိုင်ကြ ၎င်းအစီးအနင်းများမှဆင်းရန် အချိန်ပင်မရကြမှု အားလုံးသည် မိမိတို့ စီးနင်းသော မြင်း, ကုလားအုတ် စသည်ပေါ်တွင် တစ်ကိုယ်တည်း နိမိတ်ဖြင့် 'နမာဇ်' ဖတ်ကြရမည်၊ထိုသို့သောအဖြစ်၌ ကစ်ဗ်လတ်ဘက်မျက်နှာမူရန်ရှုရတွင် မဟုတ်ပေ၊ ဟုတ်ပါ၏ အကယ်၍ လူနှစ်ယောက်သည် အစီးအနင်းတစ်ခုပေါ်တွင် ထိုင်ကြသော် ထိုနှစ်ယောက်သည် ဂျမာအတ်ပြု၍ ဖတ်ကြရမည်၊ အကယ်၍ ဤသို့ပင်ဖတ်ရန် အချိန်မရကြသော် မအ်သူရ် ဖြစ်သည်၊ထိုအချိန်၌'နမာဇ်'မဖတ်ဘဲ စိတ်အေးရသောအချိန်ကျမှ ထိုနမာဇ်ကို 'ကဿာ' ဖတ်ကြရမည်။

အကယ်၍ အားလုံးသည်ရော၍ ဂျမာအတ်ဖြင့် မဖတ်နိုင်ကြသော်လည်း လူအချို့ ဂျမာအတ်နှင့် ဖတ်နိုင်မှု ဂျမာအတ်ကို လွှတ်ရန် မထိုက်ပေ၊ မွတ်စလင်မ်အားလုံးသည် နှစ်ပိုင်းခွဲ၍ တစ်ပိုင်းက ရန်သူနှင့် ရင်ဆိုင်ကာ တစ်ပိုင်းက အေမာမ်နှင့် နမာဇ်ဖတ်ရမည်၊

(၃-၄) ရကအတ်၏ နမာဇ် ဖြစ်သော် ဥပမာ.... ဇုဟ်ရ်၊ အတ်စွ်ရ်၊မဂ်ရစ်ဗ်၊ အေရှာအ် ၎င်းထိုသူတို့သည် မုစာဖွင်ရ် များ မဟုတ်ကြသော် ကစ္စာရ် မဖတ်ရ၊ သို့ရှိရာ အေမာမ် သည် (၂)ရကအတ် ဖတ်ပြီး တတိယ ရကအတ် အတွက်ရပ်သော်၎င်းထိုသူတို့သည် ကစ္စာရ် ဖတ်ကြလျှင် ၎င်း (၂) ရကအတ် နမာဇ် ဖြစ်သော် ဥပမာ ဖွဂျ်ရ်၊ ဂျုံမို့အဟ်၊ အီးဒ်၊ နမာဇ် ၎င်းမုစာဖွင်ရ်ဖြစ်မူ ဇုဟ်ရ်၊ အတ်စွ်ရ်၊ အေရှာအ်တွင် တစ်ရကအတ် ဖတ်ပြီး ၎င်းတစ်ပိုင်းသည် ထွက်သွားရမည်။

၎င်းကျန်တစ်ပိုင်းသည် ရန်သူ့ရှေ့မှလာပြီး အေမာမ်နှင့်အတူကျန်နမာဇ်ကိုဖတ်ရမည်၊ အေမာမ်သည် ၎င်းတို့ရောက်လာသည်အထိ စောင့်ဆိုင်းနေရမည်၊ အေမာမ်သည် ကျန် 'နမာဇ်' ကိုဖတ်ပြီး စလာမ်လှည့်ရမည်၊ ၎င်းတို့သည် စလာမ်မလှည့်ဘဲ ရန်သူ၏ ရှေ့သို့ သွားကြရမည်၊ ၎င်းပထမအသုတ်သည်လာပြီး ကျန်နမာဇ်ကို ကေရာအတ်မဖတ်ဘဲ အဆုံးသတ်၍ စလာမ်လှည့်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် လာဟာစ်က်များ ဖြစ်ကြသည်၊ ထို့နောက် ၎င်းတို့သည် ရန်သူ့ရှေ့တွင်သွားကြရမည်၊ ဒုတိယအသုတ်သည် လာပြီး မိမိတို့၏ ကျန်နမာဇ်ကို ကေရာအတ်ဖတ်ပြီး အဆုံးသတ်ခါ စလာမ်လှည့်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် မတ်စ်ဘူးက်များဖြစ်ကြသည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၉။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၁။

၁။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်'ဖတ်သောအဖြစ်၌ရန်သူရှေ့သို့ သွားသောအခါနှင့် 'နမာဇ်' အဆုံးသတ်ရန် လာသောအခါ ခြေလျှင်သွားလာရန် ထိုက်သည်၊ စီးနင်း၍ သွားလာလျှင် 'နမာဇ်' ပျက်သည်၊ ဤသို့ အစီးအနင်းဖြင့် သွားလာခြင်းသည် 'အမလ်ကသီရ်' ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၂၃။

၂။ မတ်စ်အလဟ်ပြဿနာ။ ဒုတိယအသုတ်သည် အေမာမ် နှင့်'နမာဇ်'ဖတ်ပြီး ရန်သူ၏ရှေ့သို့သွားခြင်း ၎င်းပထမအသုတ်သည် အေမာမ်နှင့် ဖတ်ခဲ့သောနေရာသို့လာပြီး မိမိတို့'နမာဇ်'ကို အဆုံးသတ်ခြင်း ၎င်းဒုတိအသုတ်သည် အေမာမ်နှင့် ဖတ်ရနေရာတွင် လာ၍ 'နမာဇ်' ကို အဆုံးသတ်ကြခြင်းသည်မွတ်စ်တဟာဗ် ဖြစ်သည်၊ ၎င်းအမြတ်ဆုံး ဖြစ်သည်၊ သို့တည်းမဟုတ်ပါက ပထမအသုတ်သည် အေမာမ်နှင့်ဖတ်၍ ရန်သူ၏ရှေ့သို့ သွားသည်၊ ၎င်းဒုတိယအသုတ်သည် အေမာမ်နှင့်တကွ ကျန် နမာဇ်ကိုဖတ်ကြပြီးမိမိတို့၏ ကျန် နမာဇ် ကို ထိုနေရာတွင်ပင် အဆုံးသတ်ကြပြီးမှ ရန်သူ၏ရှေ့သို့သွားကြလျှင် ဒုတိယ အသုတ် ရောက်လာသောအခါ ပထမအသုတ်သည် အေမာမ်နှင့် ဖတ်ခဲ့သော နေရာသို့ မလာကြဘဲ ထိုနေရာတွင် မိမိတို့ ကျန်'နမာဇ်'ကို ဖတ်ကြသော် ပိုင်လေသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉၃။

၃။မတ်စ်အလဟ်ပြဿနာ။ တင်ပြပါအတိုင်း' နမာဇ် 'ကို ခွဲ၍ ဖတ်ကြ ရန်မှာ အားလုံးသည် အေမာမ်တစ်ပါး၏နောက်မှဖတ်လိုကြမှသာဖြစ်သည်၊ ဥပမာအေမာမ်သည်

သူတော်စင်ကြီးတစ်ပါးဖြစ်၍ အားလုံးသည် ထိုပုဂ္ဂိုလ်ကြီး၏နောက်မှ 'နမာဇ်'ဖတ်လိုကြသည်၊ သို့တည်းမဟုတ်ပါက အကောင်းဆုံးမှာတစ်သုတ်သည်အေမာမ်တစ်ဦးနှင့် 'နမာဇ်' အပြည့်အစုံဖတ်ပြီး ရပ်သူ၏ရှေ့သို့ သွားရမည်၊ ထို့နောက် အခြားတစ်သုတ်သည် အခြားတစ်ဦးကို အေမာမ်တင်၍ 'နမာဇ်' အပြည့်အစုံ ဖတ်ရမည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၂၃၊၃၂၄။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရန်သူသည် အလွန်နီးကပ်နေပြီး အမြန်ရောက်လာမည်ကို စိုးရိမ်ရသဖြင့် ပထမ နည်းလမ်းအတိုင်းခွဲ၍ 'နမာဇ်' ဖတ်ကြသည်၊ ပြီးနောက် ထင်မြင်မှုမှာ မှားနေသော် 'အေမာမ်' ၏ နမာဇ် ပိုင်သွားသည်၊ သို့သော် မွတ်ကတဒီများသည် ထို'နမာဇ်' ကို ပြန်ဖတ်ကြရန် ထိုက်သည်၊ အဘယ့်ကြောင့်ဆိုသော် ထို'နမာဇ်'ကို အလွန်ပြင်းပြစွာ လိုအပ်မှုကြောင့် 'ကေယားစ်' နှင့် ကွဲလွဲခါ 'အမလ်ကသီရ်'ကို ပိုင်ကြောင်း ဆုံးဖြတ်ထားကြသည်၊ ပြင်းပြစွာ လိုအပ်မှုမရှိဘဲဤမျှခန့် 'အမလ်ကသီရ်' ပြုခြင်းဖြင့် 'နမာဇ်' ပျက်လေသည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၇၂။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မပြုပိုင်သော တိုက်ပွဲများဖြစ်မှု တင်ပြပါ အတိုင်းခွဲ၍ 'နမာဇ်' ဖတ်ပိုင်ခွင့်မရှိပေ၊ ပမာဆိုသော် သူပုန်များသည် အစ္စလာမ်ဘုရင့်အပေါ် စစ်ချီကြလျှင် ၎င်းလောကီ၏ မှုမမှန်သော အလိုလောဘဖြင့် တစ်စုသည် တစ်ခြား တစ်စုအပေါ် ချီတက်တိုက်ခိုက်လျှင် ဤကဲ့သို့သောသူများအတွက်ဤမျှခန့် 'အမလ်ကသီရ်' ပြုခြင်းသည် ခွင့်လွှတ်မှု မရပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉၄။

၆။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်'ကို ကစ်ဗ်လဟ် ဘက်သို့မဟုတ်ဘဲ အခြားဘက်သို့ ဖတ်နေစဉ် ရန်သူများ ပြေးသွားပါက ချက်ချင်း ကစ်ဗ်လဟ်ဘက်သို့ လှည့်လိုက်ရမည်၊ မလှည့်ပါက နမာဇ် မပိုင်ပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉၄။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၃။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ စိတ်ချလက်ချနှင့် ကစ်ဗ်လဟ်ဘက်သို့ လှည့်ပြီး'နမာဇ်'ဖတ်နေရာတွင် ရန်သူရောက်လာသော် ချက်ချင်း ရန်သူ၏ဘက်သို့ မျက်နှာလှည့်၍ 'နမာဇ်' ဖတ်ခြင်း ပိုင်လေသည်၊ ထိုအချိန်၌ ကစ်ဗ်လဟ်ဘက်သို့လှည့်၍ 'နမာဇ်' ဖတ်ရန် ရှရတ္တ မဟုတ်တော့ပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၉၄။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၃။

၈။ မတ်စ်အလေဟ် ပြဿနာ။ အကာယ်၍ တစ်ဦးသောသူသည် မြစ်ပွင်လယ်၌ ရေကူးနေရာ၊ နမာဇ်အချိန်မှာ နောက်ဆုံးအချိန်ဖြစ်နေမူ ထိုသူသည်ဖြစ်နိုင်ပါက အနည်းငယ်မျှအချိန် လက်ခြေမလှုပ်ဘဲနေပြီး၊ အရှောရဟ် နိမိတ်ဖြင့် နမာဇ်ဖတ်လိုက်ရမည်။

ရှရ်ဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၉။

ပျူဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၃။

ဤသည်အထိ ငါးကြိမ် နမာဇ်များ၊ ၎င်း ထိုနမာဇ်များ နှင့် ပတ်သက်သော အကြောင်းများကို ရေးခဲ့သည်၊ အလ္လာဟ်အသျှင်မြတ် အလိုတော်နှင့် ပြီးမြောက်လေရာ ဂျူမ်မိုအဟ် နမာဇ်အကြောင်းကိုရေးမည်၊ အဘယ့်ကြောင့်ဆိုသော် ဂျူမိုအဟ် နမာဇ်သည် အစ္စလာမ် သာသနာတော်၏ ကြီးမားသော 'ရှအာအင်ရ်' အထိမ်းအမှတ်များမှ ဖြစ်သည်၊ ထို့ကြောင့် အီးဒ်နှစ်အီးဒ်၏ နမာဇ်အလျင် ဦးစားပေးထားလေသည်။

## ဂျူမ်မိုအဟ် နမာဇ် အကြောင်း

အလ္လာဟ်အသျှင်မြတ် ထံတော်တွင် နမာဇ်ထက်ပို၍ နှစ်သက်တော်မူသော အရာ မရှိပေ၊ ထို့ကြောင့် အခြားသော ရှအဲဗါဒတ်များတွင် ဤမျှခန့် ပြင်းပြင်း ထန်ထန် မိန့်မှတ်တော်မူခြင်းနှင့် မှန်မြတ်ထူးကဲခြင်းများသည် 'ရှရီအတ်' တရားတော်မြတ်၌ ဖြင့်ဖွာန်း ထားတော်မမူပေ၊ ထို့ကြောင့် မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်က မမွေးဖွားမီကစ၍ သေဆုံးသည်အထိ သာမက သေပြီးနောက်နှင့် မမွေးမီအလျင် ပေးသနားထားတော်မူသော မရေမတွက် မတွက်ချက်နိုင်သောစည်းစိမ်တော်များကို ကျေးဇူးတင်ရန်၊ တစ်နေ့လျှင် ငါးကြိမ် နမာဇ် သတ်မှတ်ထားတော်မူသည်။

ဂျူမိုအဟ်နေ့သည်အခြားသောနေ့များထက် စည်းစိမ်တော်များကျရောက်သည်၊ လူသားအနေနှင့် ပထမဦးဆုံး ဖြစ်တော်မူသော အာဒမ် (အလိုင်ဟစ္စလာမ်) သခင်သည် ဤနေ့တွင် ဖန်ဆင်းခြင်းခံရတော်မူသည်၊ ထို့ကြောင့် ထိုနေ့တွင် သီးခြားသောနမာဇ် ဖတ်ရန် အမိန့်တော်မြတ် ကျရောက်ခဲ့သည်၊ ကျွန်ုပ်သည် အထက်တွင် ဂျမာအတ်၏ ဟာစ်ကမ်မတ်နှင့် အကျိုးကျေးဇူးများကို ရေးပြခဲ့သည်၊ ၎င်း ဂျမာအတ် များလေလေ အကျိုးကျေးဇူး ပို၍ တိုးပွားလေသည်၊ ဤသို့ များပြားရန်အတွက် အရပ်တိုင်း အရပ်တိုင်းနှင့်ထိုဒေသရှိသူအားလုံးတို့သည် တစ်နေရာတည်း နမာဇ်ဖတ်ကြမှ များပြားပေမည်။

နေ့စဉ် နမာဇ် ငါးကြိမ်၌မူကား ဤသို့ စုရုံးကြရန် မလွယ်ကူပေ၊ ထို့ကြောင့် 'ရှရီအတ်' တရားတော်မြတ်က ရက်သတ္တပတ်တွင် ၁-ရက် သတ်မှတ် ထားတော်မူသည်၊ ထိုသတ်မှတ်သောရက်တွင် ရပ်ကွက်တိုင်းမှလူများနှင့် ရွာများမှ လူများသည် ဂျူမိုအဟ် နမာဇ်ဖတ်သည့်နေရာတွင် ရောက်နေ့စုပေါင်း၍ ဝတ်ပြုကြရန် ဖြစ်ပေသည်။

ဂျို့မို့အဟ်နေ့သည်ကား ရက်အပေါင်းထက် အသာမြတ်ဆုံး, အထွတ်မြတ်ဆုံး ဖြစ်သည်၊ ထို့ကြောင့် ဂျို့မို့အဟ်နမာဇ်ကို သီးသန့် သတ်မှတ်တော်မူခြင်းဖြစ်သည်။ လွန်လေပြီးသော အွမ္မတ်သားများကိုလည်း အလ္လာဟ်အသျှင်မြတ်က ဤနေ့တွင် အေဗါဒတ် ပြုကြရန် မိန့်မှတ်တော်မူသည်၊ သို့သော်လည်း ၎င်းတို့က မိမိတို့၏ တပ်က်ဒီးရ် မကောင်းမှုဖြင့် ကွဲလွဲဆန့်ကျင်မှုပြုကြသည်၊ ဤသို့ဆန့်ကျင်မှုပြုသည့်အတွက် ၎င်းတို့သည် ဤမျှကြီးမားသော စည်းစိမ်တော်မှ လက်မဲ့ဖြစ်ကြရသည်၊ ၎င်းဂျို့မို့အဟ်၏ ထွတ်မြတ်ခြင်းသည် ကျွန်ုပ်တို့ အွမ္မတ်သားများအတွက် သီးသန့်ဖြစ်သည်။

ယဟူဒီများက စနေနေ့ကိုသတ်မှတ်ကြသည်၊ ထိုနေ့တွင် အလ္လာဟ်အသျှင်မြတ်က 'မခ်လူးက်' အားလုံးကို ဖန်ဆင်းတော်မူပြီးသည်ဟု ဆိုကာ ရွေးချယ်ကြသည်၊ ၎င်းပြင် နစ္စရာနီများက ဖန်ဆင်းသော နေ့၏ အစဟု ယူဆကာ တနင်္ဂနွေနေ့ကို သတ်မှတ်ကြသည်၊ သို့ရှိရာ ယနေ့ထိ ထိုအုပ်စုနှစ်စုတို့သည် ထိုနှစ်ရက်ကို ဂရုစိုက်ပြီး ထိုနေ့၏ အလုပ်များ မလုပ်ကြဘဲ မိမိတို့သဘောနှင့် ခံ့ဝပ်မှုပြုကြသည်၊ နစ္စရာနီအုပ်စိုးသောတိုင်းပြည်များတွင် တနင်္ဂနွေနေ့တွင် ထိုသို့ ခံ့ဝပ်မှုပြုရန်အတွက် ရုံးအားလုံး ပိတ်လေသည်။

# ဂျို့မို့အဟ် နေ့၏ ထွတ်မြတ်ခြင်းများ အကြောင်း

၁။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ရက်အားလုံး အနက် ဂျို့မို့အဟ် သောကြာနေ့သည် အမြတ်ဆုံးဖြစ်သည်၊ ထိုနေ့တွင် အာဒမ်(အလိုင် ဟစ္စလာမ်) သခင်အား ဖန်ဆင်းတော်မူသည်၊ ထိုနေ့တွင် 'ဂျန္နတ်' ဥယျာဉ်ဘုံနန်းသို့ ပို့ဆောင်တော်မူသည်၊ ထိုနေ့တွင် ဂျန္နတ်မှ ထုတ်တော်မူသည်၊ ၎င်းပြင် 'ကေယာမတ်' သည်လည်း ထိုနေ့၌ပင် ဖြစ်မည်။ မွတ်စလင်မ်ကျမ်း။

၂။ အေမာမ်အဟ်မဒ် (ရဟေ့) သခင် ထံတော်မှ အမိန့်တစ်ရပ် လာရှိသည်၊ သခင်က မိန့်သည်မှာ...ဂျို့မို့အဟ်ည၏ အဆင့်အတန်းသည် အချို့ အချက်များကြောင့် လိုင်လတွလ်ကဒ်ရ်ထက်ပင် သာပိုသည်၊ အဘယ့်ကြောင့်ဆိုသော် ထိုညတွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် မယ်တော်၏ ဝမ်း၌ စတည်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလ လ္လာဟု) ကိုယ်တော် ကြွလာတော်မူခြင်းသည် 'ဒွန္နယာ' — 'အာခေရတ်' နှစ်ဌာနတွင် ကောင်းချီးမင်္ဂလာနှင့်ပြည့်စုံလေရာ၊ ထိုကောင်းခြင်းများကို မည်သူမျှ မရေတွက် မဖော်ပြ နိုင်ကြပေ။

အရှိအတွလ်လုမ်အာတ်ဖွာရစီရှရ်ဟ်မစ်ရှ်ကာတ်ကျမ်း။

၃။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျို့မို့အဟ်နေ့ တွင် အချိန်တစ်ချိန်ရှိသည်၊ အကယ်၍ မွတ်စလင်မ်တစ်ဦးတစ်ယောက်သည် ထိုအချိန်၌ အလ္လာဟ်အသျှင်မြတ်ထံ ဒိုအာတောင်းဆိုမှု ပြုလျှင် အမှန်ပင် လက်ခံ 'ကဘူလ်'ပြုတော် မူပေသည်။ ဘိုခါရီ နှင့် မွတ်စလင်မ်ကျမ်း။

ဤဟဒီးသ်တော်မြတ်တွင်‌ ဒိုအာ ကဘူလ်ဖြစ်သည်ဟူသော အချိန်သည် မည်သည့် အချိန်ဖြစ်ကြောင်း အာလင်မ်များထံတွင်ကွဲပြားမှုရှိသည်၊ ရှိုင်ခ်အဗ်ဒွလ်ဟပ်က်မုဟဒ်ဒစ်သ် ဒေဟ်လဝီ(ရဟမတွလ္လာဟ်) သခင်က ရှရ်ဟ်စဖွရွတ်စ်စအာဒတ်ကျမ်းတွင်အဆိုပေါင်း-၄၀ ရေးသားထားတော်မူသည်၊ သို့သော် ထိုအဆိုများအနက် နှစ်ရပ်ကိုအသားပေးထားတော် မူသည်၊ (၁) ထိုအချိန်သည် ခွတ္တဗဟ် ဖတ်သောအချိန်မှ နမာဇ် ဆုံးသောအချိန်ထိ ဖြစ်သည်။ (၂)ထိုအချိန်သည် နေ့၏ နောက်ဆုံးပိုင်း အချိန်ဖြစ်သည်၊ ဤနံပါတ်(၂) အဆိုကို များစွာသော ပုဂ္ဂိုလ်အများစုက လက်ခံကြသည်၊ အခြားသော ဟဒီးသ်တော် များနှင့် ကိုက်ညီမှုရှိသည်။

ရှိုင်ခ်ဒေဟ်လဝီ(ရဟမတွလ္လာဟ်)သခင်က မိန့်သည်မှာ ... ဤ'ရေဝါယတ်' ဆင့်ဆိုမှု သည် မှန်ကန်သည်၊ ဖွာတေမဟ်(ရဒွေ)သခင်မသည် ဂျူ့မို့အဟ်နေ့၌ နေ့၏ နောက် ဆုံးပိုင်းတွင် သစ်ကိုရ် ဒိုအာ၌ မွေ့လျော်ရန်အတွက် အစေခံမအား သတိပေးရန် မိန့်မှာ တော်မူသည်။

အရှ်အတွလ်လမ်အာတ်ကျမ်း။

၄။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ သင်တို့၏နေ့ရက် အပေါင်းတွင် ဂျူ့မို့အဟ်နေ့သည် အမြတ်ဆုံးဖြစ်သည်၊ ထိုနေ့တွင် 'စွူရ်' တံပိုးမှုတ်မည်၊ ထိုနေ့၌ ငါ့ရစူလ်အပေါ် များစွာ 'ဒရူးဒ်' မေတ္တာပို့ကြကုန်၊ ထိုနေ့၌ပင် ငါ့ရစူလ်ထံ တော်တွင် မည်သူမည်ဝါက ဒရူးဒ် ပို့ကြောင်း တင်ပြကြမည်၊ ယာရစူလလ္လာဟ် ကိုယ် တော်ထံ မည်သို့ တင်ပြကြမည့်နည်း၊ 'ဝဖွာတ်' ဖြစ်, ကွယ်လွန်ပြီးနောက် ကိုယ်တော်၏ အရိုးများပင် ကျန်ရှိတော့မည် မဟုတ်ပါဟု ဆွဟာဗဟ်(ရဒွေ)သခင်များက လျှောက် ထားကြ၏၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ.... အမြဲထာဝရ မြေကြီးကို အန်ဗေယာ (အလိုင်ဟေ့မွတ်စလာမ်) သခင်များ၏ ကိုယ်ကာယကို 'ဟရာမ်' ပြုထားတော်မူသည်။ (မြေမဖြစ်ပေ)

အဘူဒါဝူးဒ်ကျမ်း။

ဆိုလိုသည်မှာ.... ပထဝီ မြေကြီးသည် အန်ဗေယာ(အလိုင်ဟေ့မွတ်စလာမ်)သခင် များ၏ ကိုယ်ကာယကို ပျက်ပြုန်းအောင် မပြုနိုင်ပေ၊ လောက၌ ရှိဘိသကဲ့သို့ပင် ပကတိ အတိုင်း တည်ရှိနေတော်မူကြသည်။

၅။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ 'ရှာဟစ်ဒ်' ၏ အဓိပ္ပါယ်လိုရင်းသည် ဂျူ့မို့အဟ်နေ့ဖြစ်သည်၊ ဂျူ့မို့အဟ်နေ့ထက် မည်သည့်နေ့မှ သာ မြတ်သောနေ့ မရှိပေ၊ ထိုနေ့တွင် အချိန်တစ်ချိန်ရှိသည်၊ ထိုအချိန်၌ မွတ်စလင်မ် တစ်ဦး တစ်ယောက် ဒိုအာပြုပါက အလ္လာဟ်အသျှင်မြတ်က 'ကဘူလ်' လက်ခံတော်မူသည်၊ ၎င်းခိုလှုံ ချမ်းသာမှုတောင်းလျှင် အလ္လာဟ်အသျှင်မြတ်က ချမ်းသာပေးတော်မူသည်။

တင်ရ်မေသီကျမ်း။

ရှာဟစ်ဒ်မှာသော စာလုံးသည် စူရဟ်ဘိုရူးဂျ်၌ပါရှိသည်၊ အလ္လာဟ်အသျှင်မြတ်က ထိုနေ့ကို ကဆမ် ဆိုထားတော်မူသည်။

وَالسَّمَآءِ ذَاتِ الْبُرُوْجِ وَالْيَوْمِ الْمَوْعُوْدِ وَشَاهِدٍ وَّمَشْهُوْدٍ

ကြီးမားသော ကြယ်များရှိသည့် မိုးကောင်းကင်၏ ကဆမ်၊ ကတိယာမတ် နေ့၏ ကဆမ်၊ ရှာဟစ်ဒ်(ဂျုံ့မို့အဟ်နေ့)၏ကဆမ်၊ မတ်ရှဟူးဒ်(အရ်ဖွာဟ်နေ့)၏ကဆမ်။

ကုရ်အာန်။

၆။ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်၊ ဂျုံ့မို့အဟ်နေ့သည် နေ့အားလုံး၏ ခေါင်းဆောင်ဖြစ်သည်၊ ၎င်းအလ္လာဟ်အသျှင်မြတ် ထံတော်တွင် နေ့အားလုံးထက် သာမြတ်သည်၊ ၎င်းအီဒွလ်ဖွစ်တ်ရ် နှင့် အီဒွလ်အဒ်ဟာ ထက်လည်း အလ္လာဟ်အသျှင်မြတ်ထံ တံခိုးကြီးမားသည်။

အစ်ဗ်နို့မာဂျဟ်ကျမ်း။

၇။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်မွတ်စလင်မ်သည် ဂျုံ့မို့အဟ်နေ့နှင့် ဂျုံ့မို့အဟ်ညတွင် သေဆုံးသော် အလ္လာဟ်အသျှင်မြတ်က ထိုသူ့ကို ကဗုရ်သင်္ချိုင်း၏ အသာဗ် ပြစ်ဒဏ်များမှ လွတ်ကင်းစေတော်မူသည်။

တင်ရ်မေသီကျမ်း။

၈။ အစ်ဗ်နို့ အဗ်ဗားစ် (ရသွေ့) သခင်က တစ်ရံရောအခါ အလ်ယော်င်မ၊ အတ်ကမလ်တို့၊ လကွန်မ်၊ ဒီနကွန်မ်။

ဟူသော အာယတ်တော်ကိုဖတ်တော်မူရာ၊ သခင်၏ထံပါးတွင် ယဟူဒီတစ်ယောက် ထိုင်နေခဲ့သည်၊ ၎င်းက ကျွန်တော်တို့အပေါ် ဤသို့ အာယတ်တော် ကျရောက်ခဲ့သော် ထိုနေ့ကို ကျွန်တော်တို့ အီးဒ်နေ့ သတ်မှတ်မည် ဟု လျှောက်သည်။ အစ်ဗ်နို့ အဗ်ဗားစ် (ရသွေ့) သခင်က မိန့်သည်မှာ.... ဤအာယတ်တော်သည် အီးဒ်နှစ်အီးဒ် နေ့တွင် ကျရောက်သည်၊ ဂျုံ့မို့အဟ်နှင့် အရ်ဖွာဟ်နေ့ပင်ဖြစ်သည်။ ဆိုလိုသည်မှာ.... ကျွန်ုပ်တို့သည် အထူးအထွေ အီးဒ်နေ့ သတ်မှတ်ရန်မလို၊ ထိုအာယတ်တော်သည် အီးဒ်နှစ်အီးဒ် ဆိုသော နေ့တွင်မှ ကျရောက်ခဲ့သည်။

၉။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဂျုံ့မို့အဟ် ညသည် ဖြူဝင်းသောညဖြစ်သည်၊ ၎င်းဂျုံ့မို့အဟ်နေ့သည် လင်းဝင်းသော နေ့ဖြစ်သည်။

မစ်ရှ်ကာတ်ကျမ်း။

၁၀။ ကေယာမတ် ကမ္ဘာကြီး ပျက်ပြီးနောက် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ဂျန္နတ်နှင့် ထိုက်သက်သူများကို ဂျန္နတ်သို့၊ ၎င်းဂျဟန္နမ်နှင့် ထိုက်သက်သူ များကို ဂျဟန္နမ်သို့ ပို့တော်မူရာ၊ ထိုနေ့သည် ဂျို့မို့အဟ်နေ့ပင် ဖြစ်မည်၊ သို့သော်.... ထိုဌာနတွင် နေ့-ည ဟူ၍ မရှိလေရာ၊ အလ္လာဟ်အသျှင်မြတ်က နေ့-ည စသည်ကို အချိန် အဆဖြင့် သိစေတော်မူမည် ဖြစ်သည်။

သို့ရှိရာ ဂျို့မို့အဟ်နေ့ဖြစ်ပြီး လောကဦးမွတ်စလင်မ်တို့ ဂျို့မို့အဟ်နမာဇ်ဖတ်ရန် ထွက်ကြသောအချိန်တွင် အသံပြု ဆော်သြသော ပုဂ္ဂိုလ်တစ်ပါးက အသံပြုမည်မှာ.... အို.... ဂျန္နတီတို့ 'မဇီးဒ်' တောဦးထွက်ကြကုန်၊ ထိုတော၏ အကျယ်အဝန်းကို အလ္လာဟ် အသျှင်မြတ်မှတစ်ပါး မည်သူမျှမသိကြပေ၊ ထိုတောတွင် ကတိုးများသည် မိုးထိမြင့်စွာ စုပုံနေမည်၊ အန်ဗေယာ (အလိုင်ဟေ့မွတ်စလာမ်) သခင်များသည် နူရ်၏ မင်နံ့ဗရ် ရာဇပလ္လင်များပေါ်တွင် စံနေကြမည်၊ ၎င်း မုအ်မင်နံများသည် ပုလဲကုလားထိုင်များတွင် ထိုင်နေကြမည်။

သို့ရှိရာ အားလုံးသော ပုဂ္ဂိုလ်များသည် မိမိတို့ နေရာတွင် အသီးသီး အသက အသက ထိုင်ပြီးကြသောအခါ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်က လေနုအေး တစ်ခု စေလွှတ်တော်မူမည်၊ ထိုလေတိုက်ခတ်ခြင်းဖြင့် ကတိုးများသည် ပြန့်လွင့်မည်၊ ထို လေသည် ကတိုးများကိုယူဆောင်ပြီး ထိုပုဂ္ဂိုလ်တို့ အဝတ်အစား, မျက်နှာ, ဆံပင် များကို လူးထိစေမည်၊ လေသည် တစ်လောကလုံး၏ အမွှေးအကြိုင်ရထား၍ သုံးစွဲတတ်သော အမျိုးသမီးထက် စနစ်ကျအောင် အသုံးတော်ခံပေမည်။

ထို့နောက် မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် 'အရ်ရှ်' တော်ကို ထိမ်းသော ပုဂ္ဂိုလ်များအား အရ်ရှ်တော်ကို ထိုပုဂ္ဂိုလ်များ၏ အကြားလည်၌ ထားရန် အမိန့်ပေးတော်မူမည်၊ ထို့နောက် ထိုပုဂ္ဂိုလ်များအား အမိန့်ပေးတော်မူမည်။ အို.... ငါ့အသျှင်မြတ်၏ ကျေးကျွန်တို့၊ ငါ့အသျှင်မြတ်ကို မမြင်တွေ့ရဘဲ အကွယ်မှ အီမာန်ယူခဲ့ ကြသူတို့၊ ငါ့အသျှင်မြတ်၏ ရစူလ်ကို ထောက်ခံကြ၍ ငါ့အသျှင်၏ အမိန့်တော်များကို လိုက်နာဆောက်တည်ကြသူတို့၊ ယခု ငါ့အသျှင်မြတ်ထံမှ လိုရာကို တောင်းကြကုန်၊ ဤနေ့ သည် (မဇီးဒ်) ဆု,လာဘ် ပိုမိုပေးမည့် နေ့ဖြစ်သည်။

အားလုံးက တစ်သံတည်းလျှောက်ထားကြမည်၊ အို....မွေးမြူဖန်ဆင်းတော်မူသော အနန္တ တံခိုးတော်ရှင်၊ ကျွန်တော်မျိုးများသည် ကိုယ်တော်အသျှင်အား နှစ်သက်မြတ်နိုး ကြပါသည်၊ ကိုယ်တော်အသျှင်ကလည်း ကျွန်တော်မျိုးများအား နှစ်သက် သဘော တူတော်မူပါ။ အို....ဂျန္နတီတို့၊ သင်တို့အား ငါ့အသျှင်မြတ်သည် နှစ်သက်ခြင်းမရှိပါက

သင်တို့ကို ဂျန္နတ်သို့ ထားတော်မူမည်မဟုတ်၊ ဤသည်ထက် ပို၍ လိုရာတောင်းကြကုန်၊ ဤနေ့ကား (မဇီးဒ်) ဆုလာဘ် ပို၍ ပေးမည့်နေ့ဖြစ်သည်ဟု အလ္လာဟ်အသျှင်မြတ်က မိန့်တော်မူပေမည်။

ထိုအခါအားလုံးက တစ်သံတည်း ကျွန်တော်မျိုးများကို မိမိ၏မှန်မြတ်ထူးကဲသော 'သာတ်'တော်ကို ပြ,သတော်မူပါဟု လျှောက်ထားကြမည်။ ထိုအခါ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် 'ပရ်ဒဟ်'အကာအကွယ်ကို ဖယ်ရှား၍ မိမိ ပကတိ 'သာတ်' တော်ကို ပြတော်မူပေမည်၊ အကယ်၍ ဂျန္နတီများအား ဘယ်သော အခါမှ မလောင်ကျွမ်းစေဟူသော အမိန့်တော် မရရှိခဲ့သော် ထိုပုဂ္ဂိုလ်များသည် အလ္လာဟ်အသျှင်မြတ်၏ 'နူရ်' တော်ကို မခံနိုင်ဘဲ လောင်ကျွမ်းကုန်ကြမည် ဖြစ်သည်။

ထိုသို့ ပြသတော်မူပြီး မိမိတို့ဌာနအသီးသီးသို့ ပြန်ကြကုန်ဟု မိန့်တော်မူပေမည်။ ထိုပုဂ္ဂိုလ်တို့၏လုပ်ခြင်းသည် အလ္လာဟ်အသျှင်မြတ်အား 'ဒီဒါရ်' ဖူးတွေ့ရသော ဘရ်ကတ်ဖြင့် နှစ်ဆတိုး၍ လှပသွားကြပေမည်၊ ထိုပုဂ္ဂိုလ်များသည် မိမိတို့ ဇနီးမိတ်လျာများထံ ရောက်လာကြသောအခါ၊ ဇနီးတို့ကရင်းတို့ကို မြင်ကြမည်မဟုတ်သကဲ့သို့ ၎င်းတို့ကလည်း ဇနီးများကို မြင်ကြရမည်မဟုတ်ပေ၊ ခဏကြာသောအခါ ထိုပုဂ္ဂိုလ်များအား လွှမ်းခြုံနေသော နူရ်တော်သည် စဲသွားသောအချိန်တွင် တစ်ဦးနှင့်တစ်ဦးမြင်ကြရမည်၊ ထိုပုဂ္ဂိုလ်တို့၏ ဇနီးများက၊ သွားသောအချိန်က ရုပ်မျိုးမဟုတ်ဘဲ ယခု ထိုထက် အဆပေါင်းထောင်ပေါင်းမက ရုပ်ချောလာသည်ကိုမေးကြမည်၊ ၎င်းတို့က အလ္လာဟ်အသျှင်မြတ်က မိမိ၏'သာတ်'တော်ကို ပြသ,သဖြင့် ကျွန်ုပ်တို့ ဤသို့ချောမော လှပလာကြသည်ဟု ပြောကြမည် ဖြစ်ပေသည်။

ရှရ်ဟ်စဖွရွတ်စ်စအာဒတ်ကျမ်း။

သောကြာနေ့တွင် မည်မျှကြီးမားသော စည်းစိမ် ရကြသည်ကို သိကြရပေပြီ။

၁၁။ နေ့စဉ် မွန်းတည့်အချိန်တွင် ဒိုဇခ် ငရဲဘုံ၏မီးကို ပြင်းထန်အောင် ပြုစေတော်မူသည်၊ သို့သော်ဂျုံ.မို့.အဟ်နေ့တွင် ပြင်းထန်အောင် ပြုစေတော်မမူပေ။

အဲဟ်ယာ်အွလ်အို.လူမ်ကျမ်း။

၁၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဂျုံ.မို့.အဟ် နေ့တစ်နေ့တွင် မိန့်တော်မူသည်မှာ.... အို....မွတ်စလင်မ်အပေါင်းတို့၊ ဤနေ့ကို အလ္လာဟ်အသျှင်မြတ်က အီးဒ်ဟု သတ်မှတ်ထားတော်မူသည်၊ သို့ရှိရာ ဤနေ့တွင် ရေချိုးသန့်စင်ကြကုန်၊ အကြင်သူ၏ထံတွင် အမွှေးအကြိုင်ရှိသော် အမွှေးအကြိုင် သုတ်လိမ်းကုန်၊ ၎င်းပြင် 'မစ်ဝါးက်' တံပူဖြင့် သွားတိုက်ရန် ဤနေ့တွင် ဂရုစိုက်ကုန်။

အစ်ဗ်နို.မာဂျဟ်ကျမ်း။

# ဂျို့မို့အဟ်၏ အာဒါဗ်များ အကြောင်း

၁။ မွတ်စလင်မ်တိုင်းသည် ကြာသပတေးနေ့မှစ၍ ဂျို့မို့အဟ်သေရှုကြာအတွက် ပြင်ဆင်ကြရန်ထိုက်သည်၊ ကြာသပတေးနေ့ အတ်စွ ရ်နမာဇ်ပြီး 'အစ်တစ်ဂ်ဖွာရ်' စသည် များ ၊များစွာပြုရန်ထိုက်သည်၊ မိမိဝတ်ဆင်ရန်အဝတ်ကို ဖွပ်လျှော်ရမည်၊ ၎င်းအမွှေး အကြိုင်အိမ်တွင်မရှိမူ၊ တတ်နိုင်ပါက ဂျို့မို့အဟ်နေ့တွင် ထိုကိစ္စ၌ မွှေ့လျော်ခြင်းမပြုရန် ကြိုတင် ဝယ်ယူရမည်။

အထက်သခင်များကမိန့်ကြသည်မှာ....ကြာသပတေးနေ့မှ စတင်ပြင်ဆင်သူ၊ စောင့် မျှော်နေသူသည် အားလုံးထက်ပို၍ ဂျို့မို့အဟ်၏ အကျိုးကျေးဇူးကို ရရှိမည်ဖြစ်သည်၊ ဂျို့မို့အဟ်နေ့ကို မသိသူ၊ နံနက်လင်းမှ ဤနေ့ မည်သည့်နေ့နည်းဟု မေးရသူတို့သည် အားလုံးထက် 'တပ်က်ဒီးရ်' ဆိုးသူ ဖြစ်သည်၊ ၎င်းအချို့ပုဂ္ဂိုလ်များသည် ပိုမိုဂရုစိုက် သော အနေဖြင့် ဂျို့မို့အဟ်နေ့-ည(ကြာသပတေးနေ့-ည)ကတည်းက 'ဂျာမေ့အ်မတ်စ် ဂျစ်ဒ်'ဗလီသို့ သွားရောက်ကြသည်။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၂။ ထို့နောက် ဂျို့မို့အဟ်နေ့၌ ရေချိုးရမည်၊ ဆံပင်နှင့် တစ်ကိုယ်လုံးကို သန့်ရှင်းစွာပြုရမည်၊ ဂျို့မို့အဟ်နေ့၌ 'မစ်ဝါးက်' တံပူဖြင့် သွားတိုက်ခြင်းသည်လည်း အလွန် မွန်မြတ်လေသည်။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၃။ ဂျို့မို့အဟ်နေ့၌ ရေချိုးပြီး မိမိထံရှိသော အဝတ်အထည်များ အနက် အကောင်းဆုံးကို ဝတ်ရမည်၊ ၎င်းတတ်နိုင်လျှင် အမွှေးအကြိုင် သုတ်လိမ်းရမည်၊ ခြေ သည်းလက်သည်းလည်း ဖြတ်ရမည်။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၄။ 'ဂျာမေ့အ်မတ်စ်ဂျစ်ဒ်' ဗလီဝတ်ကျောင်းတော်တွင် စောစောသွားရမည်၊ အစောဆုံးရောက်သူသည် ထိုမျှခန့် ကုသိုလ် သဝါဗ် ပိုမိုရရှိမည် ဖြစ်ပေသည်။

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဂျို့မို့အဟ် နေ့၌ ဖွရစ်ရှ်တဟ်များသည် ဂျို့မို့အဟ် နမာဇ်ဖတ်သော ဗလီဝတ်ကျောင်းတော်၏ တံခါးဝ တွင်နေကြသည်၊ အဦးဆုံးရောက်သူ၊ ပထမ၊ ဒုတိယ၊ တတိယရောက်သူဟူ၍ အဆင့်လိုက် ရေးမှတ်တော်မူသည်၊ ပထမဦးစွာ ရောက်သူသည် အလ္လာဟ်အသျှင်မြတ်၏ လမ်းတော်၌ ကုလားအုတ် ကုရ်ဘာနီ ပြုသကဲ့သို့ ကုသိုလ် သဝါဗ်ရသည်၊ ထို့နောက် ရောက်သူသည် နွားကုရ်ဘာနီပြုသော အကျိုးရသည်၊ ထို့နောက် အလ္လာဟ်အသျှင်မြတ်၏ လမ်းတော်၌ ကြက် သဗဟ် ပြုသောအကျိုး၊ ဥ, လှူဟန်းသော အကျိုး စသည် ကုသိုလ်သဝါဗ်များ

ရရှိကြသည်၊ ထို့နောက် အေမာမ်က 'ခွတ္တဗဟ်' စလေရာ၊ ဖွရစ်ရှိတဟ်များသည် စာရင်း စာအုပ်ကိုပိတ်ပြီး 'ခွတ္တဗဟ်'ဖတ်သည်ကို နားထောင်ကြလေသည်။

ဘိုခါရီ နှင့် မွတ်စလင်မ်ကျမ်း။

အထက် အခါသမယက ပုဂ္ဂိုလ်တို့သည် အာရိုတက် အချိန်နှင့် ဖွဂ်ျရ် နမာဇ် ပြီး နောက် လမ်းများ၊ လမ်းကြားများတွင် ပြည့်နှက်နေကြသည်၊ လူအားလုံးသည် အီးဒ် နေ့ကဲ့သို့ စောစီးစွာ ဂျာမေ့အ်မတ်စ်ဂျစ်ဒ်သို့ သွားကြရာ လူအုပ်ကြီးဖြစ်သွားသည်၊ ထို့ နောက် ဤသို့စောစီးစွာသွားခြင်း ပျောက်ကွယ်လေရာ၊ လူတို့က အစ္စလာမ်သာသနာ တော်တွင် ပထမဦးဆုံး 'ဗိဒအတ်' ဟုဆိုကြသည်။ (မှတ်ချက်။ စောစီးစွာ မသွားခြင်း၊ ဤနေရာတွင် ဗိဒအတ်မှာ လွတ်ဂ်ဝီ ဗိဒအတ် အလုပ်သစ်ဖြစ်သည်၊ ရှရ်အီ ဗိဒအတ် မဟုတ် ပေ။ ဆိုလိုသည်မှာ.... သာသနာတော်တွင် အေဗါဒတ် ကုသိုလ်ရမည်ဟု အသစ်အဆန်း တီထွင်ခြင်းမဟုတ်၊ ထိုသို့တီထွင်ခြင်းကား ဟရာမ်ဖြစ်သည်၊ စောစီးစွာ မသွားခြင်းသည် ဟရာမ် မဟုတ်ပေ။)

အေမာမ်ဂဇာလီ (ရဟမတုလ္လာဟ်) သခင်က ဤသို့ ရေးသားပြီး မိန့်သည်မှာ.... မွတ်စလင်မ်တို့သည် အဘယ့်ကြောင့် အရှက်မထားကြသနည်း၊ ယဟူဒီနှင့် နစ္စာရာတို့ သည် မိမိတို့ ခ၀ပ်သောနေ့၊ ဆိုလိုသည်မှာ... ယဟူဒီများက စနေနေ့၊ နစ္စာရာတို့က တနင်္ဂနွေနေ့တွင် မိမိတို့ ခ၀ပ်ရာနေရာများတွင် စောစီးစွာ သွားကြသည်၊ ၎င်းလောကီ ရေးရာတွင် ရောင်း၀ယ်သူများသည် ဈေးသို့ စောစီးစွာသွားကြသည်၊သို့ရှိရာ သာသနာ တော်ကို လိုလားသောသူတို့သည် အဘယ့်ကြောင့် နှောင့်နှေးနေကြသနည်း။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း။

အမှန်မှာ ယခုခေတ်သမယရှိ မွတ်စလင်မ်တို့သည် ဤမွန်မြတ်သောနေ့၏ ဂုဏ်ထူး ၀ိသေသကို ဂရုမစိုက်ကြ၊ ၎င်းတို့သည် ဤနေ့ မည်သည့်နေ့ ဖြစ်သည်၊ မည်သို့ အဆင့် အတန်းမြင့်သည် ဟူ၍ပင် သတိမပြုကြပေ။ ၀မ်းနည်းဖွယ် ကောင်းလေစွ၊ ထိုနေ့သည် အထက် သခင်များ ထံ အီးဒ်နေ့ ထက်ပင် သာပို၍ခဲ့သည်၊ ၎င်း ထိုနေ့ ဂျူ့မို့အဟ် ကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဂုဏ်ယူတော်မူခဲ့သည်၊ ထိုဂျူ့မို့အဟ် နေ့ကို အထတ်လွန်လေပြီးသော အွမ္မတ်သားများ မရရှိခဲ့ကြ၊ ယနေ့မွတ်စလင်မ်တို့၏ လက်ဖြင့် ပင် ထိုဂျူ့မို့အဟ်နေ့မှာ သေးသိမ်၍ အဆင့်အတန်းမရှိတော့သလောက်ဖြစ်ရနေသည်၊ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ် ပေးသနားတော်မူသော စည်းစိမ်တော်ကို ဖျောက်ဖျက်ပစ်ခြင်းသည် ကျေးဇူးအကန်းဆုံးဖြစ်သည်၊ ထိုအတွက် '၀ဗါလ်' ဒုက္ခရောက် ကြသည်ကို ကျွန်ုပ်တို့ မျက်မြင်ဖြစ်ပေသည်။ (အင်န်နာ၊ လစ်လ္လာဟေ့၊ ၀အင်နာ၊ အေ့ လိုင်ဟေ့၊ ရာဂျေ့အူန်။)

၅။ ဂျူ့မို့အဟ် နမာဇ်အတွက် ခြေလျှင်သွားခြင်းဖြင့် ခြေလှမ်းတစ်လှမ်းတွင် ၁-နှစ် ရိုဇဟ်စောင့်ခြင်း၏ ကုသိုလ် သ၀ါဗ် ရသည်။

တင်ရ်မေသီကျမ်း။

၆။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် ဂျူ့မို့အဟ်နေ့၌ ဖွဂျ်ရ်နမာဇ် တွင် စူရဟ်အလစ်ဖ်လာမ်မီမ် စဇ်ဂျဒဟ်နှင့် ဟလ်အတာအလလ်အင်န်စာန်ကို ဖတ်တော် မူသည်၊ ထို့ကြောင့် ထိုစူရဟ်များကို ဂျူ့မို့အဟ်နေ့ ဖွဂျ်ရ် နမာဇ် တွင် မွတ်စ်တဟဗ်ဟု ယူဆ၍ တစ်ခါတစ်ရံ ဖတ်ရန်ထိုက်သည်၊ လူတို့က ဝါဂျစ်ဗ်ဟု မထင်ကြစေရန် တစ်ခါ တစ်ရံ မဖတ်ဘဲ နေရမည်။

၇။ ဂျူ့မို့အဟ် နမာဇ်တွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်သည် စူရဟ် ဂျူ့မို့အဟ်၊ စူရဟ်မုနာဖွေ့ကူန်၊ ၎င်း စဗ်ဗေ့ဟစ်မ၊ရဗ်ဗေ့ကလ်အအ်လာနှင့် ဟလ်အတာက၊ ဟဒီသွလ်ဂါရှေယဟ် ဖတ်တော်မူသည်၊(တစ်ခါတစ်ရံ ဤစူရဟ်နှစ်ပုဒ် ကိုဖတ်ပြီး တစ်ခါတစ်ရံ အထက်ပါ စူရဟ် နှစ်ပုဒ်ကို ဖတ်တော်မူသည်။)

၈။ ဂျူမို့အဟ်နေ့ ဂျူမို့အဟ် နမာဇ် အလျင် ၎င်းနောက်တွင် စူရဟ်ကဟ်ဖ် ဖတ်ခြင်းသည် အလွန် သဝါဗ် ကြီးမားလေသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု)ကိုယ် တော်က မိန့်တော်မူသည်၊ ဂျူ့မို့အဟ်နေ့၌ အကြင်သူသည် စူရဟ်ကဟ်ဖ်ကို ဖတ်လျှင် ထိုသူ၏အတွက် 'အရ်ရှ်' တော်အောက် မိုးမျှမြင့်သော 'နူရ်' တော်တစ်ခု ပေါ်လာမည်၊ ထို'နူရ်'သည် ကေယာမတ်၏ မှောင်သောအဖြစ်၌ ထိုသူ့အတွက် အသုံးဝင်မည်ဖြစ်သည်၊ ထိုဂျူ့မို့အဟ် အလျင် ဂျူ့မို့အဟ်မှ တင်ရှိသော 'ဂိုနာဟ်'များမှ လွတ်ငြိမ်းချမ်းသာမှု ရရှိလေသည်။

ရှရ်ဟ်စဖွရွတ်စ်စအာဒတ်ကျမ်း။

အာလင်မ် ပညာရှင်များက ရေးကြသည်မှာ ဤဟဒီးသ်တော်၏အလိုမှာ ဂိုနာဟ် စွဂီရဟ်များဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ဂိုနာဟ် ကဗီရဟ်သည် 'တောဗ်ဗဟ်' အမှားဝန်ခံမှုမပြုဘဲ လွတ်ငြိမ်းချမ်းသာမှု မရပေ။ (ဝလ္လာဟို၊ အအ်လမို့)

၉။ ဂျူ့မို့အဟ်နေ့၌ ဒရူးဗ်ရှရီးဖ် ဖတ်ခြင်းသည် အခြားနေ့များတွင် ဖတ်ခြင်း ထက်ပို၍ ကုသိုလ်'သဝါဗ်'ရလေသည်၊ ထို့ကြောင့် ဂျူ့မို့အဟ် နေ့တွင် ဒရူးဒ်များစွာ ဖတ်ကြရန် ဟဒီးသ် တော်တွင် လာရှိပေသည်။

# ဂျူ့မို့အဟ် နမာဇ်၏ ထွတ်မြတ်ခြင်းနှင့် လှုံ့ဆော်ချက်များ အကြောင်း

ဂျူ့မို့အဟ် နမာဇ် သည် ဖွရ်သွ် အိုင်န် ဖြစ်သည်၊ 'ကုရ်အာန် ကျမ်းတော်မြတ်' ဟဒီးသ်တော်၊ မို့တဝါတင်ရ်နှင့် အစ်ဂျ်မာအ်ဖြင့် အတည်ဖြစ်ပေသည်၊ ၎င်းအစ္စလာမ် သာသနာတော်၏ ကြီးကျယ်သော အထိမ်းအမှတ်တရပ်မှဖြစ်သည်၊ဂျူ့မို့အဟ် နမာဇ်ကို ပယ်သူသည် ကာဖွင်ရ် ဖြစ်သည်၊ အုဇ်ရ် မရှိဘဲ လွတ်သူသည် ဖွာစစ်က် ဖြစ်သည်။

၁။ အလ္လာဟ်အသျှင်မြတ် မိန့်တော်မူသည်....

يَاأَيُّهَا الَّذِينَ آمَنُوا إِذَا نُودِيَ لِلصَّلَاةِ مِن يَوْمِ الْجُمُعَةِ فَاسْعَوْا إِلَىٰ ذِكْرِ اللَّهِ وَذَرُوا الْبَيْعَ ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ إِن كُنتُمْ تَعْلَمُونَ

ဂျုံ့မို့အဟ်'နမာဇ်'အတွက် အာဿာန်ဆိုမူ သင်တို့ အလ္လာဟ်အသျှင်မြတ်၏သစ်ကိရ် တော်ဘက်သို့ ပြေးကြကုန်၊ ၎င်းပြင် ရောင်း,ဝယ် ဖောက်ကားခြင်းကို လွှတ်ကြကုန်၊ အကယ်၍ သင်တို့သိကြလျှင် ဤသို့ပြုခြင်းသည် သင်တို့အတွက် အကောင်းဆုံးဖြစ်သည်၊ (သိကြလျှင် သည်'ကလေမဟ်တရ်ဂီးဗ်'ဖြစ်သည်၊သင့် မှတ်စလင်မ်တို့သိကြသည်၊ သိသော သူများသည် အမိန့်တော်နှင့် ကွဲလွဲမှုပြုရန် မထိုက်ဟူ၍ ဖြစ်ပေသည်။)

၂။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ ဂျုံ့မို့အဟ် နေ့၌ အကြင်သူသည် ဂွတ်စ်လ်နှင့် တွဟာရတ်ကို တတ်နိုင်သည်ခန့်ပြုသည်၊ ထို့နောက် ဆံပင်တွင် ဆီထည့်သည်၊ ၎င်းအမွှေးအကြိုင် သုတ်လိမ်းသည်၊ ထို့နောက် 'နမာဇ်' ဖတ် ရန် ဗလီသို့သွားသည်၊ ၎င်းဗလီသို့ရောက်ပြီး မည်သူ့ကို ၎င်း၏နေရာမှ အဖယ်မခိုင်းဘဲ မိမိရသော နေရာတွင်ထိုင်သည်၊ ထို့နောက် နဖ်လ် များကို တပ်ကဒီးရ်၌ပါသည်ခန့် ဖတ် သည်၊ ထို့နောက် အေမာမ်သည် ခွတ္ဗဟ် ဖတ်လေရာ ငြိမ်သက်စွာနေမူ ထိုသူသည် လွန်ခဲ့သော ဂျုံ့မို့အဟ်မှ ယခုဂျုံ့မို့အဟ်အထိ တင်ရှိသော 'ဂိုနာဟ်စွဂီရဟ်' များမှ လွတ်ငြိမ်းချမ်းသာခွင့်ရလေသည်။

ဘိုခါရီကျမ်း။

မှတ်ချက်။ ။အခြား ဟဒီးသ်တော်တွင် လာရှိသည်မှာ အေမာမ်သည် မင်န်ဗရ် ပေါ်သို့ လာ၍ထိုင်လျှင် ထိုအချိန်မှစပြီး 'နမာဇ်' ဖတ်ခြင်း၊ စကားပြောခြင်းတို့သည် မပိုင်ခဲပ၊ ဤသည်ပင် အေမာမ် အဘူဟနီဖွာဟ် (ရဟမတွလ္လာဟ်) သခင်၏ 'မသဟဗ်' ဖြစ်သည်။

၃။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ဂျုံ့မို့အဟ်နေ့၌ ကောင်းစွာ ဂွတ်စ်လ် ပြု,ရေချိုးလျှင် ၎င်းဗလီသို့စောစီးစွာ အစီးအနင်း နှင့်မဟုတ်ဘဲ ခြေလျှင်သွားလျှင် ထို့နောက် 'ခွတ္ဗဟ်' ကို နားထောင်လျှင် ထိုအတော အတွင်း အလဟဿ အလုပ်ကိုမပြုသော်ထိုသူသည် ခြေလှမ်း တစ်လှမ်းတွင် တစ်နှစ်ပတ်လုံး 'အေဗာဒတ်' ပြုသည့်အကျိုးသဝါဗ်ရမည်၊ ၎င်းရိုဇဟ်တစ်နှစ်တွက် နမာဇ်တစ်နှစ်တွက် ပါ 'သဝါဗ်' ကုသိုလ်ရမည်။

၄။ အစ်ဗ်နိ့ အုမရ်နှင့် အဘူဟုရိုင်ရဟ် (ရသွေ့) သခင်နှစ်ပါးက မိန့်သည်မှာ ကျွန်ုပ်တို့သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဤသို့မိန့်သည်ကို ကြားခဲ့သည်၊ လူတို့သည် ဂျု့မို့အဟ် နမာဇ် ကိုမလွတ်ကြနှင့် သို့တည်းမဟုတ်လွတ်ခဲ့သော အလ္လာဟ် အသျှင်မြတ်သည် ထိုသူတို့၏စိတ်၌ တံဆိပ်ခပ်နှိပ်တော်မူလိမ့်မည်၊ ၎င်းထိုသူတို့သည် ဖြင်းပြစွာ မေ့လျော့မှု၌ ကျရောက်သွားကြမည်။

မွတ်စလင်မ်ကျမ်း။

မှတ်ချက်။ ။တံဆိပ် ခပ်နှိပ်မည်ဟုဆိုရာ၌ အလ္လာဟ်အသျှင်မြတ်ထံ စိုလုံ့မှုတွင် မေ့လျော့မှုဖုံးလွှမ်းသွားသော် ထိုသူတို့သည် ဂျဟန္နမ် အပါယ်ငရဲမှလွတ်ကင်းရန် အလွန်ခဲယဉ်းလေသည်။

၅။ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည် ဂျု့မို့အဟ် သုံးပတ်ကို ပျင်းရိခြင်းဖြင့် အသိရ်မရှိဘဲ လွတ်ခဲ့သော်ထိုသူ၏စိတ်၌အလ္လာဟ် အသျှင်မြတ်သည် တံဆိပ် ခပ်နှိပ်တော်မူလေသည်။

တင်ရ်မေသီကျမ်း။

အခြား ဟဒီးသ်တော်တစ်ရပ်တွင် လာရှိသည်မှာ မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်သည် ထိုသို့သောသူအား နှစ်မြို့တော်မမူပေ။

၆။ တွာရစ်က်ဗင်န်ရှေယားဗ် (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ဂျု့မို့အဟ် 'နမာဇ်'ကို ဂျမာအာဟ်ဖြင့် ဖတ်ရန် မွတ်စလင်မ်တိုင်းအပေါ်တွင် 'ဝါဂျစ်ဗ်' တာဝန်ဖြစ်သည်၊သို့သော်(၄)ဦးသော သူ အပေါ်တွင် တာဝန်မရှိပေ၊ (၁) ရှရီအတ် တရားတော်အရ အတည်ဖြစ်သော ကျွန်၊ (၂) အမျိုးသ်မီး၊ (၃) အရွယ်မရောက်သေးသော ယောကျာ်းလေး၊ (၄) ရောဂါဖိစီး ခြင်း ခံနေရသူ။

အဘူဒါဝူးဒ်ကျမ်း။

၇။ အစ်ဗ်နိ့ အုမရ်(ရသွေ့)သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က ဂျု့မို့အဟ် 'နမာဇ်' ကို လွတ်သူများနှင့် ပတ်သက်၍ မိန့်တော်မူသည်မှာ ငါရစူလ် ပြုတော်မူချင်သည်မှာ ငါရစူလ်၏နေရာတွင် တစ်ဦးဦးအား အေမာမ်အဖြစ် လွှဲခဲ့ပြီး ငါရစူလ်ကိုယ်တိုင် ဂျု့မို့အဟ် နမာဇ် မဖတ်သူများ၏ အိမ်များသို့ သွားတော်မူပြီး ၎င်းတို့၏ အိမ်များကို မီးရှို့ပစ်ချင်သည်။

မွတ်စလင်မ်ကျမ်း။

ဤဟဒီးသ်တော်အတိုင်းပင် ဂျမာအတ်ကို လွတ်သူများနှင့်ပတ်သက်၍ လာရှိပေသည် ထိုဟဒီးသ်တော်ကို အထက်တွင် ကျွန်ုပ် ရေးခဲ့ပေပြီ။

၈။ အစ်ဗ်နို့ အဗ်ဗားစ် (ရသေ့) သခင်က ဆင့်ပြန်ခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ— အကြင်သူသည် တရားတော်အရ အကြောင်းမခိုင်လုံဘဲ ဂျို့မို့အဟ် 'နမာဇ်' ကိုလွှတ်လျှင် ထိုသူ့ကို ပြောင်းလဲခြင်း လုံးဝမရှိသော စာအုပ်၌ 'မုနာဖစ်က်' ဟု ရေးမှတ်တော်မူသည်။

မစ်ရှ်ကာတ်ကျမ်း။

ဆိုလိုတော်မူသည်မှာ.... နေဖွာက် အမိန့်သည် အမြဲတည်နေမည်၊ ဟုတ်ပါ၏၊ အကယ်၍ ၎င်းသူက 'တောင်ဗဟ်' ပြု အမှားဝန်ခံလျှင် မြင့်မြတ်တော်မူသော အလ္လာဟ် အသျှင်မြတ်က မိမိ၏ အသနားတော်မြတ်ဖြင့် ခွင့်လွှတ် ချမ်းသာပေးတော်မူလျှင် ကင်းလွတ်သွားပေမည်။

၉။ ဂျာဗင်ရ် (ရသေ့) သခင်က ဆင့်ပြန်ခဲ့သည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြင်သူသည်အလ္လာဟ်အသျှင်မြတ်အပေါ် ၎င်းကေယာမတ်နေ့ကို အီမာန်ယူလျှင် ထိုသူသည် ဂျို့မို့အဖွက်နမာဇ်ကို မလွဲကေန်ဖတ်မည်၊ သို့သော် ရောဂါသည် မုစာဖွင်ရ်၊ အမျိုးသမီး၊ ယောကျ်ားလေး၊ ကျွန်တို့မှာ ကင်းလွတ်ခွင့်ရှိသည်၊ သို့ရှိရာ အကြင်သူသည် အလဟာသ အလုပ်နှင့် ရောင်း, ဝယ်မှုတွင်မွေ့လျော်၍ 'နမာဇ်' မဖတ်လျှင် တစ်လောကလုံးကို စိုးပိုင်တော်မူသော အလ္လာဟ်အသျှင်မြတ်သည် ထိုသူ့ကို ဂရုစိုက်တော်မမူ၊ အလ္လာဟ်အသျှင်မြတ်သည် တောင့်တ,ခြင်းမှ ကင်းတော်မူသော ဂုဏ်သရေ မြင့်မားတော်မူသည့် အသျှင်သခင် ဖြစ်တော်မူသည်။

မစ်ရှ်ကာတ်ကျမ်း။

ဆိုလိုတော်မူသည်မှာ....အလ္လာဟ်အသျှင်မြတ်သည် မည်သူ၏ 'အေဗာဒတ်' ပြုမှုကိုမှ ဂရုစိုက်တော်မမူ၊ ပြုလျှင်လည်း အလ္လာဟ်အသျှင်မြတ် အတွက်မည်သို့မျှ အကျိုးမရှိ၊ ထိုအသျှင်၏ 'သာတ်' တော်သည် တောင့်တ,ခြင်း ဟူသမျှမှ ကင်းစင်တော်မူသည်၊ အသျှင်မြတ်အား ချီးမြှင့်ထောပနာပြုသည်ဖြစ်စေ၊ မပြုသည်ဖြစ်စေ ဂရုစိုက်တော်မမူပေ။

မှတ်ချက်။ ။ထိုသို့နမာဇ်လွှတ်သူကိုအလ္လာဟ်အသျှင်မြတ်က ဂရုပြုတော်မမူပေ၊ ထိုအသျှင်မြတ်သည်မည်သူ၏ 'အေဗာဒတ်' ပြု,မပြုကိုတောင့်တ,တော်မမူ၊၎င်းပြင်မည်သူ၏ ထံမှ အကျိုးသက်ရောက်မှုကို ရလိုတော်မူသော အသျှင်မဟုတ်ပေ၊ ဗန္ဒဟ် လူသားသည် ကောင်းမှုပြုလျှင် မိမိအကျိုးအတွက်သာ ပြုသည်ဖြစ်သည်၊ သို့ရှိရာ လူသားသည်ကိုယ်တိုင်ပင် မသိနားမလည်မှုကြောင့် ဂျဟန္နမ်သို့ ကျမည့်အလုပ်ကို ကျူးလွန်လျှင် အလ္လာဟ် အသျှင်မြတ် သည်လည်း ထိုသူ့အတွက် ဂရုစိုက်တော်မမူပေ။

၁၀။ အဗ်နို့အဗ်ဗားစ် (ရသေ့) သခင်က မိန့်တော်မူသည်၊ အကြင်သူသည် ဆက်ခါါဆက်ခါ ဂျို့မို့အဟ် အချို့ကို လွှတ်ခဲ့လျှင် သို့ရှိရာ ထိုသူသည် အစ္စလာမ် သာသနာတော်ကို ကျောပေးသူဖြစ်သည်။

၁၀။ အုစ်ဗိန့်အဗ်ဗာ းစ်(ရသေ့)သခင်အားတစ်ဦးသောသူသည် ဂျို့မို့အဟ်သို့လည်းကောင်း၊ ဂျမာအတ်သို့လည်းကောင်း မလာဘဲ သေသွားလျှင် ထိုသူ့ကို မည်သို့အမိန့်ရှိပါသနည်းဟုတစ်ဦးသောပုဂ္ဂိုလ်ကမေးလျှောက်ရာထိုသူသည် ဂျဟန္နမ်သို့ကျမည်ဟုမိန့်တော်မူသည်၊ ထို့နောက် ထိုပုဂ္ဂိုလ်သည် တစ်လတိတိ ဤသို့ပင် မေးလျှောက်နေရာသခင်က ဤသို့ပင် အဖြေပေးနေတော်မူ၏။

အဲဟ်ယာအွလ်အို့လူမ်ကျမ်း။

ဤတင်ပြပါ ဟဒီးသ်တော်များကို ကြည့်ခြင်းအားဖြင့် 'ရှရီအတ်'တရားတော်တွင် ဂျို့မို့အဟ်'နမာဇ်'ကို အလေးအနက် ပြုထားကြောင်း တွေ့ကြရပေမည်၊ထိုဂျို့မို့အဟ်ကို လွှတ်သူအား ပြင်းထန်သော ပြစ်ဒဏ်များ ခံရမည်များ ပါရှိသည်၊ သို့ရှိရာမွတ်စလင်မ် တစ်ဦးသည် အစ္စလာမ်ဘာသာဝင် တစ်ဦးဖြစ်ကြောင်း ပြောဆိုပြီးနောက် ဤ'ဖွရ်သွ်' တာဝန်တော်ကို လက်လွှတ်ခံမည်လော၊ အလျင်းမလွှတ်ထိုက်ပေ။

# ဂျို့မို့အဟ် နမာဇ် ဝါဂျစ်ဗ်ဖြစ်သော ရှရတ္တ်များ

## အကြောင်း

၁။ မုကီးမ် ဖြစ်ရမည်၊ မုစာဖွင်ရ် ခရီးသည်များအပေါ်တွင် ဂျို့မို့အဟ်'နမာဇ်' သည် 'ဝါဂျစ်ဗ်' မဟုတ်ပေ။

၂။ ကျန်းမာသူ ဖြစ်ရမည်၊ ရောဂါသည်အပေါ်တွင် ဂျို့မို့အဟ် ဝါဂျစ်ဗ် မဟုတ်၊ ဗလီဝတ်ကျောင်းတော်သို့ ခြေလျင်မသွားနိုင်သော ရောဂါသည်ကို ဆိုလိုသည် အသက်အရွယ် ကြီးသောကြောင့် အားနည်းပြီး ဗလီသို့ မသွားနိုင်လျှင် ၎င်းမျက်မမြင်တို့ကို ရောဂါသည်ဟုပင် ယူဆရမည်၊ ဂျို့မို့အဟ်'နမာဇ်'သည်၎င်းတို့အပေါ် ဝါဂျစ်ဗ် မဟုတ်ပေ။

၃။ လွှတ်လပ်သူဖြစ်ရမည်၊ ကျွန်အပေါ် ဂျို့မို့အဟ် ဝါဂျစ်ဗ် မဟုတ်။

၄။ ယောကျ်ားဖြစ်ရမည်၊ အမျိုးသမီးအပေါ် ဂျို့မို့အဟ် ဝါဂျစ်ဗ် မဟုတ်။

၅။ ဂျမာအတ်ကို လွှတ်နိုင်သော 'အွသ်ရ်' အကြောင်းအချက်များ အထက်တွင် တင်ပြခဲ့သည့်အတိုင်း ၎င်းတွင် မရှိမှသာဖြစ်သည်။ အကယ်၍ ထို 'အွသ်ရ်' များအနက် 'အွသ်ရ်'တစ်ခုခု ထိုသူ့တွင်ရှိနေသော် ဂျို့မို့အဟ် ဝါဂျစ်ဗ် မဖြစ်ပေ။

ဥပမာ(၁) မိုးပြင်းထန်စွာ ရွာသွန်းလျှင်၊ (၂) ရောဂါသည် တစ်ဦးဦးအား ပြုစုနေရလျှင်၊ (၃) ဗလီသို့ သွားပါက ရန်သူတစ်ဦးဦးမှ စိုးရိမ် ကြောက်ရွံ့နေရလျှင်၊ (၄) အခြားသော 'နမာဇ်' များဝါဂျစ်ဗ် ဖြစ်သော 'ရှရတ္တ်' များ အထက်တွင်ရေးခဲ့သည်၊ထို'ရှရတ္တ်'များလည်း ဤနေရာတွင် အတည်ဖြစ်သည်၊ ဆိုလိုသည်မှာအသိဉာဏ်ရှိသူ

ဖြစ်ရမည်၊ အရွယ်ရောက်သူဖြစ်ရမည်၊ မှတ်စလင်မ် ဖြစ်ရမည်၊ ဤတင်ပြသော ရှရတ္တ မျာ:သည် ဂျိ ့မို့အဟ် ဝါဂျစ်ဗ် ဖြစ်သော အချက်များ ဖြစ်ကြလေသည်။

အကယ်၍ တစ်ဦးသောသူသည် ဤတင်ပြပါ ရှရတ္တ များ မပါရှိသော်လည်း ဂျိ ့မို့အဟ် နမာဇ် ဖတ်မူ ပိုင်သည်၊ ဆိုလိုသည်မှာ ဇွဟ်ရ်နမာဇ်ဖတ်ရန် တာဝန်မှာ ကျသွားသည်၊ ပမာဆိုသော် မုစာဖွင်ရ်ရ ဇင်းအမျိုးသမီးက ဂျိ ့မို့အဟ် နမာဇ် ဖတ်လျှင် ပိုင်သွားသည်။

မှတ်ချက်။ ။သို့သော် အမျိုးသမီးများ ဂျမာအတ်နှင့် နမာဇ်ဖတ်ရန်မထိုက်ပေ။

# ဂျိ ့မို့အဟ် နမာဇ်ပိုင်ရန် ရှရတ္တ များ အကြောင်း

၁။ မြို့နှင့် ကတ်စ္စဗဟ် မြို့ကလေးဖြစ်ရမည်၊ ရွာနှင့်တောဌ် ဂျိ ့မို့အဟ် 'နမာဇ်' မပိုင်ပေ၊ အကယ်၍ ရွာသည် လူဦးရေတွင် ကတ်စ္စဗဟ်မျှရှိလျှင် ပမာဆိုသော် လူဦးရေ (၃၀၀၀)၊ (၄၀၀၀) ရှိမူ ဂျိ ့မို့အဟ် 'နမာဇ်' ပိုင်သည်။

မှတ်ချက်။ ။ဆိုလိုသည်မှာ ရွာသည် လူဦးရေ များပြားသဖြင့် ကတ်စ္စဗဟ်ဟု ခေါ်နိုင်လျှင် ဂျိ ့မို့အဟ်'နမာဇ်'ပိုင်သည်၊ လူဦးရေ (၃၀၀၀) (၄၀၀၀) ဟူ၍တင်ပြခြင်းမှာ ပမာပြဆိုချက်သာဖြစ်သည်၊လိုက်နာပြုမူကြရန် စည်းကမ်းချက်မဟုတ်ပေ၊ ဤသို့ ရှင်းလင်းချက်ကို မောင်လာနာ အရှ်ရဖ်အလီ (ရဟမတွလ္လာဟ်) သခင်က ကိုယ်တိုင် 'ဖွတာဝါအင်မ်ဒါဒိယဟ်' ကျမ်းပထမတွဲစာမျက်နှာ၂၀ တွင်မေးခွန်းတစ်ရပ်ကိုဖြေကြား ထားတော်မူသည်။

၂။ ဇွဟ်ရ် အချိန်ဖြစ်ရမည်၊ သို့ရှိရာ ဇွဟ်ရ်အချိန် အလျင်သော်လည်းကောင်း၊ အချိန်ကုန်ပြီးမှ သော်လည်းကောင်း၊ ဂျိ ့မို့အဟ် 'နမာဇ်' ဖတ်လျှင်မပိုင်ပေ၊ ထို့ပြင် ဂျိ ့မို့အဟ်နမာဇ်ဖတ်ယင်း နောက်ဆုံး 'တရှုဟ်ဟွဒ်' ခန့် ထိုင်ပြီးသော်ငြားလည်း ဇွဟ်ရ် အချိန်ကုန်သွားခဲ့သော်ဂျိ ့မို့အဟ် 'နမာဇ်'ပျက်သည်၊ အဘယ့်ကြောင့်ဆိုသော်ဂျိ ့မို့အဟ်'နမာဇ်'မှာ 'ကဿ' မရှိပေ။

၃။ ခွတ္တဗဟ် ဖတ်ရမည်၊ ဆိုလိုသည်မှာ လူတို့၏ ရှေ့မှောက်တွင် အလ္လာဟ် အသျှင်မြတ်၏ 'သစ်က်ရ်'တော်ပြုရမည်၊ စွဗ်ဟာနလ္လာဟ်နှင့် အလ်ဟမ်ဒို့၊ လစ်လ္လာဟ် ဆိုလျှင်လည်းပြီး၏၊ သို့သော် ဤမျှခန့်နှင့်ပင် ရောင့်ရဲတင်းတိမ်နေသော် စွန္နတ်တော်နှင့် ကွဲလွဲစွာ ပြုခြင်းဖြင့် မတ်က်ရူးဟ် ဖြစ်သည်။

၄။ နမာဇ်အလျင် 'ခွတ္တဗဟ်' ဖတ်ရမည်၊ အကယ်၍'နမာဇ်'ပြီးမှ ခွတ္တဗဟ် ဖတ်လျှင် 'နမာဇ်' မပိုင်ပေ။

၅။ ခွတ္တဗဟ်ဖတ်သည်မှာ'ဇွဟ်ရ်'အချိန်အတွင်း၌ဖတ်ခြင်းဖြစ်ရမည်၊ အကယ်၍ အချိန်မရောက်မီ ဖတ်ခဲ့သော် 'နမာဇ်' မပိုင်ပေ။

၆။ ဂျမာအတ်ရှိရမည်၊ ဆိုလိုသည်မှာ 'ခွတ္ဗဗဟ်' စသည်မှ ပထမ ရကအတ် စစ်ဂျဲဒဟ်အထိ အေမာမ်၏ အပြင် အနည်းဆုံး(၃)ယောက်ရှိရမည်။ ၎င်း(၃)ယောက်သည် ခွတ္ဗဗဟ် အချိန်တွင်ရှိပြီး 'နမာဇ်' အချိန်တွင် အခြား (၃) ယောက်ရှိသော် ပိုင်သည်၊ သို့သော် ၎င်း (၃) ယောက်စလုံးသည် အေမာမတ် ပြုနိုင်သူများဖြစ်ရန် ရှရတ္ဗ ဖြစ်သည်၊ အကယ်၍ ထို(၃) ယောက်သည် အမျိုးသမီး၊ ၎င်းအရွယ်မရောက်သေးသော ယောကျ်ား လေးဖြစ်မူ 'နမာဇ်' မပိုင်ပေ။

မှတ်ချက်။ ။ဆိုလိုသည်မှာထို(၃)ဦးအနက်တစ်ဦးဦးကို အေမာမ်အဖြစ်လွှဲသော် ၎င်းအလွှဲခံရသူသည် 'ရှရီအတ်'နှင့်အညီ အေမာမတ် ပြုနိုင်သူဖြစ်ရမည်။

၇။ အကယ်၍'စစ်ဂျဲဒဟ်'မပြုမီ လူတို့ထွက်သွားကြလျှင် ၎င်းလူ(၈)ယောက်ထက် လျော့သွားလျှင် ၎င်းလုံးဝလူမရှိတော့လျှင် 'နမာဇ်' ပျက်သွားလေသည်၊ ဟုတ်ပါ၏၊ အကယ်၍ စစ်ဂျဲဒဟ် ပြုပြီးမှ ထွက်သွားကြလျှင် ကိစ္စမရှိပေ။

ရှရိဟ္ဗတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၉။
ရှရ်ဟ္ဗလ်ဘဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၄၀။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၄၂၊၁၄၄-၁၄၆။

၈။ ဂျုံမို့အဟ် နမာဇ်ကို အများလာနိုင်သောနေရာတွင် အတိအလင်းဖတ်ခြင်း ဖြစ်ရမည်၊ သို့ရှိရာ သီးခြားသောနေရာတွင် ပုန်းကွယ်၍ ဂျုံမို့အဟ် 'နမာဇ်' ဖတ်ခြင်း မပိုင်ပေ၊ အကယ်၍ လူအများ လာပိုင်ခွင့် မရှိသောနေရာတွင် ဂျုံမို့အဟ်'နမာဇ်' ဖတ် သော်လည်းကောင်း၊ ဗလီတံခါးပိတ်၍ ဖတ်သော်လည်းကောင်း 'နမာဇ်'မပိုင်ပေ။

ဤတင်ပြပါ ရှရတ္ဗများသည် ဂျုံမို့အဟ်'နမာဇ်' ပိုင်ရန်အတွက် ဖြစ်ပေသည်၊ အကယ်၍ တစ်ဦးသောသူသည် ဤရှရတ္ဗများ မရှိပါဘဲလျက် ဂျုံမို့အဟ်'နမာဇ်'ဖတ်မူ မပိုင်ပေ၊ ၎င်းသူသည် 'ဇွဟ်ရ်'နမာဇ်ကို ဖတ်ရဦးမည်၊ ၎င်းထိုမပိုင်ဘဲ ဖတ်သော ဂျုံမို့ အဟ်'နမာဇ်'သည် နဖိလ် ဖြစ်မည်၊နဖိလ်ကို ဤမျခံနှ့် ဂရုတစိုက် ရေးကြီးခွင့်ကျယ် လုပ်၍ ဖတ်ခြင်းသည် 'မတ်ကရူးဟ်' ဖြစ်သည်၊ ထို့ကြောင့် ဤသို့သောအဖြစ်၌ ဂျုံမို့အဟ် နမာဇ် ဖတ်ခြင်းသည် မတ်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၄၆။

# ဂျုံမို့အဟ် ခွတ္ဗဗဟ်၏ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ လူတို့ ရောက်လာကြသောအခါ အေမာမ်သည် မင်န်ဗရ်ပေါ်သို့ သွားထိုင်ရမည်၊ ၎င်းပြင် မုအဇ်သင်န်သည် အေမာမ်၏ရှေ့တွင် ရပ်၍ အဇာန်ဆိုရမည်၊ အဇာန်ဆိုပြီး အေမာမ်သည် ချက်ချင်းထ၍ ခွတ္ဗဗဟ်ဖတ်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၄၇။

၂။ မတ်စ်အလဟ်ပြဿနာ။ 'ခွတ္တ ်ဗဟ်' ဖတ်ရာတွင် စွန္နတ်တော် (၁၂) ချက် ရှိလေသည်။

(၁) ခွတ္တ ်ဗဟ် ဖတ်သောအဖြစ်၌ ခွတ္တ ်ဗဟ်ဖတ်သူသည် ရပ်နေခြင်း။
(၂) ခွတ္တ ်ဗဟ် နှစ်ရပ်ဖတ်ခြင်း။
(၃) ခွတ္တ ်ဗဟ် နှစ်ခုကြားတွင် စွမ်ဟာနလ္လာဟ် (၃) ကြိမ်ခန့်ထိုင်ခြင်း။
(၄) ဟာဒ်သ် မသန့်နှစ်ရပ်စလုံးမှ သန့်ရှင်းခြင်း။
(၅) ခွတ္တ ်ဗဟ်ဖတ်သောအချိန်တွင် မျက်နှာကိုလူတို့ဘက်သို့ လှည့်ထားခြင်း။
(၆) ခွတ္တ ်ဗဟ် မစမီ စိတ်၌ အအူသို့၊ ဗင်လ္လာဟော့၊ မေ့နရှိရှိုင်တွာ၊ နှစ်ရဂျီးမ် ဖတ်ခြင်း။
(၇) ခွတ္တ ်ဗဟ်ကို လူတို့ကြားအောင်ဖတ်ခြင်း။
(၈) ခွတ္တ ်ဗဟ်တွင် (၈) မျိုးသောအချက်များ ပါဝင်ခြင်း။

(၁) အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးတင်ခြင်း၊ (၂) ချီးမြှင့်ထောပနာ ပြုခြင်း၊ (၃) အလ္လာဟ်အသျှင်မြတ် တစ်ပါးတည်း တည်ရှိတော်မူခြင်း၊ ရစူလွလ္လာတ် (ဆွလလ္လာဟု) ကိုယ်တော်နဗီရစူလ် ဖြစ်ကြောင်း မြွက်ဟဝန်ခံခြင်း၊ (၄) ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်အပေါ် 'ဒရူးဒ်' မေတ္တာပို့သခြင်း၊ (၅) ဆုံးမသြဝါဒ ပေးခြင်း၊ (၆) ကိုရ်အာန်ကျမ်းတော်မြတ်မှ အာယတ်တော်ပါဝင်ခြင်း၊ (၇) ဒုတိယ ခွတ္တ ်ဗဟ်တွင် ဤတင်ပြပါအချက်များပြန်၍ ပါဝင်စေခြင်း၊ (၈) ဒုတိယခွတ္တ ်ဗဟ်တွင် ဆုံးမသြဝါဒများအစား မွတ်စလင်မ်များအတွက် 'ဒိုအာ' ဆုမွန်ပြုခြင်း၊ ဤအချက် (၈) ချက်သည် နံပါတ်(၈)မှဖြစ်သည်၊ ရှေ့တွင် ခွတ္တ ်ဗဟ်၌ စွန္နတ် ဖြစ်သော အချက်ကို ပြန်စပေအံ့။

(၉) ခွတ္တ ်ဗဟ်ကို များစွာ မရှည်လျားစေရ၊ 'နမာဇ်' ဖတ်သည်ခန့် ကြာသည် ထက် လျော့၍ဖတ်ခြင်း။

(၁၀) ခွတ္တ ်ဗဟ်ကို မင်နိဗရ်ပေါ်တက်၍ဖတ်ခြင်း၊ အကယ်၍ မင်နိဗရ်မရှိခဲ့သော် တုတ်(အစွာ) စသည်ကို အမှီပြု၍ ဖတ်ခြင်း၊ မင်နိဗရ်ရှိပါလျက် ကျွန်ုပ်တို့ ခေတ်တွင် အချို့သူတို့ ပြုမူလေ့ရှိကြသော တုတ် (အစွာ) စသည်ကိုကိုင်၍ ရပ်ခြင်း၊ ၎င်းလက်တစ်ဘက် အပေါ် လက်တစ်ဘက်တင်၍ ရပ်ခြင်းတို့ သည် 'ရှရီအတ်' တရားတော်တွင် မပါရှိပေ။

(၁၁) ခွတ္တ ်ဗဟ်နှစ်ရပ်စလုံးသည် အရဗီဘာသာဖြင့် ဖြစ်ခြင်း၊ အခြားဘာသာ စကားဖြင့် ခွတ္တ ်ဗဟ်ဖတ်ခြင်း၊ ၎င်းခွတ္တ ်ဗဟ်နှင့်အတူ အခြားဘာသာ

စကား၏ ကဗျာလင်္ကာများ ထည့်သွင်းဖတ်ခြင်း၊ (ကျွန်ုပ်တို့ ခေတ်တွင် အချို့မှာ ဤသို့ အလေ့အထ ရှိကြသည်) သည် စွန္နတ်မုအတ်ကဒ်ဒါနှင့် ကွဲလွဲသည့်ဖြင့် မတ်ကရူးဟ်တာဟ်ရီမဟ် ဖြစ်သည်။

အင်မ်ဒါဒွလ်ဖွတာဝါ အတွဲ-၁၊ စာမျက်နှာ-၂၅။

၁၂။ ခုတ္တဗဟ် နားထောင်သူများသည် ကစ်ဗ်လဟ် ဘက်သို့ မျက်နှာမူ၍ ထိုင်ခြင်း၊ ဒုတိယ ခုတ္တဗဟ်တွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်နှင့် အနွယ်တော်များ၊ အတ်စွဟာဗ်တော်များ၊ မြောက်သားတော်များ သီးခြား၍ ခို့လဖွာအေ့ရာရှေ့ဒီန် သခင်များ၊ ဟသ္ရတ် ဟမ်ဇဟ်၊ အဗ်ဗားစ် (ရသွေ့)သခင်များအတွက် 'ဒိုအာ'ဆုမွန် ပြုခြင်းတို့သည် 'မွတ်စ်တဟဗ်' ဖြစ်သည်၊ အစ္စလာမ် ဘုရင်အတွက်လည်း 'ဒိုအာ'ပြုပေးခြင်း ပိုင်သည်၊ သို့သော် ရှိသည်ထက်ပို၍ မှားယွင်းစွာ ချီးမွမ်းခြင်းပြုလျှင် မတ်ကရူးဟ် တဟ်ရီမဟ် ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၈၀၊ ၂၈၁။
အာလမ်ဂီရီကျမ်း အတွဲ-၁ စာမျက်နှာ-၁၄၅၊ ၁၄၈။

၃။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် ခုတ္တဗဟ်ဖတ်ရန်ထလျှင် ထိုအချိန်မှစ၍ နမာဇ်ဖတ်ကြခြင်း၊ စကားပြောဆိုကြခြင်းသည် မတ်ကရူးဟ် တဟ်ရီမဟ် ဖြစ်သည်၊ သို့သော် 'တရ်တီးဗ်ရှင်'အတွက် ကသွာနမာဇ်ကား ဖတ်မိုင်ခွင့်ရှိသည် သာမက ဖတ်ရန် ဝါဂျစ်ဗ်ထိုက်သည်၊ အေမာမ်သည် ခုတ္တဗဟ် အဆုံးမသတ်မချင်း ဤကိစ္စရပ် အားလုံး မပြုပိုင်ပေ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၀၀။

၄။ မတ်စ်အလဟ် ပြဿနာ။ ခုတ္တဗဟ်စလျှင် အသင့်ရှိသူအားလုံးနားထောင်ကြရန် ဝါဂျစ်ဗ်ဖြစ်သည်၊ အေမာမ်၏အနီးတွင် ထိုင်နေသူဖြစ်စေ၊ အဝေးတွင် ထိုင်နေသူဖြစ်စေအတူတူပင်ဖြစ်သည်၊ ခုတ္တဗဟ်ကိုနားထောင်ရာတွင် အနှောင့်အယှက်ဖြစ်စေသော အလုပ်လုပ်ခြင်း မတ်ကရူးဟ် တဟ်ရီမဟ် ဖြစ်သည်၊ ထိုဖတ်နေသော အချိန်၌ စားခြင်း၊ သောက်ခြင်း၊ စကားပြောခြင်း၊ သွားလာခြင်း၊ စလာမ်ပေးခြင်း၊ ဂျဝါဗ် ပြန်ခြင်း၊ တတ်စ်ဗီးဟ်ဖတ်ခြင်း၊ မတ်စ်အလဟ်ပြောပြခြင်းတို့သည် နမာဇ်ဖတ်ရာတွင် မပြုပိုင်သကဲ့သို့ ခုတ္တဗဟ်နားထောင်နေစဉ်၌လည်းမပြုပိုင်ပေ။ ဟုတ်ပါ၏၊ ခုတ္တဗဟ်ဖတ်သူသည် လိုအပ်သဖြင့် ဖတ်နေယာင်း တစ်ဦးဦးကို မတ်စ်အလဟ်ပြောပြလျှင် ပိုင်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၈၂။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၃။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ စုန္နတ် သို့မဟုတ် နဖ်လ် နမာဇ်များ ဖတ်နေစဉ် ခွတုဗဟ်စမူ၊ အမှန်ဆုံးအဆိုမှာ စုန္နတ်မို့အတ်ကကဒဟ်ဖြစ်က ပြည့်စုံအောင် ဖတ်ရမည်၊ နဖ်လ်နမာဇ်ဖြစ်မူ ၂-ရကအတ်ဖြင့် စလာမ်လှည့် အဆုံးသတ်လိုက်ရမည်။

တွာဟ်တွာဝီကျမ်း၊ စာမျက်နှာ-၃၀၀၊ ၃၀၁။

၆။ မတ်စ်အလဟ်ပြဿနာ။ ခွတ္တဗဟ် နှစ်ရပ်ကြားတွင် ထိုင်သော အချိန်၌ အေမာမ် သော်လည်းကောင်း၊ မွတ်ကတဒီများက သော်လည်းကောင်း လက်မြှောက်၍ ဒိုအာ တောင်းခြင်းသည် မတ်ကရူးဟ် တဟ်ရီမဟ်ဖြစ်သည်၊ ဟုတ်ပါ၏၊ အကယ်၍ လက် မမြှောက်ဘဲ အသံနှင့်ဖြစ်စေ၊ ၎င်းတိုးတိုးပင်ဖြစ်စေ မဖတ်ဘဲ စိတ်ထဲမှပင် ဒိုအာ ပြုနေ သော် ပိုင်သည်၊ သို့သော် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ၎င်းအတ်စွဟာဗ် (ရဇသွ)သခင်များမှ ဤသို့ဒိုအာပြုရမည်ဟူ၍ မလာရှိပေ။

ရမသွာန်လ နောက်ဆုံး ဂျုမို့အဟ် ခွတ္တဗဟ် တွင် ခဲ့ခွါရမည့် အနေနှင့် နှုတ် ဆက်မှုသဘော ဝမ်းနည်းစာများ ဖတ်ခြင်းတို့သည် ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော် နှင့် အတ်စွဟာဗ်(ရဇသွ)သခင်များထံမှ အမိန့်မလာရှိပေ၊ ၎င်းပြင် မည်သည့်ဖေ့ကဟ် ကျမ်း၌မှလည်းဖတ်ရန် ညွှန်ကြားမိန့်မှတ်မထားပေ၊ ဤသို့ဖတ်ခြင်းဖြင့် လူအများက အရေးကြီးသည်ဟု ယူဆသွားကြမည်၊ ထို့ကြောင့် ဗိဒအတ် ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၀၁၊ ၃၀၂။

သတိပေးချက်။ ကျွန်ုပ်တို့ ခေတ် သမယတွင် အချို့သည် (အလ်ဝဒါအ်) အာခရီ ဂျုမို့အဟ် ခွတ္တဗဟ်ကို ဂရုတစိုက်ဖတ်ကြသည်၊ မဖတ်သူကို ကဲ့ရဲ့ ပစ်တင် ကြသည်၊ ထိုဝမ်းနည်းစွာ ခွတ္တဗဟ်ကို စိတ်စိုက်၍ ဂရုပြုကာ နားထောင်ကြသည်၊ ဤသို့ မပြုပိုင်ပေ။

ရှုဟွလ်အစ်ခ်ဝါန်ကျမ်း။

၇။ မတ်စ်အလဟ်ပြဿနာ။ ခွတ္တဗဟ်ကို စာအုပ်ဖြင့်ကြည့်ပြီး ဖတ်ပိုင်သည်။

ရှုရိဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၃။

၈။ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ နာမ်တော်သည် ခွတ္တဗဟ်၌ ပါရှိလာမူ၊ နားထောင်သူများသည် မိမိစိတ်တွင်း၌ 'ဒရူးဒ်ရှရီးဖ်' ဖတ်ပိုင်ခွင့် ရှိသည်၊ အသံနှင့် မဖတ်ရ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၀၁။
ရှုရိဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၂။

# ဂျိ.မိ.အဟ်နေ့တွင် ရစူလ်ကိုယ်တော်ဖတ်ခဲ့သော ခွတ္ဗ ဗဟ် အကြောင်း

ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ ခွတ္ဗ ဗဟ် ဖတ်တော်မူခြင်းကို ရေးသား တင်ပြခြင်းမှာလူတို့သည် ဤအတိုင်းပြုမူနေကြရန်မဟုတ်၊သာမက တစ်ရံတစ်ခါ 'ဘ်ရ်ကတ်' ယူသောအဖြစ်နှင့် ဖတ်ကြရန်ဖြစ်သည်။

ရစူလ်ကိုယ်တော်၏ မလေ့တော်မှာ လူတို့ရောက်လာကြသောအခါ ကိုယ်တော် သည် ကြွမြန်းလာတော်မူပြီး အသင့်ရှိသော ပုဂ္ဂိုလ်တို့အား 'စလာမ်'ပေး နှုတ်ခွန်းဆက် တော်မူသည်၊ ၎င်းပြင် ဘေလာလ် (ရသွေ.) သခင်သည် 'အသာန်' ဆိုတော်မူသည်၊ အသာန်ဆိုပြီးနောက် ရစူလ်ကိုယ်တော်သည် ထရပ်တော်မူပြီး ချက်ချင်း ခွတ္ဗ ဗဟ်ဖတ် တော်မူသည်၊ 'မင်န်ဗရ်' မရှိစဉ်က တုတ် သို့မဟုတ် မြှားကိုင်းဖြင့် အမှီသဟဲပြု၍ ကိုင် တော်မူသည်၊ ၎င်းပြင် တစ်ခါတစ်ရံ 'မဲဟ်ရာဗ်'အနီးရှိ အသားတိုင်ကို အမှီသဟဲပြုတော် မူသည်၊ 'မင်န်ဗရ်'ပလ္လင်ပြုလုပ်ပြီးနောက် မည်သည့် တုတ် (အစွာ) စသည်ကို ကိုင်ဆောင် အမှီပြုတော်မူကြောင်း 'ရေဝါယတ်' ဆင့်ဆိုမှု မလာရှိပေ။

ဇာဒွလ်မအာဒ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၀။

ရစူလ်ကိုယ်တော်သည် ခွတ္ဗ ဗဟ် နှစ်ရပ် ဖတ်တော်မူသည်၊ ခွတ္ဗ ဗဟ် နှစ်ရပ် ကြားတွင် အနည်းငယ်မျှအချိန် ထိုင်တော်မူသည်၊ ထိုအချိန်၌ မည်သည့်စကားမှ ပြော ဆိုတော်မမူ၊ ပိုအာလည်း တောင်းတော်မမူပေ၊ ဒုတိယ ခွတ္ဗ ဗဟ် ပြီးဆုံးသော အခါ ဘေလာလ်(ရသွေ.)သခင်သည် အေကာမတ် ဆိုတော်မူသည်၊ ၎င်း ရစူလ်ကိုယ်တော်က နမာဇ် အစပြုတော်မူသည်။

ခွတ္ဗ ဗဟ် ဖတ်တော်မူသောအခါ ရစူလ္လလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အသံ သည် ကျယ်လောင် စူးရှ၍ လာတော်မူသည်၊ ၎င်းမျက်လုံးတော်သည် နီမြန်း၍လာသည်၊ မှတ်စလင်မ်ကျမ်းတွင် လာရှိသည်မှာ ခွတ္ဗ ဗဟ်ဖတ်တော်မူသောအခါ ရစူလ်ကိုယ်တော်၏ အဖြစ်သည် မကြာမီရောက်လာတော့မည့် ရန်သူ၏စစ်တပ်မှ တစ်ဦးတစ်ယောက်က လာ ရောက်၍ မိမိလူများအား သတင်းပေးသကဲ့သို့ ဖြစ်သည်၊ အများအားဖြင့် ခွတ္ဗ ဗဟ် များ၌ မိန့်တော်မူသည်မှာ...,

(ဘို့အစ်တို၊အန၊ဝတ်စ်စာအတို၊ကဟာတိုင်နေ့။) ငါရစူလ် နှင့် ကေယာမတ်ကို ဤလက်နှစ်ချောင်းကဲ့သို့ အတူတကွ စေလွှတ်တော်မူသည်၊ လက်ညှိုးနှင့် လက်ခလယ်ကို ထောင်ပြ၍ မိန့်တော်မူသည်။ (မှတ်ချက်။ ဆိုလိုသည်မှာ.... ကေယာမတ် အလွန်နီးကပ်

နေသည်၊ ငါရစူလ်၏နောက် အလျင်အမြန် ရောက်လာမည်။) ထို့နောက် ခုတ္တဗဟ် ဖတ်ဆို မိန့်တော်မူသည်။

أَمَّا بَعْدُ فَإِنَّ خَيْرَ الْحَدِيثِ كِتَابُ اللّٰهِ وَخَيْرَ الْهَدْيِ هَدْيُ
مُحَمَّدٍ وَشَرَّ الْأُمُورِ مُحْدَثَاتُهَا وَكُلُّ بِدْعَةٍ ضَلَالَةٌ أَنَا
أَوْلَى بِكُلِّ مُؤْمِنٍ مِنْ نَفْسِهِ مَنْ تَرَكَ مَالًا فَلِأَهْلِهِ وَمَنْ
تَرَكَ دَيْنًا أَوْ ضَيَاعًا فَعَلَيَّ

ရင်းတစ်ခါတစ်ရံ ဤခုတ္တဗဟ်ကို ဖတ်တော်မူသည်။

يَا أَيُّهَا النَّاسُ تُوبُوا قَبْلَ أَنْ تَمُوتُوا وَبَادِرُوا بِالْأَعْمَالِ
الصَّالِحَةِ وَصِلُوا الَّذِي بَيْنَكُمْ وَبَيْنَ رَبِّكُمْ بِكَثْرَةِ ذِكْرِكُمْ لَهُ
وَكَثْرَةِ الصَّدَقَةِ بِالسِّرِّ وَالْعَلَانِيَةِ تُوجَرُوا وَتُحْمَدُوا وَتُرْزَقُوا
وَاعْلَمُوا أَنَّ اللّٰهَ قَدْ فَرَضَ عَلَيْكُمُ الْجُمُعَةَ مَكْتُوبَةً فِي مَقَامِي
هٰذَا فِي شَهْرِي هٰذَا فِي عَامِي هٰذَا إِلَى يَوْمِ الْقِيَامَةِ مَنْ وَجَدَ
إِلَيْهِ سَبِيلًا فَمَنْ تَرَكَهَا فِي حَيَاتِي أَوْ بَعْدِي جُحُودًا بِهَا
وَاسْتِخْفَافًا بِهَا وَلَهُ إِمَامٌ جَائِرٌ أَوْ عَادِلٌ فَلَا جَمَعَ اللّٰهُ شَمْلَهُ

وَلَا بَارَكَ لَهُ فِي أَمْرِهِ أَلَا وَلَا صَلٰوةَ لَهُ أَلَا وَلَا صَوْمَ لَهُ أَلَا
وَلَا زَكٰوةَ لَهُ أَلَا وَلَا حَجَّ لَهُ أَلَا وَلَا بِرَّ لَهُ حَتّٰى يَتُوبَ فَإِنْ
تَابَ تَابَ اللّٰهُ أَلَا وَلَا تَؤُمَّنَّ امْرَأَةٌ رَجُلًا أَلَا وَلَا يَؤُمَّنَّ
أَعْرَابِيٌّ مُهَاجِرًا أَلَا وَلَا يَؤُمَّنَّ فَاجِرٌ مُؤْمِنًا إِلَّا أَنْ يَقْهَرَهُ
سُلْطَانٌ يُخَافُ سَيْفُهُ وَسَوْطُهُ (ابن ماجه)

၎င်းတစ်ခါတစ်ရံဟမ်ဒ်၊ ဆလာတ် ပြီးနောက် ဤခွတ်ဗဟ်ကို ဖတ်တော်မူသည်။

الْحَمْدُ لِلَّهِ نَحْمَدُهُ وَنَسْتَغْفِرُهُ وَنَعُوذُ بِاللَّهِ مِنْ شُرُورِ أَنْفُسِنَا
وَمِنْ سَيِّئَاتِ أَعْمَالِنَا وَمَنْ يَهْدِهِ اللَّهُ فَلَا مُضِلَّ لَهُ وَمَنْ
يُضْلِلْهُ فَلَا هَادِيَ لَهُ وَأَشْهَدُ أَنْ لَا إِلَهَ إِلَّا اللَّهُ وَحْدَهُ
لَا شَرِيكَ لَهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهُ وَرَسُولُهُ أَرْسَلَهُ
بِالْحَقِّ بَشِيرًا وَنَذِيرًا بَيْنَ يَدَيِ السَّاعَةِ مَنْ يُطِعِ اللَّهَ
وَرَسُولَهُ فَقَدْ رَشَدَ وَاهْتَدَى وَمَنْ يَعْصِهِمَا فَإِنَّهُ لَا يَضُرُّ
إِلَّا نَفْسَهُ وَلَا يَضُرُّ اللَّهَ شَيْئًا (ابوداؤد وغيره)

ဆဟာဗီ(ရသွေ့)သခင်တစ်ပါးက မိန့်တော်မူသည်၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်သည် ခွတ်ဗဟ်၌ အများအားဖြင့် စူရဟ်'ကားဖွ်'ကိုဖတ်တော်မူသည်၊ ကျွန်ုပ်သည် စူရဟ်ကားဖွ်ကို ရစူလ်ကိုယ်တော်သည် 'မင်နဗရ်'မှ ဖတ်ပါများသည်ကို ကြား၍ အာဂုံ ရခဲ့သည်။

မှတ်စလင်မ်ကျမ်း။

၎င်းတစ်ခါတစ်ရံ စူရဟ်ဝလ်အတ်စွ်ရ်၊ ၎င်းတစ်ခါတစ်ရံ....

لَا يَسْتَوِي أَصْحَابُ النَّارِ وَأَصْحَابُ الْجَنَّةِ ۝ أَصْحَابُ الْجَنَّةِ هُمُ
الْفَائِزُونَ ۝

ဖတ်တော်မူသည်၊ ၎င်းတစ်ခါတစ်ရံ

وَنَادَوْا يَا مَالِكُ لِيَقْضِ عَلَيْنَا رَبُّكَ قَالَ إِنَّكُمْ مَاكِثُونَ ۝

ကို ဖတ်တော်မူသည်။

# ဂျုံ့မို့အဟ် နမာဇ်၏ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အကောင်းဆုံးမှာ ခုတ္တဗဟ်ဖတ်သူပင် နမာဇ် ဖတ်ပေးရမည်၊ အကယ်၍ အခြားသူက ဖတ်ပေးလျှင်လည်း ဗိုင်သည်။

ရှာမီကျမ်း အတွဲ ၁၊ စာမျက်နှာ-၇၅၁။

၂။ မတ်စ်အလဟ် ပြဿနာ။ ခုတ္တဗဟ် ဖတ်ပြီးသော် ချက်ချင်း အောကာမတ် ဆို၍ နမာဇ်အစပြုခြင်း စွန္နတ်တော်ဖြစ်သည်၊ ခုတ္တဗဟ်နှင့် နမာဇ်ကြားတွင် လောကီ အလုပ်တစ်ခုခုပြုလုပ်ခြင်း 'မတ်က်ရူးဟ်တဟ်ရီမဟ်' ဖြစ်သည်၊ အကယ်၍ ကြားတွင် ဆိုင်းငံ့ မှုများသော် ခုတ္တဗဟ် ပြန်၍ဖတ်ရန်ထိုက်သည်။ ဟုတ်ပါ၏၊ အကယ်၍ ဘာသာရေး အလုပ်၊ ဥပမာ...တစ်ဦးကို မတ်စ်အလဟ်ပြောပြသည်၊ ဝိုသူပျက်သွား၍ဝိုသူပြုရန်သွား သည်၊ ခုတ္တဗဟ်ဖတ်ပြီးနောက် 'ဂွတ်စ်လ်' ရေချိုးရန် လိုအပ်ကြောင်းသိရ၍ ရေချိုးရန် သွားခြင်းများသည် မတ်က်ရူးဟ်မဖြစ်ပေ၊ ခုတ္တဗဟ်ကိုလည်း ပြန်၍ဖတ်ရန် မလိုပေ။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၇၇၀၊၇၇၁။

၃။ မတ်စ်အလဟ် ပြဿနာ။ ဂျုံ့မို့အဟ် နမာဇ်ကို ဤသို့ နီယတ်ပြုရမည်။

نَوَيْتُ اَنْ اُصَلِّىَ رَكْعَتَىِ الْفَرْضِ صَلٰوةِ الْجُمُعَةِ

ဂျုံ့မို့အဟ်နမာဇ် ဖွရ်သွ် ၂-ရကအတ်ဖတ်ရန် ကျွန်တော်မျိုး နီယတ်ဆန္ဒပြုပါသည်။

၄။ မတ်စ်အလဟ် ပြဿနာ။ ဂျုံ့မို့အဟ်နမာဇ်ကို တစ်နေရာတွင် ဗလီတစ်လုံး၌ စုဝေါင်း၍ဖတ်ခြင်းသည် အကောင်းဆုံးဖြစ်သည်၊ အကယ်၍ တစ်နေရာတည်း၌ပင် ဗလီ အများရှိက ထိုဗလီများတွင်လည်း ဂျုံ့မို့အဟ်နမာဇ်ဖတ်က ဗိုင်သည်။

ဖွတာဝါဟင်ဒီယဟ်ကျမ်း အတွဲ-၁ စာမျက်နှာ-၁၄၅။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မတ်စ်ဘူးက်သည် နောက်ဆုံးကအ်ဒဟ်၌ အတ်တဟိယာတ်ဖတ်စဉ် ၎င်းစစ်ဂျဒဟ်စဟ်ဝ် ပြီး နောက်မှ ဝင်လာသော်လည်း ဗိုင်သည်၊ ၎င်းသည် ဂျုံ့မို့အဟ်နမာဇ်ကို ဆုံးအောင်ဖတ်ရမည်၊ ဇွဟ်ရ် ဖတ်ရန်မလိုပေ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၆၂။။

၆။ မတ်စ်အလဟ် ပြဿနာ။ အချို့သူတို့သည် ဂျုံ့မို့အဟ် ဖတ်ပြီး နောက် 'အဲဟ်တေယာတ္တ' သဘောနှင့် ဇွဟ်ရ် ဖတ်ကြသည်၊ ဤသို့ဖတ်ခြင်းဖြင့် လူသာမန်တို့၏ ယုံကြည်မှုမှာ ထင်ယောင် ထင်မှား ဖြစ်ကြရသည်၊ ဤသို့ မဖတ်ကြရန်၊ တားမြစ်ရန် ထိုက်သည်၊ သို့သော် အကယ်၍ ပညာရှိသောသူသည် ဂျုံ့မို့အဟ် ဗိုင်၊ မဗိုင် ဒွိဟသံသယ ဖြစ်သော နေရာ၌ 'အာခင်ရ်ဇွဟ်ရ်' ဖတ်လိုမူ၊ မိမိဖတ်သည်ကို မည်သူမှ မသိအောင် ဖတ်ရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၃။

## အီးဒ် နှစ်အီးဒ် ၏ နမာဇ် အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ ရှောင်ဝါလ်လဆန်း ( ၁ ) ရက်နေ့ကို အီဒွလ်ဖွစ်တ်ရ် (ဝါကျွတ်အီးဒ်) ဟု ခေါ်သည်၊ ဇင်လ်ဟာစ်ဂျဟ် လဆန်း (၁၀)ရက် နေ့ကို အီဒွသွ်ဟ်သို့ဟာ(ဘတ်ကရီအီးဒ်) ဟု ခေါ်သည်၊ ဤနေ့နှစ်နေ့သည် အစ္စလာမ် သာသနာတော်တွင် အီးဒ် ပျော်ရွှင်ရန်နေ့ ဖြစ်သည်၊ ဤနေ့နှစ်နေ့တွင် ကျေးဇူးတင်သော အနေဖြစ်နှင့် နမာဇ် ၂-ရကာအတ် ဖတ်ရန် ဝါဂျစ်ဗ် ဖြစ်သည်။

ဂျုမ်မိုအာဟ် နမာဇ်ပိုင်ရန်နှင့် ရှုရတွ်များ အထက်တွင်တင်ပြခဲ့သည့်အတိုင်း အီးဒ်နမာဇ်တွင်လည်း ထိုအတိုင်းပင်ဖြစ်သည်၊ ခုတ္တ်ဗဟ်သာလျှင် ကွဲလွဲသည်၊ ဂျုမ်မိုအာဟ်တွင် ခုတ္တ်ဗဟ်သည် ဖွရ်သွ် ရှင်းရှုရတွ် ဖြစ်သည်၊ နမာဇ် အလျှင် ဖတ်ရသည်၊ အီးဒ်နှစ်အီးဒ်တွင်မူကား ခုတ္တ်ဗဟ်သည် ရှုရတွ်(ဝါ)ဖွရ်သွ် မဟုတ် စွန္နတ်ဖြစ်သည်၊ ၎င်းနမာဇ် ဖတ်ပြီးမှ ဖတ်ရလေသည်၊ ၎င်းအီးဒ်နှစ်အီးဒ်၏ ခုတ္တ်ဗဟ်ကို နားထောင်ခြင်းသည် ဂျုမ်မိုအာဟ်ကဲ့သို့ ဝါဂျစ်ဗ်ဖြစ်သည်၊ ဆိုလိုသည်မှာ ခုတ္တ်ဗဟ်ဖတ်နေစဉ် ပြောဆိုခြင်း၊ အခြားနမာဇ်များ ဖတ်ကြခြင်းတို့သည် 'ဟာရာမ်'ဖြစ်သည်။

အီဒွလ်ဖွစ်တ်ရ်(ဝါကျွတ်အီးဒ်)တွင် စွန္နတ် ၁၃-ချက် ရှိသည်။

(၁)ရှရီအတ် တရားတော်ဘောင်အတွင်းမှ မိမိကိုယ်ကိုဆင်ယင်ခြင်း၊ (၂)ဂွတ်စ်လ် ရေချိုးခြင်း၊ (၃)မစ်ဝါးက် သွားတိုက်ခြင်း၊ (၄)အသင့် ရှိသည်များအနက် အကောင်းဆုံး အဝတ်အထည်ကို ဝတ်ခြင်း၊ (၅) အမွှေးအကြိုင် သုတ်လိမ်းခြင်း၊ (၆) နံနက် စောစောထခြင်း၊ (၇) အီးဒ်ဂါဟ်သို့ စောစီးစွာသွားခြင်း၊ (၈) အီးဒ်ဂါဟ် မသွားမီ အချို စွန်ပလွံသီး စသည် စားခြင်း၊ (၉)အီးဒ်ဂါဟ် မသွားမီ ဖွစ်တ်ရဟ် ပေးခြင်း၊ (၁၀) အီးဒ်နမာဇ်ကို အီးဒ်ဂါဟ်တွင် သွား၍ဖတ်ခြင်း၊ ဆိုလိုသည်မှာ....အသ်ရ် အခွင့်မဲ့ မြို့တွင်းဗလီတွင် မဖတ်ခြင်း၊ (၁၁)တစ်လမ်းမှ သွား၍ တစ်လမ်းမှ အိမ်သို့ ပြန်ခြင်း၊ (၁၂) ခြေလျင်သွားခြင်း၊ (၁၃) လမ်း၌...

اَللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ لَآ اِلٰهَ اِلَّا اللّٰهُ وَاللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ وَلِلّٰهِ الْحَمْدُ

အလ္လာဟို၊ အတ်က်ဗရ်၊ အလ္လာဟို၊ အတ်က်ဗရ်၊ လာအေလာဟ၊ အစ်လလ္လာဟို၊ ဝလ္လာဟို၊ အတ်က်ဗရ်၊ အလ္လာဟို အတ်က်ဗရ်၊ ဝလစ်လ္လာဟင်လ်၊ ဟမ်ဒ်။ ကို တိုးတိုးစွာ ဖတ်၍သွားခြင်း။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၆၄။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၃၊၁၁၄။

၂။ မတ်စ်အလဟ် ပြဿနာ။ အီဒွလ်ဖွစ်တ်ရ် နမာဇ် ဖတ်နည်း ဤသို့ရှိသည်၊ 'နီယတ်' ဤသို့ ပြုရမည်။

نَوَيْتُ اَنْ اُصَلِّيَ رَكْعَتَيِ الْوَاجِبِ صَلٰوةِ عِيْدِ الْفِطْرِ مَعَ سِتِّ تَكْبِيْرَاتٍ وَّاجِبَةٍ

ဝါဂျစ်ဗ် အီးဒ် နမာဇ် ၂-ရကတ်၊ တတ်က်ဗီးရ် ၆-ကြိမ် နှင့် ဖတ်ရန် ကျွန်တော်မျိုး နိယတ်ဆန္ဒပြုပါသည်၊ ဤသို့နိယတ်ပြုပြီး လက်ပိုက်ရမည်၊ ၎င်းနောက် စွဗ်ဟာနကလ္လာဟုမ္မ အဆုံးထိ ဖတ်၍ အလ္လာဟုအတ်ကဗရ် ၃-ကြိမ် ဆိုရမည်၊ အကြိမ်တိုင်းတွင် တတ်ကဗ်ီးရ်တဟ်ရီမဟ်ကဲ့သို့ လက်ကိုနားထိမြှောက်ရမည်၊ တတ်ကဗ်ီးရ်ဆိုပြီးတိုင်း လက်ကို တန်းလန်းချရမည်၊ တတ်ကဗ်ီးရ်တိုင်းတွင် စွဗ်ဟာနလ္လာဟ် ၃-ကြိမ် ဆိုနိုင်သော အခန့် ဆိုင်းရမည်၊ တတိယ တတ်ကဗ်ီးရ် ဆိုပြီး နောက် လက်မချရ သာမက လက်ပိုက်ရမည်၊ ထို့နောက် အအူသွ ဗိလ္လာဟ်၊ ဗစ်မစ်လ္လာဟ် ဖတ်ပြီး စူရဟ်ဖွာတေဟာဟ် ၎င်းစူရဟ် တစ်ခုခုတွဲကာ နမာဇ် ဖဘ်ရီး ထုံးစံ အတိုင်း ရိုကူအ် စစ်ဂျဒဟ် ပြု၍ ရပ်ရမည်၊ ဒုတိယ ရကအတ်တွင် စူရဟ်ဖွာတေဟာဟ် နှင့် စူရဟ် တစ်ခုခု ဖတ်ရမည်၊ ပြီးနောက် ပထမ နည်းလမ်းအတိုင်း တတ်ကဗ်ီးရ် ၃-ကြိမ်ဆိုရမည်၊ သို့သော် တတိယတတ်ကဗ်ီးရ်ပြီးနောက် လက်မပိုက်ရ၊ လက်ချထားရမည်၊ ထိုသို့ချထားလျှက်ပင် တတ်ကဗ်ီးရ်ဆို၍ ရိုကူအ်ပြုရမည်။

—တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၀၉။
ဒွရ်ရေမွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၇၈၂။

၃။ မတ်စ်အလဟ် ပြဿနာ။ အီးဒ် နမာဇ်ဖတ်ပြီး 'မင်န်ဗရ်' ပေါ်တက်ပြီး ခွတ်ွဘဟ်နှစ်ခုဖတ်ရမည်၊ ခွတ်ွဘဟ်နှစ်ရပ်ကြားတွင် ဂျုံမှု့အဟ် ခွတ်ွဘဟ်တွင် ဆိုင်းငံ့ ထိုင်သကဲ့သို့ ထိုင်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ-၁ စာမျက်နှာ-၁၄၅၊၁၄၈။

၄။ မတ်စ်အလဟ် ပြဿနာ။ အီးဒ်နှစ်အီးဒ် နမာဇ်ပြီးနောက် ဒိုအာတောင်းခြင်းသည် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော် ဆွဟာဗဟ် (ရသွေ့) သခင်များ၊ တာဗေ့အီန်၊ တဗ်အတာဗေ့အီန် (ရသွေ့) သခင်များထံမှ အီးဒ်နမာဇ်ပြီးလျှင် ဒိုအာတောင်းရမည်ဟုမလာရှိပေ၊ သို့သော် အများအားဖြင့် နမာဇ်များ၏နောက်တွင် ဒိုအာတောင်းခြင်းသည် စွန္နတ်ဖြစ်သည်၊ ထို့ကြောင့် အီးဒ်နှစ်အီးဒ် နမာဇ်ပြီးနောက် ဒိုအာတောင်းရန်လည်း စွန္နတ် ဖြစ်မည်။

မှတ်ချက်။ အေရှာအတ္တလ်အစ္စလာမ်ကျမ်းစာတိုက်ထုတ် ဘဟာစ်ရှိတီဇေဝရ်ကျမ်း ကောဒသမတွဲ စာမျက်နှာ ၈၃-တွင် အထက်ပါပုဂ္ဂိုလ်ကြီးများသည် အီးဒ်နမာဇ် အပြီး ဒိုအာတောင်းခဲ့သော် အမှန်ပင် ရေးသားဆော့ပြန်ခဲ့ကြပေမည်၊ ထို့ကြောင့် ၎င်းပုဂ္ဂိုလ်ကြီးများ၏ အမိန့်ကို နာခံသောသဘောဖြင့် ဒိုအာမတောင်းခြင်းသည် တောင်းခြင်းထက် သာကောင်းသည် ဟူ၍ ပါရှိသည်။

ထို့ပြင် မဂျ်မူအာ ဖွတာဝါကျမ်း အတွဲ-၁၊ စာမျက်နှာ ၁၂၀တွင် အီးဒ်နမာဇ်' ပြီး 'ဒိုအာ' မတောင်းသင့်ကြောင်းပါရှိလေသည်။ (မူစာ)

၅။ မတ်စ်အလဟ်ပြဿနာ။ အီးဒ်နှစ်အီးဒ်၏ခွတ္ထဗဟ်တွင် ပထမတတ်က်ဗီးရ်မှ စရမည်၊ ပထမခွတ္ထဗဟ်တွင် အလ္လာဟု, အတ်ကဗရ်(၉)ကြိမ်ဆိုရမည်၊ ဒုတိယ ခွတ္ထဗဟ်တွင် (၇)ကြိမ်ဆိုရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၆။

၆။ မတ်စ်အလဟ်ပြဿနာ။ 'အီဒွသ်သွ့ဟာ' နမာဇ်ဖတ်နည်းလည်း အထက်ပါအတိုင်းပင်ဖြစ်သည်၊အီဒွလ်ဖွစ်တ်ရ်တွင်စွန္နတ်ဖြစ်သော အချက်အားလုံးမင်ဤနေရာ၌လည်း စွန္နတ်ပင်ဖြစ်သည်၊ ကွာခြားသည်မှာ နီယတ်ပြုရာ၌အီဒွလ်ဖွစ်တ်ရ် စာလုံးအစား အီဒွသ်သွ့ဟာဟု ထည့်သွင်းဆိုရမည်၊ အီဒွလ်ဖွစ်တ်ရ်တွင် အီးဒ်ဂါဟ်သို့ မသွားမီ တစ်စုံတစ်ရာ စားသောက်ခြင်း စွန္နတ်ဖြစ်သည်၊အီဒွသ်သွ့ဟာတွင် စွန္နတ်မဟုတ်။အီဒွလ်ဖွစ်တ်ရ်တွင် ဗလီသို့သွားရာ၌ တတ်က်ဗီးရ်ကို တိုးတိုးဆိုခြင်း စွန္နတ် ဖြစ်သည်၊ဤနေရာတွင် အသံနှင့်ဆိုရမည်၊ အီဒွလ်ဖွစ်တ်ရ်နမာဇ်ကို ဆိုင်း၍ဖတ်ခြင်း စွန္နတ်ဖြစ်သည်၊ အီဒွသ်သွ့ဟာမှာ စောလျှင်စွာ ဖတ်ရမည်၊ ဤနမာဇ်တွင်ဖွစ်တ်ရဟ်မရှိ နမာဇ် ပြီးနောက်တတ်ကုန်နိုင်သူတို့သည် ကုရ်ဘာနီ ပြုရမည်၊ ၎င်းအီးဒ်နှစ်အီးဒ် စလုံးတွင်အသာန် အေကာမတ် မဆိုရပေ။

နူရွလ်အီဆွာဟ်ကျမ်း စာမျက်နှာ-၁၂၀။
ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၇၉။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၂။

၇။ မတ်စ်အလဟ်ပြဿနာ။ အီးဒ်'နမာဇ်'ဖတ်သောနေရာတွင် 'နမာဇ်'အလျင်နှင့်နမာဇ်ပြီးနောက်မည်သည့်နမာဇ်မှ မဖတ်ရ၊ ဖတ်လျှင်မတ်က်ရူးဟ်ဖြစ်သည်၊ဟုတ်ပါ၏ အကယ်၍အီးဒ်နမာဇ်ဖတ်ပြီးနောက် အိမ်တွင်ဖတ်သော် မတ်က်ရူးဟ်မဖြစ်ပေ၊အီးဒ်နမာဇ် အလျင်အိမ်တွင်ဖတ်ခြင်းလည်း မတ်က်ရူးဟ် ဖြစ်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၄။

၈။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီးများ နှင့် အကြောင်း တစ်ခုခုကြောင့် အီးဒ်နမာဇ် မဖတ်သောသူများသည် အီးဒ် နမာဇ် မဖတ်ကြမီအလျင်၎င်းတို့သည် နဖ်လ်စသည်များဖတ်ခြင်း မတ်က်ရူးဟ် ဖြစ်သည်။

ဏဗီရီကျမ်း စာမျက်နှာ-၃၅၃။
ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၇၇။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၃၀၉။

၉။ မတ်စ်အလဟ်ပြဿနာ။ အီဒွလ် ဖွစ်တ်ရ်၏ 'ခွတွ ဗဟ်' ၌ ဆွဒကအေ ဖွစ်တ်ရ် အကြောင်း အီဒွသ် သွု ဟာ၏ ခွတ္တ ဗဟ်တွင် ကုရိဘာနီ၏ မတ်စ်အလဟ် များနှင့် တတ်က်ဗီးရ် တရှိရီးက်၏ ပညတ်ချက်များကို ဖတ်ရန်ထိုက်သည်၊ တတ်က်ဗီးရ် တရှိရီးက်၊ ဆိုလိုသည်မှာ ဖွရ်သွ 'နမာဇ်' ဟူသမျှ၏ နောက်တွင် ဤသို့တစ်ကြိမ်ဆိုခြင်း ဝါဂျစ်ဗ် ဖြစ်သည်။

اَللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ لَا اِلٰهَ اِلَّا اللّٰهُ وَاللّٰهُ اَكْبَرُ اَللّٰهُ اَكْبَرُ وَلِلّٰهِ الْحَمْدُ

အလ္လာဟို၊ အတ်က်ဗရ်၊ အလ္လာဟို၊ အတ်က်ဗရ်၊ လာအေလာဟ၊ အစ်လလ္လာဟို၊ ဝလ္လာဟို၊ အတ်က်ဗရ်၊ အလ္လာဟို အတ်က်ဗရ်၊ ဝလစ်လ္လာဟင်လ်၊ ဟမ့်ဒ်။

ဖွရ်သွ 'နမာဇ်'ကို ဂျမာအတ်နှင့်ဖတ်ခြင်း၊ ၎င်းမြို့တွင်ဖတ်မှသာ ဆိုရမည်၊ တောရွာတွင် ဆိုရန်မလိုပေ၊ ဤတတ်က်ဗီးရ်သည် အမျိုးသမီး နှင့် ခရီးသည်အပေါ်တွင် ဆိုရန် ဝါဂျစ်ဗ် မဟုတ်ပေ၊ အကယ်၍ ဤသူတို့သည် 'တတ်က်ဗီးရ်' ဆိုရန် ထိုက်သူ၏ နောက်မှ ဖတ်ကြသော် ၎င်းတို့လည်း ဆိုရမည်၊ သို့သော် အမျိုးသမီး၊ ခရီးသည်၊ တစ်ယောက်တည်း ဖတ်သူတို့သည်း ဆိုလျှင်ကောင်းသည်၊ အဘယ့်ကြောင့်ဆိုသော် စွာဟေ ဗိုင်န် (ရဟမတ္တလ္လာဟ်) သခင်နှစ်ပါးထံတွင် ထိုသူတို့အားလုံး 'တတ်က်ဗီးရ်'ဆိုခြင်း ဝါဂျစ်ဗ် ဖြစ်နေပေသည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၇။

၁၀။ မတ်စ်အလဟ်ပြဿနာ။ ဤတင်ပြပါ 'တတ်က်ဗီးရ်ကို အရ်ဖွာဟ်' ဆိုလိုသည်မှာ (၉) ရက်နေ့ ဖွဂျ်ရ်'နမာဇ်'မှ(၁၃)ရက်နေ့ အတ်စွ ရ်'နမာဇ်'အထိ ဆိုရန် ထိုက်သည်၊ ဤသို့ဖြင့် 'နမာဇ်' ပေါင်း (၂၃) ကြိမ်ဖြစ်သည်၊ ထို့နောက် တတ်က်ဗီးရ် ဆိုရန် ဝါဂျစ်ဗ် မဟုတ်တော့ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၇။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဤ 'တတ်က်ဗီးရ်' ကို အသံကျယ်စွာ ဆိုခြင်း၊ ဝါဂျစ်ဗ် ဖြစ်သည်၊ သို့သော် အမျိုးသမီးများသည် 'နမာဇ်' ဖတ်ပြီးနောက် တိုးတိုး ဆိုကြရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၀။

၁၂။ မတ်စ်အလဟ်ပြဿနာ။ 'နမာဇ်' ဖတ်ပြီးသောအခါ ချက်ချင်း တတ်က်ဗီးရ် ဆိုရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၀။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အေမာမ် ရှေ့ဆောင် ဆရာသည် တတ်က်ဗီရ် ဆိုရန် မေ့သွားမှု မွတ်က်တဒီများက ချက်ချင်း ဆိုလိုက်ကြရမည်၊ အေမာမ် ဆိုမှ ဆိုမည်ဟူ၍ စောင့်ဆိုင်းမနေကြရ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၇။

ဖွတာဝါ ါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၀၊

၁၄။ မတ်စ်အလဟ်ပြဿနာ။ အီဒွသ်သွ်ဟာ 'နမာဇ်'ပြီးနောက် အချို့က တတ်က်ဗီးရ် ဆိုရန် ထိုက်သည်ဟု ဆိုကြလေသည်။

၁၅။မတ်စ်အလဟ်ပြဿနာ။ အီးဒ် နှစ်အီးဒ်၏ 'နမာဇ်' ကို အညီအညွတ် ဗလီတိုင်းတွင် ဖတ်ပိုင်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၃၊၁၁၆။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည်အီးဒ်'နမာဇ်'ကို မမီလိုက်၊ အခြားသူများက ဖတ်ပြီးနေကြသော် ထိုသူတစ်ယောက်တည်းအီးဒ် 'နမာဇ်' ဖတ်ပိုင်ခွင့်မရှိ၊ အဘယ့်ကြောင့်ဆိုသော် အီးဒ်'နမာဇ်'တွင် ဂျမာအတ်သည် ရှရတွ်ဖြစ်သည်၊ ဤသို့ပင် အကယ်၍ တစ်ဦးသောသူသည် ဂျမာအတ်သို့ ဝင်ဖတ်သည်၊ သို့ရာတွင် အကြောင်းအချက် တစ်ခုခုကြောင့် နမာဇ်ပျက်သွားသော် ထိုသူလည်း'ကသွာ' ဖတ်ပိုင်ခွင့် မရှိတော့၊ 'ကသွာ' ဖတ်ရန်လည်း ဝါဂျစ်ဗ်မဟုတ်ပေ၊ ဟုတ်ပါ၏ အကယ်၍ အခြား မဖတ်ရသူများလည်းရှိမူ ဂျမာအတ်ပြု၍ ဖတ်ကြရန် ထိုက်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၆။

၁၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍'အွသ်ရ်' အကြောင်းတစ်ခုခုကြောင့် ပထမနေ့တွင် နမာဇ် မဖတ်နိုင်မူ အီဒွလ်ဖွစ်တ်ရ်ကို ဒုတိယနေ့ အီဒွသ်သွ်ဟာကို (၁၂) ရက်နေ့ထိ ဖတ်နိုင်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၈၄။

၁၈။ မတ်စ်အလဟ်ပြဿနာ။ အီဒွသ်သွ်ဟာ'နမာဇ်'ကို အွသ်ရ်အကြောင်းမဲ့လည်း (၁၂) ရက်ထိဆိုင်း၍ ဖတ်နိုင်သည်၊ သို့သော် ထိုသို့ ဆိုင်းဖတ်ခြင်း၊ မတ်က်ရူးဟ် ဖြစ်သည်၊ ၎င်းအီဒွလ် ဖွစ်တ်ရ်တွင်မူကား အကြောင်းမဲ့ဖတ်လျှင်နမာဇ်မပိုင်ပေ၊ အွသ်ရ် ပမာများ (၁) အကြောင်းတစ်ခုခုကြောင့် အေမာမ်သည် နမာဇ်ဖတ်ပေးရန်မလာလျှင် (၂) မိုးသည်းထန်စွာ ရွာသွန်းလျှင်၊ (၃) လမြင့်မမြင့် မခိုင်လုံလျှင် ၎င်းမှန်းတိန်းမှ လမြင်ကြောင်း သေချာလျှင်၊ (၄) တိမ်ထူထပ်သောအချိန်တွင် နမာဇ်ဖတ်ခဲ့သည်၊ တိမ်စိ သွားသောအခါကျမှ အချိန်မဟုတ်ဘဲ ဖတ်ခဲ့သည်ကိုသိလျှင်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၈၄။

ဘဲဟ်ရွှရ်ရာအစ်က်ကျမ်း- ၂၊ စာမျက်နှာ-၁၇၀။

၁၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော သူသည် 'အေမာမ်' က တတ်က်ဗီးရ် များဆိုပြီးနောက်မှ ဝင်ရောက်လာလျှင် အကယ်၍ ကေယာမ်တွင် ဝင်ရောက်ခဲ့သော် အေမာမ်က ကေရာအတ် စ နေပြီဖြစ်သော် ချက်ချင်းနိယတ်ပြုကာ တတ်က်ဗီးရ် များဆိုရမည်၊ အကယ်၍ ရှိကူအ်၌ ဝင်ရောက်မူ တတ်က်ဗီးရ်များဆိုပြီးလျှင်အေမာမ်နှင့် ရှိကူအ် ရမည်ဟု အထင်များသော် နိယတ်ပြုဝင်၍ တတ်က်ဗီးရ် ဆိုရမည်၊ ပြီးနောက် ရှိကူအ်ပြုရမည်၊ အကယ်၍ ရှိကူအ် ရမည်မဟုတ်ကြောင်း စိုးရိမ်ရသော် ရှိကူအ် ကုန်း လိုက်ရမည်၊ ရှိကူအ် တွင် ထတ်စ်ဗီးဟ်များ ဆိုမည့်အစား တတ်က်ဗီးရ်ဆိုရမည်၊ သို့သော် ရှိကူအ် ကုန်းသောအဖြစ်၌ တတ်က်ဗီးရ် ဆိုရာတွင် လက်မမြှောက်ရ၊ အကယ်၍ရှိကူအ်တွင် တတ်က်ဗီးရ်ဆိုရာ၌ မပြီးမီ အေမာမ်က ထ ခဲ့သော် ၎င်းလည်း ထ လိုက်ရမည်၊ ဆိုရန် ကျန်နေသော တတ်က်ဗီးရ် များကို ဆိုရန်မလိုတော့ ခွင့်လွှတ်မှုရသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၀၁။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် အီးဒ် 'နမာဇ်' တွင် တစ်ရကအတ် လွတ်သွားမူ ထိုရကအတ်ကို ထ ဖတ်သောအခါ ပထမ ကေရာအတ် ဖတ်ရမည်၊ ပြီးမှ တတ်က်ဗီးရ် ဆိုရမည်၊ နည်းလမ်းအတိုင်းဆိုသော် ပထမ တတ်က်ဗီးရ် ဆိုရမည်၊ သို့ရာတွင် ဤနည်းလမ်းဖြင့် ပြုသော် (၂) ရကအတ်စလုံးတွင် တတ်က်ဗီးရ် ဆက်ခါဆက်ခါ ဖြစ်သွားမည်၊ ၎င်းမည်သည့် ဆဟာဗဟ် (ရသွေ) သခင်ကမှ ဤသို့ ပြုတော်မမူခဲ့ကြပေ၊ ထို့ကြောင့် နည်းလမ်းနှင့် ကွဲလွဲစွာ အမိန့်ပေးခြင်း ဖြစ်သည်။

အကယ်၍ အေမာမ်သည် တတ်က်ဗီးရ် ဆိုရန်မေ့သွားလျှင် ရှိကူအ်ကျမှ သတိရမူ ပြန်၍မရပ်ဘဲ ရှိကူအ်၌ပင် တတ်က်ဗီးရ်ဆိုရမည်၊ အကယ်၍ ပြန်၍ရပ်လျှင်လည်း ကိစ္စမရှိ၊ 'နမာဇ်' မပျက်ပေ၊ သို့ရာတွင်'စစ်ဂျ်ဒဟ်စဟ်ဝ်'ကိုကား လူထုလွန်စွာများပြားလျှင်ပြုရန် မလိုပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၀၁၊၇၀၂။
ဒွဲရ်ရေ မွှခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၁၆။

## ကာအ်ဗဟ် ဗိမာန်တော်အတွင်း၌ 'နမာဇ်' ဖတ်ခြင်း အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ကာအ်ဗဟ် ဗိမာန်တော်အပြင်မှ ထိုဘက်သို့ မျက်နှာ လှည့်ပြီး 'နမာဇ်' ဖတ်ခြင်းပိုင်သကဲ့သို့ ကာအ်ဗဟ်ဗိမာန်တော်အတွင်း၌'နမာဇ်' ဖတ်ခြင်း လည်းပိုင်သည်၊အတွင်းမှဖတ်လျှင် လေးဘက် လေးတန်သည် ကစ်ဗ်လဟ်ပင်ဖြစ်၍လှည့်လို သောဘက်သို့ လှည့်ဖတ်နိုင်သည်၊ အတွင်း၌ 'နဖ်လ်' နမာဇ်ပိုင်သကဲ့သို့ 'ဖွရ်သွ' နမာဇ် လည်း ပိုင်ပေသည်။

ကဗီရီကျမ်း စာမျက်နှာ-၅၇၂။

၂။ မတ်စ်အလဟ်ပြဿနာ။ ကအ်ဗဟ် အပေါ်တွင်ဆက်၍ နမာဇ်ဖတ်လျှင်လည်း ပိုင်သည်၊ အဘယ့်ကြောင့်ဆိုသော် ကအ်ဗဟ်နေရာသည် မိုးထိ ကစ်ဗ်လဟ်ပင် ဖြစ်သည်၊ ကစ်ဗ်လဟ်သည် ကအ်ဗဟ်၏ တံတိုင်းများသာမဟုတ်ပေ၊ ထို့ကြောင့်တစ်ဦးသောသူသည် မြင့်သောတောင်ပေါ် တက်၍ဖတ်သော် ကအ်ဗဟ် တံတိုင်းထက် မြင့်နေ့သော်လည်း အညီအညွတ် ထိုသူ၏ နမာဇ် ပိုင်သည်၊ သို့သော် ဤသို့ဖတ်ကြခြင်းသည် ကအ်ဗဟ်ကို အရိုအသေကင်းမဲ့ရာကျသည်၊ ၎င်းပြင် ကအ်ဗဟ် အမိုးပေါ်တက်၍ နမာဇ် မဖတ်ကြရန် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က တားမြစ်ထားတော်မူသည်၊ ထို့ကြောင့်ထိုသို့ဖတ်ကြလျှင် မတ်က်ရူးဟ်တဟ်ရီမ်ဟ် ဖြစ်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၂၇။

၃။ မတ်စ်အလဟ်ပြဿနာ။ ကအ်ဗဟ် ကျောင်းတော်အတွင်း၌ တစ်ယောက်တည်း နမာဇ် ဖတ်ခြင်းလည်း ပိုင်သည်၊ ဂျမာအတ် နှင့်လည်း ဖတ်နိုင်သည်၊ ၎င်းအေမာမ်နှင့် မွတ်က်တဒီ တို့သည် တစ်ဘက်တည်းသို့ မျက်နှာမူကြရန်လည်း 'ရှရတ္တ' စည်းကမ်းချက်မဟုတ်ပေ၊ အဘယ့်ကြောင့် ဆိုသော် လေးဘက် လေးတန်သည် ကစ်ဗ်လဟ် ပင် ဖြစ်သည် ၊သို့သော် မွတ်က်တဒီသည် အေမာမ်ထက် ရှေ့မရောက်ရန်မှာ 'ရှရတ္တ' ဖြစ်သည်၊ အကယ်၍ မွတ်က်တဒီ၏ မျက်နှာသည် အေမာမ်နှင့် မျက်နှာချင်း ဆိုင်နေသော်လည်း ပိုင်သည် ထိုသို့ မျက်နှာဆိုင်ခြင်းဖြင့် အေမာမ်၏ရှေ့သို့ ရောက်သည်ဟု မဆိုနိုင်ပေ၊ နှစ်ဦးစလုံး၏ မျက်နှာသည် တစ်ဘက်တည်းရှိမှသာ မွတ်က်တဒီက ရှေ့သို့ ရောက်နေသော် ရှေ့သို့ရောက်သည်ဟု ယူဆရမည်၊ ဟုတ်ပါ၏ ဤအဖြစ်၌နမာဇ် 'မတ်က်ရူးဟ်' ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် တစ်ဦးဦးနှင့် မျက်နှာဆိုင်၍ နမာဇ် ဖတ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်၊ သို့သော် အရာတစ်ခုခုအလယ်တွင် ခြားနာစေလိုက်မူမတ်က်ရူးဟ် မဖြစ်ပေ။

ကာဗီရီကျမ်း စာမျက်နှာ-၅၇၂။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အေမာမ် သည် ကအ်ဗဟ် အတွင်း၌ နေပြီး မွတ်က်တဒီတို့က အပြင်မှဝိုင်း၍ ဖတ်ကြလျှင်လည်းပိုင်သည်၊သို့သော် အကယ်၍ အေမာမ်တစ်ဦးတည်းက ကအ်ဗဟ် အတွင်းမှာရှိပြီး၎င်းနှင့်အတူ မွတ်က်တဒီတစ်ယောက်မှ အတွင်းတွင်မရှိမူ နမာဇ် မတ်က်ရူးဟ် ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ကအ်ဗဟ် အတွင်းမှ အခင်းသည် မြင့်သည်၊ မွတ်က်တဒီများထက် အေမာမ်ရပ်ခြင်းသည် လူတစ်ရပ်စာခန့် မြင့်နေသည်၊ ထို့ကြောင့် အေမာမ်နှင့်အတူ မွတ်က်တဒီတစ်ယောက်မှ မရှိသော် မတ်က်ရူးဟ်ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၂၈။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မွတ်က်တဒီသည်အတွင်းမှာရှိပြီးအေမာမ်က အပြင်မှာရှိမူ 'နမာဇ်' ပိုင်သည်၊ သို့သော် မွတ်က်တဒီတို့သည် အေမာမ်ထက် ရှေ့သို့ မရောက်ကြရ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၀၅၆။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အားလုံးသည် ကအ်ဗဟ်အပြင်မှာ ရှိကြသည်။တစ်ဘက်မှာ အေမာမ် ရပ်နေသည်၊ မွတ်က်တဒီများက လေးဘက်မှဝိုင်း၍ရပ်ကြသည်၊ အများအားဖြင့် ဤသို့ ဖတ်ကြသော အလေ့ရှိလျှင်လည်း ပိုင်သည်၊ သို့သော် ရှုရတွင်မှာ အေမာမ် ရပ်သောဘက်မှ မွတ်က်တဒီသည် အေမာမ်ထက် ကအ်ဗဟ် နှင့် နီးကပ်မှု မရှိစေရ၊ အေမာမ်ထက်ပို၍ နီးကပ်ခဲ့သော် အေမာမ်၏ရှေ့သို့ ရောက်သည်ဟု ယူဆရမည်၊ ထိုသို့ ရှေ့ရောက်ခြင်းသည် အစ်က်တေဒါ ပျက်စေလေသည်၊ သို့သော် အခြားဘက်မှ မွတ်က်တဒီတို့သည် အေမာမ်ထက် ကအ်ဗဟ်နှင့် ပို၍ နီးကပ်ကြသော် ကိစ္စမရှိပေ။

ပမာ တင်ပြရသော်....



အလစ်ဖ်၊ ဗေ၊ ဂျီးမ်၊ ဟမ်ဇာတို့သည် ကအ်ဗဟ် ဖြစ်သည်၊ ဟေသည် အေမာမ် ဖြစ်သည်၊ ၎င်းသည် ကအ်ဗဟ်နှင့် (၂) ဂိုက်အကွာမှာ ရပ်နေသည်၊ ၎င်းဝါဝ်နှင့် 'ဇေ' သည် မွတ်က်တဒီဖြစ်သည်၊ ၎င်းတို့သည် ကအ်ဗဟ် နှင့် တစ်ဂိုက်အကွာတွင် ရပ်နေကြသည်၊ ၎င်းဝါဝ်သည်'ဟေ'အေမာမ်ရှိသောဘက်တွင်ရပ်သည်၊၎င်း 'ဇေ' မှာကား အခြားဖက်ဘက်တွင်ရပ်နေသည်၊ထိုအဖြစ်၌'ဝါဝ်'၏'နမာဇ်'မပိုင်၊'ဇေ'၏ နမာဇ်ပိုင်သွားလေသည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၂၂၇။

## စစ်ဂျဒဟ် တေလာဝတ် အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးသောသူသည် အေမာမ်မှစစ်ဂျဒဟ် အာယတ်ကိုကြားသည်၊ ၎င်းကြားပြီးမှ အက်စ်တေဒါပြုမူ ထိုသူသည် အေမာမ်နှင့်အတူ စစ်ဂျဒဟ် ပြုရန်ထိုက်သည်၊ ၎င်းအကယ်၍ အေမာမ်သည် စစ်ဂျဒဟ်ပြုပြီးနေမူ ဖြစ်ရပ် နှစ်ချက်ရှိသည်။

စစ်ဂျိဒဟ် အာယတ် ဖတ်သောရကအတ်ကို ၎င်းသူမီလျှင် ၎င်းသည် စစ်ဂျိဒဟ် ပြုရန်မလိုတော့ပေ၊ ထိုရကအတ် ရခြင်းဖြင့် စစ်ဂျိဒဟ် လည်း ရသည်ဟု ယူဆရမည်။

စစ်ဂျိဒဟ် ရကအတ်ကို မရလိုက်လျှင် ၎င်းသည် နမာဇ် အဆုံးသတ်ပြီးနောက် သီးသန့် စစ်ဂျိဒဟ် ပြုရမည်။

ကဗီရီကျမ်း စာမျက်နှာ-၄၆၀။

၂။ မတ်စ်အလဟ်ပြဿနာ။ မွတ်က်တဒီမှ စစ်ဂျိဒဟ် အာယဟ် ကြားရလျှင် ၎င်းနှင့် အေမာမ် အခြား ဂျမာအတ် ရှိနေကြသူများအပေါ် စစ်ဂျိဒဟ် ဝါဂျစ်ဗ် မဖြစ်ပေ၊ ဟုဟ်ပါ၏ အကြင်သူတို့သည် ထိုနမာဇ်၌ မပါဝင်ကြလျှင် 'နမာဇ်' မဖတ်၍ ဖြစ်စေ အခြား 'နမာဇ်' များဖတ်၍ဖြစ်စေ ထိုသူတို့အပေါ်တွင် စစ်ဂျိဒဟ် ဝါဂျစ်ဗ် ဖြစ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၄၆၇။

၃။ မတ်စ်အလဟ်ပြဿနာ။ စစ်ဂျိဒဟ် တေလာဝပ်တ် ပြုရာ၌ ဟက်ဟက်ပက်ပက် ရယ်ခြင်းဖြင့် ဝိုသူ့မပျက်ပေ၊ သို့သော် စစ်ဂျိဒဟ် မှာကား ပျက်သွားသည်။

ဖွတာဝါဟာင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၃။

၄။ မတ်စ်အလဟ်ပြဿနာ။ အမျိုးသမီး နှင့် ရင်ဘောင်တန်း ရပ်ခြင်းဖြင့် စစ်ဂျိဒဟ် တေလာဝပ် မပျက်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၃။

၅။ မတ်စ်အလဟ်ပြဿနာ။ စစ်ဂျိဒဟ်တေလာဝပ်တ်သည် 'နမာဇ်'၌ဖြစ်ခဲ့သော် ချက်ချင်းပြုရန် ဝါဂျစ်ဗ် ဖြစ်သည်၊ ဆိုင်းပိုင်ခွင့်မရှိ၊ 'နမာဇ်'တွင်း၌ပင် ပြုရမည်။

ဖွတာဝါဟာင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၃၊

၆။ မတ်စ်အလဟ်ပြဿနာ။ အပြင်မှာ ဖတ်အညီအတွက် နမာဇ်၌၎င်း'နမာဇ်' မှာ ဖတ်သည်ကို 'နမာဇ်'ပြီးမှသာမက အခြား 'နမာဇ်' ၌လည်း စစ်ဂျိဒဟ် ပြုပိုင်ခွင့်မရှိ သို့ရှိရာ အကယ်၍ တစ်ဦးသောသူသည် 'နမာဇ်'၌စစ်ဂျိဒဟ်အာယတ်ကိုဖတ်ပြီးစစ်ဂျိဒဟ် မပြုမူ ထိုအတွက်ဂိုနာဟ်သည် ၎င်းအပေါ် တွင်ရှိနေမည်၊ ပြေလည်ရန် နည်းလမ်းကား မရှိ 'တော်ဗဟ်' ပြုရမည်၊ ကရုဏာ သက်တော်မူသော အလ္လာဟ်အသျှင်မြတ်က မိမိ အသနားတော်မြတ်ဖြင့် ချမ်းသာမှုပေးလျှင် ချမ်းသာမှု ရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၂၂။

ဂျောင်ဟာရယ်နိုင်ယေရဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၂။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လူနှစ်ယောက်သည် မြင်းတစ်ကောင်စီ စီးသွားယင်း 'နမာဇ်'ဖတ်ကြလျှင် ၎င်းတို့နှစ်ဦးသည် စစ်ဂျိဒဟ် အာယတ်တစ်ခုတည်းကို

ဖတ်ကြသည်၊တစ်ယောက်တစ်ယောက်ဖတ်သည်ကိုနမာဇ် အတွင်း၌ပင်ကြားရသည်ဖြစ်မူ၊ အသီးသီးအပေါ် စစ်ဂျဒဟ်တစ်ကြိမ်သာ 'ဝါဂျစ်ဗ်'ဖြစ်သည်၊နမာဇ်အတွင်း၌ပင်တာဝန်ချရမည်၊ ၎င်းအကယ်၍ အာယတ်တစ်ခုကို နမာဇ်တွင်း၌ ဖတ်သည်၊ ၎င်းထိုအာယတ်ကို နမာဇ်ပြင်၌ကြားမူစစ်ဂျဒဟ်နှစ်ကြိမ်ဝါဂျစ်ဗ်ဖြစ်သည်၊ ဖတ်သောအတွက်တစ်ကြိမ်ကြားသောအတွက် တစ်ကြိမ်ဖြစ်သည်၊ ဖတ်ခြင်းမှာ နမာဇ်နှင့်သက်ဆိုင်၍ နမာဇ် အတွင်း၌ပင် တာဝန်ချရမည်၊ ကြားခြင်းအတွက်ကို နမာဇ်အပြင်မှာ တာဝန်ချရမည်။

ဖွတာဝါ ကာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၇။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ စစ်ဂျဒဟ် အာယတ်ကို နမာဇ် ၌ဖတ်၍ ချက်ချင်း ရီကူအ် ပြုသည်ဖြစ်စေ (၂-၃) အာယတ်ဖတ်ပြီးမှ ရီကူအ်ပြုရာတွင်၊ စစ်ဂျဒဟ်၏ 'နီယတ်'လည်း ထားလိုက်မူ တာဝန်ကျသွားသည်၊ ဤသို့ပင် စစ်ဂျဒဟ် အာယတ်ဖတ်ပြီး နောက် နမာဇ်၏ စစ်ဂျဒဟ် ပြုလျှင် ဆိုလိုသည်မှာ ရီကူအ် ကောင်မဟ်၏နောက်လည်း စစ်ဂျဒဟ်ပြုလျှင် ပိုင်သည်။ ထိုသို့ပြုရာ၌ တေလာဝပ်တ် အတွက် 'နီယတ်' ထားနေရန် မလိုပေ။

ရှရ်ဟွတ်တန်ဗီးရ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၁၅၀။

၉။ မတ်စ်အလဟ်ပြဿနာ။ 'ဂျိူမို့အဟ်' 'အီးဒ်နှစ်အီးဒ်' နှင့် တိုးတီးဖတ် ရသော နမာဇ်များတွင် စစ်ဂျဒဟ်အာယတ်မဖတ်ရန်ထိုက်သည်၊အဘယ့်ကြောင့်ဆိုသော် စစ်ဂျဒဟ်ပြုရာတွင် မွတ်က်တဒီတို့ ထင်မြင်မှု မှားသွားကြမည်ကို စိုးရလေသည်။

ခါနီယဟ်ကျမ်း စာမျက်နှာ-၁၆၈။

# သေသူကို ဂွတ်စ်လ်ပြုပေးရန် မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် မြစ်တွင်ရေနစ်၍ သေဆုံးသွားမူ ပြန်လည် ဆယ်ယူရရှိသောအခါ 'ဂွတ်စ်လ်'ပြု့ရေချိုးပေးရန် ဖွရ်သွ် ဖြစ်သည်၊ ရေနစ်ခြင်းဖြင့် ဂွတ်စ်လ် အတွက်မလုံလောက်ပေ၊အဘယ့်ကြောင့် ဆိုသော် သေသူကို ရေချိုးပေးရန် ရှင်သူများအပေါ် ဖွရ်သွ် ဖြစ်သည်၊ ရေနစ်ခြင်း၌ ၎င်းတို့၏ အလုပ်မပါဝင်ပေ၊ ဟုတ်ပါ၏ အကယ်၍ ရေမှဆယ်ယူသောအခါ သေသူကို ဂွတ်စ်လ်၏ နီယတ်ဖြင့် ရေ၌လှုပ်ရှားပေးလိုက်လျှင် ဂွတ်စ်လ်ပိုင်သွားသည်၊ ဤသို့ပင် သေသူအပေါ် မိုးရွာချသည်၊ ၎င်းပြင် တစ်နည်းနည်းဖြင့် ရေရောက်သော်လည်း ဂွတ်စ်လ် ပြုပေးရန် ဖွရ်ဝဇ်ပင်ဖြစ်သည်။

ဖွတာဝါကာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၉။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၆။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်၏ ခေါင်းကိုသာ တွေ့ရမူ ဂွတ်စ်လ် ပြုပေးရန်မလိုဘဲ ဤအတိုင်းပင် 'ဒဖ္ဖ်ာန်' ပြု၊ သင်္ဂြိုဟ်လိုက်ရမည်၊ အကယ်၍ တစ်ဦးတစ်ယောက်၏ အလောင်းကို တစ်ဝက်ကျော် တွေ့ရမူ ခေါင်းပိုင်းဘက်မှ ဖြစ်စေ ခြေပိုင်းဘက်မှဖြစ်စေ ထိုသေသူကိုဂွတ်စ်လ် ပြုပေးကြရမည်၊ အကယ်၍တစ်ဝက်ထက် မပိုသာမက တစ်ဝက်သာတွေ့ရမူ ခေါင်းပိုင်းမှဖြစ်လျှင် ဂွတ်စ်လ် ပေးရမည်၊ သို့တည်းမဟုတ်က ဂွတ်စ်လ်မပေးရ၊ အကယ်၍ တစ်ဝက်ထက်လျော့တွေ့ရမူ ခေါင်းပိုင်းမှ ဖြစ်စေ ခြေပိုင်းမှဖြစ်စေ ဂွတ်စ်လ် ပေးရန် မလိုပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၀၄။

၃။ မတ်စ်အလဟ်ပြဿနာ။ အလောင်းတစ်ခုကိုတွေ့သည်၊ မွတ်စလင်မ်လော၊ ကာဖွင်ရ်လော့ဟူ၍ မခွဲခြားနိုင်သော် အကယ်၍ ဒါရွလ် အစ္စလာမ် (ဆိုလိုသည်မှာ မွတ်စလင်မ်အများစု နေထိုင်သောရပ်ကွက်) ဖြစ်မူ ထိုသေသူကို ဂွတ်စ်လ်ပေး၍ ဂျနာဇဟ်နမာဇ် ဖတ်ပေးရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၆။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မွတ်စလင်မ်တို့၏ အလောင်းများသည် ကာဖွင်ရ်များ၏ အလောင်းများနှင့် ရောသွားပြီး ခွဲခြား၍ မရတော့လျှင် အားလုံးကို ဂွတ်စ်လ် ပြုပေးရမည်၊ ခွဲခြား၍ရခဲ့သော် မွတ်စလင်မ်တို့၏ အလောင်းများကိုသာ ဂွတ်စ်လ် ပေးရမည်၊ ကာဖွင်ရ် အလောင်းများကို ဂွတ်စ်လ် မပေးရ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၆။

၅။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော မွတ်စလင်မ်၏ အမျိုးသည် ကာဖွင်ရ်ဖြစ်သော် ၎င်းကာဖွင်ရ် သေဆုံးပါက အလောင်းကို ၎င်းနှင့်ဘာသာတူတို့အား အပ်လိုက်ရမည်၊ အကယ်၍ ၎င်းနှင့်ဘာသာတူမရှိလျှင် သို့မဟုတ် ရှိသော်လည်း ယူရန် ငြင်းဆိုကြသော် မတတ်သာသောအဖြစ်နှင့် ထိုမွတ်စလင်မ်သည် ကာဖွင်ရ်အား ရေကြမ်းလောင်းချိုးရမည်၊ 'စွန္နတ်တော်' နည်းလမ်းအတိုင်း ဂွတ်စ်လ် ပြု၊ ရေချိုးပေးခြင်း မပြုရ၊ ဝိုသွူ ပြုမပေးရ၊ ခေါင်းကို ရှင်းမပေးရ၊ ကာဖွူရ်ပရပ်စသည်များ ကိုယ်၌ သုတ်လိမ်းခြင်းမပြုရသည်သာမက မသန့်သောပစ္စည်းကို ဆေးသကဲ့သို့ ရေလောင်းချလိုက်ရမည်၊ ၎င်းကာဖွင်ရ်မှာကား ကောင်းစွာ ရေချိုးပေးခြင်းဖြင့်လည်း သန့်ရှင်းမည် မဟုတ်ပေ၊ ထိုအလောင်းအား တစ်ဦးတစ်ယောက်က ဂျနာဇဟ် ဖတ်လျှင်လည်း မပိုင်ပေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။

၆။ မတ်စ်အလဟ်ပြဿနာ။ (မွတ်စလင်မ် ဘုရင်အား ပုန်ကန်သူ) သူပုန်နှင့် ဓားပြများသည် တိုက်ပွဲတွင် ကျဆုံးကြသော် ၎င်းတို့ကို ဂွတ်စ်လ် ပြု၊ မပေးရ၊ ဂျနာဇဟ်နမာဇ် လည်း ဖတ်မပေးရ။

ဖွတာဝါကွာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။

၇။ မတ်စ်အလဟ်ပြဿနာ။ မွှရ်တာဒ်၊ အစ္စလာမ် ဘာသာမှ ကျောခိုင်းသွားသူသည် သေဆုံးခဲ့သော် ဂွတ်စ်လ် ပြုမပေးရ၊ အကယ်၍ ၎င်း၏ဘာသာတူများက ထိုသူ၏အလောင်းကို တောင်းလျှင်လည်း မပေးရ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၃၂။

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ရေမရသော အတွက်ကြောင့် သေဆုံးသူကို 'တယမ်မွမ်' မြေဖြင့် သန့်စင်ပေးရလျှင် ပြီးနောက် ရေရလာမူ ထိုသေသူကို ဂွတ်စ်လ် ရေပြန်၍ ချိုးပေးရန်ထိုက်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။

ဖွတာဝါကာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၇။

## သေသူအား ကဖွာန်ထုတ်ခြင်း၏ အချို့မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ လူသားအဆစ်အပိုင်း တစ်ခုခုကိုလည်းကောင်း ခေါင်းမပါဘဲ ကိုယ်တစ်ဝက်ကိုလည်းကောင်း တွေ့ရမူ အဝတ်တစ်ခုခုဖြင့် ထုတ်ပတ်၍ မြေမြှုပ်ခြင်းဖြင့် လုံလောက်သည်၊ ဟုတ်ပါ၏ အကယ်၍ ကိုယ်တစ်ဝက်နှင့်အတူ ခေါင်းလည်းပါမူ သို့မဟုတ် ခေါင်းမပါသော်လည်း ကိုယ်တစ်ဝက်ထက်ပိုမူစွန္နတ်တော်အရ ကဖွာန် ထုတ်ရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၆။

၂။ မတ်စ်အလဟ်ပြဿနာ။ တစ်ဦးသောသူ၏ 'ကဗရ်' မြေပုံသည်ကွဲအက်၍ မြင်နေရလျှင်လည်းကောင်း၊ အကြောင်းတစ်ခုခုကြောင့် အပြင်သို့ ရောက်လာလျှင်လည်းကောင်း၊ ကဖွာန် မရှိတော့မူ ပုတ်ပွခြင်းလည်း မရှိသေးပါက စွန္နတ်တော် နည်းအတိုင်း ကဖွာန် ထုတ်ပေးရမည်၊ အကယ်၍ ပုတ်ပွသွားသော် စွန္နတ်တော်နည်းအတိုင်း မလုပ်ဘဲ ရိုးရိုး အဝတ်တစ်ခုခုနှင့် ထုတ်ပေးပြီး မြေပြန်ဖို့ပေးခြင်းဖြင့် လုံလောက်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၉။

## ဂျနာဇဟ် နမာဇ်၏ မတ်စ်အလဟ်များ အကြောင်း

ဂျနာဇဟ် 'နမာဇ်' သည် အမှန်မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ထံတော်၌ သေသူအတွက် 'ဒိုအာ' တောင်းပေးခြင်း ဖြစ်ပေသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၁၄။

၁။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ်'နမာဇ်'ဝါဂျစ်ဗ်ဖြစ်ရန်အတွက် ရှရတွ်များသည် အထက်တွင် ရေးခဲ့သော အခြား နမာဇ်များအတိုင်းပင်ဖြစ်သည်၊ ဟုတ်ပါ၏ ရှရတွ်တစ်ခုသာ ပိုသည်၊ သေဆုံးခြင်းကို သိရမည်၊ သို့ရှိရာ သေဆုံးခြင်းကို မသိသူအပေါ် ဂျနာဇဟ် 'နမာဇ်' ဖတ်ရန်မလိုပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၁၁။

၂။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ် 'နမာဇ်' ပိုင်ရန်အတွက်ရှရ်တွ်(၂)ချက်ရှိသည်၊ ပထမ ရှရတွ်မှာ 'နမာဇ်'ဖတ်သူများနှင့်သက်ဆိုင်သည်၊အခြား 'နမာဇ်' များဖတ်ရာတွင် ရှိအပ်သောအချက်များပင်ဖြစ်သည်၊ ဆိုလိုသည်မှာ'တွဟာရတ်'သန့်ပြန့်ခြင်း အရှက်ဖုံးအုပ်ခြင်း၊ ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူခြင်း၊ နိယတ် စသည်များ ဖြစ်ကြသည်၊ ဟုတ်ပါ၏ဂျနာဇဟ် 'နမာဇ်' တွင် အချိန်ကား ရှရတွ် မဟုတ်ပေ၊ ထိုအတွက် 'နမာဇ်' မမှီမည်ကို စိုးရိမ်လျှင် တယမ်မွမ် ပြု၍ ဖတ်ပိုင်သည်၊ ပမာဆိုသော် ဂျနာဇဟ် 'နမာဇ်' ဖတ်နေသည်၊ ဝိုသွူ ပြုပါက 'နမာဇ်' လွတ်သွားမည်ကို စိုးရသော် တယမ်မွမ်ပြု၍ ဖတ်ပိုင်သည်၊အခြားနမာဇ် များတွင်မူကား အချိန်လွန်သွားမည်ကိုစိုးရသော်လည်း တယမ်မွမ်ဖြင့် မပိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၄၊၁၆၃။

၃။ မတ်အလဟ်ပြဿနာ။ ယခုခေတ်တွင် အချို့သူတို့သည်ဂျနာဇဟ်နမာဇ်ဖတ်ရာတွင် ဖိနပ်စီး၍ဖတ်ကြသည်၊ ထိုသူတို့အတွက် အရေးကြီးသည်မှာ ရပ်သောနေရာ ၎င်းဖိနပ်ပါ သန့်ရပေမည်၊ အကယ်၍ ဖိနပ်ချွတ်၍ ဖိနပ်အပေါ် ရပ်သော် ဖိနပ်သန့်ရန် အရေးကြီးသည်၊ အချို့သူများသည် ဖိနပ်သန့်မသန့်ကို ဂရုမစိုက်ကြ၍ နမာဇ် မပိုင်ဘဲဖြစ်သွားရလေသည်။

ဒုတိယ ရှရတွ် သည် သေသူ မိုင်ယစ်တ်နှင့် သက်ဆိုင်သည်၊ ထိုအချက် ရှရတွ်များသည် (၆) ချက်ရှိသည်။

ရှရတွ်....၁။ သေသူသည် မွတ်စလင်မ် ဖြစ်ရမည်၊ကာဖွင်ရ် နှင့် မွရ်တဒ်တို့အား ဂျနာဇဟ် 'နမာဇ်' ဖတ်ပေးခြင်း မပိုင်ပေ၊ မွတ်စလင်မ် ဖွာစစ်က်နှင့် ဗိဒအတီ ဖြစ်သော်လည်း ထိုသူ့အား ဂျနာဇဟ် 'နမာဇ်' ဖတ်ပေးခြင်း ပိုင်သည်။

မှန်ကန်သောဘုရင်အား ပုန်ကန်သောတိုက်ပွဲ၊ဓားမြတိုက်သောအဖြစ်၌သေဆုံးသူကို ဂျနာဇဟ် ဖတ်မပေးရ၊ သို့သော် တိုက်ပွဲပြီးမှ ၎င်းအလိုအလျောက် သေဆုံးသော် ဂျနာဇဟ် ဖတ်ပေးရမည်၊ဤနည်းအတူ မိဘကိုသတ်သဖြင့်သေစား သေခံရသူကိုဂျနာဇဟ် ဖတ်မပေးရ၊ ထိုသို့သောသူများ ကြောက်စေရန်အတွက် ဖတ်မပေးရခြင်း ဖြစ်သည်၊

ရင်းမြင် အကြင်သူသည် မိမိကိုယ်ကိုသတ်သေလျှင် မှန်သောအဆိုမှာ ဂျနာဇဟ် ဖတ်ပေး ပိုင်သည်၊ (အချို့အဆိုမှာ အာလင်မ်များက ဖတ်မပေးရ၊ သာမန်လူကသာ ဖတ်ပေး ရမည်ဟူ၍လည်းပါသည်။)

ကဗီရီကျမ်း စာမျက်နှာ-၅၄၇။

ဖွတာဝါဟင်နီဒီယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၀၊၁၆၁။

၄။ မတ်စ်အလဟ်ပြဿနာ။ ကလေး၏ မိဘအနက် တစ်ဦးဦးသည် မွတ်စလင်မ် ဖြစ်လျှင် ကလေးကို မွတ်စလင်မ်ဟု ယူဆရမည်၊ ထိုကလေးအားဂျနာဇဟ် 'နမာဇ်' ဖတ် ပေးရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၅၆။

၅။ မတ်စ်အလဟ်ပြဿနာ။ မိုင်ယစ်တ် သေသူဟု ဆိုရာ၌ အသက်ရှင်လျက် မွေး ဖွားပြီးမှ သေသူကို ခေါ်ဆိုသည်၊ အကယ်၍ အသက်မပါဘဲ မွေးဖွားခဲ့သော် ထိုကလေး ကို ဂျနာဇဟ် ဖတ်မပေးရ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၅၅။

ရှရတွ ....၂။ သေသူ၏ကိုယ် ရင်းကဖွာန်သည် နဂျာစတ် ဟာကီကိယဟ်နှင့် ဟွတ်က်မိယဟ် မသန့်ကြီး မသန့်လေးများမှ သန့်ရှင်းနေရမည်၊ ဟုတ်ပါ၏ အကယ်၍ မသန့်ကြီးသည် သေသူ၏ကိုယ်မှထွက်၍ ကိုယ်မသန့်ဖြစ်သွားသော် ကိစ္စမရှိပေ၊ 'နမာဇ်' ပိုင်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၀၁၂။

၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သေသူသည် 'နဂျာစတ်ဟွတ်က်မိယဟ်'မှ သန့်ရှင်းခြင်းမရှိလျှင် ဆိုလိုသည်မှာ သေသူကို ဂွတ်စ်လ် ရေချိုးမပေးလျှင် သို့မဟုတ် မတတ်သာသောအဖြစ်၌ တယမ်မွမ်ပြုမပေးလျှင် ထိုဂျနာဇဟ်နမာဇ်မပိုင်ပေ၊ ဟုတ်ပါ၏ အကယ်၍ သေသူကို သန့်ရှင်းအောင်ပြုရန် မဖြစ်နိုင်လျှင် ပမာဆိုသော် ဂွတ်စ်လ် မပြုဘဲ တယမ်မွမ်မပြုဘဲ မြှုပ်နှံပြီး၍ မြေဖို့ပြီးနေသော ဂျနာဇဟ်နမာဇ်ကိုကဗရ်မှာပင် ဖတ်ပေး ခြင်း ပိုင်သည်။

အကယ်၍ သေသူကိုဂွတ်စ်လ်သော်လည်းကောင်း၊ တယမ်မွမ်သော်လည်းကောင်း မပြုမိဘဲ နမာဇ် ဖတ်ပြီး၍ မြှုပ်နှံပြီးသောအခါမှ ဂွတ်စ်လ် မပြုရသေးကြောင်း သတိရမူ ကဗရ် တွင်ပြန်၍ ဂျနာဇဟ် နမာဇ် ဖတ်ရမည်၊ အဘယ့်ကြောင့်ဆိုသော် ပထမ 'နမာဇ်' သည် မပိုင်ပေ၊ ဟုတ်ပါ၏ ယခုသော် ဂွတ်စ်လ် မပြုနိုင်တော့ပေ၊ ထို့ကြောင့် 'နမာဇ်' ပိုင်သွားသည်။

၇။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မွတ်စလင်မ်တစ်ဦးကို ဂျနာဇဟ်နမာဇ် မဖတ်ဘဲ ဒဖွာန်ပြု၊မြှုပ်နှံခဲ့သော် အလောင်း တစ်စတစ်စ မပြစ်သေးလျှင် ကဗရ်၌ နမာဇ် ဖတ်ရမည်၊ တစ်စတစ်စဖြစ်နေပြီဟုထင်ရသော် နမာဇ်မဖတ်ရပေ၊ တစ်စတစ်စဖြစ်ခြင်းမှာ မှန်သော အဆို အရ ရက်ကန့်သတ်၍ မရ၊ နေရာဒေသအလိုက် ကွဲလွဲမှုရှိသည်၊ အချို့ ၃-ရက်၊ အချို့က ၁၀-ရက်၊ အချို့က ၁-လထိ ရေးကြသည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၅။
နူရွလ်အီဇွာဟ်ကျမ်း စာမျက်နှာ-၁၂၇၊၁၂၈။

၈။ မတ်စ်အလဟ် ပြဿနာ။ မိုင်ယစ်တ် သေသူထားသောနေရာ၌ သန့်ရှင်းရန် ရှရတ္တ မဟုတ်ပေ၊ အကယ်၍ သေသူကို သန့်ရှင်းသော ခုတင်ခုံပေါ်တွင်ထားလျှင်၊ ၎င်း ခုတင်နှင့်ခုံလည်းမသန့်ဖြစ်နေမူ၊၎င်းသေသူကို ခုတင်ခုံတွင်မဟုတ်ဘဲ မသန့်သောမြေပေါ်၌ ချထားမူ၊ ဤအဖြစ်၌ ကွဲလွဲမှုရှိသည်၊ အချို့ထံ သေသူထားသောနေရာ သန့်ရှင်းရန် ရှရတ္တဖြစ်၍ နမာဇ်မပိုင်ပေ၊ ၎င်းပြင် အချို့ထံ နေရာသန့်ရှင်းရန် ရှရတ္တမဟုတ်သဖြင့် နမာဇ်ပိုင်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၈။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၀။

ရှရတ္တ....၃။ သေသူ၏ အရှက်နေရာများ ဖုံးအုပ်၍နေရမည်၊ အကယ်၍ သေသူသည် ဝတ်လစ်စလစ် ဖြစ်သော် နမာဇ် မပိုင်ပေ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၈။

ရှရတ္တ....၄။ သေသူသည် နမာဇ် ဖတ်သူများ၏ ရှေ့တွင် ရှိ[illegible]စေရမည်၊ အကယ်၍ သေသူသည် နမာဇ်ဖတ်သူများ၏ နောက်တွင် ရှိမူ နမာဇ်မပိုင်ပေ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၈။

ရှရတ္တ....၅။ သေသူနှင့် သေသူတင်သောအရာကို မြေပေါ်တွင် ထားရှိရမည်၊ အကယ်၍ သေသူကို လူတို့က မိမိတို့လက်ပေါ်တွင် မ ထားကြလျှင်၊ ၎င်းအစီးအနင်း တစ်ခုခု၊ သို့မဟုတ် တိရစ္ဆာန်ပေါ် တင်ထားသောအဖြစ်များ၌ ဂျနာဇဟ်နမာဇ် ဖတ်ကြသော် မပိုင်ပေ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၈။

ရှရတ္တ....၆။ မိုင်ယစ်တ် သေသူရှိနေရမည်၊ သေသူမရှိဘဲနှင့် ဂျနာဇဟ် နမာဇ် ဖတ်ခြင်း မပိုင်။

၉။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ်နမာဇ်တွင် ဖွရ်ဇ္ဇ ၂-ရပ် ရှိသည်၊

(၁) အလ္လာဟုအတ်ကဗရ် ၄-ကြိမ်ဆိုခြင်း၊ ဤနေရာတွင် တတ်ကဗီးရ် ၁-ကြိမ် အစား တစ်ရကအတ် ဟု ယူဆလေသည်။

မှတ်ချက်။ ဆိုလိုသည်မှာ.... ရကအတ်သည် အရေးကြီးသကဲ့သို့ တတ်က်ဗီးရ်သည် အရေးကြီးပေသည်၊ ဂျနာဇဟ်နမာဇ်၏ 'ရကွန်' များသည် တတ်က်ဗီးရ်များနှင့်ကေယာမ် ရပ်ခြင်းပင်ဖြစ်သည်။

(၂) ကေယာမ် ရပ်၍ ဂျနာဇဟ် နမာဇ်ဖတ်ခြင်း ဖွရ်သွ် ဝါဂျဗ်ဗ် နမာဇ်များတွင်ကေယာမ် ဖွရ်သွ်ဖြစ်သကဲ့သို့ပင် ဖွရ်သွ်ဖြစ်သည်၊ အွရ်သ်မရှိဘဲ လွှတ်ခြင်းမပိုင်ပေ၊ အွသီရ်၏အကြောင်း ဖေါ်ပြပြီးဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၃၈။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ် နမာဇ်တွင် ရိုကူအ်, စစ်ဂျ်ဒဟ်, ကအ်ဒဟ် စသည်များ မပါရှိပေ။

ရှုရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၄။

၁၁။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ် နမာဇ်တွင် စွန္နတ် ၃-ချက် ရှိသည်၊ (၁)အလ္လာဟ်အသျှင်မြတ်အား ချီးမြှင့်ထောပနာပြုခြင်း၊ (၂)ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်အပေါ် ဒရူးဒ် မေတ္တာပို့သခြင်း၊ (၃)သေသူအတွက် ဒိုအာပြုခြင်း။

ဂျနာဇဟ် နမာဇ်တွင် ဂျမာအတ်သည် ရှရ်တွ် မဟုတ်ပေ၊ သို့ရှိရာ အကယ်၍တစ်ယောက်တည်း ဂျနာဇဟ်နမာဇ်ဖတ်လိုက်မှု ဖွရ်သွ်အဒါဖြစ်သွားသည်၊ ထိုဖတ်သူသည် အမျိုးသမီး ဖြစ်စေ၊ အမျိုးသား ဖြစ်စေ၊ အရွယ်မရောက်သေးသော ကလေး ဖြစ်စေ အတူတူဖြစ်သည်။

နူရုလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၂၄။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ဟုတ်ပါ၏၊ ဤနေရာတွင် ဂျမာအတ် ရှိရန်ထိုက်သည်၊ အဘယ့်ကြောင့်ဆိုသော် ဂျနာဇဟ်နမာဇ်သည် သေသူအတွက် ဒိုအာပြုခြင်းဖြစ်သည်၊ မွတ်စလင်မ်အချို့ စုပေါင်း၍ မြင့်မြတ်တော်မူသော အလ္လာဟ်အသျှင်မြတ်ထံ အရာရာတစ်ခုခုကို တောင်းဆိုကြခြင်းသည် 'ရဟ်မတ်'တော် ကျရောက်ရန်နှင့် ကဘူလ်ပြု, လက်ခံတော်မူရန်မှာ သီးခြားသော အကျိုး သက်ရောက်မှု ရှိလေသည်။

ဖွတာဝါဟင်ဒိယဟ်ကျမ်း အတွဲ-၁ စာမျက်နှာ-၁၆၀။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ် နမာဇ်တွင် စွန္နတ်နှင့် မွတ်စ်တဟဲဗ် နည်းလမ်းမှာ ဤသို့ရှိသည်၊ သေသူကို ရှေ့မှာထားပြီး အေမာမ်သည် သေသူရင်နှင့် ညီသော နေရာတွင်ရပ်ရမည်၊ ၎င်းပြင် အသင့်ရှိသူအားလုံး ဤသို့ နိယထ်ပြုကြရမည်။

نَوَيْتُ اَنْ اُصَلِّيَ صَلوٰةَ الْجَنَازَةِ لِلّٰهِ تَعَالٰى دُعَاءً لِّلْمَيِّتِ

အဂိပ္ပါယ်... အလ္လာဟ် အသျှင်မြတ် အတွက် နမာဇ် ဖြစ်သော သေသူ အတွက်ဒိုအာဖြစ်သော ဂျနာဇဟ်နမာဇ်ဖတ်ရန် ကျွန်တော်မျိုး 'နိယတ်' ဆန္ဒပြုပါသည်။

ဤသို့ နိယတ်ပြုပြီး၊ လက်နှစ်ဘက်ကို တတ်က်ဗီးရ်တဟ်ရီမဟ်ကဲ့သို့ နား ထိမြှောက်ကာ၊ အလ္လာဟု အတ်က်ဗရ် ၁-ကြိမ်ဆိုပြီး လက်နှစ်ဘက်ကိုနမာဇ်ဖတ်သည့်ကဲ့သို့ပိုက်ရမည်၊ ထို့နောက် စုဗ်ဟာန ကလ္လာဟုမ်မ ကို အဆုံးထိ ဖတ်ရမည်၊ ထို့နောက် အလ္လာဟု အတ်က်ဗရ် ၁-ကြိမ် ဆိုရမည်၊ သို့သော် ဤအကြိမ်တွင် လက်မမြှောက်ရ၊ ဒရူးဒ်ရှရီးဖ်ဖတ်ရမည်၊ နမာဇ်၌ဖတ်သော ဒရူးဒ်ရှရီးဖ်ကို ဖတ်လျှင် ကောင်းသည်၊ ထို့နောက် အလ္လာဟု အတ်က်ဗရ် ၁-ကြိမ် ဆိုရမည်၊ ဤအကြိမ်တွင်လည်း လက်မမြှောက်ရ၊ ဤအကြိမ်တွင် သေသူအတွက် ဒိုအာပြုရမည်၊ အကယ်၍ သေသူသည် အရွယ်ရောက်သူ ယောကျ်ားဖြစ်လျှင်လည်းကောင်း၊ မိန်းမဖြစ်လျှင်လည်းကောင်း ဤဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ اغْفِرْ لِحَيِّنَا وَمَيِّتِنَا وَشَاهِدِنَا وَغَائِبِنَا وَصَغِيْرِنَا وَكَبِيْرِنَا

وَذَكَرِنَا وَاُنْثَانَا اَللّٰهُمَّ مَنْ اَحْيَيْتَهٗ مِنَّا فَاَحْيِهٖ عَلَى الْاِسْلَامِ

وَمَنْ تَوَفَّيْتَهٗ مِنَّا فَتَوَفَّهٗ عَلَى الْاِيْمَانِ

အချို့ မာဒီးသ်တော်များတွင် ဤဒိုအာ ဖတ်ရန်လည်း လာရှိပေသည်။

اَللّٰهُمَّ اغْفِرْ لَهٗ وَارْحَمْهُ وَعَافِهٖ وَاعْفُ عَنْهُ وَاَكْرِمْ نُزُلَهٗ

وَوَسِّعْ مَدْخَلَهٗ وَاغْسِلْهُ بِالْمَاءِ وَالثَّلْجِ وَالْبَرَدِ وَنَقِّهٖ مِنَ

الْخَطَايَا كَمَا يُنَقَّى الثَّوْبُ الْاَبْيَضُ مِنَ الدَّنَسِ وَاَبْدِلْهُ دَارًا

خَيْرًا مِّنْ دَارِهٖ وَاَهْلًا خَيْرًا مِّنْ اَهْلِهٖ وَزَوْجًا خَيْرًا مِّنْ زَوْجِهٖ

وَاَدْخِلْهُ الْجَنَّةَ وَاَعِذْهُ مِنْ عَذَابِ الْقَبْرِ وَعَذَابِ النَّارِ

အကယ်၍ တင်ပြပါ ဒိုအာနှစ်ရပ်စလုံး ဖတ်လိုက်လျှင်လည်း ကောင်းသည် သာမက အလ္လာမဟ်ရှာမီ (ရဟမတုလ္လာဟ်) သခင်က ရဒ်ဒွလ်မှုခ်တာရ်ကျမ်းတွင် တင်ပြပါ ဒိုအာနှစ်ရပ်စလုံးကို တစ်ပိုဒ်တည်းအနေဖြင့်ပေါင်းစပ်၍ရေးသားထားတော်မူသည်၊ တင်ပြပါ ဒိုအာနှစ်ရပ်အပြင် ကျွန်ုပ်တို့ ဖွေကဟ်ရှင်များက အခြား ဒိုအာများလည်း ရေးသားကြသည်၊ ကြိုက်နှစ်သက်သော ဒိုအာကို ဖတ်နိုင်သည်။

အကယ်၍ မိုင်ယစ်တ် သေသူသည် အရွယ်မရောက်သေးသော ယောကျ်ားလေး ဖြစ်လျှင် ဤဒိုအာကို ဖတ်ရမည်။

اَللّٰهُمَّ اجْعَلْهُ لَنَا فَرَطًا وَّاجْعَلْهُ لَنَا اَجْرًا وَّذُخْرًا وَاجْعَلْهُ لَنَا شَافِعًا وَّمُشَفَّعًا

အကယ်၍ သေသူသည် အရွယ်မရောက်သေးသော မိန်းကလေးဖြစ်လျှင် ဤဒိုအာကိုပင် ဖတ်ရမည်၊ကွဲပြားမှုမှာ....အဂ္ဂါအလ်ဟူ၊ ၃-နေရာစလုံးတွင် အဂ္ဂါအလ်ဟာဟု ဖတ်ရမည်၊ ၎င်းပြင် ရှာဖွေ့အန်ဝ်၊ ဝမို့ရှဖ်ဖွအန် နေရာတွင် ရှာဖွေ့အတန်ဝ်၊ ဝမို့ရှဖ်ဖွအတန်ဟု ဖတ်ရမည်။

ဤဒိုအာ ဖတ်ပြီးသောအခါ အလ္လာဟု အတ်က်ဗရ် ၁-ကြိမ်ဆိုရမည်၊ ဤအကြိမ်တွင်လည်း လက်မမြှောက်ရ၊ ဤတတ်က်ဗီးရ်ပြီးဆုံးရာတွင် နမာဇ်၌လှည့်သကဲ့သို့ စလာမ်လှည့်ရမည်၊ ဂျနာဇာ် နမာဇ်တွင် အတ်တဟိယာတ် ကုရ်အာန်ကျမ်းတော်၏ အာယတ်တော်များ ဖတ်ရခြင်း စသည်များ မပါရှိပေ။

ဘဲဟ်ရှုရ်ရာအစ်က်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၀၃။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇာ်နမာဇ်တွင် အေမာမ်နှင့် မွတ်က်တဒီနှစ်ဦးလုံးအတွက် အတူတူဖြစ်သည်၊ ကွဲပြားသည်မှာ အေမာမ်သည် တတ်က်ဗီးရ်များနှင့် စလာမ်ကို အသံနှင့်ဆိုရမည်၊ မွတ်က်တဒီသည် တိုးတိုးဆိုရမည်၊ ကျန်သောအချက်များ သနာ၊ ဒရူးဒ်နှင့် ဒိုအာ တို့ကို မွတ်က်တဒီများသည် တိုးတိုးဖတ်ရမည်၊ အေမာမ်လည်း တိုးတိုး ဖတ်ရမည်။ ? မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၇၉။

၁၅။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇာ် နမာဇ်တွင် အသင့်ရှိသောသူများ ၃-တန်း,တန်းခြင်း မွတ်စ်တဟဗ် ဖြစ်သည်၊ အကယ်၍ လူ ၇-ယောက် ရှိနေကြစေကာမူ တစ်ဦးက အေမာမ်အဖြစ် ရပ်ရမည်၊ ပထမအတန်းတွင် ၃-ယောက်၊ ဒုတိယအတန်းတွင် ၂-ယောက်၊ တတိယအတန်းတွင် ၁-ယောက် ရပ်ကြရမည်။

ကဗီရီကျမ်း စာမျက်နှာ-၅၄၅။

၁၆။ မတ်စ်အလဟ် ပြဿနာ။ အခြားနမာဇ်များ ပျက်စေသော အချက်များဖြင့် ဂျနာဇာ် နမာဇ်လည်း ပျက်လေသည်၊ ကွဲပြားသည်မှာ ဂျနာဇာ် နမာဇ်တွင် ဟက်ဟက်ပက်ပက် ရယ်ခြင်းဖြင့် နမာဇ်မပျက်ပေ၊ ထို့ပြင် အမျိုးသမီးနှင့် ရင်ဘောင်တန်း ရပ်ခြင်းဖြင့်လည်း မပျက်ပေ။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၁။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ငါးကြိမ် ဖတ်သော ဗလီ နှင့် ဂျို မို့အဟ်အီးဒ်နှစ်အီးဒ်အတွက် ပြုလုပ်ထားသောနေရာတွင် ဂျနာဇာ်နမာဇ်ဖတ်ခြင်း မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်သည်၊ မိုင်ယစ်တ် သေသူကို အတွင်း၌ထား၍ ဖတ်သည်ဖြစ်စေ၊ အပြင်တွင်

ထား၍ အတွင်းမှ ဖတ်ကြသည်ဖြစ်စေ အတူတူဖြစ်သည်၊ ဟုတ်ပါ၏ ဂျနာဇဟ် အတွက် သီးသန့် ပြုလုပ်ထားသောနေရာတွင် ဖတ်မှု မတ်က်ရူးဟ် မဖြစ်ပေ။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၂။

၁၇။ မတ်စ်အလဟ်ပြဿနာ။ မိုင်ယစ်တ် သေသူကို 'ဂျမ်မှအတ်' များစေရန် အတွက် ပိုမိုဆိုင်းငံ့ထားခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်။

ရှရိဟ္ဝတ်ဓာန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၂၄။

၁၈။ မတ်စ်အလဟ်ပြဿနာ။ အွှသ်ရ် မရှိဘဲလျက် ဂျနာဇဟ် 'နမာဇ်'ကိုထိုင်၍လည်းကောင်း၊ အစီးအနင်းဖြင့်လည်းကောင်း ဖတ်ခြင်း မပိုင်ပေ။

ကဗီရီကျမ်း စာမျက်နှာ-၅၄၁။

၂၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ချိန်တည်းတွင် မိုင်ယစ်တ် သေသူများနေသော် တစ်ဦးစီ ဂျနာဇဟ် ရပ်ခြင်းကောင်းလေသည်၊ အကယ်၍အားလုံးကို ရော၍ တစ်ခါတည်း ဖတ်မှုလည်း ပိုင်သည်၊ ထိုအခါ သူသေများကို ညီစွာ စီတန်းထားရမည်၊ အားလုံး၏ခြေသည် တစ်ဘက်တွင်ရှိပြီး၊ ဦးခေါင်းသည် တစ်ဘက်တွင်ရှိနေရမည်၊ ဤသို့ ထားခြင်းဖြင့် ကောင်းသည်မှာ အားလုံး သူသေတို့၏ ရင်သည် အေမာမ်နှင့် ညီသွားမည်၊ ဤသို့ ညီနေစေခြင်းသည် စုန္နတ် ဖြစ်သည်။

နူရှလ်အီသွားဟ်ကျမ်း စာမျက်နှာ-၁၂၉။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၁။

၂၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သေသူများသည် အမျိုးမျိုး ဖြစ်ကြသော် အစဉ်အလိုက် တန်းထားရမည်၊ အေမာမ်နှင့် အနီးတွင်ယောကျာ်းများ ပြီးနောက် ယောကျာ်းကလေးများ ပြီးနောက် အရွယ်ရောက်ပြီး အမျိုးသမီးများ၊ ပြီးနောက် အရွယ်မရောက်သေးသော မိန်းကလေးများကို ထားရမည်။

နူရှလ် အီသွားဟ်ကျမ်း စာမျက်နှာ-၁၂၉။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၁။

၂၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည်ဂျနာဇဟ် နမာဇ်၌ အေမာမ်က တတ်က်ဗီးရ်အချို့ဆိုပြီးမှ ဝင်ရောက်လာလျှင် လွတ်သွားသော တတ်က်ဗီးရ် များကိုတွက်၍ ၎င်းသည် 'မတ်စ်ဘူးက်' ဖြစ်သည်ဟု ယူဆရမည်၊ ၎င်းသည် ရောက်ရောက်ချင်း အခြား နမာဇ် များတွင် ဝင်သကဲ့သို့ 'တတ်က်ဗီးရ်တဟ်ရီမဟ်' ဆိုပြီး မဝင်ရ၊ သာမက အေမာမ် တတ်က်ဗီးရ် ဆိုသည်ကို စောင့်ဆိုင်းရမည်၊ အေမာမ်က တတ်က်ဗီးရ် ဆိုသောအခါ ၎င်းသူသည် တတ်က်ဗီးရ်ဆို၍ ဝင်ရမည်၊ ဤတတ်က်ဗီးရ်

သည် ၎င်းသူအတွက် 'တတ်က်ဗီးရ်တဟ်ရီမဟ်' ဖြစ်သည်၊ ၎င်းအေမာမ်သည် စလာမ်လှည့် အဆုံးသတ်မှု ၎င်းသည်မိမိလွတ်ခဲ့သော 'တတ်က်ဗီးရ်' များကို ဆိုရမည်၊ ထိုသို့ဆိုရာ၌ မည်သည်မျှ ဖတ်ရန် မလိုပေ။

အကယ်၍ တစ်ဦးသောသူသည်အေမာမ်က စတုတ္ထ 'တတ်က်ဗီးရ်'ဆိုပြီးမှ ဝင်ရောက်လာမှု ၎င်းသူကို ထို'တတ်က်ဗီးရ်' နှင့် ပတ်သက်၍ 'မတ်စ်ဘူးက်'ဟု မယူဆရ ၎င်းသည် ချက်ချင်း တတ်က်ဗီးရ် ဆိုကာ အေမာမ် စလာမ်မလှည့်မီ ဝင်ရောက်ရမည်၊ နမာဇ်ပြီးသွားသောအခါ မိမိလွတ်ခဲ့သော တတ်က်ဗီးရ် များကိုသာ ဆိုရမည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၇၁။

၂၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် 'တတ်က်းဗီးရ်တဟ်ရီမဟ် (ဝါ) ပထမ တတ်က်ဗီးရ် ဆိုသော အချိန်တွင် အသင့်ရှိသော်လည်း ပျင်းရိပေါ့ဆမှုကြောင့်လည်းကောင်း၊ အကြောင်းတစ်ခုခုကြောင့် လည်းကောင်း ဝင်ရောက်ခြင်းမရှိခဲ့မှု ၎င်းသည် အေမာမ်က ဒုတိယ တတ်က်ဗီးရ် ဆိုသည်အထိစောင့်၍ မနေရ၊ ချက်ချင်း တတ်က်ဗီးရ်ဆို၍ ဝင်ရောက်ရမည်၊ အသင့်ရှိစဉ် အေမာမ်ဆိုသော တတ်က်ဗီးရ်ကို ပြန်ဆိုရန်မလိုပေ၊ သို့သော် ၎င်းသည် အေမာမ်က ဒုတိယ တတ်က်ဗီးရ် မဆိုမီဆိုရမည်၊ သို့သော် အေမာမ် နှင့် ညီတူမဖြစ်စေရ။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၄၇။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၇၁။

၂၄။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ် 'နမာဇ်'၏ မတ်စ်ဘူးက်သည် မိမိလွတ်ခဲ့သော တတ်က်ဗီးရ် များကိုဆိုရာ၌ 'ဒိုအာ' ဖတ်နေသော် ကြာသွားမည်၊ ၎င်းသေသူကို ယူသွားမည်ဖြစ်သော် 'ဒိုအာ' များ မဖတ်ရ။

ကာဗီရီကျမ်း စာမျက်နှာ-၅၄၄။

၂၅။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ် 'နမာဇ်' တွင် တစ်ဦးတစ်ယောက်သည် 'လာဟစ်က်' ဖြစ်သွားသော် အခြား 'နမာဇ်' များတွင် လာဟစ်က် ဖြစ်သကဲ့သို့ပင် ဖတ်ရမည်။

ကာဗီရီကျမ်း စာမျက်နှာ-၅၄၄။

၂၆။ မတ်စ်အလဟ်ပြဿနာ။ ဂျနာဇဟ်'နမာဇ်' ကိုလက်ရှိ မွတ်စလင်မ်ဘုရင်က ဖတ်ပေးရန်ထိုက်သည်၊ ဘုရင်ထက် 'တတ်က်ဝါ' ရှောင်ကြဉ်သူများ ရှိသော်လည်း ဘုရင်ကသာ ပိုင်ဆိုင်သည်၊ အကယ်၍ ဘုရင်မရှိလျှင် ဘုရင်၏ ကိုယ်စားကာ၎င်းထက်အပြစ်ရှောင်ကြဉ်သူများရှိသော်လည်း ပိုင်ဆိုင်သည်၊ ဘုရင်၏ကိုယ်စားလည်းမရှိလျှင် ကာဇီက ဆိုင်သည်၊ ၎င်းမရှိလျှင် ကိုယ်စားက ပိုင်သည်၊ တင်ပြပါ ပုဂ္ဂိုလ်များရှိပါလျက် ၎င်းတို့၏ ခွင့်ပြုချက်မရဘဲ အခြားသူများက ဖတ်ပေးပိုင်ခွင့် မရှိပေ၊ ထိုပုဂ္ဂိုလ်များပင် ဖတ်ပေးရန် 'ဝါဂျစ်ဗ်' ထိုက်သည်။

အကယ်၍ တင်ပြပါ ပုဂ္ဂိုလ်များ မရှိကြသော် ထိုအရပ်ဆရာက ဆိုင်သည်၊ အရပ်ဆရာသည် သေသူ၏ အမျိုးများထက် သာမြတ်မှသာ ဖြစ်သည်၊ အရပ်ဆရာထက် အမျိုးအနက် တစ်ဦးဦးကသာမြတ်သော် ၎င်းက ဆိုင်သည်၊ ၎င်းဖတ်ခွင့်ပေးခြင်း ခံရသူက ဖတ်ပိုင်သည်၊ အကယ်၍ အေမာမတ် ဖတ်ပေးခွင့် မရှိသောသူတစ်ယောက်က သက်ဆိုင်သူဆွေမျိုး၏ ခွင့်မရဘဲ ဖတ်ပေးခဲ့သော် 'ဝလီ' သက်ဆိုင်သူများက ပြန်၍ဖတ်ပိုင်ခွင့် ရှိသည်၊ အကယ်၍ သေသူကိုမြှုပ်နှံပြီးနေလျှင် တစ်စတစ်စမဖြစ်သေးပါက မကြေနပ်သောအဖြစ်၌ 'ကဗရ်'တွင် ဖတ်နိုင်သည်။

နူရွလ်အီသွာဟ်ကျမ်း စာမျက်နှာ-၁၂၀။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၀၀။

၂၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'ဝလီ' သက်ဆိုင်သူ၏ အခွင့်မရဘဲ ဂျနာဇဟ်ကို ဖတ်ပိုင်ခွင့်ရှိသူ တစ်ဦးတစ်ယောက်က ဖတ်ခဲ့သော်'ဝလီ'သည် ဂျနာဇဟ်ကို ပြန်၍ ဖတ်ပိုင်ခွင့် မရှိတော့ပေ၊ ဤသို့ပင် သေသူကို ဘုရင်စသည်အသင့်မရှိသဖြင့်'ဝလီ'က ဂျနာဇဟ် ဖတ်ခဲ့သော် လက်ရှိဘုရင် စသည်တို့သည် ပြန်၍ ဖတ်ပိုင်ခွင့်မရှိတော့ပေ၊သာမက 'ဝလီ'က လက်ရှိဘုရင် စသည် အသင့်ရှိနေပါလျက် ဂျနာဇဟ် 'နမာဇ်' ဖတ်လိုက်သော်လည်း ဘုရင် စသည်မှာ ပြန်၍ဖတ်ပိုင်ခွင့် မရှိပေ၊ ဤသို့အဖြစ်၌ ဘုရင်ရှိပါလျက်'အေမာမတ်'အဖြစ် မတင်သောကြောင့် ဝါဂျစ်ဗ် လွှတ်သော အပြစ်ဂိုနာဟ်ကို သေသူ၏ 'ဝလီ' များကခံကြရမည်။

အချုပ်မှာ....ဂျနာဇဟ် 'နမာဇ်'ကိုထပ်ခါတစ်လဲလဲဖတ်ခြင်းမပိုင်၊သို့သော် 'ဝလီ' ရှိပါလျက်နှင့် ၎င်း၏ ခွင့်မရဘဲ မဆိုင်သူက ဖတ်ခဲ့သော် 'ဝလီ' က ပြန်၍ ဂျနာဇဟ် ဖတ်ပိုင်သည်။

ဂွန်ယတွလ်မွတ်စ်တမ်လီကျမ်း စာမျက်နှာ-၁၄၁။
ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၁။

# ဒဖွာန် မြှုပ်နှံခြင်း၏ မတ်စ်အလဟ်များ
## အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ သေသူကို ဒဖွာန်ပြု' မြှုပ်နှံခြင်းသည် ဂွတ်စ်လ် ၎င်းဂျနာဇဟ် 'နမာဇ်' ကဲ့သို့ပင် ဖွရ်သွ် ကေဖွာယဟ် ဖြစ်သည်။

ဖွတာဝါအာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၃။

၂။ မတ်စ်အလဟ်ပြဿနာ။ သေသူကို ဂျနာဇဟ် 'နမာဇ်' ဖတ်ပေးပြီးနောက် ချက်ချင်းမြှုပ်နှံရန် တူးထားသောနေရာသို့ ယူသွားရန်ထိုက်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၅၂။

၃။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ သေသူသည် နို့စို့ကလေး ဖြစ်လျှင်လည်းကောင်း၊ ထိုထက် အနည်းငယ်ကြီးလျှင်လည်းကောင်း လူတို့သည်တစ်ဆင့်တစ်ဆင့် လက်ဖြင့် ပွေ့ယူသွားကြရန် ထိုက်သည်၊ ဆိုလိုသည်မှာ လူတစ်ယောက်သည်လက်နှစ်ဘက်ဖြင့် ပွေ့ချီသွားရမည်၊ ညောင်းညာလျှင် တစ်ယောက်သို့လွှဲပေးရမည်၊ ဤသို့ဖြင့် ကဗရ်အရောက် ဆင့်ကဲဆင့်ကဲ ယူဆောင်သွားကြရမည်၊ အကယ်၍သေသူသည် လူကြီးဖြစ်လျှင် ကြိုး,ခုတင် စသည်ဖြင့် ယူဆောင်ရမည်၊ တိုင်လေးတိုင်ကို လူတစ်ယောက်ကျယူ၍ ပခုံးပေါ်ထမ်းရမည်၊ ကုန်ပစ္စည်းကဲ့သို့ ကျောပိုး၍ ယူခြင်းသည် မတ်ကရူးဟ်ဖြစ်သည်၊ ဤသို့ပင် အသွင်ရမရှိဘဲ တိရစ္ဆာန် သို့မဟုတ် လှည်း, ရထားပေါ်တင်၍ ယူသွားခြင်းလည်း မတ်ကရူးဟ် ဖြစ်သည်၊ ကဗရ် ဝေးခြင်း စသည့် အသွင်ရှိမှု ပိုင်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၁၈၃။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၉။

၄။ မတ်စ်အလယ်ပြဿနာ။ သေသူကို ထမ်းသွားရာတွင် 'မွတ်စ်တဟာဗ်' နည်းလမ်းမှာ ရှေ့ညာဘက်တိုင်ကို မိမိညာဘက်ပခုံးဖြင့်ထမ်း၍ အနည်းဆုံး(၁၀)လှမ်းသွားရမည်၊ နောက်ဘက် ညာဘက်တိုင်ကို ညာဘက်ပခုံးဖြင့်ထမ်း၍ အနည်းဆုံး (၁၀) လှမ်းသွားရမည်၊ ပြီးနောက် ရှေ့ဝဲဘက်တိုင်ကို ဝဲဘက်ပခုံးဖြင့်ထမ်း၍အနည်းဆုံး (၁၀)လှမ်းသွားရမည်၊ ထို့နောက် နောက်ဘက် ဝဲဘက်တိုင်ကို ဝဲဘက်ပခုံးဖြင့်ထမ်း၍ အနည်းဆုံး (၁၀)လှမ်းသွားရမည်၊ သို့မှသာ တိုင်လေးတိုင်တွင် ခြေအလှမ်း(၄၀) ဖြစ်သွားပေမည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၃။

၅။ မတ်စ်အလယ်ပြဿနာ 'ဂျနာဇဟ်' သေသူကို လျင်မြန်စွာ ယူသွားခြင်း စွန္နတ်တော်ဖြစ်သည်၊ သို့သော် သေသူ လှုပ်ရမ်းနေခြင်း ဖြစ်လောက်အောင် မမြန်စေရ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၄။

၆။ မတ်စ်အလယ်ပြဿနာ။ 'ဂျနာဇဟ်'နှင့်အတူ လိုက်ပါသွားကြသူများသည် ဂျနာဇဟ်ကို ပခုံးမှမချသေးမီ ထိုင်ခြင်း မတ်ကရူးဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ ထိုင်ရန် လိုအပ်မှု တစ်ခုခုရှိလျှင်ကား ကိစ္စမရှိပေ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၄၊

၇။ မတ်စ်အလယ်ပြဿနာ။ အကြင်သူတို့သည် 'ဂျနာဇဟ်' နှင့်အတူ မရှိကြဘဲ တစ်နေရာတွင်ထိုင်နေကြသော် ၎င်းတို့သည်ဂျနာဇဟ်ကိုမြင်ပြီး ထ,ရပ်ကြရန် မထိုက်ပေ။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၄။

၈။ မတ်စ်အလယ်ပြဿနာ။ 'ဂျနာဇဟ်' နှင့်အတူ လိုက်ပါသူများသည် 'ဂျနာဇဟ်'၏ နောက်မှလိုက်ခြင်း မွတ်စ်တဟာဗ် ဖြစ်သည်၊ ဂျနာဇဟ်၏ ရှေ့မှ သွားလျှင်လည်း ပိုင်သည်၊ ဟုတ်ပါ၏ အားလုံးသည် ဂျနာဇဟ်၏ ရှေ့မှသွားကြလျှင်မတ်ကရူးဟ်ဖြစ်သည်၊ ဤသို့ပင် ဂျနာဇဟ်၏ရှေ့မှ အစီးအနင်းဖြင့် သွားခြင်းလည်းမတ်ကရူးဟ် ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၉။

၉။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ်နှင့် အတူ ခြေလျင်လိုက်ခြင်း မွတ်စ်တဟာဗ် ဖြစ်သည်၊ ၎င်းအကယ်၍ အစီးအနင်း ဖြစ်လျှင် ဂျနာဇဟ်၏ နောက်မှ လိုက်ရမည်။
အာလမ်ဂိရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၉။

၁၀။ မတ်စ်အလဟ် ပြဿနာ။ ဂျနာဇဟ်နှင့်အတူ လိုက်ပါသူများသည် ဒိုအာနှင့်သစ်ကိရ်ကို အသံနှင့်ဖတ်ခြင်း မတ်က်ရူးဟ်ဖြစ်သည်၊ ကဗရ်ကို ထိုသူ့ အရပ်တစ်ဝက်ခန့် နက်အောင်တူးရမည်၊ ၎င်းအရပ်ထက်ပို၍နက်အောင်မတူးရ၊ ၎င်းအရှည်မှာ၎င်းအရပ်ခန့် ရှိရမည်၊ ဘေး'လဟဒ်'သည် သေတ္တာထက် ပို၍ကောင်းသည်။ ဟုတ်ပါ၏၊ အကယ်၍ မြေနူးညံ့လွန်းပြီး ဘေး'လဟဒ်'တူးပါက ပြိုကျမည်ကို စိုးရိမ်သော် ဘေး'လဟဒ်' မတူးရ။
ရှာမီကျမ်း အတွဲ ၁၊ စာမျက်နှာ-၈၃၅။

၁၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ဘေး'လဟဒ်'မတူးနိုင်လျှင် သေသူကို သေတ္တာနှင့်ထည့်၍သင်္ဂြိုဟ်ရမည်၊ သေတ္တာသည် သစ်သားဖြစ်စေ၊ ကျောက်ဖြစ်စေ၊ သံဖြစ်စေပိုင်သည်၊ သို့သော် အကောင်းဆုံးမှာ ထိုသေတ္တာတွင်း၌ မြေခင်းထားရမည်။
ရှရ်ဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၄။

၁၂။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်တူးဖေါ်ပြီးသောအခါ သေသူကို ကစ်ဗ်လဟ်ဘက်မှ တွင်း၌ချရမည်၊ နည်းလမ်းမှာ သေသူကို ကဗရ်၏ ကစ်ဗ်လဟ်ဘက်မှ ထားရမည်၊ ချသူများက ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူပြီး ကြွယူ၍ မြှုပ်နှံရမည်။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၄။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်တွင်း၌ ချသူများသည် မ, သို့မဟုတ် စုံ,ဖြစ်ရန်မှာ စွန္နတ်တော်မဟုတ်ပေ၊ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်အား ပုဂ္ဂိုလ် ၄-ပါးက ကိုင်တွယ် မ, ယူ၍ ကဗရ်တွင်း၌ ချခဲ့ကြသည်။
ဘဟ်ရှရ်ရာအစ်က်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၉၃။

၁၄။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်တွင်း၌ ချသောအခါ....

بِسْمِ اللّٰهِ وَعَلٰى مِلَّتِ رَسُوْلِ اللّٰهِ

ဗစ်မစ်လ္လာဟေ့၊ ဝအလာ၊ မစ်လ္လတေ့၊ ရစူလစ်လ္လာဟေ့.. ဟု ဆိုခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ရှရ်ဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၅။

၁၅။ မတ်စ်အလဟ် ပြဿနာ။ သေသူကို ကဗရ်အတွင်း၌ချပြီး ညာဘက်မှာ စောင်းထား၍ မျက်နှာကို 'ကစ်ဗ်လဟ်'ဘက်သို့ လှည့်ထားခြင်း စွန္နတ်တော်ဖြစ်သည်။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၈၅။

၁၆။ မတ်စ်အ်လဟ် ပြဿနာ။ သေသူကို ကဗရ်တွင်း၌ချပြီးသောအခါ ကဖွာန် ပြေမည်စိုး၍ ချီထားသော ကြိုးများကို ဖြေပစ်ရမည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၈၅။

၁၇။ မတ်စ်အလဟ် ပြဿနာ။ ပြီးနောက် အုတ်စိမ်း၊ ရင်းကြူ(ဝါး (ဝါး)နှင့် ပိတ်ရမည်၊ အုတ်ကျက်ဖြင့် လည်းကောင်း၊ သစ်သားပြားဖြင့် လည်းကောင်း ပိတ်ခြင်း သည် မဘ်ကရူးဟ်ဖြစ်သည်။ ဟုတ်ပါ၏၊ အကယ်၍ မြေသည် နူးညံ့လွန်း၍ ပြိုကျမည်ကို စိုးရသော် အုတ်ကျက်၊ သစ်သားပြားနှင့် သေတ္တာတို့ဖြင့် ပိတ်ခြင်း, ချခြင်း ပိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၃။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၈၅။

၁၈။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီးကို ကဗရ်တွင်ချသောအခါ ပရ်ဒဟ် ပြု၍ချခြင်း မွတ်စ်တဟာဗ်ဖြစ်သည်၊ အကယ်၍ သေသူအမျိုးသမီး၏ကိုယ်ကာယ ပေါ်လွင် မည်ကိုစိုးရသော် ပရ်ဒဟ်ပြုခြင်း ဝါဂျစ်ဗ် ဖြစ်သည်။

ကဗီရီကျမ်း; စာမျက်နှာ-၅၅၃။

၁၉။ မတ်စ်အလဟ် ပြဿနာ။ ယောကျ်ားများကို မြှုပ်နှံရာ၌ ပရ်ဒဟ် မပြုရ၊ ဟုတ်ပါ၏၊ အကယ်၍ အွသ်ရ်ရှိလျှင် ဥပမာ.... မိုးရွာနေလျှင်၊ နှင်းခဲကျနေလျှင်၊ နေ အလွန်ပူပြင်းနေလျှင် ပရ်ဒဟ် ပြုပိုင်သည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၈၅။

၂၀။ မတ်စ်အလဟ် ပြဿနာ။ သေသူကို ကဗရ်တွင်းသို့ ချပြီးနောက် တူး သောအခါ ထွက်လာသော မြေများကိုပင်ဖို့ရမည်၊ ထိုထက်ပို၍ မြေဖို့ခြင်း မတ်ကရူးဟ် ဖြစ်သည်၊ ယူဖို့သောမြေမှာ များပြီး တစ်ထွာထက်ပို၍ မြင့်သွားလျှင် အကယ်၍ ထိုမျှခန့် မမြင့်ဘဲ နည်းနေသော် မတ်ကရူးဟ် မဖြစ်ပေ။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၈၅၊၁၈၆။

၂၁။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်တွင် မြေဖို့သော အခါ မွတ်စ်တဟာဗ် နည်းမှာ ခေါင်းရင်းမှစ၍ ဖို့ရမည်၊ ရင်းပြင် လူတိုင်းသည် လက်နှစ်ဘက်ဖြင့် မြေကို ကျုံး၍ ဖို့ရမည်၊ ပထမ အကြိမ်တွင်....

مِنْهَا خَلَقْنَاكُمْ

မင်န်ဟာ၊ ခလပ်က်နာကွန်မ်။

ဒုတိယ အကြိမ်တွင်....

وَفِيهَا نُعِيدُكُمْ

ဝဖွီဟာ၊ နိုအီဒိုကွန်မ်။

တတိယ အကြိမ်တွင်....

وَمِنْهَا نُخْرِجُكُمْ تَارَةً أُخْرَىٰ

ဝမင်နှ်ဟာ၊ နွခ်ရေ ဂျို ကွန်မ်၊ တာရတန်အွခ်ရာ ဖတ်ရမည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၃။

၂၂။ မတ်စ်အလဟ် ပြဿနာ။ ဒဖွာန် မြှုပ်နှံ ပြီး နောက် အနည်းငယ်မျှ အချိန်ကဗရ်တွင် ဆိုင်းငံ့ခြင်း၊ သေသူအတွက် မဂ်ဖွေရတ် ဒိုအာပြုပေးခြင်းနှင့် ကုရ်အာန် အာယတ်တော်ဖတ်၍ သဝါဗ်ကုသိုလ်ကို သေသူအား ပေးခြင်း မွတ်စ်တဟာဗ်ဖြစ်သည်။

ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၃။

၂၃။ မတ်စ်အလဟ် ပြဿနာ။ မြေဖို့ပြီးနောက် ရေဖြန်းခြင်း မွတ်စ်တဟာဗ် ဖြစ်သည်။

ဖွတာဝါဟင်ဒိယဟ်ကျမ်း အတွဲ-၁ စာမျက်နှာ-၁၆၃။

၂၄။ မတ်စ်အလဟ် ပြဿနာ။ သေသူကို လူကြီးဖြစ်စေ၊ ကလေးဖြစ်စေ အိမ် အတွင်း၌ ဒဖွာန်ပြု မြှုပ်နှံခြင်းမပြုရ၊ မတ်ကရူးဟ်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် အိမ်တွင်း၌မြှုပ်နှံခြင်းသည် အန်ဗေယာအ်(အလိုင်ဟေ မွတ်စလာမ်)သခင်များ အတွက် သီးသန့်ဖြစ်သည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၈၆။

၂၅။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်ကို လေးထောင့် ပြုခြင်း မတ်ကရူးဟ် ဖြစ်သည်၊ ကုလားအုတ်ကဲ့သို့ မြင့်နေအောင် မြေဖို့ခြင်း မွတ်စ်တဟာဗ် ဖြစ်သည်၊ အမြင့် တစ်ထွာ၊ သို့မဟုတ် ထိုထက် အနည်းငယ် မြင့်နိုင်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၅။

၂၆။ မတ်စ်အလဟ် ပြဿနာ။ ကဗရ်ဒ္မြေပုံကို တစ်ထွာထက် များစွာမြင့်အောင် ဖို့ခြင်း မတ်ကရူးဟ်တဟ်ရီမ်ဟ် ဖြစ်သည်၊ ကဗရ်မြေပုံပေါ်တွင် အင်္ဂတေဖြင့် အခိုင်အမာ ပြုခြင်း၊ မြေကြွန်ခြင်းတို့သည် မတ်ကရူးဟ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၃၈၊၈၃၉။

၂၇။ မတ်စ်အလဟ်ပြဿနာ။ သေသူကို မြှုပ်နှံပြီးနောက် လုပ်ရန်အတွက် ကဗရ်ကို အဆောက်အအုံပြုခြင်း၊ ဥပမာ.... ဂွန်ဗဒ်၊ ကွမ်ဗဟ် စသည်တို့သည် 'ဟရာမ်' ဖြစ်သည်၊ ခိုင်ခန့်ရန် သဘောဖြင့် ပြုသော် မတ်က်ရူးဟ် ဖြစ်သည်၊ သေသူ ကဗရ်တွင် အမှတ်တရတစ်စုံတစ်ရာရေးသားခြင်းမပြုပိုင်၊လိုအပ်သော်ပိုင်သည်၊(မှန်ကန်သောဟဒီးသ်တော်များ၌ ကဗရ်၌ တစ်စုံတစ်ရာ ရေးသားခြင်း မပြုရန် တားမြစ်ထားတော်မူသည်)။ ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၃၈၊၈၃၉။

ယခုခေတ်အခါသမယတွင် လူသာမန်အချို့တို့သည် မိမိတို့၏ အကီဒဟ် အမလ်များကို ပျက်လိုပျက်စီးပြုကြသည်၊ ထိုသို့ မကောင်းမှုများကြောင့် 'မိုဗားဟ်' အလုပ်ပင် မပိုင်ဖြစ်သွားသည်၊ ထို့ကြောင့် ကဗရ်ကို ခြယ်လှယ်ရေးသားခြင်းများသည် လုံး၀ မပိုင်ပေ၊ လုပ်လိုသောသူတို့က အကြောင်းအမျိုးမျိုးပြုကြသည်၊ စိတ်ကို လှည့်စားခြင်းသာ ဖြစ်သည်၊ အဓိက ၎င်းတို့ လုပ်လိုချက်ကို ၎င်းတို့ သိကြသည်ပင် ဖြစ်ပေသည်။

# ရှဟီးဒ်၏ ပညတ်ချက်များ အကြောင်း

ရှဟီးဒ်သည်လည်း အမြင်အားဖြင့် မိုင်ယစ်တ် သူသေပင် ဖြစ်သည်၊ သို့သော် သာမန် သေဆုံးခြင်း၏ ပညတ်ချက်များသည် ရှဟီးဒ် ဖြစ်ခြင်းတွင် အကျုံးမ၀င်ပေ၊ ၎င်းရှဟီးဒ်၏ ဖွဲ့သွာအင်လ် မွန်မြတ်ခြင်းများလည်း များစွာရှိသည်၊ ထို့ကြောင့် တစ်သီးတစ်ခြား ဖော်ပြရန် သင့်မည်ဟု ယူဆသည်။

ရှဟီးဒ်၏အမျိုးများသည် ဟဒီးသ်တော်များ၌ မြောက်မြားစွာလာရှိသည်၊ အချို့ အာလင်မ်ပညာရှင်များက ထိုအမျိုးအမည်များကို ခွဲ၍ သီးသန့်ကျမ်းများပင် ရေးသားကြသည်၊ သို့သော်ကျွန်ုပ်ရေးမည့် ရှဟီးဒ်အစစ်သည် အောက်ပါ ရှရတ်များနှင့် ကိုက်ညီသူများအတွက်သာ သီးသန့်ဖြစ်သည်။

ရှရတ်....၁။ မွတ်စလင်မ်ဖြစ်ရမည်၊ မွတ်စလင်မ်မဟုတ်သူများသည် မည်သည့်နည်းနှင့်မှ ရှဟီးဒ် မဖြစ်နိုင်ပေ။

ရှရတ်....၂။ 'မုကလ်လဖ်' ဆိုလိုသည်မှာ....အသိဉာဏ်ရှိသူ၊ အရွယ်ရောက်သူ ဖြစ်ရမည်၊ သို့ရှိရာ အကြင်သူသည် ရူးသွတ်မှု စသည်အဖြစ်၌ အသတ်ခံရလျှင်၊ ၎င်းအရွယ်မရောက်မီ အသတ်ခံရမှု ရှဟာဒတ်အတွက် ကျွန်ုပ်ရေးမည်တွင် အကျုံးမ၀င်ပေ။

ရှရတ်....၃။ 'ဟဒ်သ်အတ်က်ဗရ်' မှသန့်ကြီးမှ သန့်ရှင်းနေရမည်၊ အကယ်၍ တစ်ဦးသောသူသည်ဂျနာဗတ်အဖြစ်၌လည်းကောင်း၊အမျိုးသမီးသည် ဟိုက်သွ်၊နေဖွားစ်ရာသီနှင့် သားဖွား သွေးလာသော အဖြစ်၌လည်းကောင်း အသတ်ခံရလျှင်လည်း ရှဟီးဒ်၏ ပညတ်တွင် အကျုံးမ၀င်ပေ။

ရှုရတ္တ....၄။ အပြစ်မဲ့အသတ်ခံရလျှင်၊ သို့ရှိရာ အကြင်သူသည် အပြစ်မဲ့အသတ်ခံရသည် မဟုတ်ဘဲ ရှရီအတ် တရားတော် ဥပဒေ အရ သေဒဏ်ပေး၍ အသတ်ခံရလျှင်လည်းကောင်း၊ အသတ်ခံရခြင်းမဟုတ်ဘဲ ရိုးရိုးသေဆုံးလျှင်လည်းကောင်း ၎င်းတို့လည်း ရှဟီးဒ်၏ ပညတ်တွင် အကျုံးမဝင်ပေ။

ရှုရတ္တ....၅။ အကယ်၍ မွတ်စလင်မ်တစ်ဦးဦး၊ သင်မ်မီ (မွတ်စလင်မ် နိုင်ငံတွင် ခိုလှုံနေထိုင်သူ) တစ်ဦးဦးလက်ဖြင့် အသတ်ခံရလျှင်လည်း ထက်မြက်သော ကရိယာဖြင့် အသတ်ခံရမှုသည် ရှုရတ္တ ဖြစ်သည်၊ မွတ်စလင်မ် ၎င်းသင်မ်မီမှ ထက်မြက်သော ကရိယာ မဟုတ်ဘဲ ဥပမာ.... ကျောက်ခဲ စသည်ဖြင့် အသတ်ခံရမှု၊ ရှဟီးဒ်၏ အမိန့်၌ မပါဝင်ပေ။ သို့သော် သံသည်အသွားမပါသော်လည်း ထက်မြက်သော ကရိယာ၌ ပါဝင်သည်။

အကယ်၍ မွတ်စလင်မ်တစ်ဦးသည် ဟရ်ဘီကာဖွင့်ရ်၊ ၎င်းသူပုန်၊ ၎င်းဓါးပြများ၏ လက်ချက်ဖြင့် သေဆုံးလျှင်၊ သို့မဟုတ် စစ်ပွဲတွင် ကျဆုံးမှု ထက်မြက်သော ကရိယာဖြင့် သေဆုံးရသည်မှာ ရှုရတ္တမဟုတ်တော့ပေ၊ ကျောက်ခဲ စသည်နှင့် သေဆုံးမှုလည်း ရှဟီးဒ်၌ ပါဝင်သည်သာမက တိုက်ခိုက်ယင်း ကျဆုံးသည်၊ သေဒဏ်အပြစ်ကျူးလွန်၍ သေရသည်လည်း ရှုရတ္တမဟုတ်တော့ပေ၊ မည်သည့်နည်းနှင့် သေသည်ဖြစ်စေ ရှဟီးဒ်အမိန့်၌ ပါဝင်သွားလေသည်။

ဥပမာ....၁။ ဟရ်ဘီ စသည် တစ်ဦးသောသူက တိရစ္ဆာန်ဖြင့် ကိုယ်တိုင်စီးနင်းလျက် မွတ်စလင်မ်ကို တက်နင်းသည်။

၂။ မွတ်စလင်မ်တစ်ယောက်သည် တိရစ္ဆာန်တစ်ကောင်ကိုစီးနင်းသည်၊ ဟရ်ဘီ စသည့်သူက ခြောက်လှန့်၍ ၎င်းမွတ်စလင်မ်သည် တိရစ္ဆာန်ပေါ်မှ ကျ၍သေသည်။

၃။ ဟရ်ဘီ စသည် တစ်ဦးက မွတ်စလင်မ်၏အိမ်ကိုမီးရှို့သည်၊ သင်္ဘောလှေကို မီးရှို့၍ မီးလောင် သေဆုံးသည်။

ရှုရတ္တ....၆။ သတ်ခြင်းအတွက် ပြစ်ဒဏ်တွင် ရှရီအတ်အရ လျော်ကြေးပေးရန် သတ်မှတ်မှုမရှိသာမက သေစားသေရန် ဝါဂျစ်ဗ် ဖြစ်လျှင်၊ သို့ရှိရာ အကယ်၍ ပစ္စည်း လျော်ကြေး ပေးဆောင်ရန် သတ်မှတ်မှု ခံရသော် မတရားသဖြင့် အသတ်ခံရသော်လည်း သေဆုံးသူသည် ရှဟီးဒ်အမိန့်၌ မပါဝင်ပေ။

ဥပမာ....၁။ မွတ်စလင်မ်တစ်ဦးသည် မွတ်စလင်မ်တစ်ဦးအား ထက်မြက်သော ကရိယာနှင့်မဟုတ်ဘဲ သတ်ခဲ့သည်။

၂။ မွတ်စလင်မ်တစ်ဦးသည် မွတ်စလင်မ်တစ်ဦး၏ ထက်မြက်သော ကရိယာဖြင့် မတော်တဆ သေဆုံးသွားသည်၊ ပမာဆိုသော်.... တိရစ္ဆာန်ကိုဖြစ်စေ၊ ပစ်မှတ် တစ်ခုခုကို ဖြစ်စေ ပစ်နေစဉ် လူတစ်ဦးအား ထိခိုက်၍ သေဆုံးသွားသည်။

၃။ " စစ်ပွဲမဟုတ်ဘဲ အသတ်ခံရသည်ကိုတွေ့ရပြီး သတ်သူကိုမသိရလျှင် ဤအဖြစ်အားလုံး၌ သတ်သည်အတွက် ပစ္စည်းလျော်ကြေးပေးရန် ၀ါဂျစ်ဗ်ဖြစ်ပြီး သေစား သေရန်မထိုက်ပေ၊ ထို့ကြောင့် ရှဟီးဒ်၏ အမိန့်၌ အကျုံးမ၀င်ပေ။

ပထမဦးစွာ လျော်ကြေးပေးရသော သတ်မှု ဟူ၍ စည်းကမ်းချက် ထားခြင်းမှာ အကယ်၍ အစကတည်းက သေစားသေရန် သတ်မှတ်ပြီး၊ အကြောင်း တစ်ခုခုကြောင့် သေစားသေစေခြင်းမှ ကင်းလွတ်ခွင့်ရပြီး ပစ္စည်းလျော်ရမှုကား ရှဟီးဒ်၏အမိန့်ပညတ်၌ ပါ၀င်သွားပေသည်။

ဥပမာ....၁။ မှတ်စလင်မ် တစ်ဦးသည် ထက်မြက်သော ကရိယာဖြင့် အတလိ (တမင်) မဘာရားအသတ်ခံရသည်၊ သို့သော် သတ်သူနှင့်သေသူ၏ အမွေစားတို့တွင် ငွေပစ္စည်းလျော်၍ ကျေနပ်မှုရသွားမူ၊ ဤအဖြစ်၌ ပထမအစမှာ သေစားသေရန် ၀ါဂျစ်ဗ်ထိုက်ပြီး ပစ္စည်းလျော်ကြေးသည် အစပထမမှာ ၀ါဂျစ်ဗ်မထိုက်ခဲ့ပေ၊ သာမက ပစ္စည်းသည် ကျေအေးမှုဖြင့်သာ ၀ါဂျစ်ဗ် ဖြစ်ခဲ့သည်၊ ထို့ကြောင့် ဤနေရာတွင် ရှဟီးဒ်၏ အမိန့်၌ ပါ၀င်သွားသည်။

၂။ ဖခင်သည် မိမိ၏သားကို ထက်မြက်သော ကရိယာဖြင့် သတ်ခဲ့မူ ဤအဖြစ်၌ ပထမ သေစားသေရန် ၀ါဂျစ်ဗ်ထိုက်သည်၊ ပစ္စည်းလျော်ကြေးသည် ပထမ ၀ါဂျစ်ဗ်မဟုတ်ခဲ့၊ သို့သော် ဖခင်၏ ဂုဏ်နှင့် မြင့်မြတ်မှုကို ထောက်၍ သေစားသေစေမှုကို ပယ်ဖျက်၍ ထိုအစား ပစ္စည်းလျော်ရန် ၀ါဂျစ်ဗ်ဖြစ်ခဲ့သည်၊ ထို့ကြောင့် ဤနေရာတွင်လည်း သေသူသည် ရှဟီးဒ်၏ အမိန့်၌ ပါ၀င်သွားလေသည်။

ရှရတ္ထ်....၇။ ဒဏ်ရာရပြီးနောက်သက်သာမှု၊ ၎င်းအကျိုးခံစားမှု၊ ပမာဆိုသော် စားခြင်း, သောက်ခြင်း, အိပ်ခြင်း, ဆေး၀ါး ကုသခြင်း, ရောင်း,၀ယ်ခြင်း စသည်များ မပြုနိုင်လျှင်၊ ၎င်းနမာဇ်အချိန်တစ်ချိန်ခန့် သတိကောင်းစွာ ရလျက်မရှိလျှင်၊ ၎င်းဒဏ်ရာရသူကို သတိမရဘဲ တိုက်ပွဲမှ ယူလာလျှင် (အကယ်၍ တိရစ္ဆာန်များ နင်းမိမည်ကို စိုး၍ သယ်ယူလာလျှင် ကိစ္စမရှိပေ)။

သို့ရှိရာ အကယ်၍ တစ်ဦးသောသူသည် ဒဏ်ရာရပြီးနောက် စကားများစွာ ပြောလျှင် ထိုသူလည်း ရှဟီးဒ် အစစ် အမိန့်၌မပါ၀င်ပေ၊ အဘယ့်ကြောင့်ဆိုသော် စကားများစွာ ပြောခြင်းသည် အသက်ရှင်သူများ၏ အလုပ် ဖြစ်သည်၊ ဤသို့ပင် အကယ်၍ တစ်ဦးသောသူသည် 'ဝစ္စီယတ်' မှာတမ်းမှုပြုလျှင်၊ မှာတမ်းမှုသည် လောကီရေးရာဖြစ်မူ ရှဟီးဒ်အမိန့်၌ မပါ၀င်တော့ပေ၊ အကယ်၍ မှာတမ်းမှုသည် လောကုတ္တရာ အာခရေတ်ရေးရာဖြစ်မူ၊ ရှဟီးဒ်အမိန့်၌ ပါ၀င်သည်၊ အကယ်၍ တစ်ဦးသောသူသည် တိုက်ပွဲတွင် ကျဆုံး ရှဟီးဒ် ဖြစ်သည်၊ ၎င်း ဤအချက်များ ပြောဆို ပြုမူမိခဲ့သော် ရှဟီးဒ်၏

အမိန့်ပညတ်၌ မပါဝင်တော့၊ မပြောဆို မပြုဘဲနေက ရှဟီးဒ်ပင် ဖြစ်သည်၊ သို့သော် ၎င်းသူသည် မိုဟာရဗတ်၌ကျဆုံးသည်၊ ၎င်းဟာရဒ်က်ာဖွင်ရ် အုပ်စိုးမှုမှာ မကုန်ဆုံးသေးသော် တင်ပြပါ အကျိုးခံစားမှုများ ပြုသော်လည်း ရှဟီးဒ် အမိန့်ပညတ်၌ ပါဝင်လေသည်။

ဂျောဝ်ဟာရတ်နိုင်ယေရတ်ကျမ်း စာမျက်နှာ-၁၁၂၊၁၁၃။
ရှရ်ဟ်ဗေကာယတ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၅၀။
မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ၁၀၉-၁၉၀။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၅။

မတ်စ်အလယ် ပြဿနာ။ ရှဟီးဒ်ကျဆုံးသူမှာ တင်ပြပါ ရှရတ္တ်များနှင့် ကိုက်ညီသော် သင်္ဂြိုဟ်ရန် ပထမအမိန့်မှာ...၎င်းသူကို ဂွတ်စ်လ်ပြု ရေချိုးခြင်းမပြုရ၊၎င်းသူ၏ ကိုယ်တွင် လူးပေနေသော သွေးစွန်းသွေးစများကို ဖယ်ရှားသုတ်သင်မပစ်ရ၊ ထိုအတိုင်းပင် မြှုပ်နှံ သင်္ဂြိုဟ်ရမည်။

ဒုတိယ အမိန့်မှာ.... ၎င်းသူ ဝတ်ဆင်ထားသော အဝတ်အထည်များကို ကိုယ်မှ မချွတ်ရ။ ဟုတ်ပါ၏၊ အကယ်၍ ၎င်းဝတ်ထားသောအဝတ်သည် စွန္နတ်တော်အခန့်ထက် လျော့နည်းနေလျှင် ဖြည့်ပေးရမည်၊၎င်းသို့ပင်စွန္နတ်တော် အရ. ရှိသင့်သော. အဝတ်ထက် ပိုနေလျှင်လည်း ချွတ်ပစ်ရမည်။

၎င်းအကယ်၍ ကိုယ်ပေါ်တွင် ကဖွ္ဘာန်ဖြစ်နိုင်သော အဝတ်မရှိလျှင်၊ ဥပမာ.... သိုးမွေးအင်္ကျီ စသည်များဖြစ်မူ ထိုအထည်များကို ချွတ်ပစ်ရန် ထိုက်သည်။ ဟုတ်ပါ၏၊ အကယ်၍ ၎င်းကိုယ်ပေါ်တွင် အခြားအဝတ်မရှိသော် သိုးမွေးအင်္ကျီ စသည်ကို ချွတ်ရန် မထိုက်ပေ၊ ဦးထုပ်၊ဖိနပ်၊လက်နက် စသည်တို့ကား မည်သည့်အဖြစ်၌မဆို ချွတ်ယူရမည်၊ ကျန်အချက်များကို အခြား သူသေများကဲ့သို့ ပြုရမည်၊ ဥပမာ.... နမာဇ် စသည်များ ဖတ်ရမည်။

အကယ်၍ တင်ပြပါ ရှရတ္တ်နှင့် မကိုက်ညီသော် သေဆုံးသူကို ဂွတ်စ်လ် ရေချိုးရမည်၊ အခြားသူသေများကဲ့သို့ ကဖွ္ဘာန် အသစ်ထုတ်ရမည်။

## ဂျနာဇဟ်၏ အမျိုးမျိုးသော မတ်စ်အလယ်များ
### အကြောင်း

၁။ မတ်စ်အလယ် ပြဿနာ။ အကယ်၍ သေသူကို ကဗရ်၌ မျက်နှာကို 'ကမ်ဗ်လတ်'ဘက်သို့ မျက်နှာမူထားခြင်း မပြုခဲ့သည်ကို မြေဖို့ပြီးမှ သတိရမူ၊ မျက်နှာကို ကစ်ဗ်လတ်ဘက်သို့ လှည့်ထားရန်အတွက် ကဗရ်ကို ပြန်၍ ဖေါ်ပိုင်ခွင့်မရှိပေ။ ဟုတ်ပါ၏၊

အကယ်၍ ဘေးလဟာဒ်ကို ပိတ်ရိုပိတ်ပြီး၍ မြေမဖို့ရသေးမီ သိရသော်၊ အပိတ်ကိုဖယ်ရှား ပြီး သေသူကို ကစ်ဗ်လဟ်ဘက်သို့ မျက်နှာမူပေးရန် ထိုက်သည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၄။

၂။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီးများသည် ဂျနာဇဟ်နှင့် အတူသွား ခြင်း မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်။

တွာဟ်တွာဝီကျမ်း စာမျက်နှာ-၃၅၄။

၃။ မတ်စ်အလဟ် ပြဿနာ။ ငိုသောမိန်းမများနှင့် ဖွဲ့နွဲ့ငိုသောမိန်းမများအား ဂျနာဇဟ်နှင့် အတူသွားခြင်းကို တားရမည်။

ကဗီရီကျမ်း စာမျက်နှာ-၅၅၁။

၄။ မတ်စ်အလဟ် ပြဿနာ။ သေသူကို ကဗရ်၌ချသောအခါ အဿာန်ဆိုခြင်း သည် ဗိဒအတ် တရားသစ်ဖြစ်သည်။

ရှာမီကျမ်း အတွဲ-၁၊ စာမျက်နှာ-၈၃၇။

၅။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ အေမာမ်သည် ဂျနာဇဟ် နမာဇ်၌ တတ်က်ဗီးရ်(၄)ကြိမ်ထက် ပို၍ ဆိုမူ ဟနဖီ မွတ်က်တဒီများသည် ထိုပိုသော တတ်က်ဗီးရ် များတွင် မလိုက်ရဘဲ ဆိတ်ဆိတ်ရပ်နေရမည်၊ အေမာမ်က စလာမ်လှည့် အဆုံးသတ် သောအခါ ၎င်းတို့လည်း စလာမ်လှည့်ကြရမည်။ ဟုတ်ပါ၏၊ အကယ်၍ အပိုတတ်က်ဗီးရ် များကို အေမာမ်မှ မကြားရ၊ သာမက 'မိုကဗ်ဗင်ရ်' ထပ်ဆင့် ဆိုသူမှ ကြားရမူ၊ မွတ်က်တဒီများက လိုက်နာရမည်၊ အပိုဆိုသည်များကို တတ်က်ဗီးရ်တဟ်ရီမဟ်ဟု ယူဆ ရမည်၊ ယခင် ၄-ကြိမ်သည် ထပ်ဆင့်ဆိုသူက မှားယွင်းသည်၊ အေမာမ်က ယခုမှတတ်က်ဗီးရ် တဟ်ရီမဟ် ဆိုသည်ဟု ယူဆရမည်။

ဘဲဟ်ရ်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၄။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၂၂။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၆၂။

၆။ မတ်စ်အလဟ် ပြဿနာ အကယ်၍ တစ်ဦးသောသူသည် လှေ့သင်္ဘော၌ သေဆုံးသွားသည်၊ ၎င်းမြေသည် ထိုသေဆုံးသောနေရာနှင့်ဝေးပြီး၊ အလောင်းမှာ ပျက် စီးသွားမည်ကိုစိုးရသော် ထိုအဖြစ်၌ ဂွတ်စ်လ်၊ ကဖွာန်၊ နမာဇ် စသည်ပြီးနောက် ရေထဲသို့ ချလိုက်ရမည်၊ အကယ်၍ ကမ်းသည် အလောင်း ပျက်စီးလောက်အောင် မဝေးလျှင်၊ ကမ်းရောက်မှ မြေမြှုပ် သင်္ဂြိုဟ်ရမည်။

မရာကင်လ်ဖွလာဟ်ကျမ်း စာမျက်နှာ-၁၇၆။
ဖွတာဝါကာသွီခါန်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၅။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဂျနာဇဟ်နမာဇ်၌ ဖတ်ဆိုရန်'ဒိုအာ'ကို သတိမရဘဲ မေ့နေလျှင် ၎င်းသည် (အလ္လာဟွမ်မဂ်ဖွင်ရ်၊ လင်လ်မှအ်မေ့နီန၊ ဝလ်မှအ်မေ့နားတ်)ပင် ဖတ်ကလုံလောက်ပေသည်၊ အကယ်၍ ဤသည်လည်း မရဘဲ တတ်က်ဗီးရ် (၄) ကြိမ်ပင် ဆိုမှုလည်း 'နမာဇ်' ပိုင်သွားသည်၊ အဘယ့်ကြောင့် ဆိုသော် 'ဒိုအာ' သည် ဖွရ်သွ မဟုတ်သာမက စွန္နတ်တော်ဖြစ်သည်၊ ဤသို့ပင်ဂျနာဇဟ် 'နမာဇ်'၌ဒရူးဒ်လည်း ဖွရ်သွ မဟုတ်ပေ။

ဘဟ်ရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၇၃။

၈။ မတ်စ်အလဟ်ပြဿနာ။ ကဗရ်ကို မြေဖို့ပြီးလျှင် သေသူကို ပြန်ဖော်ထုတ်ခြင်းမပြုပိုင်၊ ဟုတ်ပါ၏ အကယ်၍ တစ်ဦးတစ်ယောက်၏ နစ်နာမှုကိုပြုမိထားလျှင် ဖော်နိုင်သည်။

ဥပမာ....၁။ ကဖွာန်သည် အခြားသူပိုင်ဖြစ်ပြီး သုံးစွဲသည်ကိုပိုင်ရှင်က မကျေနပ်လျှင်

၂။ တစ်ဦးတစ်ယောက်၏ပစ္စည်း ကဗရ် တွင်း၌ ကျကျန်နေရစ်လျှင်ကား ဖော်နိုင်သည်။

ခါနိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၉၅။

၉။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသော အမျိုးသမီးသည်သေဆုံးသွားပြီး ဝမ်းတွင်း၌ရှိသောကလေးမှာ အသက်ရှင်လျက်ရှိမူ သေဆုံးသူ၏ ဝမ်းဗိုက်ကို ခွဲ၍ကလေးကို ထုတ်ယူရမည်၊ ဤသို့ပင် အကယ်၍ တစ်ဦးသောသူသည် သူတစ်ပါး၏ ပစ္စည်းကိုမျိုချ၍ သေဆုံးသွားလျှင် ပစ္စည်းရှင်ကတောင်းသော် ထိုသူသေ၏ ဝမ်းကိုခွဲ၍ ထုတ်ယူပေးရမည်၊ သို့သော် သေဆုံးသူသည် အမွေပစ္စည်းများထားခဲ့လျှင် ဝမ်းဗိုက်ကို မခွဲဘဲ ထိုသူထားခဲ့သော ပစ္စည်းမှ ပေးရမည်။

ကဗီရီကျမ်း စာမျက်နှာ-၅၆၄။

၁၀။ မတ်စ်အလဟ်ပြဿနာ။ မြေမြှုပ်ခြင်းမပြုမီ သေသူကို (၁-၂)မိုင်အတွင်းဖြစ်က မရွှေ့ပြောင်းလျှင် ကောင်းသည်၊ အကယ်၍ ထိုထက်ပိုဝေးလျှင် ရွှေ့ပြောင်းခြင်း မပြုပိုင်၊ ဒဖွာန်ပြု မြှုပ်နှံပြီးနောက်ကား၊ မည်သည့်နည်းနှင့်မှရွှေ့ပြောင်းခြင်း မပြုပိုင် (တစ်မြို့မှ တစ်မြို့သို့ရွှေ့ပြောင်းခြင်း မတ်က်ရူးဟ် ဖြစ်သည်။)

ကာသွီခါန်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၉၅။

၁၁။ မတ်စ်အလဟ်ပြဿနာ။ သေသူအား ချီးကျူးခြင်းသည် ကဗျာဖြင့်လည်း ကောင်း၊ ရတုဖြင့်လည်းကောင်း ပြုနိုင်သည်၊ သို့သော် ချီးမွမ်းခြင်းကို ရှိသည်ထက်ပို၍ မပြုရ၊ ၎င်းသူတွင် မရှိသောအချက်များကို ဖွဲ့နွဲ့ ပြောဆို သီကုံးခြင်းများ မပြုရ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄၇။

၁၂။ မတ်စ်အလဟ်ပြဿနာ။ 'သေသူ၏ သားချင်းများစိတ်ပြေအောင်ပြုခြင်း၊ သည်းခံခြင်း၏ မွန်မြတ်ခြင်းနှင့် ကုသိုလ် 'သဝါဗ်' ကိုပြော၍ သည်းခံမှုကို နှစ်သက်၍ လိုက်နာစေခြင်း၊ ၎င်းသေသူအတွက်နှင့် သားချင်းများအတွက်'ဒိုအာ' တောင်းပေးခြင်း

ပိုင်သည်၊ ဤသည်ကို (တအ်ဇေယတ်) ဟု ခေါ်သည်၊ (၃) ရက်ကျော်ပြီးနောက် 'တအ်ဇေယတ်' ပြုခြင်းသည် မတ်က်ရူးဟ် တန်ဇီဟီ ဖြစ်သည်၊ သို့သော် သေသူ၏ သားချင်းသည် ခရီးထွက်နေ၍ (၃) ရက်ကျော်မှ ရောက်လာသဖြင့် သူသေအိမ်တွင်လာ၍ 'တအ်ဇေယတ်' ပြု့ မေးမြန်းတွေ့ဆုံရန်လာလျှင် မတ်က်ရူးဟ် မဖြစ်ပေ၊ အကြွင်သူသည် သေသူအိမ်သို့ (တအ်ဇေယတ်) ပြု့ မေးမြန်းတွေ့ဆုံရန် တစ်ခေါက်လာပြီးလျှင် ၎င်းသူ ဒုတိယအကြိမ် သေသူအိမ်သို့ မေးမြန်းရန် သွားခြင်း မတ်က်ရူးဟ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၄။

၁၃။ မတ်စ်အလဟ်ပြဿနာ။ မိမိအတွက် သေဆုံးလျှင် အသုံးပြုရန် 'ကဖွာန်' အဝတ်စကို အသင့်ဆောင်ထားခြင်းသည် မတ်က်ရူးဟ် မဖြစ်ပေ၊ ကဗ်ရ်မြှုပ်နှံရန်အတွက် အသင့်ပြင်ထားခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၅၆၆။

၁၄။ မတ်စ်အလဟ်ပြဿနာ။ သေသူအတွက် ကဖွာန် အဝတ်စတွင် မင်ဖြင့် မဟုတ်ဘဲလက်ချောင်းသက်သက်ဖြင့် 'ဒိုအာ' အဟဒ်နာမဟ်စသည် ရေးခြင်း၊ ၎င်းရင်ဘတ်တွင် လက်နှင့် (ဗစ်မစ်လ္လာ၊ ဟစ်ရ်ရဟ်မာ၊ နစ်ရ်ရဟီမ်) ရေးခြင်း၊ ၎င်းနဖူးတွင်မင်မပါဘဲ လက်ချောင်းဖြင့် (လာအေလာဟ၊အစ်လလ္လာဟို၊မို့ဟမ်မဒွရ်၊ရစူလွလ္လာဟ်) ရေးခြင်းများ ပိုင်သည်၊ သို့သော် ဤသို့ပြုကြရန် မည်သည့်ခိုင်မာသော ဟဒီးသ်တော်၌မှ မပါရှိပေ၊ ထို့ကြောင့် ဤသို့ရေးခြင်းသည် စွန္နတ်တော် ၎င်းမွတ်စ်တဟဗ် ဖြစ်မည်ဟူ၍ပင် စိတ်၌ စွဲလန်းမှု မထားရ။

ရှာမီကျမ်းအတွဲ- ၁၊ စာမျက်နှာ-၈၄၇။

၁၅။ မတ်စ်အလဟ်ပြဿနာ။ ကဗရ် အပေါ်တွင် စိမ်းစိုသော သစ်ကိုင်း တင်ထားခြင်းသည် မွတ်စ်တဟဗ် ဖြစ်သည်၊ အကယ်၍ ကဗရ်၏ အနီးအနားတွင် သစ်ပင်စသည် ပေါက်လာပါက ၎င်းကို ခုတ်ပစ်ခြင်းသည် မတ်က်ရူးဟ် ဖြစ်သည်။

မရာကင်လ်ဖွလားဟ်ကျမ်း စာမျက်နှာ-၁၀၉။

၁၆။ မတ်စ်အလဟ်ပြဿနာ။ ကဗရ် တစ်ခုတွင် သေသူ တစ်ယောက်ထက် ပို၍ မြှုပ်နှံရန်မထိုက်ပေ၊ သို့သော် လွန်စွာအရေးကြီးသောအခါ မြှုပ်ပိုင်သည်၊ ထိုသို့မြှုပ်သောအခါ ယောကျ်ားချည့်ဖြစ်လျှင် အိမြတ်ဆုံးသူကိုရှေ့မှုစသဖြင့် ဆင့်ကဲဆင့်ကဲ ထားရမည်၊ အကယ်၍ ယောကျ်ားများအပြင် အမျိုးသမီးများလည်းပါဝင်မှု ယောကျ်ားများကို ရှေ့မှုထား၍ အမျိုးသမီးများကို နောက်မှုထားရမည်။

ဖွတာဝါဟင်န်ဒီယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၆၄။

၁၇။ မတ်စ်အလဟ်ပြဿနာ။ ကဗရ်များကို သွားရောက်၍ ဇေယာရတ် ပြုခြင်းသည် ယောကျ်ားများအပေါ် မွတ်စ်တဟဗ် ဖြစ်သည်၊အနည်းဆုံး (၇) ရက်တစ်ကြိမ် သွားရောက်ဇေယာရတ်ပြုလျှင်ကောင်းသည်၊ ဂျူ့မို့အဟ် သောကြာနေ့တွင် ဇေယာရတ်ပြုခြင်းကောင်းသည်၊ အကီဒဟ်နှင့် 'အမလ်'မှာ ရှရီအတ် တရားတော် နှင့် ဆန့်ကျင်မှုမရှိ

သော် သူတော်စင်များ၏ ကဗရ် ကိုခရီးထွက်၍ ဇေယာရတ်ပြုပိုင်သည်၊ ယခုခေတ်သမယ တွင်ကား 'အှရ်စ်' အမည်တတ်၍ 'ဒရ်ဂါ'များကို ခရီးထွက်သွားလာခြင်း၌ ပျက်စီးဖွယ်ရာ ရှိနေပေသည်၊ ထို့ကြောင့် မသွားဘဲရှောင်ကြဉ်ကြရမည်။

ရဒ်ဒွလ်မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၈၄၃။

# ဗလီဝတ်ကျောင်းထော်၏ ပညတ်ချက်များ

## အကြောင်း

ကျွန်ုပ်သည် ဤနေရာတွင် 'ဝပ်က်ဖ်' နှင့် ပတ်သက် သော အကြောင်း များကို ရေးရန်မရည်ရွယ် ထိုပြဿနာများကို 'ဝပ်က်ဖ်'အခန်း၌သာ သင့်လျော်ပေမည်၊ ဤနေရာ တွင် 'နမာဇ်'နှင့်လည်းကောင်း၊ ဗလီဝတ်ကျောင်းတော်နှင့်လည်းကောင်း သက်ဆိုင်သော အချက်များကိုသာ ရေးသားမည်။

၁။ မတ်စ်အလဟ်ပြဿနာ။ ဗလီ၏ တံခါးမကို ပိတ်ထားခြင်းသည်၊ မတ်က်ရူးဟ် တာဟ်ရီမဟ် ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ 'နမာဇ်' အချိန်မဟုတ်သည့်အပြင် ပစ္စည်း ပစ္စယများလည်း ပျောက်ဆုံးမည်ကိုစိုး၍ ပိတ်လျှင်ပိုင်သည်။

ကဗိရီကျမ်း စာမျက်နှာ-၅၇၈။

၂။ မတ်စ်အလဟ်ပြဿနာ။ ဗလီဝတ်ကျောင်းတော်၏ အမိုးပေါ်တွင်ကျင့်ကြီး၊ ကျင်ငယ် စွန့်ခြင်း၊ သံဝါသ ပြုခြင်းတို့သည် ဗလီတွင်း၌ ပြုသကဲ့သို့ပင် အပြစ်ဖြစ်သည်။

ကဗိရီကျမ်း စာမျက်နှာ-၅၂၀။

ရှဲ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၉၃။

၃။ မတ်စ်အလဟ်ပြဿနာ။ အကြင်အိမ်၌ 'နမာဇ်' ဖတ်ရန်သီးသန့်ပြုထားလျှင် တစ်အိမ်လုံးသည် ဗလီ၏ အမိန့်ပညတ်၌ မပါဝင်ပေ၊ ('နမာဇ်' ဖတ်သော နေရာကိုကား သန့်ပြန့်အောင်ထားရမည်၊) ဤသို့ပင် အီးဒ် 'နမာဇ်' အတွက်ဂျနာဇဟ် 'နမာဇ်' အတွက် သီးခြားထားသောနေရာလည်း ဗလီ အမိန့်ပညတ်၌ မပါဝင်ပေ။

ကဗိရီကျမ်း စာမျက်နှာ-၅၇၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ဗလီ ဝတ်ကျောင်းတော်၏ နံရံများကိုလှပအောင် ခြယ်လှယ်ခြင်းသည် မိမိပိုင်ငွေဖြင့် ပြုလုပ်သော် ကိစ္စမရှိပေ သို့သော် 'မဲဟ်ရာဗ်' ၎င်း မဲဟ်ရာဗ်၏ နံရံ များတွင်ခြယ်လှယ်ခြင်းမတ်က်ရူးဟ် ဖြစ်သည်၊ ၎င်းကိုဗလီပိုင်ငွေဖြင့်ပြုလုပ် သော် မပိုင်ပေ။

ကဗိရီကျမ်း စာမျက်နှာ-၅၇၂။

မှတ်ချက်။ ။မိမိပိုင်ငွေဖြင့် ခြယ်လှယ်သော်လည်း 'နမာဇ်' ဖတ်သူများ စိတ် အနှောင့်အယှက်ဖြစ်အောင် နမာဇ်၌ စိတ်မဝင်စားလောက်အောင် မခြယ်လှယ်ရ၊ ယခု ခေတ်တွင် အချို့ပြုလုပ်ကြသကဲ့ ခြယ်လှယ်လျှင်ကား 'ဂိုနာဟ်ဂါရ်' ဖြစ်သည်။

၅။ မတ်စ်အလဟ်ပြဿနာ။ ဗလီ ဝတ်ကျောင်းတော် နံရံများတွင် ကုရ်အာန်ကျမ်းတော်၏ အာယတ်တော်များနှင့် စူရဟ်များ ရေးခြင်းသည် မကောင်းပေ။

ကဗီရီကျမ်း စာမျက်နှာ-၅၇။

၆။ မတ်စ်အလဟ်ပြဿနာ။ ဗလီ၏ အတွင်းဘက် နှင့် နံရံ တံတိုင်း များတွင် ထွေးခြင်း၊ နှပ်ညှစ်သုပ်ခြင်းများသည် မကောင်းသော အလုပ်ဖြစ်သည်၊ အကယ်၍ အလွန်အမင်း လိုအပ်လှလျှင် မိမိအဝတ်တွင် ထွေးခြင်း၊ ညှစ်သုပ်ခြင်း စသည်များ ပြုရမည်။

၇။ မတ်စ်အလဟ်ပြဿနာ။ ဗလီတွင်း၌ ဝိုသွူပြုခြင်း၊ နှုတ်ကျင်းခြင်း စသည်များပြုခြင်းသည် မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၇။

၈။ မတ်စ်အလဟ်ပြဿနာ။ ဂျိ့နွှဗ် သံဝါသ မှုကြောင့် ကိုယ်မသန့်သူ၊ ဟိုက်သွ် ရာသီဓမ္မတာ လာနေသော အမျိုးသမီးတို့သည် ဗလီတွင်း၌ ဝင်ခြင်းဂိုနာဟ်အပြစ်ဖြစ်သည်။

ကဗီရီကျမ်း စာမျက်နှာ-၅၇။

၉။ မတ်စ်အလဟ်ပြဿနာ။ ဗလီတွင်း၌ ရောင်းဝယ်မှုပြုခြင်းသည် မတ်က်ရူးဟ်တဟ်ရီမဟ်ဖြစ်၏၊ ဟုတ်ပါ၏၊ အဲတ်တေကာဖ် ထိုင်သူသည် လိုအပ်သည်ခန့် ရောင်းဝယ်မှုပြုနိုင်သည်၊ လိုအပ်သည်ထက် ပို၍မပြုပိုင်၊ သို့သော် ပစ္စည်းသည်ဗလီတွင်း၌ ရှိမနေစေရ။

ရှရ်ဟ်ွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။

မှတ်ချက်။ ။ဆိုလိုသည်မှာ ရောင်းဝယ်သောပစ္စည်းကို ဗလီ၌ယူဆောင်မလာရ၊ အကယ်၍ အဖိုးငွေကိုသာ ယူလာလျှင် ကိစ္စမရှိပေ။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးတစ်ယောက်၏ ခြေတွင်မြေကြီးစသည် လူးပေ၍ ဗလီ၏နံရံ တိုင် စသည်တွင်သုတ်ခြင်းပြုလျှင် မတ်က်ရူးဟ် ဖြစ်သည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၉။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဗလီ၏ အတွင်း၌ သစ်ပင်စိုက်ခြင်း မတ်က်ရူးဟ်ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ဤသို့သစ်ပင်စိုက်ခြင်းသည် အယ်လေကေတာဗ်တို့၏ အလေ့အထဖြစ်သည်၊အကယ်၍ သစ်ပင်စိုက်ခြင်းဖြင့် ဗလီမှာအကျိုးရှိလျှင်ပိုင်သည်၊ ပမာဆိုသော် ဗလီမြေသည် စွတ်စို၍ နံရံများပြိုကျမည်ကိုစိုးရလျှင် သစ်ပင်စိုက်ခြင်းဖြင့် ထိုစွတ်စိုမှုကို သစ်ပင်က စုတ်ယူမည် ဖြစ်လေသည်။

ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ဗလီတွင်းကို ဖြတ်သန်း သွားလာသောလမ်း မပြုပိုင်၊ ဟုတ်ပါ၏ အကယ်၍ လွန်စွာလိုအပ်မှု ရှိလာသောအခါ တစ်ခါတစ်ရံ ဗလီမှ ဖြတ်သွားနိုင်သည်။ ဖွတာဝါဟင်နိဒိယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၀၉။

၁၃။ မတ်စ်အလဟ် ပြဿနာ။ ဗလီ၌ ဝမ်းရေးရှာဖွေသောသူသည် မိမိဝမ်းစာရှာဖွေခြင်းမပြုပိုင်၊ အဘယ့်ကြောင့်ဆိုသော် ဗလီသည် ဘာသာရေးအတွက် သီးခြား၍ နမာဇ် ဖတ်ကြရန်အတွက် ဆောက်လုပ်ထားခြင်း ဖြစ်သည်၊ လောကီရေး စွက်ဖက်ခြင်း ပြုရန် မထိုက်သည်သာမက လခယူ၍ ကုရ်အာန်သင်ပြပေးသူများလည်း ဝမ်းရေးရှာဖွေသူ များတွင်ပါဝင်သည်၊ ထိုသို့သင်ပြသူသည် ဗလီနှင့် တစ်သီးတစ်ခြားထိုင်၍ ပြသရန်ထိုက် သည်။ ဟုတ်ပါ၏၊ တစ်ဦးသောသူသည် ဗလီကို စောင့်ရှောက်ရန် ထိုင်နေသည်၊ ထိုသို့ ထိုင်နေယင်း မိမိအလုပ်ကိုလည်းလုပ်မှု ကိစ္စမရှိပေ၊ ဥပမာ.... လက်ရေးလှ ရေးစားသူ၊ အပ်ချုပ်သူတို့သည် ဗလီတွင်း၌ စောင့်ရှောက်ရန် ထိုင်နေယင်း မိမိဝမ်းရေး အတွက် စာရေးလျှင်၊ အဝတ်ကိုချုပ်လျှင် ပိုင်သည်။

ဤတွင်၍ကား ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း ဒုတိယတွဲ၏<br>နောက်ဆက်တွဲ ပြီး၏။

## ဘာဟာစ်ရှိတီ ဇေဝရ်ကျမ်း တတိယတွဲ၏ နောက်ဆက်တွဲ

## 'ရိုဇဟ်' အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ မြို့တစ်မြို့ရှိလူများ လမြင်ခြင်းဖြင့် အခြားတစ်မြို့ရှိ သူများအတွက် လုံလောက်သည်၊ ထိုနှစ်မြို့သည် မည်မျှဝေးလံစေကာမူ၊ အနောက်ပိုင်း အစမြို့မှ လမြင်ခြင်းသည် အရှေ့ပိုင်း အစွန်ဆုံးမြို့ထိ ခိုင်လုံစွာ သတင်းရောက်ရှိလျှင် ထိုသူများအပေါ် ထိုနေ့၏ ရိုဇဟ်ထားရန် အရေးကြီးသည်။

၂။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ 'စေကဟ်' ခိုင်မာသော ပုဂ္ဂိုလ် နှစ်ဦး၏ သက်သေခံခြင်းဖြင့် လမြင်ကြောင်း အတည်ဖြစ်သွားသော် လူတို့သည် ထို့ အတိုင်း ရိုဇဟ်ယူကြပြီး ရိုဇဟ်ရက်(၃၀)ပြည့်သွားသော်လည်း လမမြင်ရမူ၊ (၃၁)ရက် တွင် ရိုဇဟ် မထားရ၊ ထို(၃၁)ရက်နေ့ကို ရှောင်ဝါလ်လ(၁) ရက်နေ့ဟု ယူဆ ရမည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၂၉။

၃။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ ရိုဇဟ်ရက်(၃၀)ပြည့်သော နေ့ပိုင်း တွင် လမြင်ရမူ၊ ယနေ့ညအတွက် လမြင်သည်ဟု ယူဆရမည်၊ လွန်ခဲ့သောညက လဟု မယူဆရ၊ ထိုနေ့ကို ရှေ့လတစ်ရက်နေ့ဟု မသတ်မှတ်ရပေ၊ ၎င်းပြင် ထိုနေ့၌ မြင်ရသော လသည် မွန်းမတိမ်းမီ မြင်ရသည်ဖြစ်စေ၊ မွန်းတိမ်းပြီးမှ မြင်ရသည်ဖြစ်စေ အတူတူပင် ဖြစ်သည်။

ဒွရ်ရေမွခ်တာရ်ကျမ်းအတွဲ-၁၊ စာမျက်နှာ-၁၄၉။

၄။ မတ်စ်အလဟ် ပြဿနာ။ အကြင်သူသည် ရမသွာန်၏လနှင့် အီးဒ်၏လ မြင်လျှင် အကြောင်းတစ်ခုခုကြောင့် ထိုသူ၏ သက်သေခံခြင်းသည် ရှရီအတ် ဥပဒေအရ မခိုင်လုံသော် ထိုသူ့အပေါ် ထိုနှစ်ရက်စလုံး ရိုဇဟ်ထားရန် ဝါဂျစ်ဗ် ထိုက်သည်။

၅။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးတစ်ယောက်သည် ရိုဇဟ်ထားသည်ကို သတိမရဘဲတစ်စုံတစ်ရာစားသောက်လိုက်သည်၊ ကျွန်ုပ်၏ရိုဇဟ် ပျက်သွားပြီဟုထင်ကာ (အတလိ) တမင်စားသောက်ပစ်လိုက်မူ၊ ထိုသူ၏ရိုဇဟ်ပျက်သွားလေသည်၊ ကဖ်ဖွာရဟ် မထိုက်၊ ကဿွာသာလျှင် ထိုက်သည်၊ အကယ်၍ မတ်စ်အလဟ်ကိုသိသည်၊ မေ့ပြီးစားသောက်ပြီးနောက် (တမင်)စားသောက်မူ၊ သံဝါသမှုပြုလျှင် ကဖ်ဖွာရဟ်လည်း ထိုက်သည်၊ တမင်စားသောက်ခြင်းဖြင့်လည်း ကဿွာပင် ထိုက်သည်။

ရှရိဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။

၆။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူသည် အလိုအလျောက် အန်သည်၊ အဲဟ်တေလာမ် သုက်ရည်ထွက်သည်၊ ၎င်းအမျိုးသမီး စသည်ကို မြင်ရုံဖြင့် သုက်ရည်ထွက်သွားသည်၊ မတ်စ်အလဟ် မသိသောကြောင့် ရိုဇဟ်ပျက်သည်ဟု ထင်ကာ တမင်စားသောက်လိုက်သော် ရိုဇဟ်ပျက်သွားသည်၊ 'ကဿွာ' သာလျှင် ထိုက်သည်၊ ကဖ်ဖွာရဟ် မထိုက်ပေ၊ အကယ်၍ ရိုဇဟ်မပျက်ကြောင်း မတ်စ်အလဟ်ကို သိလျက် တမင်စားသောက်ပစ်လိုက်မူ ကဿွာရော ကဖ်ဖွာရဟ်ပါ ထိုက်လေသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၄၀။

၇။ မတ်စ်အလဟ် ပြဿနာ။ ယောကျ်ားသည် အကယ်၍ မိမိုလိင်၏ ကျင်ငယ်စွန့်ရာအပေါက်တွင် တစ်စုံတစ်ရာထည့်သွင်းမူ၊ ထိုအရာသည် ကိုယ်တွင်းသို့ မရောက်သဖြင့် ရိုဇဟ်မပျက်ပေ။

ရှရိဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၁။

၈။ မတ်စ်အလဟ် ပြဿနာ။ တစ်ဦးသောသူသည် သေဆုံးနေသော အမျိုးသမီး၊ အရွယ်မရောက်သေးသော သံဝါသမှု၊ နှစ်မြို့ဖွယ်မရှိသော မိန်းကလေး၊ ၎င်းတိရစ္ဆာန်တစ်ကောင်ကောင်အား သံဝါသပြုသည်၊ ၎င်းပွေ့ဖက်သည်၊ နမ်းရှုံ့သည်၊ ၎င်းလက်နှင့်လှုပ်ရမ်းခြင်းတို့ဖြင့် သုက်ရည်ထွက်သွားမူ ရိုဇဟ်ပျက်သည်၊ ကဿွာသာလျှင် ထိုက်သည်၊ ကဖ်ဖွာရဟ် မထိုက်ပေ။

ရှရိဟ်ဝေကာယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၃၁၂။
ဒွရ်ရေမွှခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။

၉။ မတ်စ်အလဟ် ပြဿနာ။ ရိုဇဟ်ရှိသောအမျိုးသမီးတစ်ဦးကို အဓမ္မ၊ ၎င်းအိပ်ပျော်နေစဉ်၊ ၎င်းရူးသွပ်သောအဖြစ်၌ သံဝါသပြုမူ၊ အမျိုးသမီး၏ရိုဇဟ်မှာ ပျက်သွားသည်၊ ကဿွာသာလျှင်စောင့်ရမည်၊ ၎င်းကျူးလွန်သောယောကျ်ားမှာ ရိုဇဟ်ရှိလျှင် ၎င်းသည် ကဿွာရော ကဖ်ဖွာရဟ်ပါ စောင့်ရမည်။

ရှရိဟ္ဝလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၆။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူသည် ရိဇဟ် ထိုက်သော ရှရတ္တ် စည်းကမ်းချက်များပါရှိပြီး၊ ရမသွာန်လ ရိဇဟ်ထားရာ၌ စွဗ်ဟ်စွာဒစ်က်အချိန်မှ နိယတ် ထားပြီးသော် တမင် ပါးစပ်မှ ကိုယ်တွင်းသို့ လူသားတို့ စားသောက်သော ပစ္စည်း နှင့်ဆေးဝါးကို ရောက်စေလျှင်၊ ဆိုလိုသည်မှာ.... ထိုအရာကို သုံးစွဲခြင်းဖြင့် ကိုယ်ကာယ တွင် အကျိုးတစ်ခုခုဖြစ်ထွန်းလျှင်၊ အရသာခံရန်ဖြစ်လျှင် ထိုသို့သောအရာကို လူကောင်း များသည် သုံးစွဲမှုကို မရှုံမရှာကြလျှင် ၎င်းအရာသည် နှမ်းစေ့ခန့် ငယ်သော်လည်း ၎င်းသံဝါသပြုလျှင် အပြုခံရလျှင်၊ (ယောကျ်ားခြင်း ဆက်ဆံမှုလည်း ဤအမိန့်၌ ပါဝင် သည်၊) သံဝါသပြုရာတွင် ယောကျ်ားလိင်၏ကွမ်းသီးလုံး ဝင်လျှင်၊ သုက်ရည်ထွက်ခြင်း ရှရတ္တ် မဟုတ်ပေ၊ ဤအဖြစ်အားလုံး၌ ကဿာရော ကဖ်ဖွာရဟ်ပါ နှစ်ရပ်စလုံး ဝါဂျစ်ဗ် ဖြစ်သည်၊ သို့သော် သံဝါသ ပြုရာတွင် မိန်းမမှာ သံဝါသ ပြုနိုင်သော အရွယ် ဖြစ်ရန် ရှရတ္တ် ဖြစ်သည်၊ သံဝါသ အပြုမခံနိုင်လောက်သော ငယ်ရွယ်လွန်းသည့် မိန်းကလေး မဖြစ်စေရပေ။ ဒုရ်ရေ့မုခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၁။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ခေါင်းတွင် ဆီထည့်သည်၊ မျက်လုံးတွင် 'စွရ်မာ'သားသည်၊ ၎င်းယောကျ်ားသည် မိမိလိင်၏ အပေါက် တွင် ခြောက်သွေ့သောအရာသွင်းသည်၊ ၎င်းသွင်းသောအရာ၏ အစသည် အပြင်မှာ ထွက်နေလျှင်၊ ၎င်းစိုသောအရာသွင်းသည်၊ ၎င်းသည် ဝမ်းချူသောနေရာထိ မရောက်မူ၊ ဤအရာကိစ္စများသည် ကိုယ်တွင်း၌ မရောက်ပေ၊ ထို့ကြောင့် ရိဇဟ်မပျက်၊ ကဿာရော ကဖ်ဖွာရဟ်ပါ မထိုက်ပေ။

၎င်းပြင် အကယ်၍ ခြောက်သောအရာ၊ ဥပမာ....ဝါဂွမ်း၎င်းအဝတ် စသည်များ ကို ယောကျ်ားသည် မိမိ၏နောက်လမ်း ကျင်ကြီးစွန့်ရာတွင် သွင်း၍ ထိုအရာများသည် အတွင်းသို့ဝင်သွားသည်၊ ၎င်းစိုသောအရာသွင်းသည်၊ ၎င်းတို့သည် ဝမ်းချူသောနေရာသို့ ဝင်သွားသော် ရိဇဟ် ပျက်သည်၊ ကဿာ သာလျှင် ထိုက်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူတို့သည် ရိဇဟ်စောင့်သောအဖြစ်၌ ဟွပ်က်ကဟ် ဆေးဘူး (ဆေးတန်၊ ဆေးလိပ်) သောက်သော အလေ့အထ ရှိလျှင် ၎င်း အကျိုးတစ်ခုခု အတွက်၊ အလေ့ မရှိသော်လည်း သောက်မူ၊ ထိုသူတို့အပေါ် ကဿာရော ကဖ်ဖွာရဟ်ပါ နှစ်ရပ်စလုံး ဝါဂျစ်ဗ် ထိုက်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၄၉။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အမျိုးသမီး တစ်ဦးသည် အရွယ် မရောက်သောယောကျ်ားလေးအားလည်းကောင်း ရူးသွပ်သူအားလည်းကောင်းသံဝါသ ပြုစေလျှင်၊ ကဿာရော ကဖ်ဖွာရဟ်ပါ နှစ်ရပ်စလုံး ထိုက်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

၁၄။ မတ်စ်အလတ်ပြဿနာ။ သံဝါသပြုရာတွင် ယောကျ်ားနှင့်မိန်းမ နှစ်ဦးစလုံး အသိဉာဏ်ရှိသူများဖြစ်ရန် ရှုရတွင် မဟုတ်ပေ၊ နှစ်ဦးအနက် တစ်ဦးက ရူးသွတ်ပြီး၊ တစ်ဦးကအသိဉာဏ်ရှိသူဖြစ်လျှင်၊ အသိဉာဏ်ရှိသူအပေါ်တွင် ကာသွာနှင့် ကဖ်ဖွာရဟ် ထိုက်သည်၊ သူရူးအပေါ် မထိုက်ပေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၉။
ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၀၄။

၁၅။ မတ်စ်အလတ်ပြဿနာ။ အိပ်ပျော်နေသော အဖြစ်၌ အဲဟ်တေလာမ် မနီ သုက်ရည်ထွက်ခြင်းဖြင့် အကယ်၍ ဂွတ်စ်လ် ရေမချိုးဘဲ ရိုဇဟ်ထားခဲ့သော် ရိုဇဟ် မပျက်ပေ၊ ဤသို့ပင် တစ်ဦးသောအမျိုးသမီးကို ကြည့်၍လည်းကောင်း၊ အမျိုးသမီး၏ အင်္ဂါဇာတ်ကို ကြည့်၍လည်းကောင်း၊ စိတ်ကူးခြင်းတို့ဖြင့်လည်းကောင်း မနီ သုက်ရည် ထွက်သွားသော်လည်း ရိုဇဟ် မပျက်ပေ။

ကို့ဒူရီကျမ်း စာမျက်နှာ-၄၅။
ဖွတာဝါဟင်န်ဒိယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၃။

၁၆။ မတ်စ်အလတ်ပြဿနာ။ ယောကျ်ားသည် မိမိလိင်၏ ကျင်ငယ်ပေါက်တွင် တစ်စုံတစ်ရာထည့်ခြင်း၊ ဥပမာ....ဆီ၊ ရေ၊ တို့ကို ပြွန်နှင့်ထည့်သည်ဖြစ်စေ၊ ရိုးရိုးထည့်သွင်းသည်ဖြစ်စေ၊ မီးခြစ်တန် စသည်များ ထည့်လျှင်ဖြစ်စေ ဤအရာများသည် ကျင်ငယ်အိမ်ထိ ရောက်သော်လည်း ရိုဇဟ်မပျက်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။

၁၇။ မတ်စ်အလတ်ပြဿနာ။ တစ်ဦးသောသူသည်ရိုဇဟ်ရှိသည်ကိုသတိမရဘဲ ၎င်းညအချိန် ကျန်နေသေး၍ သံဝါသပြုသည်၊ ၎င်းပြင် စားသောက်ပြီးနောက် ရိုဇဟ် ရှိသည်ကို သတိရသည်၊ ၎င်း စွဗ်ဟ်စွာဒစ်က်အချိန် ရောက်လာသည်တွင် ချက်ချင်းခွဲခွာ လိုက်သည်၊ ၎င်းပါးစပ်မှ ထမင်းလုပ်ကို ထွေးပစ်လိုက်သည်၊ အကယ်၍ ခွဲခွာပြီးနောက် သုက်ရည်ထွက်သွားမှုလည်း ရိုဇဟ် မပျက်ပေ၊ ၎င်းသုက်ရည်ထွက်မှုကို အဲဟ်တေလာမ် ဟု ယူဆရမည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၀။
ဘဲဟ်ရွရ်ရာအစ်က်ကျမ်း အတွဲ-၂၊ စာမျက်နှာ-၂၇၂။

၁၈။ မတ်စ်အလတ်ပြဿနာ။ မစ်ဝါးက် တံပူဖြင့် သွားတိုက်ခြင်းတွင် မွန်းတိမ်းပြီးမှ ဖြစ်စေ၊ တံပူမှာ စိုသောအကိုင်းဖြစ်စေ၊ ခြောက်သောအကိုင်းဖြစ်စေ ရိုဇဟ်တွင် မည်သို့မှ ထိခိုက်မှုမရှိပေ။

ဟေဒါယဟ်ကျမ်း စာမျက်နှာ-၁၂၀။

၁၉။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး (ဇနီး)ကို နမ်းခြင်း၊ ပွေ့ဖက်ခြင်းတွင် သုက်ရည်ထွက်သွားမည်ကို စိုးရလျှင်၊ ရင်းပြင် ထိုသို့ ပြုခြင်းဖြင့် မိမိကိုယ်ကို မထိန်းနိုင်ဘဲ သံဝါသပြုမိမည်ကို စိုးရသော်၊ ပွေ့ဖက်နမ်းရှုံ့ခြင်း မတ်က်ရူးဟ်ဖြစ်သည်၊ စိုးရိမ်မှုမရှိသော် ပွေ့ဖက်နမ်းရှုံ့ခြင်း မတ်က်ရူးဟ် မဖြစ်ပေ။

အသ်မွခ်တစွာရ်လင်လ်ဘက်ဒါဒီ စာမျက်နှာ-၄၆။

၂၀။ မတ်စ်အလဟ် ပြဿနာ။ အမျိုးသမီး စသည်၏ နှုတ်ခမ်းကို စုတ်ခြင်း၊ အဝတ်မပါဘဲ ဝတ်လစ်စလစ်ကိုယ်ချင်း ထိကပ်ခြင်းသည် ရိုဇဟ်ရှိသောအဖြစ်၌ သုက်ရည်ထွက်သွားမည်၊ သံဝါသပြုမိမည်ကို စိုးရိမ်ရသည်ဖြစ်စေ၊ မစိုးရိမ်ရသည်ဖြစ်စေ မတ်က်ရူးဟ် ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၉၇။

၂၁။ မတ်စ်အလဟ် ပြဿနာ။ အကယ်၍ မြို့နေတစ်ဦးသည် ရိုဇဟ်၏ နိယတ်ပြုပြီးမှ ခရီးသည် ဖြစ်သွားလျှင် အနည်းငယ် သွားပြီးနောက် မေ့နေရစ်သော ပစ္စည်းတစ်ခုခုကို ယူရန် အိမ်သို့ ပြန်လာ၍ အိမ်ရောက်သောအခါ ရိုဇဟ်ကို ဖျက်လိုက်သော် ၎င်းသည် ကဖ်ဖွာရဟ်ပေးရမည်၊ အဘယ့်ကြောင့်ဆိုသော် ၎င်းသည် မိမိအိမ်သို့ နေရန်သွားခြင်းမဟုတ်ဘဲ မိနေသော်လည်း ခရီးသည်၏ ပညတ်တွင် မပါဝင်သေး၍ ဖြစ်သည်။

ရှရိဟ္ဝတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၄။

၂၂။ မတ်စ်အလဟ် ပြဿနာ။ သံဝါသမှု အပြင် အခြား အကြောင်းဖြင့် ကဖ်ဖွာရဟ် ထိုက်ခဲ့သော်၊ ကဖ်ဖွာရဟ် တစ်ခုကို မပြုရသေးမီ အခြား ကဖ်ဖွာရဟ် ထိုက်လာပြန်လျှင်၊ ထိုကဖ်ဖွာရဟ်နှစ်ရပ်သည် ရမသွာန်လနှစ်လမှာဖြစ်စေ၊ ကဖ်ဖွာရဟ် တစ်ကြိမ်ပင်ပြုက လုံလောက်လေသည်။ ဟုတ်ပါ၏၊ အကယ်၍ သံဝါသမှုအတွက်ကြောင့် ကဖ်ဖွာရဟ် ထိုက်သော် ရမသွာန်လ တစ်လတည်း၏ ရိုဇဟ်များ ဖြစ်မူ၊ ကဖ်ဖွာရဟ် တစ်ကြိမ်ပြုခြင်းဖြင့် လုံလောက်သည်၊ အကယ်၍ ရမသွာန်လ နှစ်လမှာ ဆက်ကာဖြစ်သော် ပထမ ကဖ်ဖွာရဟ်ကို မပြုသေးပါက ရမသွာန်လတစ်လတွက်စီ ကဖ်ဖွာရဟ်ပေးရမည်။

မှတ်ချက်။ ဤတင်ပြပါ မတ်စ်အလဟ် နံပါတ် (၂၂)တွင် မတ်စ်အလဟ် ၃-ရပ် ထွက်ပေါ်လာသည်။

ပထမ။ ကဖ်ဖွာရဟ်မပေးရသေးမီ ထပ်မံပြုမိပါက၊ ကဖ်ဖွာရဟ် တစ်ကြိမ်သာ ပြုရမည်။

ဒုတိယ။ ရမသွာန်တစ်လတည်းတွင်သာ ထပ်မံပြုမိပါက ကဖ်ဖွာရဟ် တစ်ကြိမ်ဖြင့် လုံလောက်သည်၊ နောက်နှစ်ရမသွာန်လတွင် တစ်ကြိမ်ပြုမိပါက နှစ်ကြိမ်ပေါင်းကို ကဖ်ဖွာရဟ် တစ်ကြိမ်နှင့် တာဝန်မကျပေ။

တတိယ။ သံဝါသမှု အတွက် ကဖ်ဖွာရဟ်တွင် ပေါင်းစပ်၍ တစ်ကြိမ်တည်း ပေး၍မရ၊ သံဝါသမှု မဟုတ်လျှင်သာ ပေါင်းစပ်၍ တစ်ကြိမ်တည်း ကဖ်ဖွာရဟ်ပေး၍ ရသည်။

ဘဟာစ်ရှိတီ ဇေဝရ်တွင် ဒုတိယ မတ်စ်အလဟ်ကို ယူထားပြီး၊ ဘဟာစ်ရှိတီ ဂေါင်ဟရ်တွင် တတိယ မတ်စ်အလဟ်ကို ယူထားသည်၊ ဤသို့ ကွဲပြားခြင်းသည် ဘဟာစ်ရှိတီ ဇေဝရ်ကျမ်းကို သီကုံးသူ မောင်လာနာ အဟ်မဒ် အလီ (ရဟမတွလ္လာဟ်) သခင်နှင့် အင်လ်မွလ် ဖွေကဟ်ကျမ်းရှင် မောင်လာနာ အဗ်ဒွရှ်ရှကူးရ်(ရဟမတွလ္လာဟ်) သခင်တို့မှာ ဖြစ်သည်။

မောင်လာနာ အရှ်ရဖ် အလီ (ရဟ္မာမတွလ္လာဟ်) သခင်က ဒုတိယ နောက်ဆက်တွဲ အင်မ်ဒါဒွလ် ဖွတာဝါကျမ်း စာမျက်နှာ (၃၇)တွင် မေးခွန်းတစ်ရပ်ကို ဖြေကြားရာ၌ ဘဟာစ်ရှိတီ ဇေဝရ်ကျမ်း၌ ပါသော မတ်စ်အလဟ်မှာ 'စနဒ်' မထင်ရှားပြီး၊ ဘဟာစ်ရှိတီ ဂေါင်ဟရ်၌ ပါသည်ကို ဒွရ်ရေ့မွခ်တာရ်ကျမ်း၊ ရဒ်ဒွလ်မွခ်တာရ်ကျမ်းများ အရ မှန်ကန်သည်ဟု မိန့်ဆိုထားသည်၊ ၎င်းကျွန်ုပ်က ထိုမတ်စ်အလဟ်ကို ရှင်းရာ၌ တင်ပြခဲ့သည်၊ ဘဟာစ်ရှိတီဇေဝရ်တွင် ပါရှိသည်မှာ ... ရဒ်ဒွလ်မွခ်တာရ်ကျမ်းတော်မှ ဖြစ်သည်၊ ထိုမတ်စ်အလဟ်ပင် ကျမ်းပြုသခင် ထံ၌ မှန်ကန်သည်၊ ပြီးနောက် ဘဟာစ်ရှိတီ ဂေါင်ဟရ် တွင် ပါရှိသော မတ်စ်အလဟ်ကို ပြင်ဆင်ခဲ့သည်။

**မတ်စ်အလဟ်၏** လိုရင်းသဘောမှာ သံဝါသအတွက်ကြောင့် မဟုတ်လျှင် ရောစ၍ ကဖ်ဖွာရဟ် တစ်ကြိမ်တည်းနှင့် လုံလောက်သည်၊ ၎င်းသံဝါသမှုတွင် ရမသွာန်လ တစ်လတည်းတွင်သာ ရောစ၍ပေးနိုင်သည်၊ နောက်နှစ် ရမသွာန်လတွင် ထိုက်သည်ကိုပါ ရောစ၍ ကဖ်ဖွာရဟ် မပေးနိုင်၊ အဘယ့်ကြောင့်ဆိုသော် သံဝါသမှုဖြင့် မရောနိုင်ဆိုသည်မှာ.... ဇွာဟင်ရ် ရေဝါယတ် နှင့် ကွဲလွဲသည်။

အချုပ်မှာ.... ဇွာဟင်ရ် ရေဝါယတ်၌ လာရှိသည်၊ ရမသွာန်လ တစ်လတည်းတွင် ကဖ်ဖွာရဟ် အချို့ ကျူးလွန်မိက မထမ်းဆောင်ရသေးသော် ကဖ်ဖွာရဟ် တစ်ကြိမ်ပြုရုံဖြင့် လုံလောက်သည်၊ ရမသွာန်လ နှစ်လမှာ ပြုမိသည်ကို ရောစ၍ ကဖ်ဖွာရဟ် တစ်ကြိမ်တည်း ပေးပိုင်ခွင့်မရှိပေ၊ ဤအမိန့်တွင် သံဝါသမှုနှင့် အခြားကျူးလွန်မှုများ အတူတူဖြစ်သည်၊ သို့သော် ကျွန်ုပ်သည် သံဝါသမဟုတ်သည့် ကျူးလွန်မှုတွင် မှန်ကန်ယုံကြည်ရသော အမိန့်ကို ယူခဲ့သည်။

## အဲ့အ်တေကာဖ်၏ မတ်စ်အလဟ်များ အကြောင်း

၁။ မတ်စ်အလဟ် ပြဿနာ။ အဲ့အ်တေကာဖ် ထိုင်ရာတွင် အချက်(၃)ချက်မှာ အရေးကြီးလေသည်။

၁။ ဂျမာအတ်ဖြစ်သော ဗလီမှာ ထိုင်ခြင်း။

၂။ အဲ့အ်တေကားဖွင်၏ 'နိယတ်'ဖြင့် ထိုင်ခြင်း။
ဆန္ဒနိယတ်မပါဘဲ ထိုင်ခြင်းသည် အဲ့အ်တေကားဖွင် မဟုတ်ပေ၊ အဘယ့်ကြောင့်ဆိုသော် နိယတ်ပိုင်ရန်အတွက် မွတ်စလင်မ် ဖြစ်ရန်နှင့် အသိဉာဏ်ရှိသူ ဖြစ်ရန် ရှရတွင် ဖြစ်သည်၊ထို့ကြောင့်အသိဉာဏ် ရှိခြင်း၊ မွတ်စလင်မ် ဖြစ်ရန် ရှရတွင်မှာ နိယတ်၌ ပါဝင်သွားလေသည်။

၃။ ဟိုက်သွင်၊ နေဖွားစ်မှ သန့်ရှင်းရမည်၊ ၎င်းဂျနာဗတ်မှ သန့်ရှင်းရမည်။
ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၉။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၅။

၂။ မတ်စ်အလဟ် ပြဿနာ။ အမြတ်ဆုံး အဲ့အ်တေကားဖွင်သည် မတ်စ်ဂျစ်ဒ်ဟရာမ် (ဝါ) မတ်က်ကဟ် မြို့တော်တွင် ထိုင်ခြင်းဖြစ်သည်၊ ပြီးနောက် မဒီနာမြို့တော်၏ မတ်စ်ဂျစ်ဒ်နဗဝီ၊ ထို့နောက် ဗိုင်တွလ်မို့ကဒ်ဒတ်စ် ဗလီဝတ်ကျောင်းတော်၊ ပြီးနောက် ဂျမာအတ် ရှိသော ဂျာမေ့မတ်စ်ဂျစ်ဒ်၊ ဂျာမေ့မတ်စ်ဂျစ်ဒ် တွင် ဂျမာအတ် မရှိလျှင် အရပ်ဗလီ၊ ထို့နောက် ဂျမာအတ် အများဆုံးသော ဗလီ။
အာလမ်ဂီရီကျမ်း အတွဲ-၁၊ စာမျက်နှာ-၂၀၉။

၃။ မတ်စ်အလဟ် ပြဿနာ။ အဲ့အ်တေကားဖွင်သည် (၃)မျိုး ရှိသည်။
(၁) ဝါဂျစ်ဗ်၊ (၂) စွန္နတ်မုအတ်က်ကဒဟ်၊ (၃) မွတ်စ်တဟာဗ်။
စည်းကမ်းချက် တောင်းဆိုမှုမပါဘဲ နသရ်ပြုလျှင်၊ ၎င်းတောင်းဆိုမှု၊ မည်သည့် အလုပ်ကိစ္စအောင်မြင်လျှင်၊ အဲ့အ်တေကားဖွင် ထိုင်မည်ဟု နသရ်ပြုလျှင်၊ ထိုနှစ်မျိုးစလုံး မှာ နသရ် ဝါဂျစ်ဗ် ဖြစ်သည်။

ရမသွာန်လ နောက်ဆုံး (၁၀)ရက်တွင် ဂရုတစ်စိုက် အဲ့အ်တေကားဖွင် ထိုင်ရန် ဟဒီးသ်တော်များ၌ လာရှိသည်၊ အချို့က ထိုင်ခြင်းဖြင့် အားလုံးအပေါ်မှာ တာဝန်ကျသွားသည်၊ ဤသည်မှာ စွန္နတ်မုအတ်က်ကဒဟ် ဖြစ်သည်။
ရမသွာန်လ နောက်ဆုံး(၁၀)ရက်အပြင် ရမသွာန်လ အလယ်(၁၀)ရက်၊ ၎င်းလ အစ(၁၀)ရက်၊ ၎င်းပြင် အခြားလများတွင် အဲ့အ်တေကားဖွင် ထိုင်ခြင်းသည် မွတ်စ်တဟာဗ် ဖြစ်သည်။
ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၇။

၄။ မတ်စ်အလဟ် ပြဿနာ။ အဲ့အ်တေကားဖွင် ဝါဂျစ်ဗ်အတွက် ရိုဇဟ်သည် ရှရတွင်စည်းကမ်းချက်ဖြစ်သည်၊ တစ်ဦးသောသူသည် အဲ့အ်တေကားဖွင် ထိုင်လျှင် ရိုဇဟ် ထားရန်လည်း အရေးကြီးသည် သာမက၊ ရိုဇဟ်မထားဟု နိယတ် ပြုထားသော်လည်း

ရှိဇဟ်ထားရမည်၊ ထို့ကြောင့် တစ်ဦးသောသူသည် ညအတွက် အဲအ်တေကားဖ်ွ ပြုလျှင် အချည်းနှီးဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ညမှာရှိဇဟ်မရှိပေ။ ဟုတ်ပါ၏၊ အကယ်၍ တစ်နေ့-တစ်ည နိယတ်ပြု၍ထိုင်လျှင်၊ ၎င်းရက်အချို့ နိယတ်ပြု၍ထိုင်လျှင်၊ ညသည်လည်း ပါသွားပေမည်၊ ထိုအဖြစ်၌ ညပါ အဲအ်တေကားဖ်ွ ထိုင်ရမည်၊ အကယ်၍ တစ်နေ့တည်း အတွက် နသ်ရ် ပြုလျှင် ညမပါဝင်ပေ။

ရှိဇဟ်မှာ အဲအ်တေကားဖ်ွ အတွက် သက်သက်ထားရန် အရေးမကြီးပေ၊ မည်သည့် ရှိဇဟ်မျိုး ဖြစ်စေကာမူ၊ ရှိဇဟ်ရှိလျှင် အဲအ်တေကားဖ်ွ အတွက် လုံလောက်သည်။ ဥပမာ.... တစ်ဦးသောသူသည် ရမသွာန်လ၌ အဲအ်တေကားဖ်ွအတွက် 'နသရ်' ပြုလျှင် ရမသွာန်လ၏ရှိဇဟ်သည် ထို့အတွက် လုံလောက်သည်။ ဟုတ်ပါ၏၊ ရှိဇဟ်မှာ ဝါဂျစ်ဗ် ဖြစ်ရန် အရေးကြီးသည်၊ နဖ်လ် ရှိဇဟ်သည် အဲတေကားဖ်ွ အတွက် မလုံလောက်ပေ။ ပမာဆိုသော်.... တစ်ဦးသောသူသည် နဖ်လ် ရှိဇဟ်ထားသည်၊ ထို့နောက် ထိုနေ့တွင် အဲအ်တေကားဖ်ွအတွက် နသရ်ပြုလျှင်မပိုင်ပေ၊ အကယ်၍ တစ်ဦးသောသူသည် ရမသွာန် တစ်လလုံးအတွက် အဲအ်တေကားဖ်ွ၏ နိယတ်ပြုလျှင် ရမသွာန်လ၌ မထိုင်နိုင်ခဲ့သော်.... အခြားတစ်လတွင် ထိုအစားထိုင်ခြင်းဖြင့် နသရ်တာဝန်ကျသွားသည်၊ သို့သော် ဆက်တိုက် ရှိဇဟ်ထားရန်နှင့် အဲအ်တေကားဖ်ွ ထိုင်ရန် အရေးကြီးသည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၇။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၅၆။

၅။ မတ်စ်အလဟ် ပြဿနာ။ အဲအ်တေကားဖ်ွ မတ်စ်နူန်တွင်ကား ရှိဇဟ် ရှိနေသည်ပင်ဖြစ်၍ ရှရတ်ွ သတ်မှတ်ရန် မလိုပေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၈။

၆။ မတ်စ်အလဟ် ပြဿနာ။ အဲအ်တေကားဖ်ွ မွတ်စ်တဟဗ် တွင် အဲဟ်တေ ယားတ်ွ သဘောအရ ရှိဇဟ်ရှရတ်ွဖြစ်သည်၊ အမှန်မှာ ရှရ်တ်ွ မဟုတ်ပေ။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၇၇။

၇။ မတ်စ်အလဟ် ပြဿနာ။ အဲအ်တေကားဖ်ွ ဝါဂျစ်ဗ် သည် အနည်းဆုံး (၁)ရက် ဖြစ်နိုင်သည်၊ သာ့ပို၍ စိတ်ဆန္ဒ နိယတ် ထားသရွေ့ ထိုင်နိုင်သည်၊ ၎င်းပြင် အဲအ်တေကားဖ်ွ မတ်စ်နူန် သည် ( ၁၀ ) ရက် ဖြစ်သည်၊ အဘယ့်ကြောင့် ဆိုသော် မတ်စ်နူန်သည် ရမသွာန်လ နောက်ဆုံး ( ၁၀ ) ရက်တွင် ဖြစ်သည်၊ အဲအ်တေကားဖ်ွ မွတ်စ်တဟဗ်မှာကား အကန့်အသတ်မရှိ တစ်မိနစ် ထိုထက်လျော့၍လည်း ထိုင်နိုင်သည်။

ရှာမီကျမ်း အတွဲ-၂၊ စာမျက်နှာ-၁၃၀။

၇။ မတ်စ်အလဟ်ပြဿနာ။ 'အဲအ်တေကားဖ့်' ထိုင်သော အချိန်တွင် နှစ်မျိုး သောအချက် ဟရာမ် ဖြစ်သည်၊ ဆိုလိုသည်မှာ ထိုအချက်ကို ကျူးလွန်ခြင်းဖြင့် အကယ်၍ အဲအ်တေကားဖ့်မှာ ဝါဂျစ်ဗ်၊ ၎င်းပြင် စွန္နတ် ဖြစ်လျှင် ပျက်လေသည်၊ ၎င်းထိုပျက်သည် အတွက် 'ကဿာ' ထိုင်ရမည်၊ အကယ်၍မွတ်စ်တဟာဗ် ဖြစ်လျှင် ကုန်ဆုံးသွားသည်၊အဘယ့် ကြောင့်ဆိုသော် အဲအ်တေကားဖ့် မွတ်စ်တဟာဗ်တွင် ရက်ပိုင်း အကန့် အသတ် မရှိပေ၊ ထို့ကြောင့် 'ကဿာ' လည်းမရှိပေ။

မှတ်ချက်။ ။ 'ကဿာ' ထိုင်ရမည်ဟုဆိုရာ၌ ပျက်သွားသော ရက်များကို 'ကဿာ' ပြုရမည်၊ ဝါဂျစ်ဗ်၏ 'ကဿာ' သည် ဝါဂျစ်ဗ် ဖြစ်သည်၊ စွန္နတ်၏ 'ကဿာ' သည် စွန္နတ် ဖြစ် သည်၊ ရမသွာန်လ အဲအ်တေကားဖ့် 'ကဿာ' အတွက် ရမသွာန် လဖြစ်ရန် အရေးမကြီး ပေ၊ သို့သော် 'ကဿာ' ပြုသောအချိန်တွင် ရိုဇဟ် ရှိနေရန်ကား အရေးကြီးသည်။

ပထမအမျိုး -

အဲအ်တေကားဖ့် ထိုင်သောနေရာမှ မလိုအပ်ဘဲ အပြင်သို့ထွက်ခြင်းသည် တ္တာဗ်အီ ဖြစ်စေ၊ ရှရ်အီ ဖြစ်စေ၊ အများလိုအပ်မှုဖြစ်သည်၊ ကျင့်ကြီး ကျင်ငယ်မသန့်၍ရေချိုးခြင်း ထမင်းစားသုံးခြင်းများလည်း ထမင်းပို့ပေးမည့်လူ မရှိလျှင် တ္တာဗ်အီ လူသားအတွက် လိုအပ်မှုတွင် ပါဝင်သည်၊ မိမိဗလီတွင် ဂျုံ့မို့အဟ် မဖတ်သော် ဂျုံ့မို့အဟ် 'နမာဇ်' အတွက် သွားခြင်းမှာ ရှရ်အီ လိုအပ်မှုဖြစ်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။
ဘဲဟ်ရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၃၀၃။

၉။ မတ်စ်အလဟ်ပြဿနာ။ 'အဲအ်တေကားဖ့်' ထိုင်သောဗလီမှ လိုအပ်မှုအတွက် အပြင်သို့ထွက်လျှင် ကိစ္စပြီးပြီးချင်း မဆိုင်းဘဲပြန်လာရမည်၊ဖြစ်နိုင်လျှင် လိုအပ်မှုကို ဗလီ နှင့်အနီးဆုံးနေရာတွင် ပြုရမည်၊ ဥပမာ ကျင်ကြီး စွန့်ရန်အတွက် (ဗလီမှာ နေရာမရှိ သော်) အိမ်သည်ဝေးပါက မိတ်ဆွေ စသည်အိမ်မှာ နီးမူ ထိုနီးသောအိမ်သို့ သွားရမည်၊ ဟုတ်ပါ၏ အကယ်၍ မိမိအိမ်ကို သွားမှသာဖြစ်ပြီး အခြား မိတ်ဆွေအိမ်တွင် သွား၍ မဖြစ်မူ မိမိအိမ်သို့ပြန်၍ ကျင်ကြီးစွန့်နိုင်သည်။

အကယ်၍ 'ဂျုံ့မို့အဟ်' နမာဇ် ဖတ်ရန်သွားပြီး 'နမာဇ်' ပြီးနောက် ထိုဗလီ မှာပင်ထိုင်ပြီး မိမိ 'အဲအ်တေကားဖ့်'ကို ပြည့်အောင်ပြုလျှင်ပိုင်သည်၊ သို့သော် 'မတ်က် ရူးဟ်ဖြစ်သည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၁၀။
ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၇၀၊၁၇၆။

၁၀။ မတ်စ်အလဟ်ပြဿနာ။ မေ့၍လည်း 'အဲအ်တေကားဖ်'' ထိုင်သောဗလီမှ၊ တစ်မိနစ်သာမက ထိုထက်လျော့၍လည်းထွက်ခြင်း မပိုင်ပေ။

မှတ်ချက်။ ။အ္ဒိသ်ရိ မရှိတဲ ခဏပင် ထွက်သော် အဲအ်တေကားဖ် ပျက်သည်၊

ရှရိဟ္ဝလ်ဘဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၁၀။

၁၁။ မတ်စ်အလဟ်ပြဿနာ။ ဖြစ်ခဲသော အ္ဒသ်ရ် ဖြစ်မှု 'အဲအ်တေကားဖ်' ထိုင်သောနေရာမှ ထွက်ခြင်း၊ ဥပမာ....ရောဂါသည်ကို မေးမြန်းရန်၊ ရေနစ်သူကိုဆယ်ရန် မီးလောင်နေသည်ကို ငြိမ်းရန်၊ ဗလီပြိုကျမည်ကိုစိုး၍ထွက်မှု ဂိုနာဟ်ကား မဖြစ်သာမက သေဘေးမှရှောင်ရန်အရေးကြီးသည်၊ သို့သော် အဲအ်တေကားဖ်ကား ပျက်သွားသည်။

အကယ်၍ 'ရှရ်အီ' နှင့် တွာဗ်အီ' လိုအပ်မှုကြောင့် ထွက်လျှင် လိုအပ်မှုကိုမပြုမီ သို့မဟုတ် ပြုပြီးနောက် ရောဂါသည်ကို မေးမြန်းလျှင် ဂျနာဇဟ်, 'နမာဇ်'၌ ဝင်ဖတ်လျှင် ကိစ္စမရှိပေ။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၈၃။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ဂျို့မို့အဟ် 'နမာဇ်' ဖတ်ရန်အတွက်သွားသော အခါ တဟိယတွလ် မတ်စ်ဂျစ်ဒ် နှင့် စွန္နတ် ဖတ်နိုင်လောက်သော အချိန်ရအောင် သွားရမည်၊ 'နမာဇ်' ပြီးနောက် စွန္နတ် ဖတ်ရန်ဆိုင်းနိုင်သည်၊ထိုအချိန်၏ ခန့်မှန်းချေကိုဖတ်သူကိုယ်တိုင် ခန့်မှန်းရမည်၊ လိုအပ်သောအချိန် ခန့်မှန်းရာတွင် မှားသွားလျှင် ဆိုလိုသည်မှာ အနည်းငယ်စော၍ ရောက်သွားလျှင် ကိစ္စမရှိပေ။

ဘဲဟ်ရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၃၀၂။

၁၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍တစ်ဦးသောသူသည်'အဲ့အ်တေကားဖ်' ထိုင်ခြင်းမှ အဓမ္မဆွဲထုတ်ခံရသော်လည်း ၎င်း၏ 'အဲအ်တေကားဖ်'' မှာ ပျက်သွားသည်၊ ပမာဆိုသော် ဖြစ်မှုတစ်ခုခုကြောင့် အာဏာပိုင်က ဝရမ်းထုတ်ဆင့်သဖြင့် ရဲသားများက ထိုသူ့ကိုဖမ်းခေါ်သွားလျှင်၎င်းကြွေးရှင်က ကြွေးတောင်းလိုသဖြင့် ဆွဲခေါ်ထုတ်လျှင်။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၈၃။

၁၄။ မတ်စ်အလဟ်ပြဿနာ။ ဤသို့ပင် အကယ်၍'ရှရ်အီနှင့်'တွာဗ်အီ'လိုအပ်မှုဖြင့်ထွက်သည်၊ လမ်း၌ ကြွေးရှင်တွေ့၍ ဆွဲထားသည်၊ ၎င်းမကျန်းမမာဖြစ်သည်၊ 'အဲအ် တေကားဖ်'' ထိုင်သောနေရာသို့ ပြန်ရောက်ရန် ကြာသွားမှု အဲအ်တေကားဖ် ပျက်သွားသည်။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၈၃။

ဒုတိယအမျိုး....

အဲအ်တေကားဖ်၌မပိုင်သောကိစ္စများ၊သံဝါသမှုစသည်ကို'အတလိ' တမင်ဖြစ်စေ မေ့၍ဖြစ်စေပြုလျှင် အဲအ်တေကားဖ်သတိမရ၍ ဗလီမှာပြုသည်ဖြစ်စေ၊ ဗလီပြင်မှာ

ပြုသည်ဖြစ်စေ၊ မည်သည့်အဖြစ်၌မဆိုအဲအ်တေကားဖ်ွ ပျက်သည် သံဝါသ၏နောက်ဆက်တွဲများဥပမာ နမ်းရှုံ့ပွေ့ဖက်ခြင်းများလည်းမပြုပိုင်ပေ၊ သို့သော်မနီသုက်ရည် မထွက်ပါကနမ်းရှုံ့ပွေ့ဖက်ခြင်းဖြင့် အဲအ်တေကားဖ်ွ မပျက်ပေ၊ အကယ်၍ ထိုသို့ပြုခြင်းဖြင့် သုက်ရည်ထွက်သွားသော် အဲအ်တေကားဖ်ွ ပျက်သွားသည်၊ သို့ရာတွင် စိတ်ကူးခြင်းဖြင့် သုက်ရည်ထွက်သွားသော် အဲအ်တေကားဖ်ွ မပျက်ပေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၁၁။
ရှရ်ဟွတ်တန်ဝီးရ်ကျမ်း၊ အတွဲ- ၁၊ စာမျက်နှာ-၁၅၈။

၁၅။ မတ်စ်အလဟ်ပြဿနာ။ 'အဲအ်တေကားဖ်ွ' ထိုင်သောအဖြစ်၌မလိုအပ်ဘဲ လောကီကိစ္စ မွေ့လျော်ခြင်းသည် 'မတ်က်ရူးဟ်တဟ်ရီမဟ် ဖြစ်သည်၊ ဥပမာ၊ မလိုအပ်ဘဲ ရောင်းခြင်း၊ ဝယ်ခြင်း၊ ကုန်သွယ်ခြင်း၊ ဟုတ်ပါ၏ အကြောင်းအလုပ်သည် အရေးကြီးလျှင် ဥပမာ.... အိမ်တွင် ချက်ပြုတ်စရာမရှိ၊ ၎င်းအပြင် အခြားစိတ်ချရမည့် ဝယ်ပေးမည့်သူ မရှိလျှင် ဤသို့သောအဖြစ်၌ ရောင်းဝယ်ခြင်းပိုင်သည်၊ သို့သော်ကုန်ပစ္စည်းကို ဗလီ၌ ယူလာခြင်းတွင် ဗလီညစ်ပေမည်၊လမ်းပိတ်သွားမည်ဖြစ်ကလုံးဝမယူလာပိုင်ပေ၊ အကယ်၍ ဗလီညစ်ပေခြင်းမရှိ လမ်းလည်းမပိတ်မှု အချို့သခင်များထံ ယူဆောင်လာပိုင်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၅၇။
ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၈၄။

၁၆။ မတ်စ်အလဟ်ပြဿနာ။ 'အဲ့အ်တေကားဖ်ွ' ထိုင်သောအချိန်တွင် လုံးဝ ဆိတ်ဆိတ်ထိုင်ခြင်းသည် 'မတ်က်ရူးဟ်တဟ်ရီမဟ်' ဖြစ်သည်၊မကောင်းသောစကားများ မပြောဆိုရ၊မုသားမပြောရ၊အတင်းမပြောရ သာမက 'ကုရ်အာန်ကျမ်းတော်'ကိုဖတ်ရွတ် သရဇ္ဇာယ်ခြင်း၊ ၎င်းဘာသာရေးစာ ဖတ်ခြင်း၊ သင်ပြခြင်း၊ ၎င်းပြင် အခြားသော 'အေဗာဒတ်'များကို ပြုမူနေရမည်၊ အချုပ်မှာ.... ဆိတ်ဆိတ်ထိုင်နေခြင်းသည် 'အေဗာဒတ်'ပြုခြင်း မဟုတ်ပေ။ ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၂၁။

# ဇကာတ်ဒါနကြေး အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ နှစ်ပြည့်ရန်ပစ္စည်းအားလုံးတွင် 'ရှရတ်ွ'ဖြစ်သည်၊

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၆၇။

၂။ မတ်စ်အလဟ်ပြဿနာ။ ဇကာတ် ဖွရ်သွ် ဖြစ်သော တိရစ္ဆာန်များတွင် စာအေမဟ်လည်း ပါဝင်သည်၊ အောက်ပါအချက်များနှင့်ကိုက်ညီသော တိရစ္ဆာန်သည် စာအေမဟ် ဖြစ်သည်။

၁။ တစ်နှစ်၏ အများစုတွင် မိမိနှုတ်သီးဖြင့် ရှာဖွေစားသောက်လျှင် အိမ်တွင် ထား၍မကျွေးရလျှင် အကယ်၍ နှစ်တစ်ဝက် ကိုယ်တိုင်ရှာဖွေစားပြီး၊ နှစ်တစ်ဝက်မှာ အိမ်တွင်ကျွေးထားရမှု၊ စာအေမဟ် မဖြစ်ပေ၊ ဤသို့ပင် မျက်ကိုအိမ်တွင် မှာယူရမှု အခမဲ့ရသည်ဖြစ်စေ၊ ဝယ်ရသည်ဖြစ်စေ၊ စာအေမဟ် မဟုတ်ပေ။

၂....။ နို့ရရန်၊ ပွားရန်၊ ဝဖြိုးရန်အတွက် ထားခြင်းဖြစ်လျှင် အကယ်၍ နို့ပွား ရန်နှင့် ဝဖြိုးရန်အတွက်မဟုတ်ဘဲ အသားစားရန်နှင့် စီးနင်းရန်အတွက် ထားခြင်းဖြစ်မူ စာအေမဟ် မဟုတ်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၁။
ဂျောင်ဟရယ်နိုင်ယေ့ရဟ်ကျမ်း အတွဲ-၁၊ စာမျက်နှာ-၁၁၈။

# စာအေမဟ် တိရစ္ဆာန်များ၏ ဇကာတ်အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ စာအေမဟ် တိရစ္ဆာန်များတွင် 'ဇကာတ်'ထိုက်ရန် အတွက် ကုလားအုတ် အထီး၊ အမ၊ နွားမ၊ နွားထီး၊ ကျွဲမ၊ ကျွဲထီး ဆိတ်မ၊ ဆိတ်ထီး၊ သိုး၊ ဒွန်ဘာများဖြစ်ရန်'ရှရတ္ဟ' စည်းကမ်းချက်ဖြစ်သည်၊ တောတိရစ္ဆာန်များ ဥပမာ ချေ စသည်များအပေါ် ဇကာတ်ဖွရ်သွ် မဟုတ်ပေ၊ အကယ်၍ ထိုတောတိရစ္ဆာန်ကို ရောင်းရန် ဝယ်ထားလျှင် ရောင်းမှုအပေါ် ဇကာတ် ထိုက်သည်။

အကြင် တိရစ္ဆာန်သည် တောတိရစ္ဆာန် သို့မဟုတ် မြို့တိရစ္ဆာန်မှ ပေါက်ဖွားလျှင် မွေးဖွားသောအမိမှာ မြို့နေဖြစ်လျှင် မြို့နေဟုယူဆရမည်၊ အကယ်၍ တောနေဖြစ်လျှင် ထိုတိရစ္ဆာန်ငယ်ကို တောနေဟုယူဆရမည်၊ ဥပမာ... ဆိတ်မနှင့် ချေမှမွေးဖွားလျှင်ဆိတ်ဟု ယူဆရမည်၊ နွားမနှင့် တောနွားမှမွေးလျှင် နွားဟု ယူဆရမည်။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၀။

၂။ မတ်စ်အလဟ်ပြဿနာ။ စာအေမဟ် တိရစ္ဆာန်ကို နှစ်ဝက်တွင် ရောင်းဝယ် သောသဘောဖြင့် ရောင်းပစ်လိုက်လျှင် ထိုနှစ်တွင် ထိုအတွက် ဇကာတ် ပေးရန်မလိုပေ၊ ရောင်းရန် နိယတ်ဆန္ဒထားသော အချိန်မှစ၍ ရောင်းဝယ်သောနှစ် စလေသည်။

ရှရ်ဟွတ်တန်စီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၀။

၃။ မတ်စ်အလဟ်ပြဿနာ။ တိရစ္ဆာန်ငယ်များချည့်ရှိမူ ဇကာတ် မထိုက်သေး ပေ၊ ဟုတ်ပါ၏၊ အကယ်၍ ထိုအငယ်များနှင့်တကွ အခြား အကြီး များ လည်း ရှိမူ ဇကာတ်ထိုက်သည်၊ ၎င်းပြင် ဇကာတ်ပေးရာတွင် ထိုကြီးသော အကောင်ကိုပင်ပေး ရမည်၊ အကယ်၍ နှစ်ပြည့်ပြီးနောက် ထိုကြီးသောအကောင် သေသွားလျှင် ဇကာတ် မထိုက်တော့ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၃။

၄။ မတ်စ်အလဟ်ပြဿနာ။ 'ဝပ်က်ဖ္ဖ' ပြု့လုဒါန်းထားသော တိရစ္ဆာန်များ အပေါ်တွင် ဇကာတ် ဖွရ်သွ် မဟုတ်ပေ။

ရှရ်ဟွတ်တန်စီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၁။

၅။ မတ်စ်အလဟ်ပြဿနာ။ မြင်းများသည် စာအေမဟ် ဖြစ်ပြီး အထီး,အမ ရှိကြလျှင် ဇကာတ် ထိုက်သည်၊ မြင်းတစ်ကောင်လျှင် ဒီးနား၏ တစ်ပြား(ဆိုလိုသည်မှာ ၂-ကျပ်၊ ၇၅-ပြား) ပေးရမည်၊ သို့တည်းမဟုတ် အားလုံး၏ တန်ဖိုးကို ပေါင်းစပ်၍ အပုံ ၄၀-တွင် တစ်ပုံကျ ပေးဆောင်ရမည်။

အလ်မ္ဗခ်တစ္ဗာရ်လင်လ်ဘာဂ်ဒါဒီကျမ်း စာမျက်နှာ-၃၉။

၆။ မတ်စ်အလဟ်ပြဿနာ။ မည်းနှင့် လားတို့သည် ရောင်းရန် မဟုတ်လျှင် ဇကာတ် မထိုက်ပေ။ ရှရ်ဟ္ဗလ်ဘာဒါယဟ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၇၁။

# ကုလားအုတ်၏ နေဆွားဗ် အကြောင်း

ကုလားအုတ် (၅) ကောင်ရှိမှသာလျှင် ဇကာတ်ပေးရန် ဖွရ်သ္ဗ်ဖြစ်သည်၊ထိုထက် နည်းလျှင် ဇကာတ် မထိုက်ပေ၊ ကုလားအုတ် (၅) ကောင်လျှင်ဆိတ်တစ်ကောင်၊ (၁၀) ကောင်လျှင်(၂)ကောင်၊ (၁၅)ကောင်လျှင် (၃) ကောင်၊ အကောင် (၂၀) တွင်ဆိတ် (၄)ကောင်၊ အထီးဖြစ်စေ, အမဖြစ်စေပေးရန် ဖွရ်သ္ဗ်ဖြစ်သည်၊အားလုံး တစ်နှစ်ပြည့် သားထက် မငယ်စေရပေ။

ကုလားအုတ်(၂၀)ထက်ပိုလာလျှင် ပိုသည်အတွက်မပေးရ၊ (၂၅) ကောင်ပြည့်မှ သာ(၂)နှစ်သားထဲဝင်လာသော ကုလားအုတ်မ တစ်ကောင်ပေးရမည်၊ (၂၆) ကောင်မှ (၃၅)ကောင်ထိ အပိုတွက်မပေးရ၊ (၃၆) ကောင်ပြည့်သောအခါ (၃) နှစ်ထဲဝင်လာ သော ကုလားအုတ်မ တစ်ကောင်ပေးရမည်၊ (၃၇) ကောင်မှ (၄၅) ကောင်ထိပိုသည် အတွက်မပေးရ၊ (၄၆) ကောင်ပြည့်သောအခါ (၄) နှစ်ထဲဝင်သော ကုလားအုတ်မ တစ်ကောင်ပေးရမည်၊ (၄၇)ကောင်မှ (၆၀)ထိမပေးရ၊ (၆၁) ကောင်ပြည့်သောအခါ (၅)နှစ်ထဲဝင်သော ကုလားအုတ်မ တစ်ကောင်ပေးရမည်၊ ၎င်း (၆၂) ကောင်မှ (၇၅) ကောင်ထိမပေးရ၊ (၇၆) ကောင်ပြည့်သောအခါ(၃) နှစ်ထဲဝင်သော ကုလားအုတ်မ (၂) ကောင်ပေးရမည်၊(၇၇)ကောင်မှ (၉၀)ထိမပေးရ၊(၉၁)ကောင်ပြည့်သောအခါ (၄)နှစ်ထဲဝင်သော ကုလားအုတ်မ(၂)ကောင် ပေးရမည်၊ (၉၂) ကောင်မှ (၁၂၀) ထိ မပေးရပေ။

အကောင်(၁၂၀)မှကျော်သွားလျှင် စာရင်းထပ်၍ ပြုရမည်၊ (၄) ကောင်ပိုလျှင် ကိစ္စမရှိ၊ (၁၂၅) ကောင်ဖြစ်လာလျှင် ဆိတ်တစ်ကောင်နှင့် (၄) နှစ်ထဲဝင်လာသော ကုလားအုတ်မ(၂)ကောင်ပေးရမည်၊ ဤသို့ပင် (၅)ကောင်ပိုလာလျှင်(၁၄၄) ကောင်ထိ ဆိတ်တစ်ကောင်ပိုပေးရမည်၊(၁၄၅) ကောင်ဖြစ်လာလျှင်(၁၄၉)ထိ၊ ကုလားအုတ်(၂) နှစ်ရွယ်တစ်ကောင်နှင့်(၃)နှစ်ရွယ် (၂)ကောင်ပေးရမည်။

အကောင်(၁၅၀)ဖြစ်လာလျှင် (၄)နှစ်ထဲဝင်သော ကုလားအုတ်မ (၃) ကောင် ပေးရမည်၊ ထို့ထက်သာ၍ပိုလာပြန်သော် ထပ်မံ၍ စာရင်းပြုရမည်၊ ဆိုလိုသည်မှာ—

ကုလားအုတ် (၅) ကောင်ကျတွင် (၂၄) ထိ၊ (၃-၄) နှစ်ရွယ် ကုလားအုတ်မ နှင့် ဆိတ်တစ်ကောင်ကျ ပေးရမည်၊ (၂၅) ကောင်တွင် (၂) နှစ်ရွယ် ကုလားအုတ်မ တစ်ကောင်၊ ၎င်း (၃၂) ကောင်ပိုရာတွင် (၃) နှစ်ရွယ် ကုလားအုတ်မတစ်ကောင်၊ ထို့နောက်(၀၉၆) ကောင်မှ (၂၀၀) ထိ (၃) နှစ်ရွယ် ကုလားအုတ်မ (၄) ကောင်ပေးရမည်၊ ဤသည်ထက်ပို၍ လာပြန်သော် (၁၅၀) ကောင်အထက် စာရင်းတိုင်း ပေးဆောင်ရမည်။

မတ်စ်အလဟ်ပြဿနာ။ ။ကုလားအုတ်၏ ဇကာတ်တွင် ကုလားအုတ်ကိုပေးရာ၌ အမကိုပေးရမည်၊ သို့သော် တန်ဖိုးတွင် အထီး နှင့် အမမှာ အတူတူဖြစ်သော် အထီးကိုလည်း ပေးနိုင်သည်။

အလ်မွခ်တစွာရ်လင်လ်ဘာဂ်ဒါဒီကျမ်း ၃၇၊၃၀။
ရှရ်ဟွတ်ဓာန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၁၊၁၃၂။

# နွား နှင့် ကျွဲ၏ နေဆွားဗ် အကြောင်း

နွားနှင့်ကျွဲမှာ တစ်မျိုးတည်းဖြစ်သည်၊နေဆွားဗ် သတ်မှတ်ချက်မှာလည်း အတူတူပင်ဖြစ်သည်၊ အကယ်၍ နွားနှင့်ကျွဲကိုပေါင်းစပ်က နေဆွားဗ် ပြည့်မည်ဆိုလျှင် ပေါင်းပစ်ရမည်၊ ဥပမာ နွားအကောင် (၂၀) ရှိပြီး၊ ကျွဲ (၁၀) ကောင်ရှိလျှင် အကောင် (၃၀) ဖြစ်၍ နေဆွားဗ် ပြည့်သွားသည်၊ ဇကာတ်ပေးရာတွင် အရေအတွက်တွင် များသောအကောင်ကိုပေးရမည်၊ နွားကများလျှင် နွားကိုပေးရမည်၊ ကျွဲကများလျှင် ကျွဲကိုပေးရမည်၊ ကောင်ရေမှာ အတူတူဖြစ်နေသော် အမျိုးကောင်းပြီး အဖိုးနည်းသောအကောင် အမျိုးညံ့ပြီး အဖိုးများသောအကောင်ကို ပေးရမည်။

သို့ရှိရာ ကျွဲ,နွားအကောင် (၃၀) တွင် တစ်နှစ်သား ကျွဲကလေး၊ သို့တည်းမဟုတ် နွားကလေးတစ်ကောင် အထီးဖြစ်စေ၊ အမဖြစ်စေ ပေးရမည်၊အကောင်(၃၀)လျော့လျှင် ဇကာတ်မထိုက်ပေ၊ (၃၀) ထက်ပို၍ (၃၉) ထိရှိသော်လည်း အပိုတွက် မပေးရပေ၊ ကျွဲ, နွား(၄၀)တွင်(၂) နှစ်သားအရွယ် ကျွဲကလေးဖြစ်စေ၊ နွားကလေးဖြစ်စေ၊အထီးဖြစ်စေ အမ ဖြစ်စေ တစ်ကောင်ပေးရမည်၊ (၄၁) ကောင်မှ(၅၉) ကောင်ထိ အပိုတွက်မပေးရ၊ အကောင် (၆၀) ပြည့်လျှင် တစ်နှစ်သားအရွယ် (၂) ကောင်ပေးရမည်။

အကောင် (၆၀) ထက်ပိုသွားလျှင် (၃၀) တိုင်းတွင် တစ်နှစ်သားအရွယ် တစ်ကောင်၊ (၄၀) တိုင်းတွင် (၂) နှစ်သားအရွယ်တစ်ကောင်ပေးရမည်၊ ဥပမာ အကောင် (၇၀)ပြည့်သွားလျှင် တစ်နှစ်သားအရွယ် တစ်ကောင်နှင့် (၂)နှစ်သားအရွယ်တစ်ကောင် ပေးရမည်၊ အဘယ့်ကြောင့်ဆိုသော် (၇၀) တွင် (၃၀)က နေဆွားဗ်တစ်ခု၊ (၄၀)က နေဆွားဗ်တစ်ခုဖြစ်သည်၊ အကောင် (၈၀) ဖြစ်လာလျှင် (၂) နှစ်သားအရွယ် (၂) ကောင်ပေးရမည်၊ အဘယ့်ကြောင့်ဆိုသော် (၈၀)တွင် (၄၀) နေဆွားဗ်နှစ်ခုဖြစ်သည်၊ အကောင် (၉၀) တွင်တစ်နှစ်သားအရွယ် (၃) ကောင်ပေးရမည်၊ အဘယ့်ကြောင့်

ဆိုသော် (၉၀) တွင် (၃၀) ၃-လီ နေဆွားဗ် ဖြစ်သည်၊ ၎င်းအကောင် (၁၀၀) တွင် တစ်နှစ်သားအရွယ် (၂) ကောင်နှင့် (၂) နှစ်သားအရွယ်တစ်ကောင်ပေးရမည်၊ အဘယ့် ကြောင့်ဆိုသော်(၁၀၀) တွင်(၃၀)နေဆွားဗ်နှစ်ခုနှင့် (၄၀) နေဆွားဗ် တစ်ခုဖြစ်သည်။

နေဆွားဗ်တွင် အမျိုးမျိုး ထွက်ရှိလာသော် ဥပမာ အကောင် (၁၂၀) တွင် (၃၀) နှင့်တွက်လျှင် နေဆွားဗ်(၄)ခု၊ (၄၀) နှင့်တွက်လျှင်နေဆွားဗ်(၃)ခုဖြစ်လေရာ စိတ်အလိုရှိသလိုတွက်ပြီး ပေးနိုင်သည်၊ (၃၀) ကိုယူ၍ တစ်နှစ်သား (၄) ကောင်ပေး သည်ဖြစ်စေ၊ (၄၀) ကိုယူ၍ (၂)နှစ်သား (၃) ကောင်ပေးသည်ဖြစ်စေ အတူတူပင် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၃၊၂၄။

# သိုး, ဆိတ်၏ နေဆွားဗ် အကြောင်း

ဇကာတ်ထိုက်ရာတွင် သိုး, ဆိတ်အတူတူဖြစ်သည်'ဒွန်ဘာ'ဟုခေါ်သောသိုးမြီးရှေ နှင့် အမြီးတိုမှာလည်း အတူတူဖြစ်သည်၊ အကယ်၍သိုး, ဆိတ်မှာ တစ်သီး တစ်ခြားစီ နေဆွားဗ် ပြည့်လျှင် နှစ်မျိုးစလုံးအတွက် ဇကာတ်ကို ပေါင်းစပ်၍ပေးရမည်၊အားလုံးကို ပေါင်း၍ နေဆွားဗ်တစ်ခုဟု ယူဆရမည်။

မှတ်ချက်။ ။ဤမတ်စ်အလဟ်ကို ဆန်းစစ်၍ သိရသည်မှာ တင်ပြပါ အဖြစ်၌ ပေါင်းစပ်ထားသည်ကို တစ်မျိုးတည်းဟုယူဆပြီး တစ်မျိုးတွင် ဇကာတ်ထိုက်သည်အတိုင်း နှစ်မျိုး ပေါင်းစပ်ထားသည့်အပေါ်တွင် ထိုက်လေသည်၊ ပမာဆိုသော် ဆိတ်အကောင် (၄၀)နှင့် သိုးအကောင် (၄၀) ကို ဆိတ်အကောင်(၈၀)ရှိသည်၊၎င်းသိုးအကောင်(၈၀) ရှိသကဲ့သို့ပင် ဖြစ်သည်၊ နေဆွားဗ် နှစ်ခုဟုမယူဆပေ၊ ဇကာတ်ပေးရာတွင် တစ်ကောင်ပင် ပေးရမည်၊ သို့သော် ဆိတ်ကိုပေးလျှင် အညံ့ပေးရမည်၊ သိုးကိုပေးလျှင် အကောင်းစား ပေးရမည်၊ အချုပ်မှာ ဆိတ် (၄၀)၊ သိုး (၄၀) ရှိသည်ကို နေဆွားဗ် နှစ်ခုဟု မယူဆရ နှစ်ကောင် ဇကာတ်မပေးရ၊ တစ်ကောင်တည်းပင် ပေးရမည်၊ (အလ်မွှဂ်တနင်မ်ဖွီဇကာ တင်လ်ဂနမ်) ကျမ်းတွင် အကျယ်တစ်ဝင့် ပါရှိသည်။

အကယ်၍ နှစ်မျိုးအနက် တစ်မျိုးမှာ နေဆွားဗ် မပြည့်မူနှစ်မျိုးစလုံးကို ပေါင်း စပ်၍ ပြည့်မည်ဆိုက ပေါင်း၍တွက်ရမည်၊ ပေါင်းရာတွင် ဆိတ်ကများသော် ဆိတ်ကို ပေးရမည်၊ သိုးကများသော် သိုးကိုပေးရမည်၊ နှစ်မျိုးစလုံးမှာ ကောင်ရေတူညီနေလျှင် ကြိုက်ရာကို ပေးနိုင်သည်။

သိုး,၎င်းဆိတ်သည် အကောင်(၄၀)ထက်လျော့ရှိလျှင်ဇကာတ်မထိုက်ပေ၊အကောင် (၄၀) ရှိက ဆိတ်ဖြစ်သော် ဆိတ်တစ်ကောင်၊ သိုးဖြစ်သော် သိုးတစ်ကောင်ပေးရမည်၊

အကောင် (၄၀) အထက် (၁၂၀) ထိပိုသည်ကို ဇကာတ်မပေးရ၊ (၁၂၁) ကောင် ဖြစ်လာမှု ဆိတ် (၂) ကောင်၊ သို့တည်းမဟုတ် သိုးနှစ်ကောင်ပေးရမည်၊ (၁၂၂) ကောင်မှ (၂၀၀) ထိ ပိုသည့်အတွက် မပေးရ၊ (၂၀၁) ကောင်ရှိသောအခါ ဆိတ် (၃) ကောင် သို့တည်းမဟုတ် သိုး (၃) ကောင်ပေးရမည်၊ ၎င်း (၃၉၉) ကောင်ထိ ပိုသည်ကိုမပေးရ၊ (၄၀၀) ပြည့်သောအခါ ဆိတ် (၄) ကောင်၊ သို့တည်းမဟုတ် သိုး (၄) ကောင်ပေးရမည်၊၎င်း (၄၀၀) ကပိုလာလျှင် (၁၀၀) တွင် တစ်ကောင်ကျပေးသွားရမည်၊ (၁၀၀) ထက်လျော့နေသေးလျှင် ထိုအတွက်မပေးရသေးပေ၊ (၁၀၀) ပြည့်မှသာလျှင် ပေးရမည်။

မတ်စ်အလဟ်။ ။သိုး, ဆိတ်၏ ဇကာတ်တွင် အထီး, အမ ဟူ၍ ခွဲခြားခြင်းမရှိ၊ ပေးလိုသည်ကို ပေးနိုင်သည်၊ သို့သော် သိုး, ဆိတ်သည် တစ်နှစ်သားထက် မငယ်စေရပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၃။

# ဇကာတ်၏ အမျိုးမျိုးသော မတ်စ်အလဟ်များ

## အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဟရာမ် ပစ္စည်းကို ဟလာလ်ပစ္စည်းနှင့် ရောလိုက်လျှင် အားလုံးအတွက် ဇကာတ် ထုတ်ရမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၁၃၄။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် ဇကာတ် ထိုက်ပြီးနောက် မထုတ်ရသေးမီ သေဆုံးသွားလျှင် ထိုသူ့ပစ္စည်းမှ ဇကာတ်ငွေမယူ၊ ဟုတ်ပါ၏၊ ၎င်းက မှာကြား 'ဝစ္စီယတ်' ပြု၍သွားလျှင် ထိုသူပိုင်ပစ္စည်း၏ သုံးပုံတစ်ပုံမှ ထုတ်ယူမည်၊ ၎င်းသုံးပုံတစ်ပုံသည် ဇကာတ် ငွေအတွက် မလုံလောက်သော်လည်း ထိုမျှခန့်ပင် ယူရမည်၊ အကယ်၍ ၎င်း၏ အမွေစားများက သုံးပုံ့တစ်ပုံထက် ပို၍ ပေးရန် သဘောတူကြလျှင် ၎င်းတို့သဘောနှင့် ပေးသည်ခန့်ယူရမည်။

ဒွရ်ရေ့မုခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၃၇၊၃၈။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်နှစ်ပြည့်ပြီးနောက် ကြွေးရှင်က မိမိရရန်ငွေကို မယူတော့ဟုဆိုလျှင် ထိုကြွေးရှင်သည် ထိုငွေအတွက်ပေးရန် ဇကာတ်ကိုထုတ်ရန် မလိုပေ၊ ဟုတ်ပါ၏ အကယ်၍ ခွင့်လွှတ်ခြင်း ခံရသူသည် ပစ္စည်းကြွယ်ဝသူ ဖြစ်လျှင် ထိုခွင့်လွှတ်မှုမှာ ပစ္စည်းကို တမင်ဆုံးရှုံးစေခြင်းဟု ယူဆရမည်၊ ၎င်းကြွေးရှင်သည် ထိုငွေအတွက် ဇကာတ် ပေးရမည်၊ အဘယ့်ကြောင့်ဆိုသော် ဇကာတ် ထိုက်သော ပစ္စည်းကို ဆုံးရှုံးအောင် ပြုခြင်းဖြင့် ဇကာတ် ထိုက်သည်မှာ တာဝန်မကျပေ၊ ပေးဆောင်ရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ဖွရိသ္ ဝါဂျစ်ဗ် အပြင် အခြားသော 'ဆွဒကဟ်' လှူဒါန်းခြင်းသည် မိမိအတွက် ဇနီး,သား,သမီး များအတွက် လိုအပ်မှုမှ ပိုရှန်သောအခါ၌သာ လှူဒါန်းခြင်း မုသ်တဟာဗ် ဖြစ်သည်၊ ဤသို့ပင် ပစ္စည်းအားလုံးကို ဆွဒကဟ်လှူဒါန်း ပစ်ခြင်းလည်းမတ်ကရူးဟ် ဖြစ်သည်၊ အကယ်၍မိမိကိုယ်တိုင်'တဝပ်ကကွလ်'သည်းခံမျိုသိပ် နေရန် စွမ်းအားရှိသည်ကို ယုံကြည်ပြီး သားမယားလည်း ဒုက္ခမဖြစ်နိုင်မူပစ္စည်းအားလုံး ကို လှူပစ်ခြင်းသည် မတ်ကရူးဟ် မဖြစ်သာမက ပို၍ပင်ကောင်းသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၉၆၊၉၇။

၅။ မတ်စ်အထဟ်ပြဿနာ။ အကယ်၍ အရွယ်မရောက်သေးသောမိန်းကလေးကို နေကာဟ်ပြုပေးလိုက်ပြီး ခင်ပွန်းအိမ်သို့ ထည့်လိုက်လျှင် ၎င်းမိန်းကလေးတွင် ကိုယ်ပိုင် ပစ္စည်းရှိပါက ထိုပစ္စည်းမှ 'ဆွဒကဟ် ဖွစ်တ်ရ်' ပေးရမည်၊ အကယ်၍ ကိုယ်ပိုင်ပစ္စည်း မရှိလျှင် ကြည့်ရမည်မှာ အကယ်၍ မိန်းကလေးသည် ခင်ပွန်းသည်အား ဝတ်ကြီး,ဝတ်ငယ် ပြုနိုင်လျှင်လည်းကောင်း၊ သံဝါသမှုကို ခံယူနိုင်လျှင် လည်းကောင်း 'ဆွဒကဟ်ဖွစ်တ်ရ်' သည် ထိုမိန်းကလေးအပေါ်မထိုက်၊ ဖခင်အပေါ်နှင့် ခင်ပွန်းအပေါ်မှာလည်း မထိုက် ပေ၊ အကယ်၍ ထိုမိန်းကလေးသည် ဝတ်ကြီး,ဝတ်ငယ်နှင့် သံဝါသမှုကို မခံယူနိုင်လျှင် ဆွဒကဟ် ဖွစ်တ်ရ် ကို ဖခင်ကပေးရန် ဝါဂျစ်ဗ် ဖြစ်သည်၊ အကယ်၍ခင်ပွန်းအိမ်သို့ မထည့် ရသေးသော် မိန်းကလေးသည် ဝတ်ကြီး,ဝတ်ငယ်နှင့် သံဝါသမှု ခံနိုင်ရည်ရှိသော်လည်း ထိုမိန်းကလေးအတွက် ဆွဒကဟ် ဖွစ်တ်ရ်ကို ဖခင်ကပေးရန် ဝါဂျစ်ဗ် ဖြစ်လေ၏။

ရှာမီကျမ်း အတွဲ- ၂၊ စာမျက်နှာ-၁၀၁။

ဤတွင်၍ကား 'ဘဟာစ်ရှိတီဇေဝရ်ကျမ်း' တူတိယတွဲ၏

နောက်ဆက်တွဲ ပြီး၏။

စတုတ္ထတွဲ၏ နောက်ဆက်တွဲမပါ၊ ပဥ္စမတွဲ၏ နောက်ဆက်တွဲကို ဆိုပေအံ့

# ဘဟစ်ရှိတီဇေဝရ်ကျမ်း ပဥ္စမတွဲ၏ နောက်ဆက်တွဲ

## ဆံမင်နှင့်ပတ်သက်သော ပြဿနာချက်များ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ ဆံပင်သည် ခေါင်းတစ်ခုလုံးတွင် နားနုထိ ရှိခြင်း၊ သို့မဟုတ် ထိုထက် အနည်းငယ် အောက်ကျခြင်းတို့မှာ စွန္နတ် ဖြစ်သည်၊ အကယ်၍ ရိတ်လျှင် တစ်ခေါင်းလုံးရိတ်ပစ်ခြင်း စွန္နတ် ဖြစ်သည်၊ ဖြတ်လျှင်လည်း အားလုံး အညီအမျှ ဖြတ်ရမည်၊ ယခုခေတ် ဖက်ရှင်ကဲ့သို့ဖြတ်၍ ရှေ့ပိုင်း အရှေထားခြင်းသည် မပိုင်ပေ၊ ဤသို့ပင် အချို့ကိုရိတ်၍ အချို့ချန်ထားခြင်း မပိုင်ပေ၊ ဤသို့ဖြင့် သိရသည်မှာ ယခုခေတ်တွင် ဘိုကေထားခြင်း၊ ကွက်တိကွက်ကြားထားခြင်း၊ ရှေ့ပိုင်းဆံပင်ချည့်ဦးဆံမုတ်နဘန်းဆံထားခြင်းများသည် မပိုင်ပေ။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ ဆံပင်ကို အရှည်ထားသော အမျိုးသမီးများကဲ့သို့ ဖွတ်မြီးကျစ်ခြင်း မပိုင်ပေ။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၃။ မတ်စ်အလဟ်ပြဿနာ။ အမျိုး သမီးသည် ဆံပင်ရိတ်ခြင်း၊ ဆံပင်ဖြတ်ခြင်း ဟရာမ် ဖြစ်သည်၊ ဟဒီးသ်တော်၌ လအ်နတ်ဟု လာရှိသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၅၀။

၄။ မတ်စ်အလဟ်ပြဿနာ။ နှုတ်ခမ်းမွေးကို နခမ်းနှင့် အညီထား၍ ဖြတ်ခြင်းသည် စွန္နတ် ဖြစ်သည်၊ နှုတ်ခမ်းမွေးကို ရိတ်ပစ်ရာတွင် ကွဲလွဲမှုရှိသည်၊အချို့ကဗိဒအတ်ဟုဆိုသည်၊ အချို့က ရိတ်ပိုင်ခွင့် ပေးကြသည်၊ ထို့ကြောင့် (အဲဟ်တေယားတွ) ရှောင်ရှားသောသဘောအရ မရိတ်ခြင်းက ကောင်းသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၀။

၅။ မတ်စ်အလဟ်ပြဿနာ။ နှုတ်ခမ်းမွေးကို ဘေးနှစ်ဘက်မှ အရှည်ထားပြီး ပါးစပ်နေရာတွင် အရှည်မထားမှု ပိုင်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၆။ မတ်စ်အလဟ်ပြဿနာ။ မုတ်ဆိတ် ရိတ်ခြင်း၊ ဖြတ်ခြင်း ဟရာမ် ဖြစ်သည်၊ သို့သော် လက်တစ်ဆုပ်ထက် ရှည်သည်ကို ဖြတ်ပစ်နိုင်သည်၊ ဤသို့ပင်ဘက်ဟူသမျှ ညီသွားအောင် ကြည့်ကောင်းအောင် ညှိပေးခြင်း ပြုပိုင်သည်။

ဒွရ်ရေ့မုခ်တာရ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၁၅၂။

၇။ မတ်စ်အလဟ်ပြဿနာ။ ပါးမိုးပေါ်သို့ ပေါက်လာသည်များကို ရိတ်ပစ်ခြင်း ပိုင်သည်၊ ဤသို့ပင် မျက်ခုံးမွှေးမှာ တစ်ခုနှင့်တစ်ခု ဆက်သွားသော် ပြုပြင်နိုင်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၈။

၈။ မတ်စ်အလဟ်ပြဿနာ။ လည်ပင်းမှ အမွှေးများကို ရိတ်ရန် မထိုက်ပေ။ သို့သော် အေမာမ်အဘူယူစွဖ် (ရဟမတွလ္လာတ်) သခင့်ထံတွင် ရိတ်ပိုင်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၈။

၉။ မတ်စ်အလဟ်ပြဿနာ။ နှုတ်ခမ်းအစွန် နှစ်ဘက်အောက်မှ အမွှေးကို ရိတ်ခြင်း'ဖွေကဟ်'ကျမ်းရှင်များက'ဗိဒအတ်'ဟု ရေးကြသည်၊ ထို့ကြောင့်ရိတ်ရန် မထိုက်ပေ ဤသို့ ဂုတ်ဆက်မွှေးရိတ်ခြင်းကို 'ဖွေကဟ်'ကျမ်းရှင်များက 'မတ်က်ရူးဟ်'ဟု ရေးသားကြသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၁၀။ မတ်စ်အလဟ်ပြဿနာ။ လှပစေရန်အတွက် ဖြူသောဆံပင်ကို မနှုတ်ပိုင်၊ သို့သော် ကာဖွင်ရ်နှင့် စစ်တိုက်သူသည် ရန်သူကို ကြောက်စေရန်အတွက် ဆံပင်ဖြူကို နှုတ်လျှင် ပိုင်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၁၁။ မတ်စ်အလဟ်ပြဿနာ။ နှာခေါင်းမွှေးကို နှုတ်ရန်မထိုက်၊ ကပ်ကျေးဖြင့် ဖြတ်ပစ်ရန် ထိုက်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၉။

၁၂။ မတ်စ်အလဟ်ပြဿနာ။ ရင်နှင့် ကျောမွှေးများ ရိတ်ပိုင်သည်၊ သို့သော် မရိတ်ခြင်းက ကောင်းသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၄၅၉။

၁၃။မတ်စ်အလဟ်ပြဿနာ။ ယောကျ်ားသည် ချက်အောက်မွှေး ရိတ်ရာ၌ သင်တုံးဓားနှင့်ရိတ်က ကောင်းသည်၊ ရိတ်သောအခါ ချက်အောက်မှစ၍ ရိတ်ရမည်၊ အမွှေးကျွတ်ဆေး စသည် သုံးခြင်းလည်းပိုင်သည်၊ ဇင်းအမျိုးသမီးများသည် စွနှတ်တော် နည်းအရ ဇာဂနာ စသည်ဖြင့် နှုတ်ရမည်၊ ဓားနှင့်မရိတ်ရ။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၈။

၁၄။ မတ်စ်အလာဟ်ပြဿနာ။ ဂျိုင်းမွှေးကို ဇာဂနာစသည်ဖြင့် နုတ်ခြင်းကောင်းသည်၊ ဓားဖြင့် ရိတ်လျှင်လည်း ပိုင်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၁။

၁၅။ မတ်စ်အလာဟ်ပြဿနာ။ ထို့ပြင် တစ်ကိုယ်လုံးရှိ အမွှေးများကို ထားခြင်း ရိတ်ခြင်းများ ပိုင်သည်။

၁၆။ မတ်စ်အလာဟ်ပြဿနာ။ ခြေသည်း ဖြတ်ခြင်းလည်း စွန္နတ်ဖြစ်သည်၊ သို့သော်.... မို့ဂျာဟစ်ဒ်ကာဖွစ်ရ်နိုင်ငံရှိ စစ်သည်တော်မှာ ခြေသည်း, လက်သည်း နှင့် နှုတ်ခမ်းမွှေး မရိတ်ဖြတ်ခြင်းက မွတ်စ်တဟာဗ် ဖြစ်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၅၊ စာမျက်နှာ-၂၄၉။

၁၇။ မတ်စ်အလာဟ်ပြဿနာ။ လက်သည်းဖြတ်ရာ၌ ကောင်းသောနည်းလမ်းမှာ ညာဘက်လက်မမှ အစပြု၍ လက်သန်းတွင် အဆုံးသပ်ရမည်၊ ၎င်းခြေသည်း ဖြတ်ရာတွင် ညာဘက်ခြေသန်းမှစ၍ အစဉ်အလိုက် ဖြတ်သွားခြင်းတို့သည် အကောင်းဆုံး ဖြစ်သည်၊ ဤသည်နှင့် ကွဲလွဲစွာ ဖြတ်လျှင်လည်း ပိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၅၀။

၁၈။ မတ်စ်အလာဟ်ပြဿနာ။ ဖြတ်ပြီးသော ခြေသည်း, လက်သည်းနှင့် ဆံပင်များကို မြေမြှုပ်ပစ်ရန်ထိုက်သည်၊ မြေမမြှုပ်လျှင်လည်း လုံခြုံသောနေရာ၌ ထားခြင်း လည်းပိုင်သည်၊ သို့သော် မသန့်သော နံစော်သော နေရာ၌မထားရ၊ ထားခဲ့သော်ရောဂါ ဖြစ်မည်ကို စိုးရိမ်ရသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၇။

၁၉။ မတ်စ်အလာဟ်ပြဿနာ။ လက်သည်းကို သွားဖြင့် ကိုက်ဖြတ်ခြင်း 'မတ်ကာရူးဟ်' ဖြစ်သည်၊ ထိုသို့ဖြတ်ခြင်းဖြင့် ခရုသင်းရောဂါ ဖြစ်မည်ကို စိုးရိမ်ရသည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၇။

၂၀။ မတ်စ်အလာဟ်ပြဿနာ။ 'ဂျနာဗတ်' ကိုယ်မသန့်သောအဖြစ်၌ ဆံပင်ရိတ် ဖြတ်ခြင်း၊ ခြေသည်း, လက်သည်းဖြတ်ခြင်း၊ ချက်အောက်မွှေးစသည် ရိတ်ခြင်းတို့သည် မတ်ကရူးဟ် ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၇။

၂၁။ မတ်စ်အလာဟ်ပြဿနာ။ ရက်တစ်ပတ်လျှင် တစ်ကြိမ်၊ ချက်အောက်မွှေး၊ ဂျိုင်းမွှေး၊ နှုတ်ခမ်းမွှေး၊ ခြေသည်း,လက်သည်း စသည်များဖြတ်၍ ရေချိုးကာ သန့်သန့် ရှင်းရှင်းနေခြင်းမွန်မြတ်သည်၊ဂျုမ္မိုအဟ်သောကြာနေ့မှာပြုခြင်းကောင်းသည်၊အားလုံး ကိစ္စများပြီးစီး၍ ဂျုမ္မိုအဟ်'နမာဇ်' ဖတ်ရန်သွားရမည်၊ ရက်တစ်ပတ်တွင် တစ်ကြိမ်မပြု

နိုင်က (၁၅) ရက်တွင် တစ်ကြိမ်ပြုရမည်၊ နောက်ဆုံးရက် (၄၀) တွင်တစ်ကြိမ်ပြုရမည်၊ ထို့ထက်နောက်ကျ၍ပြုလျှင်အပြစ်ဖြစ်သည်၊ အကယ်၍ရက် (၄၀) ပြည့်သွားသော်လည်း ရိတ်ဖြတ်ခြင်းများမပြုမှု 'ဂိုနာဟ်ဂါရ်'ဖြစ်သည်။

ဒွုရ်ရေ့မွခ်တာရ်ကျမ်း၊ အတွဲ- ၂၊ စာမျက်နှာ-၂၅၀။
ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၃၅၀။

## ရှုဖ္ဖ်အဟ် အကြောင်း

တစ်ဦးသောသူ၏ ပတ်ဝန်းကျင်ရှိမြေ၊ အဆောက်အအုံကို ပိုင်ရှင်က ရောင်းလိုသော အခါဆက်ကပ်နေသူအား ရောင်းရမည်၊ ဆက်ကပ်နေသူသည် ရောင်းသည်ကို ဝယ်ပိုင်ခွင့် အရှိဆုံးသူဖြစ်သည်၊ ဤသည်ကို 'ရှုဖ္ဖ်အဟ်' ဟု ခေါ်သည်၊ဆက်ကပ်နေသူက မဝယ်မှသာ ပိုင်ရှင်သည် အခြားသူကို ရောင်းနိုင်သည်။ (မူစာ)

၁။ မတ်စ်အလဟ်ပြဿနာ။ ရောင်း ဝယ် ကြောင်း သတင်း ကြားသောအခါ မောင်နီက ချက်ချင်း ကျွန်ုပ် ရှုဖ်အဟ် ယူမည်ဟုမပြောလျှင် ရှုဖ်အဟ် ဝယ်ပိုင်ခွင့် ပျက်သွားသည်၊ ထို့နောက် ကျွန်ုပ်ကိုမှ ရောင်းရမည်ဟု အရေးဆိုပိုင်ခွင့်မရှိပေ၊ မောင်နီထံတွင် စာရောက်လာသည်၊ စာ၌မည်သည့်အိမ် ရောင်းသည်ဟု ပါရှိရာ မောင်နီက နှုတ်ဖြင့် မပြောဘဲ စာဆုံးအောင်ဖတ်လိုက်သည်၊ စာဆုံးမှ ကျွန်ုပ်'ရှုဖ်အဟ်' ယူမည်ဟု ပြောလျှင် မရပေ၊ 'ရှုဖ်အဟ်' ပျက်သွားသည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၃၇၆။

၂။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ မောင်နီက ကျွန်ုပ်ကိုမည်မျှငွေပေးလျှင် မကန့်ကွက်ဟု ဆိုခဲ့သော် 'ရှုဖ်အဟ်' မှာ ပျက်သွားသည်၊ သို့သော်ဤသို့ယူခြင်းမှာ လာဘ်ယူခြင်းဖြစ်၍ 'ဟရာမ်' အပြစ်ဖြစ်သည် မယူပိုင်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၃၉၀။

၃။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'ဟာကင်မ်' အာဏာပိုင်က 'ရှုဖ်အဟ်' ဝယ်ယူခွင့်မပေးမီ မောင်နီသည် သေဆုံးသွားသော် မောင်နီ၏ အမွေစားများမှာ 'ရှုဖ်အဟ်' ပိုင်ဆိုင်ခွင့် မရှိပေ၊ အကယ်၍ အခြားဝယ်သူသည် မဝယ်ဖြစ်မီသေဆုံးခဲ့သော်'ရှုဖ်အဟ်' ကျန်ရှိလေ၏။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၃၉၀။

၄။ မတ်စ်အလဟ်ပြဿနာ။ ရောင်းမှန်းသိလျက်နှင့် မောင်နီသည် ဈေးမလိုက်နိုင်၍ လက်လျှော့နေခဲ့သည်၊ ထို့နောက် ပိုင်ရှင်က ဈေးလျှော့၍ ရောင်းကြောင်း သိသောအခါ 'ရှုဖ်အဟ်' ကျန်ရှိသည်၊ ထိုဈေးနှင့် မောင်နီက ဝယ်မည်ဆိုသော် မောင်နီကိုသာ ရောင်းရမည်။

ဤသို့ပင် ပထမ မော်င်ဖြူ၀ယ်မည်ဟု သိရပြီး မော်င်နက်က ၀ယ်သည်၊ ၎င်းတစ်၀က်ပင် ရောင်းမည်ဟုသိရပြီး အားလုံးကို ရောင်းကြောင်းသိလျှင် ဤအဖြစ်များ၌ ပထမ မ၀ယ်တော့ဟု ဆိုသည်မှာပျက်၍ 'ရှုဖ်အာယ်' ကျန်ရှိနေပေသည်။

ရှုရိဟွတ်တန်စီးရ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၁၅။

# မို့ဇာရအတ်နှင့်မို့စာကာတ် အကြောင်း

၁။ မတ်စ်အလယ်ပြဿနာ။ တစ်ဦးသောသူက မိမိပိုင်မြေကို တစ်ဦးအား လုပ်စေ၍ ထွက်သော သီးနှံကို မည်သို့ ခွဲဝေယူကြမည်ဟု သဘောတူလျှင် ဤသည်မှာ မို့ဇာရအတ် ဖြစ်သည်၊ ၎င်းပိုင်သည်။

ရှုရိဟ်ဝေကာယ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၇။

၂။ မတ်စ်အလယ်ပြဿနာ။ တစ်ဦးသောသူက ဥယျာဉ် ၀ယ်သည်၊ (တည်ထောင်သည်) ၎င်းတစ်ဦးသောသူကိုပြောသည်၊ သင် ဤဥယျာဉ်ကို ပြုစုဂရုစိုက်ပါ၊ (၁)နှစ်၊ (၂) နှစ်၊ ၎င်း (၁၀) နှစ်၊ (၁၂) နှစ်တွင် သီးပွင့်လာသောအခါ တစ်ဝက်စီ ၎င်းသုံးပုံ တစ်ပုံယူမည်ဟုပြောလျှင် ဤသည်မှာ မို့စာကာတ် ဖြစ်သည်၊ ၎င်းပိုင်သည်။

ဒွရ်ရေမွခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၅၅။

၃။ မတ်စ်အလယ်ပြဿနာ။ 'မိုဇာရအတ်' ပိုင်ရန်မှာအောက်ပါ ရှုရတ္ထ များနှင့် ကိုက်ညီရမည်၊ (၁) မြေသည် လယ်လုပ်နိုင်သော အခြေရှိရမည်၊ (၂)မြေရှင်နှင့် လုပ်သားမှာ အရွယ်ရောက်သူ၊ အသိဉာဏ်ရှိသူများ ဖြစ်ရမည်၊ (၃) လယ်လုပ်မည့် ရက်ပိုင်းကို ပြောပြရမည်၊ (၄) မျိုးစေ့မှာ မြေရှင်ကပေးမည်၊ လုပ်သားက စိုက်ထုတ်ရမည်ကို သတ်မှတ်ရမည်၊ (၅) ဂျုံလော့၊ ဂျုံသေး၊ (ဂျောင်) လော့ဟူသည့် စိုက်မည့်အမျိုး သတ်မှတ်ရမည်၊ (၆) လုပ်သားအတွက် ထွက်သည်တွင် မည်မျှရမည်ကို သတ်မှတ်ရမည်၊ (၇) မိမိပစ္စည်းများရှိသည်ကို ဖယ်ရှားယူပြီး မြေကို လုပ်သားလက်သို့ အပ်ရမည်၊ (၈) မြေမှထွက်သော သီးနှံမှာ မြေရှင်နှင့် လုပ်သား နှစ်ဦးပိုင်ဖြစ်ရမည်၊ (၉) မြေနှင့် မျိုးစေ့တစ်ဦးက ဖြစ်ပြီး၊ ကျွဲ, နွားနှင့် လုပ်အား စသည် တစ်ဦးက ဖြစ်ရမည်၊ ၎င်းတစ်ဦးက မြေသက်သက် ပေး၍ ကျန်အရာများ တစ်ဦးက စိုက်ရမည်ဟု ခွဲခြား သတ်မှတ်ရမည်။

ရှုရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၈။

၄။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ တင်ပြပါ 'ရှုရတ္ထ' စည်းကမ်းသတ်မှတ်ရမည့် အချက်များအနက် အချို့မှာ မပါရှိ၊ မသတ်မှတ်လျှင် 'မို့ဇာရအတ်' ပျက်သည်၊ မပိုင်ပေ။

ရှုရိဟွတ်တန်စီးရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၂၃။

၅။ မတ်စ်အလဟ်ပြဿနာ။ 'မို့ဇာရအတ်' ပျက်သွားသောအခါ၌ ထွက်သော သီးနှံအားလုံးသည် မျိုးစေ့ရှင်ပိုင် ဖြစ်သည်၊ တစ်ဦးက မြေရှင်ဖြစ်လျှင် ထုံးစံအရ မြေငှားခရမည်၊ မျိုးစေ့မှာ မြေရှင်ပိုင်ဖြစ်လျှင် လုပ်သားမှာ ထုံးစံအတိုင်း လုပ်ခရမည်၊ သို့သော် ဤငှားခနှင့် လုပ်ခသည် ယခင်က နှစ်ဦး သတ်မှတ်ထားသည်ထက် ပိုမသွားစေရပေ၊ ဥပမာ အကယ်၍ တစ်ဝက်စီ သတ်မှတ်ထားလျှင် တစ်ဝက်ထက် ပို၍မပေးရပေ။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၄၁၁၊၄၁၂။

၆။ မတ်စ်အလဟ်ပြဿနာ။ 'မိုဇာရအတ်' ပြုပြီးနောက် နှစ်ဦးအနက်တစ်ဦးက 'ရှရတွ' သတ်မှတ်ထားသည့် အချက်အတိုင်း မလုပ်ဟု ငြင်းခဲ့သော် အဓမ္မလုပ်စေရမည်၊ သို့သော် အကယ်၍ မျိုးစေ့ပေးသူက ငြင်းခဲ့သော် အဓမ္မ မပြုပိုင်ပေ။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၉။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ် သတ်မှတ်ကြသူ နှစ်ဦးအနက် တစ်ဦးဦး သေဆုံးသွားလျှင် 'မို့ဇာရအတ်' ပျက်သွားသည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၄၊စာမျက်နှာ-၂၉၊

၈။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ သတ်မှတ်ထားကြသော ရက်တွင် သီးနှံမှာ မမှည့်သေးမူ လုပ်သွားသည်ထိုဒေသ၏ ထုံးစံအရ လွန်သွားသောရက်အတွက် မြေရှင်ကို မြေခ ပေးရမည်။

ရှရ်ဟ်ဝေကာယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၉။

၉။ မတ်စ်အလဟ်ပြဿနာ။ အချို့နေရာတွင် ထုံးစံရှိသည်မှာ 'မိုဇာရအတ်' မြေ၌ထွက်သော သီးနှံကို သတ်မှတ်ထားသည့်အတိုင်း ခွဲဝေယူကြသည်၊ ကောက်ရိုးစသည်ကို မခွဲဝေသာမက လုပ်သားထံမှ တန်ဖိုးငွေယူလေသည်၊ သို့ရှိရာ အမြင်အားဖြင့် 'မို့ဇာရအတ်' နှင့် ကွဲလွဲသည် မပိုင်ဟုမြင်ရသော်လည်း ကောက်ရိုးစသည်များကို ပထမကတည်းက 'မို့ဇာရအတ်' နှင့် မဆိုင်ဟုဆိုရပေမည်၊ အပေါ်ရိကအားဖြင့်ယခင်သတ်မှတ်ခဲ့သည်မှာ နှစ်ဦးသဘောအရ မည်သည့် ကောက်ရိုးတွင် 'မိုဇာရအတ်' ပြု၍ မည်သည့် ကောက်ရိုးတွင် မြေငှားသည်ဟုဆိုလျှင် ပိုင်သည်၊ သို့သော်လည်း ဤအချက်၌ နှစ်ဦး, နှစ်ဘက် သဘောတူရန် 'ရှရတွ' စည်းကမ်းချက်ဖြစ်သည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း- အတွဲ- ၄၊ စာမျက်နှာ- ၄၁၁။

၁၀။ မတ်စ်အလဟ်ပြဿနာ။ အချို့ မြေရှင်တို့၏ အလေ့တစ်ခုမှာ မိမိအတွက် ဝေစုရပြီးနောက် လုပ်သားထံမှ မိမိ၏ အလုပ်သမားများအတွက်ဟုဆိုကာ နှုတ်ယူသည်၊ ထိုအတွက်(၂)မန်၊ရင်း(၄)မန်ယူမည်ဟုဆိုလျှင် မပိုင်ပေ၊အကယ်၍(၁)မန်လျှင် တစေးရ်

စသည်ဖြင့် ယူမည်ဟုဆိုလျှင် ပိုင်သည်၊ (ဥပမာ....၆၄-ပိဿာ၊ ၎င်း၁၂ဂ ဗိုဿာ ယူမည် ဆိုလျှင် မပိုင်၊ အကယ်၍ ၃၂-ပိဿာတွင် ဂ၀-သား ယူမည်ဟုဆိုလျှင် ပိုင်သည်။)

ဖွတာ၀ါဟင်န်ဒိယဟ်ကျမ်း။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အချို့သည် မည်သည့်အရာ စိုက်မည်ဟု မသတ်မှတ်ကြဘဲ နောက်မှငြင်းခုံကြသည်၊ ဤသို့ပြုခြင်း မပိုင်ပေ၊ မျိုးစေ့ကို ပထမကတည်းက သတ်မှတ်ရမည်၊ သို့တည်းမဟုတ် လုပ်သားကို ကြိုက်ရာစိုက်ဟု ခွင့်ပေးရမည်။

ရှာမီကျမ်း အတွဲ- ၅ စာမျက်နှာ-၂၄၀။

၁၂။ မတ်စ်အလဟ်ပြဿနာ။ အချို့နေရာတွင် ထုံးစံရှိသည်မှာ လုပ်သားသည် မျိုးကြဲပြီးနောက် အခြားသူအား လုပ်စေ၍ သုံးပုံ့တစ်ပုံ စသည် ပေးမည်ဟု ဆိုလျှင် ဤသည်လည်း မို့ဇာရအတ်ပင် ဖြစ်သည်၊ ဤကိစ္စကိုမူရင်းမြေရှင်ကကျေနပ်လျှင် ပိုင်သည်၊ မကျေနပ်ပါက မပိုင်ပေ။

ဖွတာ၀ါဟင်န်ဒိယဟ်ကျမ်း အတွဲ- ၅၊ စာမျက်နှာ-၂၅၀။

၁၃။ မတ်စ်အလဟ်ပြဿနာ။ တင်ပြပါ အချက်တွင် လွန်ခဲ့သော အချက်ကဲ့သို့ပင် ဖြစ်သည်၊ အချို့က ကောက်ရိုး၊ အမှော် စသည် လုပ်သားများအား ပေးလိုက်သည်၊ တစ်ချို့က ကေနှင့်တွက်၍ ငွေလိုပေးသည်၊ သို့ရှိရာတင်ပြခဲ့သည့်မတ်စ်အလဟ် အတိုင်း ပိုင်သွားအောင် ပြုရမည်။

၁၄။ မတ်စ်အလဟ်ပြဿနာ။ 'အောဂျာရဟ်'နှင့်'မို့ဇာရအတ်' ပြုရာတွင်(၁၂) နှစ်၊ ၎င်းထိုထက် အပိုအလျှော့ အကျိုးခံစားရပြီးနောက် ယခုခေတ်အချို့တို့ ပြုကြသကဲ့သို့ ပိုင်ဆိုင်သည်ဟု ကြွေးကြော်ခြင်းသည် မှားသည်၊၎င်း'ဟရာမ်'ဖြစ်သည်၊မတာရား အနိုင်အထက် ပြုရာရောက်သည်၊ မြေရှင်က သဘောကြည်ဖြူစွာ ခွင့်မပေးဘဲ လုံးဝယူ၍ အကျိုးခံစားခြင်း မပြုပိုင်ပေ၊ အကယ်၍ ခွင့်မပြုဘဲယူခဲ့သော် ထွက်သော ပစ္စည်းမှာ မသန့်ဖြစ်၍ ၎င်းပစ္စည်းကို စားခြင်းမှာလည်း 'ဟရာမ်' ဖြစ်သည်။

ရှာမီကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၄။

၁၅။ မတ်စ်အလဟ်ပြဿနာ။ 'မို့စာကာတ်'သည်လည်း အားလုံးအချက်များတွင် 'မို့ဇာရအတ်' ကဲ့သို့ပင် ဖြစ်သည်။

ရှရ်ဟွတ်တန်စီးရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၅၅။

၁၆။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ အသီး၊ သီးနေသော သစ်ပင်ကိုပြုစု ရန်ပေးအပ်လျှင် သစ်ပင်မှာ ရေလောင်းခြင်း ဂရုစိုက်ပြုပြင်မှု ကြီးထွားမှု ပိုင်သည်၊ အကယ်၍ သီးပွင့်သည်မှာ ပြည့်စုံနေပြီဖြစ်လျှင် 'မို့စာကာတ်' မပိုင်ပေ၊ လယ်အသင့်ဖြစ် နေပြီးမှ 'မို့ဇာရအတ်' မပိုင်သကဲ့သို့ပင် ဖြစ်သည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၂၂၆။

၁၇။ မတ်စ်အလဟ်ပြဿနာ။ 'မို့စာကာတ်' နှစ်ဦးသဘောတူသတ်မှတ်ထားချက်မှာ ပျက်ပြားသွားလျှင် အသီးများသည် သစ်ပင်ပိုင်ရှင်ပိုင်ပင် ဖြစ်သည်၊ အလုပ်လုပ်သူသည် 'မို့ဇာရအတ်' မှာကဲ့သို့ လုပ်ခတန်သည့်ခနဲ့ရမည်။

ရှရ်ဟွလ်ဘဒါယဟ်ကျမ်း အတွဲ- ၄၊ စာမျက်နှာ-၄၁၆။

## မူးယစ်စေသော အရာများ အကြောင်း

၁။ မတ်စ်အလဟ်ပြဿနာ။ မူးယစ်စေသောစီးတွေ့သော သဘာဝရှိသည့်အရည် အရက်ဖြစ်စေ၊ ထန်းရေ ထိုကဲ့သို့ အလားတူများ၊ ၎င်းတို့ကို များစွာ သောက်ခြင်းဖြင့် မူးယစ်စေလျှင် တစ်စက်သောက်လျှင် မမူးသော်လည်း ဟာရာမ်ပင်ဖြစ်သည်၊ ဤသို့ပင် ဆေး၌ထည့်သုံးခြင်း သောက်ရာမှာဖြစ်စေ၊ လိမ်းရာမှာဖြစ်စေ မသုံးပိုင်ပေ၊ ထိုသို့ဆေး၌ သုံးခြင်းဖြင့်ထိုမူးယစ်သောအရာသည် နဂိုမူလအတိုင်း ရှိသည်ဖြစ်စေ၊ အခြားအရာများ ရောသဖြင့် မူပြောင်းသွားသော်လည်း အတူတူပင်ဖြစ်သည်၊ မသုံးပိုင်ပေ၊ ဤအမိန့်ဖြင့် အင်္ဂလိပ်ဆေးများအကြောင်းကို သိရပေပြီ၊ ၎င်းဆေးများသည် အများအားဖြင့် ဤသို့ မူးယစ်စေသောအရာများ ထည့်သွင်းထားလေသည်။

မဂျ်မအွလ်အန်ဟာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၅၇၁၊၅၇၃။

၂။ မတ်စ်အလဟ်ပြဿနာ။ စီးတွေ့သော အရာမဟုတ်ဘဲ ခဲသော မူးယစ်စေသောအရာများ၊ဥပမာဆေးရွက်ကြီး၊ဇာဒိတ်ဖိုသီး၊ဘိန်းစသည်များ၏အမိန့်မှာ၎င်းကိုယ်တိုင်က မူးယစ်စေသောအခန့်ကို သုံးလျှင်လည်းကောင်း၊ အလွန်ဒုက္ခရောက်နိုင်လျှင်လည်းကောင်း၊ ထိုအခန့်သည်ဟာရာမ်ဖြစ်သည်၊ မမူးစေသောအခန့်နှင့် ဒုက္ခမပေးသော အခန့်ဖြစ်လျှင်ပိုင်သည်၊ အကယ်၍ဖရောင်းချက်လိမ်းဆေးစသည်တွင်ထည့်၍လိမ်းမှု သုံးနိုင်သည် ကိစ္စမရှိပေ။

ရှာမီကျမ်း အတွဲ- ၅၊ စာမျက်နှာ-၄၀၄၊၄၀၅။

## ဖက်စပ်ပြုလုပ်ခြင်း အကြောင်း

'ရှင်ရ်ကတ်'ဖက်စပ်ပြုခြင်းသည်နှစ်မျိုးရှိသည်၊ပထမအမျိုးမှာရှင်ရ်ကတ်အမ်လားက် ဖြစ်သည်၊ ပမာဆိုသော် တစ်ဦးသောသူ သေဆုံးသွားရာ ကျန်ပစ္စည်းများကို အမွေဆိုင်များကပိုင်ကြသည်၊ ၎င်းနှစ်ဦးသောသူကငွေစပ်၍ ပစ္စည်းတစ်ခုကိုဝယ်သည်၊ ၎င်းတစ်ဦးသောသူက လူနှစ်ယောက်ကို ပစ္စည်းတစ်ခု အခမဲ့ပေးသည်၊ ဤကိစ္စရပ်များ၏ အမိန့်မှာ တစ်ဦးသည် အခြားတစ်ဦး၏အခွင့်မရဘဲ သုံးစွဲပိုင်ခွင့်မရှိပေ။

ဒုတိယအမျိုးမှာ....ရှင်ရ်ကတ်အို့ကူးဒ် ဖြစ်သည်၊ ပမာဆိုသော် နှစ်ဦးသောသူက ဖက်စပ်အလုပ် လုပ်မည်ဟု သဘောတူကြသည်၊ ဤသို့ ဖက်စပ်ပြုကြခြင်း၏ အမျိုးအမည် နှင့် အမိန့်ပညတ် စည်းကမ်းချက်များကို ဖော်ပြမည်။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်းအတွဲ- ၂၊ စာမျက်နှာ-၃၇၀၊၃၇၁။

၁။ မတ်စ်အလယ်ပြဿနာ။ တစ်မျိုးမှာ 'ရှင်ရ်ကတ်အေနာန်'ဖြစ်သည်၊ နှစ်ဦးသောသူက ငွေအနည်းငယ်စီ ပေါင်းစပ်၍ အထည် နှင့် ကောက်ပဲသီးနှံ စသည်ဝယ်၍ ရောင်းကြရန် သဘောတူကြသည်၊ ဤအခါတွင် အမိန့်ပညတ်မှာ နှစ်ဦးစလုံး၏ ပေါင်းစပ်မှုသည် ငွေသားဖြစ်ရမည်၊ ဥပမာ ငွေ၊ ရွှေဒင်္ဂါး၊ (အကြွေ) အနုတ် ပိုက်ဆံ ဖြစ်ရမည်၊ အကယ်၍ နှစ်ဦးသည် ငွေသားမဟုတ်ဘဲ အခြားပစ္စည်းထည့်၍ ဖက်စပ်ပြုလုပ်လိုသော် ၎င်းတစ်ဦးက ငွေသားဖြစ်၍ တစ်ဦးက ငွေသားမဟုတ်ခဲ့သော် ဖက်စပ်မှုပြုခြင်း မပိုင်ပေ။

ဒွရ်ရေ့မွခ်တာရ်ကျမ်းအတွဲ- ၁၊ စာမျက်နှာ-၃၇၁၊၃၇၂။

၂။ မတ်စ်အလယ်ပြဿနာ။ 'ရှင်ရ်ကတ်အေနာန်' တွင် ဤသို့ ပြုလျှင်လည်း ပိုင်သည်၊ တစ်ဦးက အရင်းများပြီး တစ်ဦးက အရင်းနည်းသည်၊ ၎င်းအမြတ်ကို နှစ်ဦးသဘောတူ သတ်မှတ်သည်၊ ဆိုလိုသည်မှာ ငွေရင်းမှာ အနည်း အများ ဖြစ်သော်လည်း အမြတ်ကို တစ်ဝက်စီယူမည်၊ ၎င်းအရင်းမှာ အတူတူဖြစ်သော်လည်း အမြတ်တွင် သုံးပုံ နှစ်ပုံယူမည်ဆိုသော် ပိုင်လေသည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၃၇၁၊၃၇၂။

၃။ မတ်စ်အလယ်ပြဿနာ။ ဤ 'ရှင်ရ်ကတ်အေနာန်' တွင် ဖက်စပ်သူတစ်ဦးသည် သဘောတူချက်အတိုင်း ရောင်း ဝယ်ရာတွင် သုံးစွဲပိုင်ခွင့်ရှိသည်၊ သို့သော် တစ်ဦးတစ်ယောက်က ယူထားသောအကြွေးကို ကြွေးရှင်က အခြားတစ်ယောက်ထံ တောင်းပိုင်ခွင့်မရှိ။

မဂ်ျမအွလ်အန်ဟရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၇၂၀၊၇၂၉။

၄။ မတ်စ်အလယ်ပြဿနာ။ အကယ်၍ သဘောတူ ဖက်စပ်ကြပြီးနောက်ငွေရင်း အားလုံး၊ ၎င်းတစ်ဦး၏ငွေရင်း ပျက်စီး ပျောက်ဆုံးသွားမှု ဖက်စပ်မှု ပျက်သွားသည်၊ ၎င်းတစ်ဦးက ပစ္စည်းအချို့ ဝယ်ပြီး၍ တစ်ဦး၏ အရင်းငွေမှာ ပျက်စီးသွားမှု ဖက်စပ်မှု မပျက်ပေ၊ ဝယ်ပြီးပစ္စည်းသည် နှစ်ဦးပိုင်သည်၊ ပစ္စည်းတွင် ထည့်ဝင်သည်ခန့် ထိုသူထံမှ ငွေကို ယူရမည်။

ဥပမာ....တစ်ဦးက ငွေတစ်ဆယ်၊တစ်ဦးက ငါးကျပ်ဖြစ်သည် ၊ငွေတစ်ဆယ် ထည့်ဝင်သူက ပစ္စည်းဝယ်လိုက်သည်၊ ၎င်းငါးကျပ် ထည့်ဝင်သူ၏ငွေမှာ ပျောက်ဆုံးပျက်စီးသွားသည် သို့ရှိရာ ငါးကျပ်ထည့်သူက ဝယ်ပစ္စည်းတွင် သုံးပုံ့တစ်ပုံ ပိုင်ဆိုင်သည်၊ တစ်ဆယ်ထည့်သူက ၎င်းအား တစ်ဆယ်၏ သုံးပုံ့တစ်ပုံ ပေးရမည်၊ ပမာဆိုသော် (၃) ကျပ်၊ (၃၃) ပြားကျော်ပေးရမည်၊ ၎င်းဝယ်ပြီးပစ္စည်းကို ဖက်စပ်အဖြစ်နှင့် ရောင်းရမည်။

မဂ်ျမအွလ်အန်ဟရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၇၂၀၊၇၂၉။

၅။ မတ်စ်အလယ်ပြဿနာ။ ဤသို့ ဖက်စပ်ကြရာတွင် နှစ်ဦး၏ ငွေရင်းကို ရောထားရန်မလိုပေ၊ နှုတ်လျှာဖြင့် သဘောတူချက်ပြုကြလျှင် ပိုင်သည်။

မဂ်ျမအွလ်အန်ဟရ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၇၂၀၊၇၂၉။

၆။ မတ်စ်အလယ်ပြဿနာ။ အမြတ်အစွန်းကို တစ်ဝက်စီ သော်လည်းကောင်း၊ သုံးပုံ့တစ်ပုံ သော်လည်းကောင်း ယူရမည်ဟု အတိအကျသတ်မှတ်ရမည်၊အကယ်၍ တစ်ဦးက အမြတ်ငွေမှ ကျပ်တစ်ရာယူ၍ ကျန်အမြတ်ကို တစ်ဦးက ယူမည်ဟုဆိုလျှင် မပိုင်ပေ။

ရှရ်ဟွတ်တန်ဝီးရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၇၂။

၇။ မတ်စ်အလယ်ပြဿနာ။ 'ရှင်ရိကတ်အိုကူးဒ်' တွင် 'ရှင်ရိကတ် စွန်နာအဲအ်' လည်းရှိသည်၊ ဤသည်ကို ရှင်ရိကတ် တကဗ်ဗွလ် ဟုလည်း ခေါ်သည်၊ ပမာဆိုသော် အပ်ချုပ်သမား နှစ်ယောက်နှင့်ဆေးဆိုးသူနှစ်ယောက်သည်အလုပ်အင်လာလျှင် အသီးသီး လက်ခံမည်၊ လက်ခရသည်ကို တစ်ဝက်စီ သုံးပုံ့တစ်ပုံ၊ လေးပုံ့တစ်ပုံ စသဖြင့် ခွဲယူမည်ဟု သဘောတူ၍ လုပ်ကြလျှင် ပိုင်သည်။

ဒွရ်ရေ့မွခ်တာရ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၃၇၃။

၈။ မတ်စ်အလယ်ပြဿနာ။ ဤသို့ပြုကြရာ၌ တစ်ဦးက အလုပ်ကို လက်ခံလိုက်လျှင်နှစ်ဦးစလုံး လုပ်ကြရန် တာဝန်ဖြစ်သွားသည်၊ ဥပမာ ဖက်စပ်သူတစ်ဦးက ချုပ်ရန် အထည်ကို လက်ခံလိုက်မူ အပ်သူသည် ၎င်းထံ တောင်းနိုင်သကဲ့သို့၎င်းနှင့် ဖက်စပ်လုပ်သူကို လည်း ချုပ်ခိုင်းနိုင်သည်၊ ဤသို့ပင် ချုပ်ခအတွက် လက်ခံသူက တောင်းနိုင်သကဲ့သို့၎င်း၏ ဖက်စပ်ကလည်း တောင်းယူနိုင်သည်၊ လက်ခံသူကို ချုပ်ခပေးလျှင် ပြီးသကဲ့သို့ ၎င်း၏ ဖက်စပ်ကိုလည်း ချုပ်ခပေးလိုက်လျှင် ပြီးလေသည်။

ဟေဒါယဟ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၆၁၃။

၉။ မတ်စ်အလယ်ပြဿနာ။ 'ရှင်ရိကတ်' တစ်မျိုးမှာ 'ရှင်ရိကတ်ဝို့ဂျူးဟ်' ဖြစ်သည်၊ ပမာဆိုသော် လက်တွင် ငွေရင်းမရှိ၊လက်မှုပညာလည်းမတတ်ကျွမ်းကြ၊၎င်းတို့ သည် ဆိုင်ရှင်များထံမှ ပစ္စည်းအကြွေးယူ၍ ရောင်းကြရန် သဘောတူကြသည်၊ ဤသို့ ဖက်စပ်ရာ၌ တစ်ဦးနှင့်တစ်ဦး ကိုယ်စားမျှား ဖြစ်ကြရမည်၊၎င်းသတ်မှတ်ကြသည့်အတိုင်း အမြတ်ငွေကို ခွဲယူကြရမည်၊ဥပမာ အကယ်၍ ယူသောပစ္စည်းကို နှစ်ယောက်ပိုင်သတ်မှတ် လျှင်အမြတ်တစ်ဝက်စီယူရမည်၊ ပစ္စည်းကိုသုံးပုံ့တစ်ပုံ ဖက်စပ်သည်ဟု သတ်မှတ်ကြလျှင် အမြတ်ကိုလည်း သုံးပုံ့တစ်ပုံ ယူကြရမည်။

ဟေဒါယဟ်ကျမ်း အတွဲ- ၂၊ စာမျက်နှာ-၆၁၄။

ဤတွင်၍ကား 'ဘဟာစ်ရှိတီဇေဝရ်' ကျမ်း ပဥ္စမတွဲ၏
နောက်ဆက်တွဲ ပြီး၏။

ဆဋ္ဌမတွဲ၊ သတ္တမတွဲ၊ အဋ္ဌမတွဲ ၏ နောက်ဆက်တွဲများ မပါရှိပေ။

**မှုဟမ္မဒ်မူစာ (မင်္ဂလာဟေရီ)**

# ဘဟာစ်ရှ်တီဂေါ်ဝါဟရ်ကျမ်း၏ နောက်ဆက်တွဲ

# ဘဟာစ်ရှ်တီ ဇျောင်ဟာရ်ကျမ်း

بسم الله الرحمن الرحيم

## သေခြင်းတရားနှင့် ပတ်သက်သော

## ကိစ္စများနှင့် ကဗ္ဗရ်ကို ဇေယာရတ်ပြုခြင်းများ အကြောင်း

ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ သေခြင်းတရားကို များစွာ သတိရကြကုန်၊ အဘယ့်ကြောင့်ဆိုသော် သေခြင်းကို သတိရခြင်းသည် 'ဂုနာဟ်' အကုသိုလ်များမှ ကင်းဝေးစေသည်၊ ၎င်းပြင် အကျိုးမဲ့ ဒွန္နယာ-လောက၏စည်းစိမ်များ မလိုအပ်သော အပိုဖြုန်းတီးခြင်းများမှ ကင်းဝေးစေသည်၊ ဆိုလိုသည်မှာ....လူသားသည် သေခြင်းတရားကို များစွာသတိရမူ၊ဒွန္နယာလောကတွင် စိတ်စွဲလန်းမည်မဟုတ်၊လောက၏ စည်းစိမ်များ ရှုံ့မုန်းလာမည်၊ ခင်တွယ်စိတ် ပျောက်ကွယ်သွားမည်၊အပြစ်များမှ ရှောင်ကြဉ်သူဖြစ်သွားမည်၊ နောင်'အာခိရတ်' ကောင်းစားရန်အတွက် ကောင်းမှုပွားမည်၊ 'အာခိရတ်'၏ စည်းစိမ်များကို လိုလားစွဲမက်လာမည်၊ ၎င်းထို 'အာခိရတ်' ၌ခံရမည့် ပြင်းပြသော 'အသာဗ်' ပြစ်ဒဏ်များမှ ကြောက်ရွံ့မည်၊ ဒွန္နယာ နှင့် ဒွန္နယာလောက၏ စည်းစိမ်များကို မစွန့်လွှတ်လျှင် အလ္လာဟ်အသျှင်မြတ် ဘတ်တော်သို့ ကောင်းစွာစိတ်အာရုံ စူးစိုက်နိုင်မည်မဟုတ်ပေ။

ကြိမ်ဖန်များစွာ ရေးသားခဲ့ပြီဖြစ်သော 'အေဗာဒတ်' ပြုနိုင်ရန်အတွက်စားဝတ်နေရေးကို ရှာဖွေခြင်းသည် 'ဒီန်' ဘာသာရေးတွင် ပါဝင်သည်၊ ထို့ကြောင့်စီးပွား ရှာဖွေခြင်းကိုရှုတ်ချရာ၌ ဤအချက်မပါဝင်ပေသာမက၊ဒွန္နယာလောက၏စည်းစိမ်ကိုရှုတ်ချရာ၌ အလ္လာဟ်အသျှင်မြတ်အား မေ့လျော့စေသော စည်းစိမ်ကို ဆိုလိုသည်၊ မေ့လျော့မှု အနည်းအများအလိုက် ရှုတ်ချမှုလည်း အနည်း,အများဖြစ်ပေသည်၊သို့ရှိရာသိရသည်မှာ သေခြင်းတရားကို သတိရနေခြင်းဖြင့် စိတ်အာရုံပြုနေခြင်း၊ ၎င်း ဤကြီးကျယ်သော ဆုးညွှာင့်ခလုတ် ပြည့်နှက်နေသော ခရီးကြမ်းတွင် ရိက္ခာ(အမလ်)စုဆောင်းထားကြရန် အသိဉာဏ်ရှိသူများအပေါ် လွန်စွာလိုအပ်ပေသည်။

အခြားဟာဒီးသ်တော်တစ်ရပ်တွင် လာရှိသည်မှာ အကြင်သူသည် နေ့စဉ်သေခြင်းကို အကြိမ် (၂၀) သတိရလျှင် 'ရှဟီဒီ'အဆင့်သို့ ရောက်ပေမည်၊ သို့ရှိရာ အကယ်၍ သင်သည် ပစ္စည်းကြွယ်ဝ ချမ်းသာသောအဖြစ်၌ သေခြင်းကို သတိရနေလျှင် ထိုသို့သတိရခြင်းသည် ကြွယ်ဝစေသည်၊ ဆိုလိုသည်မှာ ပစ္စည်းကြွယ်ဝသူသည် သေခြင်းကို သတိရနေလျှင် ထိုပစ္စည်းကြွယ်ဝမှု၏မေ့လျော့မှုသည် ထိုသူ့အားလွှမ်းမိုးမည်မဟုတ်၊ အဘယ့်ကြောင့် ဆိုသော် ဤပစ္စည်းသည် ကျွန်ုပ်ထံ အမြဲနေမည်မဟုတ်၊ ပစ္စည်းကို ချစ်ခင်စိတ် ထားခြင်းသည် အကျိုးမရှိသည် သာမက နစ်နာဆုံးရှုံးမှုဖြစ်မည်ဟု ယူဆလာမည်၊စွဲလန်းမှုကိုခွဲခွာခြင်းသည်ဒုက္ခတော့ရောက်သည်၊အမြဲထာဝရ နေရမည့်ဌာနအတွက်ကောင်းကျိုး 'အမလ်' များပြုလျှင် အကျိုးရှိမည်ဟု ယူဆပေမည်၊ သို့ရှိရာ ဤသို့ ထင်မြင်ယူဆလာလျှင် ပစ္စည်း အတွက် ဝမ်းနည်း ပူဆွေးမှုဖြစ်မည်မဟုတ်ပေ။

အကယ်၍ သင်သည် ဆင်းရဲသောအဖြစ်၌ သေခြင်းကိုသတိရလျှင် ထိုသတိရခြင်းသည် သင်နေထိုင်မှုအတွက် လုံလောက်မှုဖြစ်မည်၊ ဆိုလိုသည်မှာ... သင်၏ ဝင်ငွေနည်းမှုအပေါ် တင်းတိမ်မှုရှိမည်၊ ဒွန်နယာလောကတွင် ရက်အနည်းငယ်နေရမည်၊ ထိုစားဝတ်နေရေး ကျပ်တည်းမှုအတွက် ပူပင်သောကထားရန်မလို၊ ထိုအတွက်မကြာမီ အလ္လာဟ် အသျှင်မြတ်သည် အကောင်းဆုံး အစားပေးတော်မူပေမည်။

ကန်ဇုလ်အမ္မာလ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၅။

ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်၊ အမှန်မုချ ပထဝီ မြေက တစ်နေ့လျှင်အကြိမ်ပေါင်း (၇၀) ဤသို့ဟစ်အော်သည်၊အို....လူသားအပေါင်းတို့၊ ကြိုက်နှစ်သက်သောအရာကို စားကြကုန်၊ သို့ရှိရာ အလ္လာဟ်အသျှင်မြတ်၏ 'ကဆမ်' တစ်နေ့ ကျွန်ုပ်မြေကြီးက သင်တို့၏ အသားအရေကိုစားမည်။

ကန်ဇုလ်အမ္မာလ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၅။

ကျွန်ုပ်တို့သည် မြေကြီး၏ ဟစ်ကြွေးမှုကို မကြားရ၊ ထို့ကြောင့် ကျွန်ုပ်တို့အတွက် အကျိုးမရှိဟု ဆိုခဲ့သော် အဖြေမှာ ရစူလွလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်၏ အမိန့်တော်အရ ပထဝီမြေကဟစ်ကြွေးကြောင်းသိရသည်၊ထိုအသံဖြင့်လောက၏စိတ်သည်ကြောက်ရွံ့၍ အေးစက်သွားသည်၊ ဤသို့ပင် ယခုလည်း လူသားတို့ ကြောက်ရွံ့ကြရန်ထိုက်သည်။

ပမာဆိုသော် တစ်ဦးသည် ရန်သူစစ်ချီလာသည်ကိုမြင်၍ ကြောက်ရွံ့သည်၊လွတ်မြောက်ရန် နည်းလမ်းကိုရှာဖွေသည်၊ ဤသို့ပင် ခိုင်လုံသူတစ်ယောက်က ပြောလျှင်လည်း ယုံကြည်၍ ကြောက်လာသည်၊ အဘယ့်ကြောင့်ဆိုသော် မြင်၍ဖြစ်စေ၊ ကြားသိရ၍ ဖြစ်စေ၊ ရန်သူလာကြောင်းသိရ၍ ကြောက်ရွံ့သည်၊ ကာကွယ်ရန်, လွတ်မြောက်ရန် နည်းလမ်းရှာသည်၊ ၎င်းသတင်းပေးသူသည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထက်

ယုံကြည်ဆိုက်သူမရှိပေ၊ လူလူချင်း ပြောသည်ကို ယုံလေရာ ရစူလ်ကိုယ်တော်၏ မိန့်ဆို စကားကို ပို၍ယုံကြည်ရမည် ဖြစ်လေသည်၊ အဘယ့်ကြောင့်ဆိုသော် ရစူလ်ကိုယ်တော်ထက် မှန်ကန်တိကျသော ပုဂ္ဂိုလ်ကား မရှိပေ။

كَفٰى بِالْمَوْتِ وَاعِظًا وَبِالْيَقِيْنِ غِنًا

သေခြင်းတရားကို သတိရခြင်းသည် လုံလောက်သော တရားဟောဆရာ ဖြစ်သည်၊ ဆိုလိုသည်မှာ သေခြင်းကိုပြောခြင်းဖြင့် လုံလောက်သည်၊ အကြင်သူသည် ဤသည်ကို သတိရနေလျှင် ထိုသူသည် ဒွန္နယာလောကကို ခင်တွယ်စိတ်နှင့် အရာပစ္စည်းကို တပ်မက်ခြင်းများမှ ရှောင်ရှားရန်အတွက် လုံလောက်ပေသည်၊ ရိဇ်စားနပ်ရိက္ခာ ရမည်ဟူသော ယုံကြည်ချက်သည် ချမ်းသာခြင်းထက် လုံလောက်သည်၊ ဆိုလိုသည်မှာ လူသားတိုင်းကို ထိုသူနှင့်အလိုက်ရိဇ်စားနပ်ရိက္ခာ ပေးတော်မူသည်ဟူသော အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကို ယုံကြည်လျှင် ဤသည်မှာ ချမ်းသာမှုအတွက် လုံလောက်သည်၊ ဤသို့ယုံကြည်သူသည် စိတ်ရှုပ်ထွေးမှု ပူပင်သောက မရှိနိုင်ပေ၊ (အလ္လာဟ်အသျှင်မြတ် ပေးသရွေ့သာ ရမည်၊ ပို၍မရနိုင်ဟူသော ယုံကြည်ချက်ပင် ဖြစ်သည်၊)သာမက ပစ္စည်းကြွယ်ဝချမ်းသာခြင်းထက်ဤသို့ယုံကြည်မှုက စိတ်ချမ်းသာစေသည်၊ စိတ်ချမ်းသာမှုမှာ မပျက်စီးနိုင်ပစ္စည်းမှာ ပျက်စီးနိုင်သည်၊ ယနေ့ ရှိနေသောပစ္စည်းသည် နက်ဖြန် ရှိနေရမည်ဟု မည်သူမှမပြောနိုင်ပေ၊ အလ္လာဟ်အသျှင်မြတ်က အဆင့်အလိုက် 'ရိဇ်' ပေးမည်ဟူသော အမိန့်တော်မှာ အမြဲတည်နေသည်၊ ကောင်းစွာမှတ်သားထားကြကုန်။

ကန်ဇူလ်အမ္မာလ်ကျမ်း အတွဲ- ၁၊ စာမျက်နှာ-၇၆။

ဟဒီးသ်တော်တွင် လာရှိသည်၊ အကြင်သူသည် အလ္လာဟ်အသျှင်မြတ်နှင့် တွေ့ရန် လိုလားလျှင် အလ္လာဟ်အသျှင်မြတ် ကလည်း ၎င်းသူနှင့် တွေ့လိုတော်မူသည်၊ အကြင်သူသည်အလ္လာဟ်အသျှင်မြတ်နှင့်မတွေ့လိုလျှင်ဒွန္နယာလောက၏ စည်းစိမ်ပစ္စည်းပစ္စယများကို မခွဲခွာလိုသော် အလ္လာဟ်အသျှင်မြတ်ကလည်း ၎င်းသူတို့နှင့် တွေ့လိုတော်မမူပေ။

မသေဘဲနှင့် အလ္လာဟ်အသျှင်မြတ်နှင့် တွေ့ဆုံရန်မှာ မဖြစ်နိုင်ပေ၊ သို့ရှိရာသေခြင်းသည် အလ္လာဟ်အသျှင်မြတ်နှင့်တွေ့ရန် သဟဲတစ်ခုဖြစ်သည်၊ ထို့ကြောင့် သေခြင်းကို 'မုအ်မင်န်' တိုင်း နှစ်သက်ကြရန်ထိုက်သည်၊ သေပြီးနောက် ဒုက္ခမတွေ့ရစေရန် ကောင်းမှု ကုသိုလ် 'အမလ်' များပြုရမည်၊ သို့မှသာ 'ဂျန္နတ်' ရလိုဇောဖြင့် သေခြင်းကို နှစ်သက်လာမည်၊ ၎င်းပြင် 'ဂိုနာဟ်' အကုသိုလ် ဒုစရိုက်များမှ ရှောင်ရှားလာပေမည်။

အဘယ့်ကြောင့်ဆိုသော် 'ဂိုနာဟ်ဂါရ်' အကုသိုလ် ကျူးလွန်သူသည် 'အဇာဗ်' ပြစ်ဒဏ်ခံရမည်ကိုစိုး၍ သေရမည်ကိုကြောက်လေသည်၊ 'အမလ်' ကောင်းသူသည် သေရမည်ကိုမကြောက်၊မထိတ်လန့်ပေ၊ ရမည့်စည်းစိမ်ဂျန္နတ်ကိုမြင်ပြီး သေရမည်ကိုမကြောက်

တော့ခြင်းဖြစ်သည်၊ ဤသို့'ကာဖွင်ရ်'နှင့်'ဖွာစစ်က်'တို့သည်စည်းစိမ် ဂျန္နတ် ရမည်ဟူသော မက်မရှိကြ၊ ထို့ကြောင့် သေခြင်းမှ ကြောက်ရွံ့ထိတ်လန့်ကြသည်။

ဟဒီးသ်တော်တွင်လာသည်၊ အကြွင်သူသည် သေသူကို ရေချိုးပေးပြီး ရှက်ဖွယ်ကိစ္စကို မြင်တွေ့ခဲ့သော် ဖုံးအုပ်လျှင် (ဆိုလိုသည်မှာ ရုပ်ဆင်းသဏ္ဍာန် ပျက်ပြားမှု စသည်များကို လူတို့အားပြောမပြဘဲဖုံးအုပ်ထားလျှင် ဤကိစ္စနှင့်ပတ်သက်၍ 'ဘာဟစ်ရှိဘီဇေဝရ်' ဒုတိယတွဲတွင် အကျယ်တစ်ဝင့်ပါရှိသည်၊)ထိုဖုံးအုပ်ထားသူ၏'ဂိုနာဟ်'များကိုအလ္လာဟ် အသျှင်မြတ်က ဖုံးအုပ်တော်မူမည်၊ (ဆိုလိုသည်မှာ နောင် 'အာခေရတ်' တွင် ထိုသူသည် 'ဂိုနာဟ်' များအတွက် အရှက်ရမည်မဟုတ်ပေ၊) ၎င်းပြင် အကြွင်သူသည် ရှေသူအား 'ကဖွာန်' ဝတ်ပေးလျှင် အလ္လာဟ်အသျှင်မြတ်က ထိုသူ့ကို အာခေရတ်၌ 'စွန်ဒွတ်စ်'မည်သော ပါးလွှာသည့် အဖိုးတန်သော ပိုးထည် ဝတ်ပေးတော်မူမည်။

ကန်ဇွလ်အမ္မာလ်ကျမ်း အတွဲ ၈၊ စာမျက်နှာ-၈၁။

အချို့ ဂျာဟင်လ် အသိမရှိသူများသည် သေသူကို ပြုစုရန်ကြောက်ရွံ့ကြသည်၊ လာဘ်နိမိတ် မကောင်းဟု ယူဆကြသည်၊ ဤသို့ ကြောက်ရွံ့ခြင်း နိမိတ်မကောင်းဟု ယူဆခြင်းသည် အလွန်ပင် မသင့်လျော်သောကိစ္စဖြစ်သည်၊ ထိုသူတို့လည်း တစ်နေ့သေရမည်မင့်ဖြစ်သည်၊ သေသူကို ကောင်းစွာပြုစု၍အကျိုး 'သဝါဗ်' ရယူကြရန် ထိုက်သည်၊ ၎င်းပြင် မိမိသေရမည်ကို သတိရနေရမည်၊ ကျွန်ုပ်က ရှောင်ရှားခဲ့သကဲ့သို့ ကျွန်ုပ်သေလျှင် ရှောင်ရှားနေကြပါက ခက်မည်ဟူသည်ကို သတိပြုသင့်ကြသည်၊ ထိုသို့ရှောင်ရှားသူအား အစားပေးရန်အတွက် အလ္လာဟ်အသျှင်မြတ်က ရှောင်ရှားမည့် မပြုစုလိုသူများလက်သို့ ရောက်စေတော်မူပေမည်။

အလီ (ရသွေ့) သခင်က ဆင့်ပြန်ခဲ့သည်ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်၊ အကြွင်သူသည် သေသူကို ရေချိုးပေးလျှင် ကဖွာန် ဝတ်ပေးလျှင် 'ဟိုနူးတွ'ထည့်ပေးလျှင် (ဟို့နူးတွ သည် မွှေးသော ပစ္စည်းတစ်ခု၏ အမည်ဖြစ်သည်၊ ထိုအစား ကာဖွူရ် ပရုပ်သုံးလျှင် လုံလောက်သည်၊) ၎င်းပြင် ဂျနာဇဟ်ကို ထမ်းယူသွားလျှင် ဂျနာဇဟ် 'နမာဇ်'ဖတ်လျှင် သေသူတွင် ရုပ်ဆင်းသဏ္ဍာန် ပျက်ပြားမှု ဖြစ်ခဲ့သော် ဖုံးအုပ်လျှင် ထိုသူသည် မိခင်က မွေးဖွားစကလေးကဲ့သို့ 'ဂိုနာဟ်စွဂီရဟ်' များမှ လွတ်ကင်း သွားသည်။

ကန်ဇွလ်အမ္မာလ်ကျမ်း အတွဲ- ၈၊ စာမျက်နှာ-၈၁။

ဟဒီးသ်တော်တွင် လာရှိသည်၊ အကြွင်သူသည် သေသူတွင် ရုပ်ဆင်းပျက်မှု ဖြစ်ပေါ်ခဲ့သော် ဖုံးအုပ်ထားပါက ထိုသူ၏ ဂိုနာဟ်ကဗီရဟ်(စွဂီရဟ်များထက် အကြီးဆုံး) (၄၀) လွတ်ငြိမ်းချမ်းသာမူရသည်၊ အကြွင်သူသည် ကဖွာန် ဝတ်ပေးလျှင်ထိုသူ့ကို

အလ္လာဟ်အသျှင်မြတ်က ပါးလွှာသော ပိုးထည်နှင့် ပိုးပြောင်ထည် ဝတ်ဆင်ပေးတော်မူမည်၊ အကြင်သူသည် သေသူအတွက် ကဗရ်တူးပြီး ထိုတွင်း၌ မြှုပ်နှံသော် ထိုသူ့ကို အလ္လာဟ်အသျှင်မြတ်က သေသူ ကဗရ်၌ 'ကေယာမတ်' နေ့ထိ နေရသည်အထိ ကုသိုလ် 'သဝါဗ်' ပေးတော်မူသည်၊ (ဆိုလိုသည်မှာ သေသူကို 'ကေယာမတ်'နေ့ထိ အိမ်အခမဲ့ထားသော အကျိုး 'သဝါဗ်' ရမည်ဖြစ်သည်။)

သိမှတ်ထားကြရမည်မှာ သေသူကို ပြုစုခြင်းဖြင့် ရရှိမည်ဟူသော ရေးသားသည့်အချက်တွင် အကျိုးအခမပါဘဲ အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်သာ ပြုမှသာ ရရှိမည်ဖြစ်သည်၊ အကယ်၍ အခယူလိုက်မူ 'သဝါဗ်' ကုသိုလ်မရပေ၊ ဤကိစ္စတွင် အခယူခြင်း ပိုင်သည်၊ 'ဂိုနာဟ်' ကားမဖြစ်ပေ၊ သို့သော် အခယူခြင်းနှင့် ကုသိုလ်ရခြင်းမှာ တစ်ခြားစီဖြစ်သည်။

ဘာသာရေးရာတွင် အခယူခြင်းတွင် အချို့သည် အခယူခြင်း 'ဟရာမ်'ဖြစ်သည်၊ ၎င်းပြင် 'သဝါဗ်' ကုသိုလ်လည်းမရပေ၊ အချို့သည် အခယူပိုင်သည်၊ ကုသိုလ်'သဝါဗ်' ကား မရပေ၊ အကျယ်ရေးရန် နေရာမဟုတ်သဖြင့် ကောင်းစွာ ဆန်းစစ်သုံးသပ်၍ ပြုမူကြရန် ထိုက်သည်။

ဤကိစ္စနှင့်ပတ်သက်၍ အကျိုးရှိသောအကြောင်းတစ်ရပ်ကိုအစီရင်ခံရမည်ဆိုသော် အခယူနိုင်သော ဘာသာရေးလုပ်ငန်းများတွင်အခယူခြင်းဖြင့် ကုသိုလ်'သဝါဗ်'မရပေ၊ သို့သော် စည်းကမ်းချက် 'ရှရတွ' အချို့ရှိခဲ့သော်ကုသိုလ် 'သဝါဗ်' လည်းရပေမည်၊ ကောင်းစွာ မှတ်သားထားကြကုန်။

သူဆင်းရဲတစ်ဦးသည် ယူပိုင်ခွင့်ရှိသော ဘာသာရေး လုပ်ငန်းကိုလုပ်၍ အသက်မွေးဝမ်းကြောင်းပြုသည်၊ ထို့အပြင် အခြားဝင်ငွေ လုပ်ငန်းမရှိလျှင် ထိုသူသည်ဘာသာရေးအလုပ်ကိုလုပ်ပြီး လိုအပ်သည်ခန့် စားဝတ်ရေးအတွက် ယူနိုင်သည်၊ ၎င်းစိတ်၌အခြားလုပ်ငန်းရှိလျှင် လုံးဝမယူဟူသော အစွဲကိုထားရမည်၊ အလ္လာဟ်အသျှင်မြတ် အတွက်သက်သက်လုပ်မည်၊ အခြားလုပ်ငန်းတစ်ခု အလ္လာဟ်အသျှင်မြတ်က ပေးသနားတော်မူလျှင် အခမယူဘဲ အလ္လာဟ်အသျှင်မြတ်အတွက် သက်သက်လုပ်မည်ဟူသော စိတ်ထားရမည်၊ ဤသို့စိတ်ထားသူသည် ကုသိုလ် 'သဝါဗ်' လည်း ရပေမည်၊ အဘယ့်ကြောင့်ဆိုသော် ထိုသူ၏ နိယတ်စိတ်ဆန္ဒသဘောသည် သာသနာတော်ကို ဖြန့်ဖြူးရန်ဖြစ်သည်၊ ဝမ်းရေးကလည်းရှိနေသည်၊ ရှာဖွေရန်ကလည်း အရေးကြီးနေသည်၊ ဝမ်းရေးရှာဖွေခြင်းလည်း အလ္လာဟ်အသျှင်မြတ် အမိန့်တော်ကို နာခံခြင်းပင်ဖြစ်သည်၊ ထို့ကြောင့်ဝမ်းရေးရှာဖွေခြင်း၏ကုသိုလ် 'သဝါဗ်' လည်းရရှိပေမည်၊ ၎င်းပြင် နိယတ် ကောင်းခြင်းဖြင့် ကုသိုလ်နှစ်ရပ်စလုံးရပေမည်။

သို့သော် ဤအချက်ကို ကောင်းစွာဆွန်းစစ်သုံးသပ်၍ ပြုရန်ထိုက်သည်၊ အလဟဿ အသုံးချဲ့ထွင်ခြင်း၊ မလိုအပ်ဘဲသုံးခြင်း၊ လီဆယ်ခြင်းများသည် အကွယ်ရှိ ခပ်သိမ်းကို သိကျွမ်းတော်မူသော အလ္လာဟ်အသျှင်မြတ် ထံတော်တွင်မရ၊ ထိုအသျှင်သည် စိတ်၏ အတွင်းသဘောထားများကို ကောင်းစွာ သိတော်မူပေသည်၊ ဤကိစ္စကို 'ရှာမီ' စသည့် ကျမ်းများမှ ဆန်းစစ်၍ ရေးသားခြင်းဖြစ်သည်။

'တဝပ်ကက္ကုလ်' ထားရှိသူသည် ကောင်းမှု ဘာသာရေးအတွက် အခ ယူလျှင် သုံးမျိုးစလုံးကို ကုသိုလ်'သဝါဗ်' ရကြောင်း ပေါင်းစပ်သော်လည်း 'တဝပ်ကက္ကုလ်'၏ မှန်မြတ်ခြင်းမှာပျက်သွားသည်၊မွတ်စလင်မ်များ သီးခြား၍'အာလင်မ်'ပညာရှင်များသည် ဤကိစ္စကို ဂရုစိုက်ကြရန်ထိုက်သည်၊မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အသျှင်မြတ်၏ သာသနာတော်ကို ဆောင် ရွက်ပြီး နှစ်သက် သဘောတူတော်မူမှုကို မရှာကြံခြင်း၊ ၎င်း ပြင်းပြစွာ လိုအပ်မှုမရှိဘဲနှင့် အနည်းငယ်မျှသော အခ ကြေးငွေကို ကြည့်ခြင်းတို့သည် အလ္လာဟ်အသျှင်မြတ်အား ကျေးဇူးကန်းရာ မရောက်ပါသလော၊ ကျွန်ုပ်တို့အလုပ်သည် ကောင်းမှုပြုကြရန် လှုံ့ဆော်ရန်နှင့် ဇဝေဇဝါ ဖြစ်နေကြသော ကိစ္စများကို ရှင်းပေးရန် ဖြစ်သည်၊ 'မို့ဗားဟ်' လုပ်ငန်းတွင် ဝက်စွက်ရန်မဟုတ် သို့သော်လည်း ဤမျှ ရေးမည်၊ ကျွန်ုပ်တို့မှာ ကုသိုလ် 'သဝါဗ်' ရရန် များစွာ လိုအပ်နေပေသည်၊ ကုသိုလ်အနည်းငယ် လိုချင်က အနည်းငယ်သာလုပ်ပြီး ကုသိုလ်များစွာ လိုချင်သော် 'အမလ်'ကိုလည်း များစွာ ပြုရမည်၊ အလ္လာဟ်အသျှင်မြတ်သည် 'အေဗာဒတ်' ပြုသူများ၏ စိတ်ဆန္ဒသဘောထားကို သိတော်မူပြီး ဖြစ်လေသည်။

ဟဒီးသ်တော်တွင် လာရှိသည်၊ ဂျနာဇဟ် 'နမာဇ်' ဖတ်သောသူကို ပထမဦးစွာ ဂိုနာဟ်စဂီရဟ် များမှ လွတ်ငြိမ်းချမ်းသာမှု ပေးတော်မူသည်။

ဟဒီးသ်တော်တွင် လာသည်၊မွတ်စလင်မ်တစ်ဦးသေဆုံးရာတွင် ဂျနာဇဟ်'နမာဇ်'၌ အတန်း (၃) တန်းရှိလျှင်ထိုသေသူကို အလ္လာဟ်အသျှင်မြတ်ကချမ်းသာမှုပေးတော်မူသည်။

ဟဒီးသ်တော်တွင် လာရှိသည်၊ မွတ်စလင်မ်တစ်ဦး သေဆုံးရာတွင်အလ္လာဟ်အသျှင် မြတ်အား 'ရှစ်ရ်က်' မပြုသောသူ (၄၀) က ဂျနာဇဟ် နမာဇ် ဖတ်ပေးလျှင် ဂျနာဇဟ် နမာဇ် သည် သေသူအတွက် 'ဒိုအာ' ဖြစ်လေရာ ဤ 'ဒိုအာ' ကိုလက်ခံပြီး သေသူအား လွတ်ငြိမ်းချမ်းသာမှု ပေးတော်မူမည်။

ဟဒီးသ်တော်တွင် လာရှိသည်၊သေသူမွတ်စလင်မ်အားလူတစ်စုကဂျနာဇဟ် နမာဇ် ဖတ်ပေးလျှင်ထိုသေသူအတွက် 'ဒိုအာ'(ရှဖွာအတ်)ပြုကြသည်ကို လက်ခံတော်မူလေသည်။

ဟဒီးသ်တော်တွင် လာရှိသည်၊ သေသူအတွက် ဂျနာဇဟ် နမာဇ် ဖတ်ကြရာတွင် လူ(၁၀၀)ပါဝင်သော် ထိုသူတို့၏ တောင်းပန်ခြင်း (ဒိုအာပြုခြင်း) ကို အလ္လာဟ်အသျှင် မြတ်က လက်ခံတော်မူပြီး သေသူကို လွတ်ငြိမ်းချမ်းသာမှု 'မဂ်ဖွေရတ်'ပေးတော်မူသည်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ ဂျနာဇဟ်၏ လေးဘက်တိုင်ကိုထမ်းလျှင် ထိုသူ၏ ဂိုနာဟ်စွဂိရဟ် (၄၀) လွတ်ငြိမ်းချမ်းသာမှုရသည်၊ (ဤအကြောင်း အထက်တွင် ရေးခဲ့ပေပြီ။)

ဟာဒီးသ်တော်တွင် လာရှိသည်၊ ဂျနာဇဟ်နှင့်အတူ (တိုးတီး) သစ်ကဲရ် များစွာ ပြုသူ ဂျနာဇဟ် မြေပေါ်မချမီ မထိုင်သူ၊ မြေ (၃) ကြိမ်ယူ၍ ဖို့သူတို့သည် များစွာ ကုသိုလ်'သဝါဗ်' ရလေသည်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ သေသူကို ကောင်းသောသူများအနီး၌ မြှုပ်နှံကြကုန်၊ဖွာစစ်ကာဖွင်ရ် များအနီး၌မြှုပ်ပါက ဒုက္ခရောက်မည်၊ထိုင်းတို့သည်'အသာဗ်' ပြစ်ဒဏ်ခံရ၍ ငိုယိုဟစ်ကြွေးသံများ ကြားရပြီး စိတ်ရှုပ်မှုဖြစ်မည်၊ မကောင်းသော သူများ၏အနီး၌ နေတိုင်သူသကဲ့သို့ စိတ်ရှုပ်မှု ဖြစ်ရလေသည်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ ဂျနာဇဟ် ယူဆောင်သွားသောအခါ (လာအေလာဟ၊ အစ်လလ္လာဟ်)ကို များစွာဖတ်ကုန်၊ ဂျနာဇဟ် နှင့် အတူ 'သစ်ကဲရ်' ပြုရာ၌ (တိုးတီး) စွာ ပြုရမည်၊ အသံနှင့်ပြုခဲ့သော် 'ရှာမီ' ကျမ်းတော်၌ 'မတ်ကရူးဟ်' ဟု ရေးသားထားသည်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ငါရစူလ်က ကဗရ်ကို ဇေယာရတ် မပြုရန် အကြောင်းတစ်ခု ရှိသောကြောင့် တားမြစ်ခဲ့သည်၊ ယခု ထိုအမိန့်ကို ရုပ်သိမ်းလိုက်သည်၊ ယခု ကဗရ်များကို ဇေယာရတ် ပြုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် ဇေယာရတ်ပြုခြင်းဖြင့် စိတ်နူးညံ့ ပျော့ပျောင်းစေသည်၊ စိတ်နူးညံ့ခြင်းဖြင့် ကောင်းမှုကုသိုလ်များ ပွားများ ဆောက်တည်ချင်စိတ် ပေါ်ပေါက်လာပေမည်၊ ငိုယိုဝမ်းနည်းစေပြီး နောင် 'အာခေရတ်' ကိုသတိရစေသည်၊ သင်တို့သည် 'ရှရီအတ်'တရားတော်နှင့် ကွဲလွဲသောစကားများကို ကဗရ်၌ မပြောဆိုကြနှင့်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ ငါရစူလ် သည် ကဗရ်ကို ဇေယာရတ် မပြုရန် အကြောင်းတစ်ခုကြောင့် တားတော်မူခဲ့သည် ယခု ကဗရ် များကိုဇေယာရတ်ပြုကြကုန်၊ အဘယ့်ကြောင့်ဆိုသော် ဇေယာရတ် ပြုခြင်းဖြင့် ဒွန္နယာလောကကို ခင်တွယ်မှုကင်းစေသည်၊ နောင်'အာခေရတ်' ကိုသတိရစေသည်၊ ကဗရ်ကို ဇေယာရတ်ပြုခြင်းသည် စွန္နတ်ဖြစ်သည်၊ ၎င်းပြင် သီးခြား၍ 'ဂျုမ္မအဟ်' သောကြာနေ့တွင် ဇေယာရတ် ပြုက ပို၍ကောင်းသည်။

ဟာဒီးသ်တော်တွင် လာရှိသည်၊ အကြင်သူသည် 'ဂျုမ္မအဟ်' သောကြာနေ့တိုင်းတွင် မိဘနှစ်ပါး (ဖခင်ကိုသော်လည်းကောင်း၊ မိခင်ကိုသော်လည်းကောင်း) ကဗရ်ကို

ဇေယာရတ် ပြုလျှင် ထိုသူ့အား 'မဂ်ဖွေရက်' ချမ်းသာမှုပေးတော်မူသည်၊ ၎င်း 'အမလ်' စာရင်း၌ မိဘ၏ အနွံ အတာခံသူဟု ရေးမှတ်တော်မူသည်။

ဗိုင်ဟကီကျမ်း။

သို့သော် ကဗရ် ကို တွဝါဖွ သဘောလှည့်ပတ်ခြင်း၊ ၎င်းနမ်းခြင်းများမပြုပိုင်၊ နဗီ၊ ဝလီ၏ ကဗရ်တွင်ဖြစ်စေ၊ အခြားမည်သူ၏ ကဗရ်ဖြစ်စေ မပြုပိုင်။

ကဗရ်သို့ ရောက်သောအခါ ဤသို့ စလာမ်ပေး, နှုတ်ခွန်းဆက်ရမည်။

اَلسَّلَامُ عَلَيْكُمْ يَا اَهْلَ الْقُبُوْرِ مِنَ الْمُؤْمِنِيْنَ وَالْمُسْلِمِيْنَ

يَغْفِرُ اللّٰهُ لَنَا وَلَكُمْ وَاَنْتُمْ سَلَفُنَا وَنَحْنُ بِالْاَثَرِ

အဿလာမု အလိုင်ကွန်မ်၊ ယာအဟ်လလ်ကိုဗူရေ့ မေ့နလ်မုအ်မေ့နီန၊ ဝလ်မွတ်စ်လေ့မီန၊ ယဂ်ဖွေ့ရုလ္လာဟုလနာ၊ ဝလကွန်မ်၊ ဝအန်တွန်မ်၊ စလဖ်နာ၊ ဝနဟ်နို့ ဗင်လ်အသ်ရေ့။

အဓိပ္ပါယ် ... အို....'ကဗရ် အတွင်းရှိ မုအ်မင်န် မွတ်စလင်မ် ယောကျ်ား, မိန်းမ အပေါင်းတို့၊ သင်တို့အပေါ် အလ္လာဟ်အသျှင်မြတ်၏ စလာမ် ချမ်းမြေ့ သာယာခြင်း အပေါင်း သက်ရောက်ပါစေသော်ဝ်၊ သင်တို့သည် ရှေ့မှ သွားနှင့်ကြသူများ ဖြစ်ကြသည်၊ ကျွန်ုပ်တို့ကား နောက်မှ လိုက်ကြရမည်သူများတည်း။

'တင်ရ်မေသီ' နှင့် 'တ္ဗာဗ်ရာနီ' ကျမ်းရှင်ကသေသူအား ဤနည်းအတိုင်း စလာမ် ပေးရမည်ဟု လာရှိသည်၊ ကစ်ဗ်လဟ်ဘက်သို့ ကျောပေးကာ သေသူဘက်သို့ မျက်နှာမူပြီး တတ်နိုင်သည်ခန့် ကုရ်အာန်ကျမ်းတော်ကို ဖတ်ရမည်။

ဟဒီးသ်တော်တွင်လာရှိသည်၊အကြင်သူသည်ကဗရ်သို့ရောက်ပြီးစူရဟ်အစ်ခ်လားစ် (ကွလ်ဟိုဝလ္လာဟ်) (၁၁) ကြိမ်ဖတ်ပြီး သေသူများကို ကုသိုလ်ပို့လျှင် သေသူများနှင့် အမျှ ၎င်းသူသည် ကုသိုလ်'သဝါဗ်' ရမည်ဖြစ်သည်။

ဟဒီးသ်တော်တွင်လာရှိသည်၊ အကြင်သူသည် ကဗရ် သင်္ချိုင်းသို့ဝင်ပြီး စူရဟ် အလ်ဟမ်ဒို့ စူရဟ်အစ်ခ်လားစ် နှင့် စူရဟ်တကာသွရ် ဖတ်ပြီး ထိုကုသိုလ်ကို သေသူများ အားပေးလျှင် သေသူများသည် ထိုဖတ်သူအတွက် အလ္လာဟ်အသျှင်မြတ်ထံ တောင်းပန်မှု 'ရှဖွာအတ်' ပြုပေးကြမည်။

ဟဒီးသ်တော်တွင် လာရှိသည်၊ အကြင်သူသည် ကဗရ် သင်္ချိုင်း၌ စူရဟ်ယာစီန် ဖတ်လျှင် သေသူများအား 'အသာဗ်' ပြစ်ဒဏ်ပေးနေခြင်းကို အလ္လာဟ်အသျှင်မြတ်က လျှော့ပေါ့ ပေးတော်မူမည်၊ ၎င်းဖတ်သူကို သေသူများ၏ အရေအတွက်နှင့်အမျှ ကုသိုလ် 'သဝါဗ်' ပေးတော်မူသည်။

ဤ ဟဒီးသ်တော် ( ၃ ) ပုဒ်ကို အောက်တွင် နံပါတ်ထိုး၍ အတိအကျ ရေးပြဦးမည်။

ဟဒီးသ်တော်တွင် လာရှိသည်၊ တစ်ဦးသောသူသည် ကဗရ် သို့သွားပြီးမိမိသိကျွမ်းသူကို စလာမ် ပေးလျှင် သေသူသည် ၎င်းကိုမှတ်မိပြီး ၄ စလာမ် ပြန်လေသည်၊ သို့သော် စလာမ် ပြန်သည်ကို ရှင်သူက မကြားပေ။

(၁) ကွလ်ဟို့ ဝလ္လာဟ်၏ မှန်မြတ်ခြင်း၌ အဘူမုဟမ္မဒ် စမရ်ကန်ဒီ သခင်က အလီ(ရသေ့)သခင့်ထံမှ ဆင့်ဆိုမှု 'ရေဝါယတ်'ပြုခဲ့သည်၊ အကြင်သူသည် ကဗရ် သင်္ချိုင်းအို့ရောက်၍ ကွလ်ဟို့ ဝလ္လာဟ်ကို(၁၁)ကြိမ်ဖတ်ပြီး ကုသိုလ်ကို သေသူများအားပေးလျှင် ဖတ်သူသည် ကဗရ်၌ရှိသော သေသူများနှင့်အမျှ ကုသိုလ် 'သဝါဗ်' ရလေသည်။

(၂) အဘွလ်ကာဆင်မ် စအဒ်ဗင်နအလီဇန်ဂျာနီ (ရဟမတွလ္လာဟ်) သခင်က အဘူဟုရိုင်ရဟ် (ရသေ့) သခင်မှ ဆင့်ဆို 'ရေဝါယတ်' ပြုခဲ့သည်၊ အကြင်သူသည် ကဗရ် သင်္ချိုင်းသို့ရောက်လာ၍ စူရဟ်အလ်ဟမ်ဒို့၊ ကွလ်ဟို့ ဝလ္လာဟ်နှင့် အလ်ဟာကို့မွတ်တကာသွရ် ကိုဖတ်ပြီး၊ အို....အသျှင် ဤဖတ်သော ကုသိုလ်'သဝါဗ်'ကို ဤကဗရ်ရှိ မွတ်စလင်မ် ယောကျ်ား မိန်းမများကို ပေးပါသည်ဟုဆိုလျှင် သေသူအားလုံးက 'ကေယာမတ်' နေ့တွင် ထိုဖတ်၍ ကုသိုလ်ပေးသူအား (ရှဖွာအတ်) တောင်းပန်ပေးကြမည်။

(၃) အဗ်ဒွလ်အဇီးဇ်ခေလာလ် (ရဟမတွလ္လာဟ်) သခင်က အနတ်စ် (ရသေ့) သခင်မှ 'ရေဝါယတ်' ပြုခဲ့သည်၊ ရစူလုလ္လာဟ် (ဆွလလ္လာဟု)ကိုယ်တော်ကမိန့်တော်မူသည်မှာ အကြင်သူသည် ကဗရ်သို့ရောက်၍ စူရဟ်ယာစီးန် ဖတ်လျှင် ကဗရ်ရှိ သေသူများအပေါ် 'အသာဗ်' ပြစ်ဒဏ် ကျရောက်နေသည်ကို အလ္လာဟ်အသျှင်မြတ်က လျော့ပေါ့ပေးတော်မူသည်၊ ထိုသူအားကဗရ်ရှိသေသူများနှင့်အမျှကုသိုလ်သဝါဗ်ပေးတော်မူသည်။

ဤတင်ပြခဲ့ပါ ဟဒီးသ်တော်များကို အေမာမ်စို့ယူတွီ (ရဟမတွလ္လာဟ်) သခင်က 'ရှရ်ဟွတ်စွဒူရ် ဖီအဟ်ဝါလင်လ်မောင်တာ၊ ဝလ်ကို့ဗူရ်' ကျမ်း စာမျက်နှာ (၁၃၃) တွင် ရေးသားထားတော်မူသည်။

'ဘဲဟာစ်ရှိတီဂေါင်ဟရ်' အကျယ်ပြန်သူက မိန့်သည်မှာဟဒီးသ်နံပါတ် (၁) နှင့် (၃)တွင် အသက်ရှင်သူများကပို့သောသဝါဗ်ကုသိုလ်သည်သေသူများမခွဲဝေဘဲအညီအမျှရကြသည်၊ 'အင်မ်ဒါဒ်' ကျမ်းရှင်က မိန့်သည်မှာ ကဗရ် ရှိသူများနှင့်အမျှ ကုသိုလ်ရသည်ဟုဆိုရာ၌ ကုသိုလ်ပို့သူက ကောင်းမှုတစ်ခုပင်ပြုသည်၊ထိုအစားသေသူယောကျ်ားမိန်းမများနှင့် အမျှကုသိုလ် ရရှိမည်၊ အဘယ့်ကြောင့်ဆိုသော် မြင့်မြတ်တော်မူသောအလ္လာဟ်အသျှင်မြတ်က မိမိ၏ 'ရဟ်မတ်' မဟာကရုဏာတော်ဖြင့် သေသူများကို ကုသိုလ်ခွဲ၍ပေးတော်မမူ အပြည့်အဝစီ ပေးတော်မူလေရာ ဖတ်သူမှာလည်း ထိုသို့ပင်ကုသိုလ်ကိုမခွဲဘဲ သေသူအားလုံးနှင့်အညီ ပေးတော်မူသည်၊ ပမာဆိုသော်.... ဖတ်သူကသေသူတစ်ယောက်တစ်ယောက်အတွက် ဖတ်သကဲ့သို့ ကုသိုလ်ရလေသည်။

# အထွေထွေသော မတ်စ်အလဟ်များ အကြောင်း

**အမေး။** ဂျမာအတ် 'နမာဇ်' တွင် အေမာမ် ရှေ့ဆောင်ဆရာက ကေရာအတ်ဖတ်နေစဉ် ၀င်ရောက်လာသူသည် (သနာ) စွဗ်ဟာန၊ ကလ္လာဟွန်မကို ဖတ်ရန်ထိုက်ပါသလား၊ ဖတ်ရန်ထိုက်ခဲ့သော် နိယတ်ပြုချိန်တွင် ဖတ်ရမည်လော့၊ သို့မဟုတ် မည်သည့်အချိန်တွင် ဖတ်ရမည်နည်း။

**အဖြေ။** ဖတ်ရန်မထိုက်ပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၀၉။

**အမေး။** တစ်ဦးသောသူသည် ရိုကူအ်၌ ၀င်ရောက်သဖြင့် ရကအတ်ကား ရသွားသည်၊ သို့သော် 'သနာ' မှာလွတ်သွားသည်၊ ထိုသူသည်'သနာ'ကို ဒုတိယ ရကအတ်တွင် ဖတ်ရမည်လော့၊ အခြားမည်သည့် ရကအတ်တွင် ဖတ်ရမည်နည်း၊ မဖတ်ဘဲနေပါက တာ၀န်ကျေသွားပြီလော့။

**အဖြေ၊** ဖတ်ရန် မလိုတော့ပါ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁၁။

**အမေး။** ရိုကူအ်၏ တတ်စ်ဗီးဟ်ကိုမှား၍ စစ်ဂျဒဟ်၌ဆိုသည်၊ 'စွဗ်ဟာန၊ ရဗ်ဗေ့ယလ်အအ်လာ ဆိုရမည့်အစား စွဗ်ဟာန၊ ရဗ်ဗေ့ယလ်အဇွီးမ်ဆိုခဲ့လျှင် သို့မဟုတ် ပြောင်းပြန်ဆိုခဲ့လျှင် စစ်ဂျဒဟ်စဟ်ဝ် ပြုရမည်လော့၊ နမာဇ်တွင် ထိခိုက်မှု ရှိပါသလား။

**အဖြေ။** ဤသို့ပြုခြင်းသည် စွန္နတ်တော်ကို လွတ်ခြင်းဖြစ်သည်၊ စစ်ဂျဒဟ်စဟ်ဝ်ကား မထိုက်ပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁၆။

**အမေး။** ရိုကူအ်၏ တတ်စ်ဗီးဟ်ကို စစ်ဂျဒဟ်စဟ်ဝ်၌ ဆိုလိုက်သည်၊ ၎င်းစစ်ဂျဒဟ်၌ မှားသွားကြောင်း သတိရလာလျှင် စစ်ဂျဒဟ်၏ တတ်စ်ဗီးဟ်ကို ဆိုရမည်လော့၊ ရိုကူအ်တတ်စ်ဗီးဟ်နှင့်ပင် လုံလောက်ပါသလော့။

**အဖြေ။** အကယ်၍အေမာမ်ဖြစ်သော်လည်းကောင်း၊ မွန်ဖွရစ်ဒ်ဖြစ်သော်လည်းကောင်း သတိရသည်နှင့် တစ်ပြိုင်တည်းဆိုရမည်၊ မွတ်က်တဒီ ဖြစ်သော် အေမာမ်နှင့် အတူတူ ထရမည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၅၁၆၊၅၁၇။

**အမေး။** နမာဇ် ဖတ်ရာ၌ သန်းခြင်းမရပ်မူ၊ ပါးစပ်ပေါ်သို့ လက်တင်ရန် ထိုက်ပါသလော့။

**အဖြေ။** အလိုအလျောက် မရပ်လျှင် လက်နှင့်ကာဆီးလိုက်ရန် ထိုက်သည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၇၄။

အမေး။ ဦးထုပ်မှာ 'နမာဇ်' ဖတ်ယင်း 'ကျသွားမူ လက်ဖြင့်ယူ၍ ဆောင်းရမည်လော့၊ မဆောင်းဘဲ ဖတ်ရမည်လော့။

အဖြေ။ 'အမလ်ကသီရ်' မဖြစ်သော် ယူဆောင်းခြင်းပို၍ကောင်းသည်။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၆၆၀။

အမေး။ နမာဇ်ဖတ်ရာ၌စူရဟ်ဖွာတေဟာ်ပြီးနောက်စူရဟ်တွဲသောအခါ ဗစ်မစ်လ္လာဟ် ဆိုရမည်၊ ၎င်း ဒုတိယ ရကအတ်တွင်/ထိုစူရဟ်၏ ဒုတိယ ရိုကူအ် ဖတ်ရာ၌ ဗစ်မစ်လ္လာဟ် ဆိုရမည်လော့။

အဖြေ။ စူရဟ် အစမှသာ ဆိုခြင်း မန်ဒူဗ် မွတ်စ်တဟာဗ် ဖြစ်သည်၊ ရိုကူအ် မှာဆိုရန်မလိုပေ။

ရှရ်ဟ်မရာကီ စာမျက်နှာ-၁၅၁။

ဤတွင် မောင်လာနာအရှိရဖွ်အလီထာနဗီ (ရဟာမတ္တလ္လာဟ်) သခင်၏ ဖြေကြားချက် ပြီးဆုံးသည်။

၁။ မတ်စ်အလဟ်ပြဿနာ။ အေမာမ်သည် လိုအပ်မှု တစ်ခုခုမရှိဘဲ မဲဟ်ရာဗ်မှလွဲ၍ ဗလီ၏တစ်နေနေရာတွင်ရပ်ခြင်း'မတ်က်ရှူးဟ်' ဖြစ်သည်၊သို့သော်မဲဟ်ရာဗ်၌ရပ်သောအခါ ခြေကို အပြင်၌ထားရမည်။

ရှာမီကျမ်း၊ အတွဲ- ၁၊ စာမျက်နှာ-၆၇၅။

၂။မတ်စ်အလဟ်ပြဿနာ။ နာမည်ရလို၍ 'ဒအ်ဝပ်တ်' ကျွေးမွေးခြင်းကို လက်မခံခြင်းက သာကောင်းသည်။

စွဖွာအိမို့ အာမလာတ်ကျမ်း။

၃။ မတ်စ်အလဟ်ပြဿနာ။ သက်သေအတွက် အခ ယူခြင်းသည် 'ဟရာမ်' ဖြစ်သည်၊ သို့သော် သက်သေသည် အခြားဝင်ငွေ မရှိသော် မိမိနှင့် အိမ်သူ အိမ်သားများ အသုံးတွက် လိုအပ်သည့်ခန့် ထိုအချိန်အတွက် အသုံးကိုယူနိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၄၊ စာမျက်နှာ-၂၅၂။

၄။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ 'ဒအ်ဝပ်တ်' ကျွေးမွေးပွဲတွင် 'ရှရီအတ်' တရားတော်နှင့် ကွဲလွဲသော အချက်ရှိသည်ကို မသွားမီသိသော် မသွားရ၊ အကယ်၍ 'ရှရီအတ်'နှင့် ကွဲလွဲသည်ကို ရှိကြောင်းသိသော်လည်း ကျွန်ုပ်သွားလိုက်လျှင် ကျွန်ုပ်ကိုထောက်ထားပြီး မလုပ်ဘဲနေမည်ဟု အထင်များလျှင် သွားခြင်းကကောင်းသည်။

အကယ်၍'ရှရီအတ်'နှင့် ကွဲလွဲသောကိစ္စရှိမည်ကို မသိ၍ သွားခဲ့ပြီးရောက်မှ ကွဲလွဲဆန့်ကျင်မှုရှိကြောင်း သိရသော် အကယ်၍ ထိုသွားသူသည် ဘာသာရေး ခေါင်းဆောင်ဖြစ်လျှင် ပြန်လှည့်လာရမည်၊ အကယ်၍ ဘာသာရေး ခေါင်းဆောင်မဟုတ်ဘဲ လူသာမန်

ဖြစ်လျှင် စားသောက်သောနေရာ၌ 'ရှရီအတ်' နှင့် ကွဲလွဲမှုရှိလျှင် ထိုနေရာ၌ မထိုင်ရ၊ 'ရှရီအတ်' နှင့် ကွဲလွဲဆန့်ကျင်မှုသည် အခြား တစ်နေရာတွင်ဖြစ်မူ စားပွဲနှင့် မတတ်သာသောအဖြစ်နှင့် ထိုင်နိုင်သည်၊ ကောင်းသည်မှာ အိမ်ရှင်ကို အကျိုးအပြစ် ပြောပြရမည်၊ အကယ်၍ ပြောဆိုရန် သတ္တိမရှိမူ သည်းခံ၍ နေရမည်၊ ၎င်းစိတ်မှ ထိုဆန့်ကျင်မှုကို မကောင်းဟု ယူဆခံနေရမည်၊ အကယ်၍ ဘာသာရေးခေါင်းဆောင် မဟုတ်စေကာမူ ဂုဏ်သိက္ခာရှိပြီး လူတို့က ထိုသူ၏လုပ်ငန်းကိုကြည့်၍ လုပ်ကြလျှင် ထိုသို့သောသူလည်း ဘာသာရေးခေါင်းဆောင်၏ အမိန့်ပညတ်၌ပါဝင်သည်၊ထိုသို့သောနေရာမှ ပြန်လှည့်သွားရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၂၉။

၅။ မတ်စ်အလဟ်ပြဿနာ။ အချို့ သူတို့သည် ငွေကို ဘဏ်သို့ အပ်ကြသည်၊ အတိုးငွေကိုကားမယူ၊ သို့ရှိရာ ငွေသည်ဘဏ်၌ ထိန်းသိမ်းထားခြင်းမဟုတ်၊ ထိုငွေဖြင့် အရောင်း အဝယ် လုပ်သည်၊ ထို့ကြောင့် 'အမာနတ်' အပ်နှံထားခြင်း မဖြစ်နိုင်ပေ၊ သာမက ချေးပေးခြင်း ဖြစ်သွားသည်၊ အပ်နှံသူသည် အတိုးငွေကို မယူသော်လည်း အတိုးယူသူများကို ချေးပေး၍ အကျိုးပြုကူညီနေသည်ဖြစ်ရာ 'ဂိုနာဟ်' လုပ်ငန်းကိုကူညီခြင်းသည် 'ဂိုနာဟ်'ပင်ဖြစ်သည်၊ ထို့ကြောင့် ဘဏ်တွင် ငွေအပ်ခြင်းမပြုပိုင်၊ ဆိုလိုသည်မှာ ဤသို့အပ်နှံခြင်းသည် အတိုးယူခြင်းကို အားပေးရာ ရောက်လေသည်။

၆။ မတ်စ်အလဟ်ပြဿနာ။ ကျင်ကြီးစွန့်နေသူ နှင့် ကျင်ငယ် စွန့်နေသူအား စလာမ်ပေးခြင်းသည် ဟာရာမ် ဖြစ်သည်၊ စလာမ် ပေးသည်ကိုလည်း ပြန်ခြင်း မပိုင်ပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၁၈။

၇။ မတ်စ်အလဟ်ပြဿနာ။ အကယ်၍ တစ်ဦးသောသူသည် လူအချို့ ရှိရာတွင် တစ်ဦးတည်းကို သီးသန့်စလာမ်ပေးလျှင် ဥပမာ 'အတ်စ်စလာမို့ အလိုင်က၊ ယာဇိုင်ဒ်'ဟု ဆိုရာတွင် ၎င်း 'ဇိုင်ဒ်'အပြင် အခြားသူက 'ဂျဝါးဗ်'ပေးလျှင် 'ဂျဝါးဗ်' ဟု မဆိုနိုင်ပေ၊ အပေးခံရသူ 'ဇိုင်ဒ်'အပေါ်၌သာ 'ဂျဝါးဗ်' ပြန်ရန်တာဝန်ရှိသည်၊ 'ဇိုင်ဒ်ဂျဝါးဗ်' မပြန်လျှင် ၎င်းသည် 'ဂိုနာဟ်ဂါရ်'ဖြစ်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၁၇။

သို့သော် ဤသို့ တစ်ဦးတစ်ယောက်တည်းကို ခွဲခြား၍စလာမ်ပေးခြင်းသည် စွန္နတ်တော်နှင့် ကွဲလွဲသည်၊ စွန္နတ်ထုံးနည်းလမ်းမှာ လူအများရှိရာတွင် တစ်ဦးတစ်ယောက်ကို သီးခြားခြင်းမပြုဘဲ 'အတ်စ်စလာမို့ အလိုင်ကွန်မ်'ဟု ဆိုရမည်။

အကယ်၍တစ်ဦးတည်းကို စလာမ်ဆိုရန်ဖြစ်မူလည်း အတ်စ်စလာမို့ အလိုင်ကွန်မ်ဟု ဆိုရမည်၊ ဤသို့ပင် အဖြေပေးရာ၌ တစ်ဦးတည်းဖြစ်စေ၊ အများကိုဖြစ်စေ ဖြေရသော်လည်း 'ဝအလိုင်ကို့မွတ်စ်စလာမ်' ဟု ဆိုရန်ထိုက်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၁၇။

၇။ မတ်စ်အလဟ်ပြဿနာ။ စီးနင်းသွားသူသည် ခြေလျင်သွားသူအား စလာမ် ပေးရန်ထိုက်သည်၊ ရပ်နေသူသည် ထိုင်နေသူအား စလာမ်ပေးရမည်၊ လူအနည်းက အများကို စလာမ်ပေးရမည်၊ အသက်ငယ်သူသည် ကြီးသူကို စလာမ်ပေးရမည်။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၁၇။

တင်ပြပါ အချက်များတွင် အကယ်၍ ပြောင်းပြန်ပြုလျှင် ဥပမာ....လူအများက အနည်းကို လူကြီးက လူငယ်ကို စလာမ်ပေးလျှင် ဖိုင်သည်၊ သို့သော် ကောင်းသည်မှာ အထက်ပါ နည်းအတိုင်းပင် ဖြစ်သည်။

၉။ မတ်စ်အလဟ်ပြဿနာ။ တစ်ရံစာ ယောကျ်ား တစ်ဦးသည် အမျိုးသမီး ငယ်ရွယ်သူ သက်လတ်အရွယ်တို့ကို စလာမ် မပြုပိုင်၊ ဤသို့ပင် စာ၌ရေးသားပို့ခြင်း တစ်ဦးတစ်ယောက်မှတစ်ဆင့် စလာမ်ပေးခြင်းများ မပြုပိုင်ပေ၊ ၎င်းတစ်ရံစာ အမျိုး သမီးများကလည်း ယောကျ်ားများကို စလာမ်မပေးပိုင်၊အဘယ့်ကြောင့် ဆိုသော် ဤသို့ စလာမ် အပေးအယူ ပြုကြခြင်းဖြင့် ငွစိတ်နဟ် ပျက်စီးမှု ဖြစ်မည်ကို စိုးရိမ်ရသည်၊ ၎င်း ပျက်စီးမှု ဖြစ်စေခြင်းလည်း ပျက်စီးမှုပင်ဖြစ်သည်၊ ဟုတ်ပါ၏ အကယ်၍ အဘွားကြီးကို လည်းကောင်း၊ အဘိုးကြီးကို လည်းကောင်း စလာမ်ပေးလျှင် ကိစ္စမရှိပေ၊ သို့သော် အဘိုးကြီး, အဘွားကြီး များမှာ တစ်ရံစာဖြစ်နေသဖြင့် မပြုခြင်းက ပို၍ကောင်းသည်၊ အကယ်၍ စလာမ်ပေးရန်လိုအပ်ပြီး ပျက်စီးမှုမရှိနိုင်လျှင် ကိစ္စမရှိပေ။

ရှာမီကျမ်း အတွဲ- ၁၊ စာမျက်နှာ-၂၀၇။

၁၀။ မတ်စ်အလဟ်ပြဿနာ။ သီးခြားသော လိုအပ်မှုမရှိဘဲ ကာဖွင်ရ်များကို စလာမ်မပေးရ၊ ၎င်းပြင် ဖွာစစ်က် များကိုလည်း စလာမ်မပေးရ၊သီးခြားသောလိုအပ်မှု ရှိလျှင် ပေးနိုင်သည်၊ စလာမ် ပေးခြင်း၊ ဆလာံပြောဆိုခြင်းဖြင့် ဟေဒါယတ် တရား လမ်းမှန် ရမည်ဟုထင်လျှင် စလာမ် ပေးပိုင်သည်။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊စာမျက်နှာ-၂၁၇၊၂၁၈။

၁၁။ မတ်စ်အလဟ်ပြဿနာ။ အကြင်သူတို့သည် ဘာသာရေးရာ၌ မွေ့လျော် နေကြလျှင် ဥပမာ... မတ်စ်အလဟ်များ ပြောဆိုနေကြလျှင် ဘာသာရေးကျမ်း ဖတ်နေ လျှင် သင်ပြနေလျှင် တစ်ဦးက ဘာသာရေး ဟောပြောနေပြီး ကျန်လူများကနားထောင် နေကြလျှင် ထိုသို့သော သူများကို စလာမ်မပေးရ၊ စလာမ်ပေးခဲ့သော် 'ဂိုနာဟ်ဂါရ်' ဖြစ် မည်၊ ဤသို့ပင် 'တတ်က်ဗီးရ်' ဆိုနေချိန်တွင် လည်းကောင်း၊ အဿာန် ဆိုနေချိန်တွင်လည်း ကောင်း၊ 'မုအဇ်သင်န်'ကိုဖြစ်စေ၊ အခြားသူများကိုဖြစ်စေ စလာမ်ပေးခြင်း 'မတ်က် ရှုးဟ်' ဖြစ်သည်၊ အမှန်မှာ ဤအချက် (၃) ရပ်စလုံးတွင် စလာမ်ပေးလျှင် စလာမ် မပြန်ရပေ။

အာလမ်ဂီရီကျမ်း အတွဲ- ၆၊ စာမျက်နှာ-၂၁၈။

ဤတွင်၍ကား 'ဘဟစ်ရှိတီ ဂျေဝင်ဟရ်' ကျမ်း ပြီး၏။

# ဒုတိယ နောက်ဆက်တွဲ

## မိဘနှစ်ပါးအပေါ် သား,သမီးတို့ လိုက်နာရမည့် ဝတ္တရားများ အကြောင်း

ဘဟစ်ရှ်တီဂေါင်ဟရ် အကျယ်ဖွင့်ဆိုသူအနေနှင့် အစီရင်ခံလိုသည်မှာ ဤဒုတိယ နောက်ဆက်တွဲအဖြစ် ထည့်သွင်းချက်သည် မောင်လာနာ အရှ်ရဖ် အလီ ထာနဝီ (ရဟမတွလ္လာဟ်) သခင်၏ ရေးသားတော်မူခြင်းဖြစ်သည်၊ ဤအခန်းတွင်မိဘနှစ်ပါးအား ပြုစုနာခံရမည့် ဝတ္တရားများကို အကျယ်တစ်ဝင့် ရေးသားထားသည်၊ 'ဘဟစ်ရှ်တီ ဇေဝရ်'ကျမ်း ပဥ္စမတွဲ၌ ရေးသားခဲ့ပြီး ဖြစ်သော်လည်း ထိုပဥ္စမတွဲတွင် အမျိုးသားနှင့် အမျိုးသမီးတို့အတွက် ပေါင်းစပ်၍ရေးခဲ့သည်၊ ဤအခန်းသည် အများဆုံးအမျိုးသား များနှင့် သက်ဆိုင်သည်၊ ထို့ကြောင့် ဘဟစ်ရှ်တီဂေါင်ဟရ်တွင်ထည့်သွင်းရန် သင့်တော် မည်ဟု ယူဆသည်၊ ၎င်းအခန်းကို ဘဟစ်ရှ်တီဇေဝရ်ကျမ်း ပဥ္စမတွဲ၏ နောက်ဆက်တွဲဟု ယူဆစေလိုသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အင်န်နလ္လာဟ၊ ယအ်မို့ရို့ကွန်မ် အလ္လာဟ်အသျှင်မြတ်က သင်တို့အား အမိန့် ပေးတော်မူသည်၊ 'အမာနတ်' အပ်နှံထားခြင်းများကို ပြေလည်စွာ ပြန်ပေးကြကုန်၊ ၎င်းသင်တို့သည် လူတို့အား အမိန့်ပေးဆုံးဖြတ်လျှင် တရားမျှတစွာ ဆုံးဖြတ်ကြကုန်။

ကုရ်အာန်။

ဤအာယတ်တော်မြတ်ဖြင့် အချက်နှစ်ချက်ကို သိရသည်၊ ပထမမှာ ရယူပိုင်ခွင့် (ဟို့ကူးက်) ရှိသူများကို ထမ်းဆောင်ရန် ပေးရန် 'ဝါဂျစ်ဗ်'ဖြစ်သည်၊ ဒုတိယမှာ ရပိုင်ခွင့် တစ်ခုအတွက် အခြားတစ်ဦး၏ ရပိုင်ခွင့် 'ဟပ်က်' ကို ဖျက်ဆီးပစ်ခြင်းသည် မပိုင်ပေ။

ဤအမိန့်နှစ်ရပ် နှင့် ဆက်စပ်၍ သီးခြားသောမူလအရင်းနှစ်ချက်လည်းရှိပေသည်၊ ဤကိစ္စနှင့် ပတ်သက်၍ ယခုဆန်းစစ်တင်ပြမည်၊ ပထမအချက်မှာ မိဘနှစ်ပါး၏ 'ဟို့ကူးက် ဝါဂျေ့ဗဟ်နှင့် ဂိုင်ရ်ဝါဂျေ့ဗဟ်' ဖြစ်သည်၊ ဒုတိယမှာ မိဘနှစ်ပါး၏ 'ဟပ်က်' ဇနီး, သား,သမီးတို့၏ 'ဟပ်က်'များကို ဖွင့်ဆိုမည်။

ဤကိစ္စကို ရေးရခြင်းအကြောင်းမှာ အချို့သူတို့သည် မိဘအပေါ် ထားရှိရမည့် ဝတ္တရားများကို ပျက်ကွက်ကြသည်၊ လိုက်နာရမည့် အချက်များကို လျစ်လျူရှုထားကြ သည်၊ ထိုသို့ မလိုက်နာသည့်အတွက် 'ဂိုနာဟ်' ကိုခံကြရသည်၊ ဤသို့ပင် အချို့ဘာသာ ရေး နားလည်သူများသည် မိဘနှစ်ပါး၏အမိန့်ကို လိုသည်ထက်ပို၍ နားခံလွန်းကြသည်၊

ထို့ကြောင့် တစ်ဦးသောသူ၏ ဟပ်က် ဥပမာ....ဇနီးနှင့် သား၊ သမီးအပေါ် ထားရှိရမည့် ငွေကြေးများ ပျက်ကွက်သွားသည်၊ ၎င်းတို့ရပိုင်သော ဟပ်က် ကို လျစ်လျူရှုထားသည်၊ ထိုအတွက် 'ဂိုနာဟ်'ကိုခံကြရသည်။

၎င်းအချို့သည် ဟပ်က် ရှိသူ၏ ဟပ်က်ကို ကျေပွန်ကြသည်၊ သို့သော် 'ဂိုင်ရ်ဝါဂျေ့ဗဟ်' မပြုရမည်ကို 'ဝါဂျစ်ဗ်'ပြုရမည်ဟု ယူဆပြီး ပြုမူလိုက်နာကြသည်၊ ထို့ကြောင့် တစ်ရံတစ်ခါ တစ်ဘက်သားမှာ မခံနိုင်ပြီး စိတ်ဒုက္ခရောက်ရသည်၊ ဤသို့ဖြင့် ၎င်းတို့သည် ဘာသာရေးက ပြင်းပြသည်၊ ခက်ခဲသည်ဟု ဒွိဟဖြစ်ကြသည်၊ ဤသို့ ဒွိဟဖြစ်ခြင်းဖြင့် ၎င်းတို့၏ ယုံကြည်မှု 'ဒီန်'မှာ ထိခိုက်မှု ဖြစ်လာရသည်၊ ဤသို့ဖြင့် ဟပ်က် ရှိသူ၏ ဟပ်က်ကို ဖျက်ဆီးရာတွင် ပါဝင်နိုင်သည်၊ ထိုဟပ်က် ရှိသူသည် ၎င်း၏'နဖ်စ်'ကိုယ်ဖြစ်သည်၊ 'နဖ်စ်'၏ ဟပ်က် လည်းများစွာရှိသည်၊ ရစူလုလ္လာဟ်(ဆွလလ္လာဟု)ကိုယ်တော်က မိန့်တော်မူသည်မှာ (အန်န၊ လေ့နဖ်စေ့က၊ အလိုင်က ဟပ်က်ကန်၊) သင့်'နဖ်စ်'ကိုယ်၏အဖို့သင့်အပေါ်မှာ လည်း ဟပ်က် တာဝန်ရှိသည်။

ဤ ဟပ်က် များအနက် အမြင့်ဆုံးသည် မိမိစွဲယူယုံကြည်မှု 'ဒီန်' ဖြစ်သည်၊ သို့ရှိရာ မိဘနှစ်ပါး၏ ဟပ်က် နာခံရမည်နှင့် မနာခံဘဲနေနိုင်သော အချက်ကို နာခံရမည်ဟူ၍နေခဲ့လျှင်'ဂိုနာဟ်'ဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော်'ဝါဂျစ်ဗ်' နှင့်'ဂိုင်ရ်ဝါဂျစ်ဗ်' နာခံရန်နှင့် မနာခံဘဲနေရန် အချက်များကို သိကျွမ်းထားရန်မှာ 'ဝါဂျစ်ဗ်'ထိုက်၏၊ ဤသို့ခွဲခြား သိပြီးနောက်လည်း မှန်သည်,မှားသည်ကို လိုက်နာပြုမူနေလျှင် မိမိဒုက္ခကို ရှာသူပင် ဖြစ်သည်၊ နာခံနေလျှင် ထိုသူ၏ ခံနိုင်ရည်ရှိခြင်းပင်ဖြစ်သည်၊ ကျွန်ုပ်အပေါ် တာဝန်မရှိသော ကိစ္စကိုပါ ထမ်းဆောင်နာခံသည်၊ မခံနိုင်တော့သည့် အဆုံးတွင် လက်လျှော့လိုက်မည်။

အချုပ်မှာ အင်လ်မ် အသိပညာသည် ကောင်းကျိုးချည့်ဖြစ်သည်၊ ဂျဟ်လ် မသိမိုက်မဲမှုသည် ဆုံးရှုံးနစ်နာမှုချည့်ဖြစ်သည်၊ ထိုအဖြူ့အမည်းကို သိရှိလိုက်နာကြစေရန် ဤအကြောင်းကိုရေးသားခြင်းဖြစ်သည်၊ 'ယခုဟုဒီးအီဖွေ့ကဟ်'များကို တင်ပြပြီးနောက် အကျဉ်းလိုရင်းကို ရေးသားမည်၊ ဤအခန်းကို (တအ်ဒီလ် ဟို့ကူကေ့၊ ဝါလေ့ဒိုင်န်)ဟု အမည်တပ်လျှင် သင့်တော်ပေမည်။

အဗ်ဒွလ္လာဟ်အစ်ဗ်နို့ အုမရ် (ရသွေ့) သခင်က မိန့်တော်မူသည်၊ ကျွန်ုပ်၏ နေကာဟ်တွင် အမျိုးသမီး တစ်ယောက်ရှိသည်၊ ကျွန်ုပ်သည် ထိုဇနီးကို ချစ်ခင်သည်၊ ကျေနပ်မှုရှိသည်၊ သို့သော် ဖခင် အုမရ် (ရသွေ့) သခင်သည် ထိုသူမကို မကျေနပ်ပေ၊ ထို့ကြောင့် တလာ့က် ပေး၍ကွာရှင်းလိုက်ရန် ကျွန်ုပ်အား အမိန့်ပေးသည်၊ ကျွန်ုပ်က မကွာရှင်းဟု ငြင်းပယ်ခဲ့သည်၊ ဖခင်သည် ရစူလုလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်ထံ

သွားရောက်ပြီး ဤအကြောင်းကို ပြောပြလျှောက်ထားသည်၊ ကျွန်ုပ်ကို ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ထိုသူမကို ကွာလိုက်ရန် အမိန့်ပေးတော်မူသည်။

'မင်ရ်ကာတ်' ကျမ်းတွင် ရေးသားပါရှိသည်၊ ဤတွလာ းက်ပေး ကွာရှင်းမှုသည် ကွာရှင်းရန်ထိုက်နေ၍ဖြစ်သည်၊ ၎င်းအခြားအပြစ်တစ်စုံတစ်ရာရှိလျှင်လည်းကွာရန်သင့်၍သာ အကွာခိုင်းခြင်းဖြစ်သည်။

အေမာမ်ဂဇာလီ (ရဟာမတွလ္လာဟ်) သခင်က 'အဲဟ်ယာအ်' ကျမ်းတွင်မိန့်ဆိုသည်မှာ ဤဟဒီးသ်အရ ဖခင်၏ ဟပ်က်သည် အဦးဆုံးဖြစ်သည်၊ သို့သော် ဖခင်သည် ထိုအမျိုးသမီးကို မလိုအပ်သောကိစ္စဖြင့် မုန်းတီးခြင်း မဖြစ်စေရ၊ အုမရ် (ရသွေ့) သခင်သည် မလိုအပ်ဘဲ အကြောင်းမဲ့ မုန်းတီးခဲ့ခြင်းမဟုတ်ပေ။

မို့အားသ်(ရသွေ့)သခင်၏ ရေဝါယတ်တွင် ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ ဇနီး,သား,သမီး၊ ရွှေ,ငွေ,ပစ္စည်းကို စွန့်ရမည်ဟု မိဘက အမိန့်ပေးလျှင် မငြင်းပါယ်ရ။

'မင်ရ်ကာတ်'ကျမ်းတော်တွင်ပါရှိသည်၊ ဤသို့စွန့်ရမည်ဟု မိန့်ခြင်းသည် မိဘ၏ အန္တအတာခံရမည်ကို လေးနက်စေရန် မိန့်ခြင်းဖြစ်သည်၊ အမှန်မှာ ချွေးမမှ မိဘမှာ ဒုက္ခလွန်စွာရောက်သော်လည်း သားက ဇနီးကို ကွာရှင်းရန်မလိုပေ၊ အဘယ့်ကြောင့် ဆိုသော် ကွာရှင်းခြင်းဖြင့် သားမှာ ဒုက္ခလွန်စွာရောက်နိုင်သည်၊ ၎င်းမိဘကလည်း သားကို ချစ်သဖြင့် သားဒုက္ခရောက်အောင် ဇနီးနှင့် ပစ္စည်းကို စွန့်ရမည်ဟုပြောမည် မဟုတ်ပေ၊ သို့ရှိရာ ကွာရှင်းရန် စွန့်လွှတ်ရန် ပြောသော်လည်း လိုက်နာရန် အရေးမကြီးပေ။

ကျွန်ုပ် ဆိုလိုသည်မှာ လေးနက်ရန် အတွက်ဟု ဆိုခြင်းသည် နီးစပ်သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က ဆက်၍မိန့်ထားသည်မှာ အလ္လာဟ်အသျှင်မြတ်နှင့် 'ရှစ်ရ်က်' မပြုနှင့် အကယ်၍ သင်အသတ်ခံရသည်ဖြစ်စေ ၊မီးလောင်တိုက် အသွင်းခံရသည်ဖြစ်စေ ဤသည်မှာ 'မို့ဗာလဂဟ်'လေးနက်စေရန် မိန့်ဆိုတော်မူခြင်း ဖြစ်သည်၊ ၎င်း 'ကလေ့မဟ်ကွဖ်ရ်' သည် မတတ်သာသောအဖြစ်၌ ပြောဆိုခြင်း၊ အလ္လာဟ်အသျှင်မြတ် အမိန့်တော်(မန်ကဖွရ၊ ဗစ်လ္လာဟေ့၊ ဘအ်ဒ၊ အီမာနေ့ဟီ၊) အရ အတည်ဖြစ်လေသည်။

အစ်ဗ်နို့ အဗ်ဗားစ် (ရသွေ့) သခင်က ရေဝါယတ် ပြုခဲ့သည်၊ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မိန့်တော်မူသည်မှာ အကြင်သူသည် မိဘနှစ်ပါး နှင့် ပတ်သက်၍ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကို နာခံလျှင် အကယ်၍ မိဘနှစ်ပါးစလုံး ရှိပါက ထိုသူ့အတွက် ဂျန္နတ်၏ တံခါးနှစ်ခု ပွင့်သွားသည်၊ တစ်ဦးသာရှိလျှင် တံခါးတစ်ခုပွင့်သည်၊ အကယ်၍ မိဘ၏အမိန့်ကို ဖီဆန်လျှင် ဂျဟန္နမ်ငရဲဘုံ၏ တံခါးနှစ်ခု ပွင့်သွားသည်၊ တစ်ဦး၏အမိန့်သာ ဖီဆန်လျှင် တံခါးတစ်ခု ပွင့်သွားသည်။

ဤဟဒီးသ်တော်၌ပင် တစ်ဦးသောပုဂ္ဂိုလ်က အကယ်၍ မိဘက မတရားပြုလျှင် မည်သို့ပါနည်းဟု မေးလျှောက်ရာရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်က မတရားပြုသော်လည်း နာခံရမည်ဟု သုံးကြိမ်မိန့်တော်မူသည်။

'မင်ရိကာတ်'ကျမ်းတော်၌လာရှိသည်၊ မိဘနှစ်ပါးနှင့်ပတ်သက်၍ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကိုနာခံလျှင်ဟု ဆိုခြင်းမှာ မိဘ၏အန္ဒအတာ ခံရာ၌ အလ္လာဟ်အသျှင်မြတ်၏ အမိန့်တော်ကြောင့် လိုက်နာခြင်းဖြစ်သည်၊ မိဘ၏အန္ဒအတာ ခံခြင်းသည် မိဘက ခံထိုက်၍မဟုတ်၊ အလ္လာဟ်အသျှင်မြတ်က အမိန့်ပေးတော်မူ၍ဖြစ်သည်၊ ထို့ကြောင့်မိဘ၏ အန္ဒအတာခံခြင်းကိုအလ္လာဟ်အသျှင်မြတ်၏အန္ဒအတာခံနေသည်ဟု ယူဆရမည်၊ (ဆိုလိုသည်မှာ မိဘက အလ္လာဟ်အသျှင်မြတ် စည်းမျဉ်းတော်အတိုင်း အမိန့်ပေးလျှင် နာခံရမည်၊ အလ္လာဟ်အသျှင်မြတ် စည်းမျဉ်းတော်နှင့် ကွဲလွဲသော အမိန့်ကိုပေးလျှင် နာခံလိုက်နာရန်မထိုက်၊) အဘယ့်ကြောင့်ဆိုသော် ဟဒီးသ်တော်တွင် လာရှိသည်၊ အလ္လာဟ်အသျှင်မြတ်အမိန့်တော်ကိုဖီဆန်၍'မခ်လူးက်'လူသား၏အမိန့် နာခံခြင်းမဖြစ်နိုင်ပေ။

'မင်ရိကာတ်'ကျမ်းတော်တွင်လာရှိသည်၊ မိဘ၏ မတရားပြုမှုဆိုသည်မှာ ဟဒီးသ်တော်အရ လောကီကိစ္စ၌သာ ဖြစ်သည်။ လောကုတ္တရာ 'အာခေရတ်' အတွက် မဟုတ်ပေ၊ ဆိုလိုသည်မှာ လောကီရေးရာဖြစ်လျှင် မိဘ၏ ခိုင်းစေချက်မှာ မမျှတ, မတရားကျသော်လည်း နာခံလိုက်နာရမည်၊ အကယ်၍ 'ဒီးန်' ဘာသာရေးရာ၌ တရားတော်နှင့် ကွဲလွဲစွာ အမိန့်ပေးလျှင် လိုက်နာရန်မထိုက်။

ကျွန်ုပ်ပြောလိုသည်မှာ ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်၏ မိန့်ခွန်းတော် မိဘက မတရားပြုသော်လည်းဟု မိန့်ခြင်းမှာ ဇကာတ်ငွေ သိမ်းသောသူများအား မိန့်သကဲ့သို့ ဖြစ်သည်၊ သင်တို့အပေါ် မတရားပြုသော်လည်း ဇကာတ်ငွေ ကောက်ခံရာ၌ ၎င်းတို့ကို ကျေနပ်အောင်ပြုကုန်။

'လမ်အာတ်' ကျမ်း၌ ရေးသားပါရှိသည်၊ ဤသို့ မိန့်ဆိုခြင်းသည် လေးနက်စေရန် ဖြစ်သည်၊ ဆိုလိုသည်မှာ သင်တို့၏ အထင်မှာ မတရားဖြစ်သော်လည်း ကျေနပ်အောင်ပြုကုန်ဟု မိန့်ခြင်းသည် အမှန်ပင် မတရားပြုကြမည်ဖြစ်သော် ရစူလ်ကိုယ်တော်က ကျေနပ်အောင်ပြုကုန်ဟု မိန့်တော်မူမည်မဟုတ်ပေ။

'မင်ရိကာတ်'ကျမ်း၌ အစ်ဗ်နို့ အုမရ်(ရသွေ့)သခင်က ရစူလွလ္လာဟ်(ဆွလလ္လာဟု) ကိုယ်တော်မှ ဆင့်ပြန်ခဲ့သည်၊ လူသုံးယောက်သည် တစ်နေရာသို့သွားနေကြသည်၊ မိုးသည်းထန်စွာ ရွာသွန်းသဖြင့် တောင်ခေါင်းတစ်ခုအတွင်းသို့ဝင်ကြသည်၊ တောင်ခေါင်းဝတွင်ရှိသော ကျောက်ပြားကြီးတစ်ခုသည် အပေါ်ကဝသို့ကျလာပြီးပိတ်သွားသည်၊ ထိုသူတို့က အချင်းချင်း အလ္လာဟ်အသျှင်မြတ် အတွက် သက်သက်ပြုသော 'အမလ်' ကိုပြောဆိုပြီး ကျောက်ပြားကြီး ဖယ်ရှားသွားရန်'ဒိုအာ'ပြုပါဟုဆိုလေသည်၊ ထိုသုံးဦးအနက်တစ်ဦးက ဆိုသည်မှာ....

အို....အလ္လာဟ်အသျှင်မြတ် ကျွန်တော်၏ မိဘနှစ်ပါးသည် အလွန်အသက်အရွယ်ကြီးကြပါပြီ၊ ကျွန်တော်တွင် သား, သမီးငယ်များလည်းရှိကြပါသည်၊ ကျွန်တော်မျိုးသည် ဆိတ်များကြောင်းပါသည်၊ ညနေစောင်း အချိန်တွင် အိမ်ပြန်လာပြီး ဆိတ်နို့ညှစ်ပြီးနောက် မိဘနှစ်ပါးကို ကလေးများအလျှင် တိုက်ကျွေးပါသည်၊ တစ်နေ့တွင် ကျွန်တော်မျိုးသည် ဝေးလံသောနေရာထိ ရောက်သွားသဖြင့် အိမ်ပြန်နောက်ကျခဲ့ပါသည်၊ အိမ်ရောက်သောအခါ မိဘနှစ်ပါးမှာ အိပ်ပျော်နေသည်ကို တွေ့ရပါသည်၊ ကျွန်တော်မျိုးသည် လုပ်ရိုးလုပ်စဉ်အတိုင်း ဆိတ်နို့ညှစ်ပြီး ခွက်မှာထည့်ကာ နှိုးရန် မသင့်တော်သဖြင့် ခေါင်းရင်းမှာ ရပ်နေခဲ့သည်၊ ၎င်းကလေးများကိုလည်း အလျှင်တိုက်ရန်မသင့်ဟု ယူဆပါသည်၊ ကလေးများသည် ကျွန်တော်မျိုး၏ ခြေရင်းတွင် ထိုင်ငိုယင်း နံနက်မိုးသောက်လင်းသွားပါသည်။

ကျွန်ုပ် ပြောလိုသည်မှာ— ကလေးများ ငိုယိုသော ကိစ္စသည် အဘူတ္တာလ်ဟဟ် (ရသွေ့)သခင်နှင့် ညှော်သည်များနှင့်ပတ်သက်သော ဖုံပြင်ကဲ့သို့ဖြစ်သည်၊ အဘူတ္တာလ်ဟဟ် (ရသွေ့)သခင်က စားစရာများရှိပါသလော့ဟု ဇနီးအားမေးသည်၊ ဇနီးက ကလေးများအတွက်ပင်ရှိသည်ဟုဆိုသည်၊ ထိုအခါ အဘူတ္တာလ်ဟဟ်(ရသွေ့)သခင်က ကလေးများကို ချော့မော့ပြီး သိတ်လိုက်ပါဟု မိန့်လေသည်။

'လမ်အာတ်' ကျမ်းရှင်ကရေးသည်၊ဤကိစ္စအပေါ် အာလင်မ်များကမိန့်ကြသည်မှာ ထိုကလေးများသည် ငတ်မွတ်ကြ၍မဟုတ်၊ ကလေးများထုံးစံအတိုင်း မဆာဘဲ တောင်းကြခြင်းဖြစ်သည်၊ အကယ်၍ ကလေးများသည် တကယ် ငတ်မွတ်နေကြလျှင် ကလေးများကိုကျွေးရန် 'ဝါဂျစ်ဗ်' ထိုက်လေ၏၊ အဘူတ္တာလ်ဟဟ် (ရသွေ့) သခင်နှင့် ဇနီးသည် အလ္လာဟ်အသျှင်မြတ်က ချီးကျူးခြင်းခံရသော ပုဂ္ဂိုလ်များဖြစ်လေရာ၎င်းတို့သည် ကလေးများကို ကျွေးရမည်ဟူသော 'ဝါဂျစ်ဗ်' ကိစ္စတစ်ရပ်ကို မည်သည့် နည်းနှင့်မှ လွှတ်ကြမည် မဟုတ်ပေ။

ကျွန်ုပ် ပြောလိုသည်၊ ဖခင်ထက် ကလေးငယ်၏ ဟပ်က် ဝတ္တရားက ပိုများသည်၊ 'ဒွရ်ရေ့မွခ်တာရ်' ကျမ်းတွင် လာရှိသည်၊ အကယ်၍ ဖခင် နှင့် သားအတူရှိကြသော် အသုံးစရိတ်မှာ မိမိသားက ပို၍ထိုက်သက်သည်၊ အချို့ကမိန့်ကြသည်၊ ဖခင်နှင့်မိမိသားနှစ်ဦးစလုံးကို ခွဲဝေပေးရမည်။

အေမာမ် မုဟမ္မဒ် (ရဟုမတ္တုလ္လာဟ်) သခင်၏ 'ကေတာဗုလ်အာသာရ်' ကျမ်းတွင် လာရှိသည်၊ အာအေရှဟ် (ရသွေ့) သခင့်မက မိန့်သည်မှာ.... အကောင်းဆုံး ရိုဇီသည် မိမိကိုယ်တိုင် ရှာဖွေခြင်း ဖြစ်သည်၊ ၎င်းပြင် သင်တို့၏ သား, သမီးများလည်း သင်တို့၏ ရှာဖွေခြင်း၌ ပါဝင်သည်။

အေမာမ်မုဟမ္မဒ် (ရဟမတွလ္လာဟ်) သခင်ကမိန့်သည်မှာ ဖခင်သည် တောင့်တ သူ မရှိဆင်းရဲဖြစ်လျှင် သားပစ္စည်းမှ စားသောက်လျှင် ကိစ္စမရှိ၊ သို့သော် လိုအပ်သည်ခန့် စားသုံးရမည်၊ အပိုမဖြုန်းတီးရ၊ အကယ်၍ ဖခင်သည် ပစ္စည်းရှိသူဖြစ်ပြီး သားပစ္စည်း ကိုယူလျှင် ထိုပစ္စည်းသည် ဖခင်အပေါ် ကြွေးဖြစ်သည်၊ အေမာမ် အဘူဟနီဖ္ဖာဟ် (ရဟမတွလ္လာဟ်) သခင်၏အမိန့်လည်း ဤအတိုင်းပင်ဖြစ်သည်။

အေမာမ် မုဟမ္မဒ် (ရဟမတွလ္လာဟ်) သခင်က အေမာမ် အဘူဟနီဖ္ဖာဟ် (ရဟမတွလ္လာဟ်) သခင်မှ ၎င်းက ဟမ်မားဒ် (ရသွေ့) သခင်မှ ၎င်းက အစ်ဗ်ရာဟီးမ် (ရသွေ့) သခင်မှ ဆင့်ပြန်ခဲ့သည်၊ ဖခင်သည် သား၏ပစ္စည်းတွင် မည်သည့်မျှ ပိုင်ဆိုင်မှု မရှိပေ၊ သို့သော် ဖခင်ဖြစ်သူသည် စားခြင်း, သောက်ခြင်းနှင့် အဝတ်အစားမရှိသော် ယူပိုင်ခွင့်ရှိသည်၊ အေမာမ် မုဟမ္မဒ် (ရဟမတွလ္လာဟ်) သခင်က မိန့်သည်မှာ ဤအမိန့် အပေါ် ကျွန်ုပ်တို့လိုက်နာကြသည်၊ဤသည်ပင် အေမာမ်အဘူဟနီဖ္ဖာဟ် (ရဟမတွလ္လာဟ်) သခင်၏ အမိန့်ဖြစ်သည်။

'ကန်ဇွလ်အမ္မာလ်'ကျမ်းတွင် ဟာကင်မ်စသည်မှ ရေဝါယတ်လာရှိသည်၊သင်တို့၏ သား,သမီးများကို အလ္လာဟ်အသျှင်မြတ်က ပေးသနားတော်မူသည့်၊ အလိုတော်ရှိသူကို သမီးများ ပေးတော်မူပြီး၊ အလိုတော်ရှိသူကို သားများပေးသနားတော်မူသည်၊ သို့ရှိရာ ထိုသား,သမီးများနှင့် ပစ္စည်းများသည် သင်တို့အတွက်ဖြစ်သည်၊ သင်တို့မှာလိုအပ်လျှင်။

ကျွန်ုပ်ပြောလိုသည်၊ (သင်တို့မှာ လိုအပ်လျှင်)' ဟူ၍မိန့်တော်မူခြင်းသည် အေမာမ် မုဟမ္မဒ်(ရဟမတွလ္လာဟ်) သခင်က အာအေရှဟ် (ရသွေ့) သခင်မမှ 'ရေဝါယတ်' ပြုခဲ့ သည်ကို အထောက်အကူ သာဓက ဖြစ်နေပေသည်၊ ၎င်းပြင်အဘူဘကရ် (ရသွေ့) သခင်က ရစူလွလ္လာဟ် (ဆွလလ္လာဟု) ကိုယ်တော်မှ (သင် နှင့် သင်၏ ပစ္စည်းသည် သင့်ဖခင်အတွက် ဖြစ်သည်) ဟု မိန့်ခဲ့ရာ၌လည်း အလိုသဘောမှာ စားသောက်မှုအတွက် ဖြစ်သည်။

'ဒွရ်ရေ့မွခ်တာရ်'ကျမ်းတော်တွင်လာရှိသည်၊မိဘနှစ်ပါး၊သို့မဟုတ် တစ်ပါးပါး ရှိနေလျှင် အရွယ်မရောက်သေးသောကလေး၊ ၎င်းသူငယ်ုတို့အပေါ် 'ဂျေဟာဒ်ကာဖွင်ရ်' များနှင့် စစ်တိုက်ရာတွင် ပါဝင်ဆင်နွဲရန် 'ဖွရ်သွ'မဟုတ်ပေ၊ အဘယ့်ကြောင့်ဆိုသော် မိဘ၏စကားကို နာခံရန်မှာ 'ဖွရ်သွ အိုင်န်' ဖြစ်သည်၊ ၎င်းစိုးရိမ်ဖွယ်ရှိသော ခရီးသို့ မသွားရ၊ သို့သော် မိဘက သဘောတူလျှင်သွားနိုင်သည်၊ ၎င်းစိုးရိမ်ဖွယ်မရှိသောခရီးတွင် မိဘ၏ ခွင့်ပြုချက်မရဘဲနှင့် သွားနိုင်သည်၊ ဤအမိန့်တွင် ဘာသာရေးပညာ သင်ယူရန် ခရီးထွက်ခြင်းလည်း ပါဝင်သည်။

'ရဒ်ဒွလ်မွခ်တာရ်'ကျမ်းတွင် လာရှိသည်၊ သားခရီးထွက်ခြင်းဖြင့် မိဘမှာ လွန်စွာ ဒုက္ခရောက်မည်ဖြစ်သော် တားမြစ်ပိုင်ခွင့်ရှိသည်၊ ၎င်းပြင် 'ကာဖွင်ရ်' မိဘအတွက်လည်း ဤအမိန့်အတိုင်းပင် ဖြစ်သည်၊ အကယ်၍ 'ကာဖွင်ရ်' မိဘသည်၎င်းတို့နှင့် တာသာတူ များကို သတ်မည်ဖြစ်၍ 'ဂျေဟာဒ်' စစ်ပွဲသို့မသွားရန်တားခဲ့သော် နားမထောင်ရ၊ ၎င်း

မရှိလျှင် မိဘမှာ သေဆုံးမည်ကို စိုးရိမ်ရမှသာ သွားက မသွားဘဲနေရမည်၊ အကယ်၍ မိဘသည် အလွန်ဆင်းရဲပြီး ထိုသူ၏ ဝတ်ကြီး ဝတ်ငယ် ပြုစုမှု ရမှသာဖြစ်မူ ၎င်းအပေါ် မိဘကို 'ခစ်ဒ်မတ်' ပြုစုရန် 'ဖွရ်သ္'ဖြစ်သည်၊ မိဘသည် 'ကာဖွင်ရ်'ဖြစ်သော်လည်း ဤအမိန့် အတိုင်းပင်ဖြစ်သည်၊ 'ဖွရ်သွ' အိုင်န်'ကို 'ဖွရ်သွ' ကေဖွာယဟ်' အတွက် လက်လွှတ်ရန် မသင့် ပေ၊ စိုးရိမ်ဖွယ်ခရီး၊ ဥပမာ ဂျေဟာဒ်စစ်ပွဲ၊ ပင်လယ်ခရီးနှင့် စိုးရိမ်ဖွယ် ခရီးမဟုတ်လျှင် ဥပမာ....ရောင်းဝယ်ခြင်း၊ ဟဂ်ျ၊ အွမ်ရဟ် အတွက်ဖြစ်မူ မိဘက ခွင့်မပြုလျှင်လည်း သွား ပိုင်သည်၊ ပျက်စီးမည်ကို မစိုးရိမ်ရမှသာ သွားရမည်၊ လမ်းကောင်းပြီး ပျက်စီးမည်ကို မစိုးရလျှင် ဘာသာရေးပညာအတွက် ခရီးထွက်ခြင်းလည်း ပါဝင်သည်။

'ဘဲဟ်ရွရ်ရာအစ်က်နှင့်ဖွတာဝါဟင်န်ဒိယဟ်'ကျမ်းတွင်လည်းတင်ပြပါအတိုင်းပင် ရေးသားထားသည်၊၎င်း 'ဖွတာဝါဟင်န်ဒိယဟ်'ကျမ်းတွင်မတ်စ်အလဟ်တစ်ရပ်အောက်၌ ရေးထားသည်မှာ.... အရေးကြီးသော အလုပ်မဟုတ်လျှင် မိဘထံ ခွင့်ပန်၍ သွားရန် အရေးကြီးသည်။

'ဒွရ်ရေ မွခ်တာရ်'ကျမ်း ဗာဗွန်နဖွ ကဟ် အခန်း၌ပါရှိသည်၊ ဇနီးကိုအခြားဇနီး နှင့် ခင်ပွန်း၏ ဆွေမျိုးများမရှိသော အိမ်တစ်အိမ်မှာထားရန် ခဖ်ွန်းအပေါ် 'ဝါဂျစ်ဗ်' ထိုက်သည်။

'ရဒ်ဒွလ်မွခ်တာရ်' ကျမ်းတွင် အမျိုးမျိုးသော အမိန့်များရေးပြီးနောက်ရေးသား ထားသည်မှာ ဂုဏ်သိက္ခာရှိသောပစ္စည်းရှိသောဇနီးကို အလုပ်တန်းစားအိမ်တစ်အိမ်ပေး ထားရန်အရေးကြီးသည်၊ ကျွန်ုပ်တို့ရှာမ်နိုင်ငံ၏ မြို့ကြီးများတွင် သူစိမ်းများရှိသောအိမ်၌ လူလပ်တန်းစားပင် မနေကြပေ၊ ပစ္စည်းရှိသူနှင့် ဂုဏ်သိက္ခာရှိသူများကား ထိုသို့သော အိမ်၌မနေကြပေ၊သို့သော်အိမ်သည်ညီအစ်ကိုတစ်စုပိုင် အမွေဆိုင်ဖြစ်နေကြလျှင်၊ နေသည့် အိမ်ထောင်အသီးသီးသည် မိမိတို့ အခန်းများတွင် နေကြပြီး အိမ်၏လိုအပ်မှုများမှာကား ရောရှ၍ထမ်းဆောင်ကြသည်၊ ထို့နောက် မိန့်သည်မှာ အသုံးအဆောင် လူနေမှုသည် ခေတ်အလိုက် ပြောင်းလဲလေရာ 'မွဖ်တီ' ဓမ္မသတ် ဆုံးဖြတ်သူသည် ဤအချက်ပြောင်းလဲမှု ကို ရှုကြည့်ရန် အရေးကြီးသည်၊ ဤအချက်ကို မကြည့်ဘဲ ဆက်ဆံမှုများမရနိုင်ပေ။

❋❋❋❋❋❋❋❋❋

တင်ပြပါ 'ရေဝါယတ်' ဆင့်ဆိုမှုများဖြင့် မတ်စ်အလဟ် အချို့ပေါ်လွင်ထင်ရှား လာသည်မှာ....

ပထမအချက်။

အကြင်အလုပ်သည် 'ရှရီအတ်' ဆရာတော်အရပြုမှုရန် 'ဝါဂျစ်ဗ်' ဖြစ်ပြီးမိဘက ထိုကိစ္စမပြုရန် တားမြစ်ခဲ့သော် မလိုက်နာရပေ၊ဤအချက်၌ မိဘ၏ အမိန့်နာခံခြင်း

'ဝါဂျစ်ဗ်' မဟုတ်ပေ၊ ဤအမိန့်ဖြင့် နောက်ဆက်တွဲများ ပေါ်လာပြန်သည်၊ ဥပမာ တစ်ဦးသောသူသည် ဝင်ငွေအလွန်နည်းသည်။ အကယ်၍ မိဘကိုကျွေးမွေး 'ခစ်ဒ်မတ်' ပြုပါက ဇနီးနှင့်သား,သမီးများ ဒုက္ခရောက်မည်ဖြစ်မူ ၎င်းသည် မိဘကိုကျွေး၍ဇနီး,သားသမီးများကို ဒုက္ခပေးခြင်း မပိုင်ပေ၊ ၎င်းဇနီးသည်က ယောက္ခမများနှင့် တစ်သီးတစ်ခြားနေရန်တောင်းဆိုမူ ယောက္ခမများက အတူထားလိုသော်လည်း ခင်ပွန်းဖြစ်သူသည် ဇနီးအား တစ်သီးတစ်ခြားထားပေးရမည် သာမက တစ်ခြားထားရန် 'ဝါဂျစ်ဗ်' ဖြစ်သည်၊ ၎င်းပြင် ဟဂျ်၊ အွမ်ရဟ်နှင့် ဘာသာရေးပညာ ဖွရ်သွ ဖြစ်သည်ခန့် သင်ယူရန်သွားခွင့်မပြုလျှင် မိဘ၏ တားမြစ်မှုကို မနာခံရ၊ သွားရမည်။

ဒုတိယအချက်။

'ရှရီအတ်'တရားတော်အရ မပြုပိုင်သောအချက်ကို မိဘကပြုလုပ်ရန်အမိန့်ပေးလျှင် မနာခံရ၊ ဥပမာ မိဘကမပိုင်သော လခစားအလုပ်တစ်ခုကို လုပ်ခိုင်းလျှင် ၎င်းမိုက်မဲသော မှားသည့်ထုံးစံ စသည်များ အပြုခိုင်းလျှင် မနာခံရပေ။

တတိယအချက်။

အကြင်အချက်သည်'ရှရီအတ်'တရားတော်အရဝါဂျစ်ဗ်လည်းမဟုတ်၊၎င်းတားမြစ်ခြင်းလည်းမရှိသာမကမို့ ဗာဟ်ဖြစ်လျှင် မွတ်စ်တဟာဗ် ဖြစ်စေ မိဘကပြုလုပ်ရန်,မပြုလုပ်ရန် အမိန့်ပေးသော် အကျယ်ရှင်းရပေမည်။

ကြည့်ရမည်မှာ ထိုကိစ္စကိုပြုရန် အရေးကြီးသည်၊ မပြုဘဲနေကဒုက္ခရောက်မည်၊ ဥပမာ....သူဆင်းရဲဖြစ်သည်၊ ငွေကြေးမရှိ၊ ရပ်ရွာ၌ ရှာဖွေစားသောက်ရန် လမ်းမမြင်၊ မိဘက အပြင်ထွက်၍ ရှာဖွေရန်အခွင့်မပေး၊ ထိုသူ့မှာ အပြင်ထွက်၍ ရှာဖွေရန် အရေးမကြီးလှ၊ အကယ်၍ အပြင်ထွက်၍ရှာဖွေရန် အရေးကြီးခဲ့သော် မိဘ၏အမိန့်ကိုနာခံရန်မလို အပြင်ထွက်မရှာဘဲ ဖြစ်နိုင်လျှင် ကြည့်ရမည်မှာ ထိုအလုပ်ကို လုပ်ခြင်းဖြင့် စိုးရိမ်မှု၊ အသက်ပျက်စီးဆုံးရှုံးမှု ရောဂါဘယ ဖြစ်နိုင်သည်, မဖြစ်နိုင်သည်ကို ကြည့်ရမည်၊ထိုသူအလုပ်၌မွေ့လျော်သွားခြင်းဖြင့် မိဘမှာ ပြုစုမည့်သူမရှိသောကြောင့် မိဘမှာ ဒုက္ခရောက်နိုင်သည်, မရောက်နိုင်သည်ကို ကြည့်ရမည်၊ သို့ရှိရာ အကယ်၍ ထိုအလုပ်၌စိုးရိမ်မှုရှိသည်၊ ၎င်းသူမရှိသဖြင့် မိဘမှာ ဒုက္ခရောက်မည်ဖြစ်သော် မိဘ၏အမိန့်နှင့်ဆန့်ကျင်မှု မပြုပိုင်ပေ။

ဥပမာ...ဂိုင်ရ်ဝါဂျစ်ဗ်စစ်ပွဲသို့လိုက်သွားမည်၊ ပင်လယ်ခရီးထွက်မည်ဆိုက မိဘကို ပြုစုမည့်သူမရှိ၊ ၎င်းမိဘမှာလည်း ပြုစုသူငှားရန်၊ စားဝတ်နေရေးအတွက် လုံလောက်စွာမရှိ၊ ၎င်းသွားမည့်ခရီးမှာလည်း အရေးမကြီးမူ မိဘ၏အမိန့်ကိုနာခံခြင်း 'ဝါဂျစ်ဗ်'ဖြစ်သည်၊ မသွားဘဲနေမည်။

အကယ်၍ အကြောင်းပြသော အချက်နှစ်ရပ်စလုံးမရှိ၊ ထိုအလုပ်ခရီး၌ စိုးရိမ်ဖွယ်မရှိ၊ ၎င်းမိဘမှာ ဒုက္ခရောက်ရန်လည်းမရှိမူ မလိုအပ်ဘဲနှင့်လည်းထိုအလုပ်၎င်းခရီးတွင်

မိဘက တားသော်လည်း သွားနိုင်သည်၊ သို့ရှိရာ ဤအဖြစ်၌လည်း မသွားမလုပ်ဘဲ မိဘစကားကို နားထောင်ခြင်း မွတ်စ်တဟာဗ် ဖြစ်သည်၊ ဤအမိန့်ဖြင့် အခြားသော ကိစ္စများကိုလည်း သိနိုင်ပေသည်၊ ပမာဆိုသော် မိဘကဇနီးကို အကြောင်းမဲ့ 'တွလာက်' ပေးကွာရှင်းပါဟုဆိုလျှင် အမိန့်နာခံရန်'ဝါဂျစ်ဗ်' မဟုတ်ပေ၊ မိဘက သား၏ပစ္စည်းအားလုံးငါတို့ကို ပေးရမည်ဟုဆိုလျှင် အမိန့်နာခံရန် 'ဝါဂျစ်ဗ်' မဟုတ်၊ ပစ္စည်းအားလုံး ပေးရန်အတင်းအဓမ္မ ပြုလာလျှင်မိဘသည် ဂိုနာဟ်ဂါရ် များဖြစ်ကြမည်၊ ၎င်းမိဘသည်အရေးကြီးသော သုံးစွဲမှုထက်ပို၍ သား၏အခွင့်မရှိဘဲယူလျှင် မိဘအပေါ်ကြွေးဖြစ်သည်၊ ထိုကြွေးကိုသားက တောင်းယူနိုင်သည်၊ မိဘသည် ထိုကြွေးကို 'ဒွန္နယာ' လောကတွင် မပေးဆပ်မူနောင် အာခေရတ် နကယာမတ်တွင်ပေးရမည်၊ (ကေယာမတ်တွင် ကုသိုလ်ကိုပေးရမည်), 'ဖွေကဟ်' ကျမ်းရှင်များ၏ ဖွင့်ဆိုချက်သည် လုံလောက်သည်၊ ထိုပုဂ္ဂိုလ်များသည် ဟဒီးသ်တော်၏ လိုရင်း အဓိပ္ပါယ်ကို ကောင်းစွာ နားလည်တော်မူကြသည်။

ဤတွင်၍ကား 'ဘဟစ်ရှိတီဇေဝရ်' ကျမ်း ဒုတိယနောက်ဆက်တွဲပြီး၏။

❋❋❋❋❋❋❋❋❋

# ရုပ်ရှင်၏ မကောင်းခြင်း အကြောင်း

အမေး။ သာသနာပညာရှင် အာလင်မ်များ၊ မွဖ်တီများသည် ဤမတ်စ်အလယ်နှင့်ပတ်သက်၍ မည်သို့ ဆုံးဖြတ်တော် မူကြပါမည်နည်း၊ အကယ်၍ ရုပ်ရှင်ပိတ်ကားပေါ်တွင်အစ္စလာမ်သာသနာတော်၏ ကိုယ်စားလှယ်တော်ကြီးများ၊ မွတ်စလင်မ်ဘုရင်များ၊ သာသနာ့ ခေါင်းဆောင်ကြီးများ၏ သွားလာ လုပ်ကိုင်ပုံများကို ပြောဆို သီဆို က, လျက် ရုပ်လုံးဖော်၍ပြသခြင်း၊ မွတ်စလင်မ်အမျိုးသမီးများကိုရုပ်ရှင်ရိုက်၍ 'ပရ်ဒဟ်' မရှိဘဲ တင်ပြခြင်းများကို 'ရှရီအတ်' ထုရားတော်မြတ်က ခွင့်ပြုပါသလား၊ ၎င်းပြင် အစ္စလာမ် တရားတော်တွင် ဤအလုပ် မပိုင်ဖြစ်ပါသလား၊ ဤသို့လုပ်ငန်းကို ပိုင်သည်ဟု ဝါဒဖြန့်နေသူများ၊ မွတ်စလင်မ်များ၏ သွားလာလှုပ်ရှားမှု ရုပ်ရှင်များကိုကြည့်ရန် အားပေးနေသူများအား အစ္စလာမ် တရားတော်က မည်ကဲ့သို့ ဆုံးဖြတ်တော်မူပါသနည်း။

အဖြေ။ အစ္စလာမ် တရားတော်တွင် သက်ရှိပုံပြုခြင်းသည် လုံးဝ'ဂိုနာဟ်ဖြစ်သည်၊ တစ်ဦးတစ်ယောက်၏ရုပ်ပုံ, ဓာတ်ပုံဖြစ်စေ၊ ပုံတူထုလုပ်သည်ဖြစ်စေ အတူတူပင်ဖြစ်သည်။

၎င်းပြင် မွတ်စလင်မ်တစ်ဦး၏ ပုံတူပြုခြင်းဖြင့် မကောင်းဟု ယူဆထားသည်ကို တိုက်တွန်း၍ဂိုနာဟ်၌နစ်မွန်းအောင်ပြုခြင်းသည်ပို၍အပြစ်ဂိုနာဟ်ကြီးလေသည်၊ ထို့ဥပဒေ

အရ 'ဂိုနာဟ်' လုပ်မည်ဟု အလ္လာဟ်အသျှင်မြတ် ကဆမ်း ကျိန်ဆိုခြင်းသည် သီးခြား၍ မကောင်းကြောင်း မိန့်ဆိုထားတော်မူသည်။

အကယ်၍ ရုပ်ရှင်တွင် မဖွယ်ရာသော ကိစ္စများမပါဘဲ အပျော်သက်သက် အရသာခံရန်အတွက်ဖြစ်မူလည်း မပိုင်ပေ၊ အဘယ့်ကြောင့်ဆိုသော် တစ်ရံစာ မိန်းမများ၏ပုံကို အရသာခံ၍ ကြည့်ခြင်းသည် 'ဟရာမ်' ဖြစ်သည်။

အကယ်၍ ထိုသို့တင်ပြရာ၌ ချို့ယွင်းမှုနှင့်အပြစ်ဆိုမှုလည်း ပါရှိမူဒုတိယ 'ဂိုနာဟ်' တစ်ခုဖြစ်သည်၊ ဆိုလိုသည်မှာ... ဂီဗတ် နောက်ကွယ်လည်း ပါဝင်လာသည်၊ အဘယ့်ကြောင့်ဆိုသော်ဂီဗတ်သည် ပြောဆိုရုံပင်မဟုတ် ရေးသားခြင်းဖြင့်လည်း ဂီဗတ်ဖြစ်သည်၊ ထိုကိစ္စကို ရုပ်လုံးဖော်ခြင်းသည် ပို၍ပင် အပြစ်ကြီးလေသည်။

ဤသို့ပင် ထိုဖေါ်ထုတ်ခြင်းခံရသူ၏ ပုံတူကို သီးခြား၍ ရုပ်လုံးဖေါ်ခြင်းသည် ထိုအဖေါ်ခံရသူအား တိုက်ရိုက်စပ်လျဉ်းခြင်းဖြစ်သည်၊ ဥပမာတစ်ရံစာအမျိုးသမီးများကို ပရ်ဒဟ် မပါဘဲ ထုတ်ဖော်ပြသခြင်း။

အကယ်၍ ထိုချို့ယွင်းမှုနှင့် အပြစ်သည် ထိုသူ၌ ရှိနေစေကာမူလည်း ထိုကိစ္စကို ဖေါ်ထုတ်ခြင်း 'ဟရာမ်' ပင်ဖြစ်သည်၊ အကယ်၍ ထိုသူ့တွင် မရှိပါဘဲလျက်နှင့် လိမ်လည်တင်ပြခဲ့သော် ဂီဗတ်ထက်ပင် အပြစ်ကြီး၍ ဗုဟ်တာန် မတရားစွပ်စွဲမှု ဖြစ်သည်။

၎င်းချို့ယွင်းမှုနှင့် အပြစ်ကို ဖေါ်ထုတ်ခြင်းခံရသူသည် မွတ်စလင်မ် ဖြစ်သည့်ပြင် လေးစားအပ်သူဖြစ်သော် ဥပမာ....မွတ်စလင်မ်ဘုရင်များထိုပုဂ္ဂိုလ်များအား ရှုတ်ချခြင်းသည် အလ္လာဟ်အသျှင်မြတ်၏ အမျက်တော် ပို၍ကျရောက်မည်ဖြစ်သည်။

၎င်းပြင်အကြင်သူအားချို့ယွင်းမှု, ရှုတ်ချမှုမ[illegible]ိုင်လေရာထိုသူ့ဘက်သို့သီးခြား၍ စပ်လျဉ်းသောသူများကိုလည်း ရှုတ်ချခြင်းမှာ ထိုအမိန့်အတိုင်းပင် ဖြစ်သည်၊ ဥပမာ ထိုသူတို့၏ ဇနီးစသည်များ၊ အရပ်နိုင်ငံ၏ ကာဖွင်ရ်များသည် ဆွဟာဗဟ်(ရသ္တေ)သခင်များ၏ ဇနီး အမည်နာမများကို အချစ်ကဗျာ,လင်္ကာများ၌ ထည့်သွင်း၍ စပ်ဆိုကြသည်၊ အလ္လာဟ်အသျှင်မြတ်က ဤသို့ ပြုခြင်းကို မကောင်းသော ဒုက္ခပေးခြင်း၌ ထည့်သွင်းထားတော်မူသည်။

ဇနီး ၎င်း နီးစပ်မှုကို ဖယ်ထားဘိဦး ထိုသို့ဇနီးအဖြစ် တင်ပြခြင်းပင်လျှင် ချို့ယွင်းအောင်ပြုခြင်းအတွက် 'ဟရာမ်' ဖြစ်ခြင်းမှာ လုံလောက်လေသည်၊ ပမာဆိုသော် တစ်ဦးတစ်ယောက်၏ အဝတ်အထည်တွင် အပြစ်ပြောဆိုခြင်းကဲ့သို့ ဖြစ်သည်။

အကယ်၍ ထိုရုပ်ရှင်တွင် 'မွန်ရှိတဟာတ်' ကာမစိတ်ကြွနိုင်သော အရွယ် အပျိုဖျန်းကလေးများ ပါဝင်မူ ကြည့်ရှုခြင်း၏ 'ဂိုနာဟ်' ထပ်ဆင့်သာပိုလာပြန်သည်၊ ရုပ်ရှင်မှာကားမူတည်ခံရသူ၏ စ,ဆုံး အဖြစ်သနစ်ဖြစ်သည်၊ တစ်ရံစာ အမျိုးသမီး၏ အဝတ်အထည်ကို ကာမ, မကောင်းစိတ်ဖြင့် ကြည့်ခြင်းလည်း 'ဟရာမ်' ဖြစ်သည်။

သီးခြား၍ မွတ်စလင်မ် မဟုတ်သူများ၏ မွတ်စလင်မ် အမျိုးသမီးများ၏ ပုံများကို ကာမစိတ်ဖြင့် ကြည့်ရန် အခွင့်အလမ်းပေးခြင်းဖြစ်သည်၊ အဘယ့်ကြောင့်ဆိုသော် ကာမ မကောင်းစိတ်ဖြင့် ကြည့်ခြင်းလည်း 'ရှရီအတ်' တရားတော်အရ 'ဘဒ်ကာရီ' မကောင်းမှု တစ်ရပ်ဖြစ်သည်၊ ၎င်းမကောင်းခြင်းမှာလည်း ဤသို့၊ ယောကျ်ားက 'ကာဖွင်ရ်' ဖြစ်ပြီး အမျိုးသမီးက မွတ်စလင်မ် ဖြစ်နေသည်သာမက ဤအဖြစ်၌ မွတ်စလင်မ် အမျိုးသမီးကို ကာဖွင်ရ်အား နေကာဟ်ပြုချင်စိတ်၊ ဇနာပြုချင်စိတ် ပေါ်စေအောင်ပြုသည်ဖြစ်၍ ဤကိစ္စနှင့်ပတ်သက်ပြီး မွဂ်ုတဟစ်ဒ် အာလင်မ်သခင်များထံ ပြဿနာကြီးတစ်ရပ် ဖြစ်လာသည်၊ ထိုသို့ပြုသူကို မွရ်ှတဒ်ကာဖွင်ရ် ဖြစ်သွားစေခြင်း၊ အစ္စလာမ်သာသနာတော်နှင့် ကုရ်အာန်ကျမ်းတော်ကို ကဲ့ရဲ့ပြစ်တင်ခြင်း ဟရ်ဗီကာဖွင်ရ်များနှင့် နားလည်မှု အပေးအယူပြုလုပ်ခြင်းနှင့် အညီအမျှခန့် 'ဂိုနာဟ်' ဖြစ်သည်ဟု သတ်မှတ်တော်မူကြသည်၊ (သာဓကအဖြစ် အရဗီ စာသားကို မူရင်းတွင်ကြည့်ပါ။)

ဘာသာရေးခေါင်းဆောင်များကို ရှုတ်ချခြင်းသည် မိုရ်၍ဆိုးလေသည်၊ အမှန်မှာ အစ္စလာမ်သာသနာတော်ကို ရှုတ်ချခြင်းပင် မည်ပေသည်၊ ဤသည်ကို 'ရှရီအတ်' အနေနှင့်သော်လည်းကောင်း၊ ပုဂ္ဂိုလ်ရေးအရသော်လည်းကောင်း သည်းမခံနိုင်ပေ။

ဤသို့ ရုပ်ရှင်များ၏ မကောင်းကြောင်းများကို သိပြီးကြလေရာ မွတ်စလင်မ်များ အပေါ် ထိုက်သည်မှာ မိမိတို့စွမ်းနိုင်သည်ခန့်ပြည်ပိုင်အစိုးရထံ လျှောက်ထားတောင်းပန်၍ ပင် ပိတ်ပင်ကြရန်ထိုက်သည်၊ ကြည့်ရှုသူများကို ရုပ်ရှင်၏မကောင်းကြောင်းများပြောပြ၍ တားမြစ်ကြရန် ထိုက်သည်၊ သို့တည်းမဟုတ်ပါက အားလုံး အလ္လာဟ်အသျှင်မြတ်၏ အမျက်တော် ခံကြရမည်ကို စိုးရိမ်ရလေသည်။

ဆိတ်ဆိတ်နေသူများကို တားမြစ်ရမည်ဟု အမိန့်တော်ရှိနေလေရာ ရုပ်ရှင်ကြည့်ရန် လှုံ့ဆော်သူများသည် မည်မျှအပြစ်ဒဏ် 'အသာဗ်' ခံရမည်ကို စဉ်းစားကြည့်သင့်ကြ ပေသည်။

ဤတွင်၍ကား 'ဘဟစ်ရှိတီဇေဝရ်' ကျမ်း မူရင်း နှင့် နောက်ဆက်တွဲများ အားလုံး

**ပြီး၏။**

မုဟမ္မဒ်မူစာ (မဇ္ဇာဟေရီ)
၁-၃-၁၉၆၇။

## အလ်ဟာဂျ်မောင်လှနာ မုဟမ္မဒ် မူစာ (မဒ္ဒာဟေရီ) ၏ ၁၉၅၅–ခုမှ ၁၉၉၀–ခုထိ ရေးသား ထုတ်ဝေပြီးသော ကျမ်းစာအုပ်များ စာရင်း

(လစဉ်ထုတ် အစ္စလာမ်ယဉ်ကျေးမှုစာစောင် ၃၃ - အုပ်၊ ထုတ်ဝေခဲ့သည်)

၁ ဟဂ်ျလမ်းစဉ်
၂ နေကာဟ် ထိမ်းမြားမင်္ဂလာ
၃ ရှဗေ ဘာရာအတ်
၄ လျှောင်လှုပ်ခြင်း၏ သဘောတရား
၅ တမန်တော်၏ ထေရုပ္ပတ္တိ
၆ တမန်တော်၏ ဒုက္ခတော်များ
၇ ခွတ္တဲ ဗဟ်နဗာတဟ် (ပထမ၆-လ)
၈ တဖ်စီးရ်စူရဟ်ယာစိန်
၉ ။ စူရအွရ်ရဟ်မာန်
၁၀ ။ စူရဟ်တဗာရကလ်လသီ
၁၁ မုအ်ဂျေဇဟ် တံခိုးတော်များ
၁၂ လွယ်ကူစွာ ကုရ်အာန်ဖတ်နည်း
၁၃ ဘဟစ်ရှ်တီဇေဝရ် (ပထမပိုင်း)
၁၄ တဗ်လီးဂ်ဟူသည်
၁၅ 'နမာဇ်' အလင်းပြကျမ်း
၁၆ ဘဟစ်ရှ်တီဇေဝရ် (ဒုတိယပိုင်း)
၁၇ ဂျုန္နတ်ကောင်းကင်ဘုံနန်း
၁၈ ဝိညာဉ်လောက
၁၉ ကေယာမတ် ကမ္ဘာ့နိဂုံး
၂၀ ဒရူးဒ်ရှရီးဖ်
၂၁ အာဒါဘွလ်မဆာဂျစ်ဒ်
၂၂ ဂျဟန္နမ် အပါယ်ငရဲဘုံ
၂၃ ချေဗာတင်ပညတ်တော်ခြောက်ပါး
၂၄ ဖွသ္သာအေ့လေ့ တဗ်လီးဂ်
၂၅ ဖွသ္သာအေ့လေ့ 'နမာဇ်'
၂၆ ။ 'ကုရ်အာန်
၂၇ ။ သစ်က်ရ်
၂၈ ။ ရမသွာန်
၂၉ တဖ်စီရ်မူသွေ့ဟွလ်ကုရ်အာန် (အတွဲ-၆)
၃၀ ။ (အတွဲ-၅)
၃၁ ဟေကာယာတေ့ဆွဟာဗဟ်
၃၂ မှားယွင်းနေသော ကာဒယာနီဝါဒ
၃၃ ကလေမဟ် (ခုနစ်) ပုဒ်
၃၄ အလွယ်ကူဆုံး 'နမာဇ်' ဖတ်နည်း
၃၅ စွန္နတ်တော်နည်းအရ သင်္ဂြိုဟ်နည်း
၃၆ မိဘအပေါ်ထားရှိရမည့် ဝတ္တရားများ
၃၇ အကောင်းဆုံး လက်ဆောင်မွန်
၃၈ ကုရ်ဘာနီနှင့်အီးဒ်'နမာဇ်'ဖတ်ပြုနည်း
၃၉ မိုင်ဒါနေ့ဟရှရ်ကမ္ဘာ့တရားခွင်
၄၀ ကေယာမတ်စွဂ်ရာ ကမ္ဘာချုပ်ငြိမ်းမှု နိဒါန်း
၄၁ ဆုပန် 'ဒိုအာ' ပြုနည်း
၄၂ အမှား ဝန်ခံ တောင်ဗဟ် ပြုနည်း
၄၃ လွတ်ငြိမ်းချမ်းသာ 'ဂိုနာဟ်' ချွတ်နည်း
၄၄ ဖွသ္သာအေ့လေ့ ဟဂ်ျ
၄၅ မို့နဗ်ဗဟာတ်သြဝါဒနီတိကျမ်း
၄၆ ဖွသ္သာအေ့လေ့ ဆွဒကာတ်ကျမ်း ပ/ဒု
၄၇ သား, သမီးဝတ္တရား
၄၈ မိဘဝတ္တရား
၄၉ ဇနီးမောင်နှံ ဝတ္တရား
၅၀ ဆွေမျိုးသားချင်းဝတ္တရား
၅၁ အိမ်နီးနားချင်း ဝတ္တရား
၅၂ မွတ်စလင်မ်အချင်းချင်း ဝတ္တရား
၅၃ စားပိုင်, မစားပိုင် သတ္တဝါများ
၅၄ ဇဏာတ်ဥပဒေများ
၅၅ အမြတ်ဆုံးအွမ္မတ်
၅၆ ဂျုန္နတ်ပေးမည့် ကတိတော်
၅၇ အကျိုးမဲ့ အကုသိုလ်
၅၈ ဦးစွာပထမအစ္စလာမ်မှာ
၅၉ အစ္စလာမ့် ယုံကြည်ချက်
၆၀ ဖွေ့ကဟ်အတ်က်ဗရ်